# ရခိုင်ရာဇဝင်သစ်ကျမ်း

ပထမအုပ် + ဒုတိယအုပ်

## အသျှင်စန္ဒမာလာလင်္ကာရ

ရမ်းဗြဲတောင်ကျောင်းဆရာတော်

ရမ္မာဝတီ၊ ရမ်းဗြဲမြို့။



# ရခိုင်ရာဇဝင်သစ်ကျမ်း

## တောင်ကျောင်းဆရာတော်ဘုရားကြီး

## စန္ဒမာလာလင်္ကာရ

## ရမ္မာဝတီ။ ရမ်းဖြည့်မြို့မ။

ASAJ



ရခိုင်သားကြီးစာပေ
ခ/၅၅၊ ကျွန်းရွှေဝါလမ်း၊
ဘုရင့်နောင်ပွဲရုံ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။
ဖုန်း – ၀၉ ၅၀၀၂၈၃၁၊ ၀၁ ၆၈၀၆၇၂

ပုံနှိပ်မှတ်တမ်း

**စီစဉ်သူ**

ရခိုင်လှမြင့်

**ပုံနှိပ်သူ**

စံရတီပုံနှိပ်တိုက် (၀၀၂၅၈)

**ထုတ်ဝေသူ**

ဦးလှမြင့်
ရခိုင်သားကြီးစာပေ (၀၀၀၅၈)
(၅၅-ခ)၊ ကျွန်းချောင်းလမ်း၊

ဘုရင့်နောင်ပွဲရုံ၊ ရန်ကုန်။

**စာမျက်နှာဖွဲ့စည်းမှု**
*DreamWorld Computer (09795130045)*
*(kmthann969@gmail.com)*

**စာစီစာရိုက်**

ရခိုင်သားကြီးစာပေ

**မျက်နှာဖုံးဒီဇိုင်း**

*DreamWorld Computer*

**တန်ဖိုး**

၈၀၀၀ ကျပ်

**အုပ်ရေ**

၅၀၀

**ပုံနှိပ်ခြင်း**

ပထမအကြိမ်
၂၀၁၇ ခုနှစ်၊ မတ်လ

**ရခိုင်သားကြီးစာပေ**

# အဝီးရောက်ရခိုင်သားသို့အိတ်ဖွင့်ပီးစာ (၅)

သို့

တူမောင် - ခင်မောင်သန်း
အမှတ် (၂၃၇)၊ မြို့မ (၁၂)လမ်းအရှေ့၊
သာကေတမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ငါ့တူ ခင်မောင်သန်း၊ နီကောင်းယင့်မနား။ မင်းရို့မိသားစု နီကောင်းကတ်ပါစီလို့ ဆုတောင်းပီးနီပါရေဝေ။ မင်းမယားနန့်အတူ မင်းသားချေနှစ်ယောက်လေ့ ကျန်းမာကတ်တေမနား။ မင်းဝါ အလုပ်အကိုင်တိ ကောင်းယင့်လား။ မင်းနန့်အခင် ရခိုင်စာအုပ်စာတမ်းတိကို အတူလက်တွဲပနာ လုပ်ပါလတ်ကတ်စွာ ဒေနိန့်ထိဆိုရေခါ ကြာဗျာယ်မနား။ အခင်မှတ်မိသလောက် မင်းကို ၂၀၀၄-ခုနှစ်က ‘ရက္ခိတရို့ရင်ခုန်ည’ ရခိုင်ဂီတစင်တင်ပွဲလုပ်တေ ညဦးခါက စတွိရေလို့ မှတ်မိရေကာ။ ယင်းပွဲကို ကိုသန့်ဇင်နန့်အတူ မင်းရောက်လာရေနှမ်း။ ယင်းရက္ခိတရိုရင်ခုန်ညပွဲကို မင်းကျေနပ်အားရရေလို့လေ့ ပြောခဖူးရေဝါ။ ယင်းပိုင်နန့် မင်းရေ ရခိုင်သားကြီးစာပေကို ရောက်လာပနာ အခင်နန့်အတူ ရခိုင်သားကြီးစာပေကို အတူတူလက်တွဲလို့ လုပ်လာခစွာမာ မင်းတစ်ယောက်လေ့ အပါအဝင်ဗျာယ်ယေ။ မင်းမှတ်မိဖို့လို့ထင်ရေကာ၊ အဂုထုတ်ဝီဖို့ အဆင်သင့်ဖြစ်နီရေ ‘ရခိုင်ရာဇဝင်သစ်ကျမ်း’ စာအုပ်ကိုလေ။ ဒေစာအုပ်ကို အခင် ၁၉၉၇-ခုနှစ်လောက်က တစ်ကြိမ် ထုတ်ဖူးခပါရေ။ ယင်းနောက်ပိုင်းမာ ဒေ ရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်ကို ပြန်လို့ စက္ကူကောင်းကောင်းနန့် ကွန်ပျူတာစီလို့ နှစ်တွဲလုံးကို ပူးတွဲထုတ်ဝီဖို့ဆိုဗျာယ် ၁၉၉၇-ခုနှစ်လောက်ကပင် ကွန်ပျူတာစီထားခစွာကိုလေ။ အဂုဆိုကေ ဒေစာမူရေ နှစ် (၂၀) ကျော်လောက်တောင် ဟိလားခဗျာယ်မနားယေ။ ပထမအကြိမ် ရခိုင်သားကြီးစာပီက ထုတ်ဝီရေခါက ဘားမားစက္ကူအပေါစား အညံ့စားနန့် ထုတ်ဝီခရစွာဖြစ်လို့ စာအုပ်ထုတ်ရာထုတ်ခရရေ၊ စိတ်ထဲမှာ ကျေနပ်အားရမှုမရှိခ။ ယင်းကြောင့်လေ့ စက္ကူကောင်းကောင်းနန့် နောက်တစ်ကြိမ် ထုတ်ဖို့သိမ့်လို့ ကြုံးဝါးထားခစွာ။ ယင်းလောက်အကြာကြီး ကြိုတင်စီစဉ်ထားခကေလေ့ အကြောင်းအမျိုးမျိုးကြောင့် စာအုပ်မထွက်နိုင်ဘဲ အဂုအချိန့်ထိ ကြာနီခရေဝေ။ ယင်း ၁၉၉၇ ခုနှစ်လောက်က ထုတ်ဝီခရေစာအုပ် ဒုတိယအုပ်၊ သတ္တမတွဲမှာ ရခိုင်ရို့ကို ဗမာနယ်ချဲ့တိက သတ်ခရေအခန်း တစ်ခန်းလုံးကို အခင်ဆုတ်ဖြဲထားပြီးကေ ဖြန့်ချီခဖူးရေ။ ဇာကြောင့်လေ့ဆိုကေ ဒေစာအုပ်ကို ဖြန့်ချီခါနီးလောက်မာ ယင်းခေတ်က ရခိုင်အားကစားလောကမာ နာမည်ကြီးရေ ဂိုးလီဘာ စံကျော် ကို ရခိုင်တပ်မတော် AA နန့် ဆက်သွယ်လို့ ဖမ်းမိရေလတ်။ စစ်ဆေးပြီးကေ စစ်တွေမြို့က ပလက်ဝမြို့ကို ခရိုင်သဘော်နန့်ခေါ်ယူခကတ်တေလတ်။ ပလက်ဝမြို့ကို မရောက်ခင် နာပဒါချောင်းဝမာ သတ်ပစ်တေလို့ နာမည်ကြီး သတင်းထွက်လာရေအတွက်ပါ။ ယင်းသတင်းကြောင့် စစ်အာဏာရှင်နန့် စစ်ထောက်လှမ်းရေးကို အကြောက်ကြီးကြောက်လို့ ပါလို့ အမှန်အတိုင်းဝန်ခံပါရစီ ခင်မောင်သန်း။

တူမောင် ခင်မောင်သန်းကို အခင်ကြီး ဖတ်ထားမှတ်ထားသမျှတိကို တစိသ္ဈေပြောကြည့်မေနှမ်း။ ရာဇဝင်ဆိုရေ ဝေါဟာရစွာ ရာဇ + ဝံသကို ပေါင်းထားစွာလတ်။ ရာဇဆိုစွာ ရှင်ဘုရင် မင်းဆက်ရို့၏ အကြောင်းအရာအမျိုးမျိုးလို့ ဆိုပြီးကေ ဝံသဆိုစွာက ဆက်နွယ်ခြင်းအဓိပ္ပါယ်ကို ဖွင့်ဆိုကတ်တေ။ အရာတစ်မျိုးက ‘ရာဇဝင်’ ကို ခေတ်ကြေးမုံနန့် တူရေလို့ ဆိုကတ်ပြန်ရေ။

**ရခိုင်သားကြီးစာပေ**

ယင်းပိုင်ဗျာယ် အရေးတော်ပုံကျမ်းဆိုစွာ တိုင်းပြည်တစ်ပြည်၏ ခေတ်တစ်ခေတ်ကို တိုင်းရေးပြည်ရေးနန့် စစ်မက်ရေးရာတိ၊ နိုင်ငံရေးတိကို မှတ်တမ်းတင်ထားရေကျမ်း သို့မဟုတ် မှတ်တမ်းတိလတ် ခင်မောင်သန်း။

ဗမာရို့မှာ အင်းဝခေတ်က ရှင်မဟာသီလဝံသ ရှီးသားခရေ ရာဇဝင်ကျော်၊ ညောင်ရမ်းခေတ်က ဦးကုလား ရှီးသားခရေ မဟာရာဇဝင်ကြီး၊ ရာဇဝတ်လတ်၊ ရာဇဝင်ချုပ်၊ ကုန်းဘောင်ခေတ်မှာ ရှီးသားခရေ မှန်နန်းမဟာရာဇဝင် တော်ကြီး၊ သုဿောဓိတရာဇဝင်၊ ကိုလိုနီခေတ်မှာ ဦးဖိုးကျားရှီးသားခရေ ခေတ်မီမြန်မာရာဇဝင်အကျဉ်းနန့် ဓာတာတော်ပုံရာဇဝင်၊ သခင်ကိုယ်တော်မှိုင်းရှီးရေ မှန်နန်းရာဇဝင်တော်သစ်ရို့ ဟိရေလို့ ကြားဖူးရေ။ အရေးတော်ပုံကျမ်းတိအနီနန့်က ကဝိသာရာတိသီရိ ပဝရ အဂ္ဂမဟာဓမ္မရာဇာဓိရာဇဂုရု ရခိုင်ဆရာတော်ရှီးရေ ဓညဝတီအရေးတော်ပုံကျမ်း၊ မွန်ဝန်ကြီး ဗညားဒလရှီးရေ ရာဇာဓိရာဇ်အရေးတော်ပုံကျမ်း၊ အမတ်ကြီး ဥဿရှော်ရှီးရေ ဟံသာဝတီဆင်ဖြူများရှင်အရေးတော်ပုံ၊ မဟာအတုလမင်းကြီး ရှီးသားခရေ ညောင်ရမ်းမင်းတရားအရေးတော်ပုံ၊ လက်ဝဲနော်ရထာရှီး အလောင်းမင်းတရားအဋ္ဌုပ္ပတ္တိအရေးတော်ပုံ ရာဇဝင်၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုရှီးသားရေ အလောင်းမင်းတရားကြီးအရေးတော်ပုံဆိုရေ အရေးတော်ပုံခြောက်စောင်နန့် ရန်ကုန်ယူနီဗာစီတီ ရာဇဝင်ပါမောက္ခဟောင်း (အရှေ့တောင်အာရှဆိုင်ရာရာဇဝင်ပါမောက္ခကြီး) လို့ခေါ်ရေ D.G.E. Hall ရှီးသားခရေ History of Burma စာအုပ်ရို့ဟိရေလို့ မှတ်သားဖူးရေ။ နောက်ထပ် ဓာတာအုပ်၊ ဓာတာအုပ်တိ ဟိသိမ့်လေဆိုစွာကို အခင်လေ့လာ ရှာဖွေဖတ်ကြည့်ရဖို့သိမ့်။

အခင်ရို့ရခိုင်သားတိမှာလေ့ (၁) ဒေရခိုင်ရာဇဝင်သစ်ကျမ်း ( ၁၂၉၂)နန့်အတူ (၂) ဓမ္မာဒိပဏ္ဍိယ နယ်ပုံကျမ်း (၁၂၈၂)၊ (၃) ရာဇတ္တမသခေ်ပကျမ်း (၁၂၉၂)၊ (၄) မင်းရာဇာကြီးအရေးတော်ပုံကျမ်း၊ (၅) မဇ္ဈိမဒေသအရေးတော်ပုံကျမ်း၊ (၆) ရခိုင်သိုက်သမိုင်းကျမ်း၊ (၇) မြောက်ဦးမြို့ တံဆိပ်ခတ်ကျမ်း၊ (၈) ဓညဝတီ အရေးတော်ပုံကျမ်း(၁၁၄၉) (ကဝိသာရာတိသီရိ ပဝရ အဂ္ဂမဟာဓမ္မရာဇာဓိရာဇဂုရု သံတွဲ-ရခိုင်ဆရာတော်)၊ (၉) ရာဇပုံကျမ်း(ပိမူ)၊ (၁၀) ဓညဝတီရာဇဝင်သစ် (၁၂၇၁)(အသျှင်ပဏ္ဍိတ်)၊ (၁၁) ဓညဝတီရာဇဝင် (အသျှင်ဉာဏ)၊ (၁၂) ဆရာမည်ရာဇဝင် ခေါ် ပျာသတ်ရာဇဝင်(ပိမူ)၊ (၁၃) အင်းစောက်ရာဇဝင်(ပိမူ)၊ (၁၄) ကျောက်ရိုးရခိုင်ရာဇဝင်(ပိမူ)၊ (၁၅) ဒိုးဝေရာဇဝင်၊ (၁၆) ကြခတ်ရခိုင်ရာဇဝင်(ပိမူ)၊ (၁၇) ရခိုင်ရာဇဝင် (ဦးအောင်သာဦး)၊ (၁၈) ရခိုင်ရာဇဝင်(၁၂၈၇) (ဦးသာထွန်းအောင်)၊ (၁၉) ရခိုင်ရာဇဝင်(ဦးဦးသာထွန်း) (၂၀) မောင်ပုံရာဇဝင်၊ (၂၁) ရှေးဟောင်းရခိုင်ရာဇဝင်မြို့တော်များ (မိုလ်ကြီးထွန်းဝေ)၊ (၂၂) ရှိုးထုံးရခိုင်ရာဇဝင်လင်္ကာ (ပိမူ)၊ (၂၃) ရခိုင်ရာဇဝင်လင်္ကာ (လက်ရှီးမူ) (ဆရာဦးမောင်သာအောင်)၊ (၂၄) ရခိုင်ရာဇဝင်လင်္ကာ (၁၂၁၂)(ဦးစံတင်-မြန်မာအမျိုးထမ်းတစ်ဦး)၊ (၂၅) မဟာဝိဟာိကလင်္ကာ၊ (၂၆) ရခိုင်ရာဇဝင်ကြီး ထွက်ကျမ်း (ပိမူ) (မောင်သျှင်ကျော်ဖရို)ကို ဆရာစံကျော်ထွန်း ရှီးသားခရေ 'ရခိုင်ကဗျာနန့် ရခိုင်အတွေးအခေါ်'ဆိုရေ စာအုပ်ကျမ်းကိုးမာ တွိရရေ။ ယေဒါလေ့ ရခိုင်ရို့မာရာဇဝင် (၄၈) စောင်ဟိရေလို့ မှတ်သားထားဖူးရေဝေ ခင်မောင်သန်း။

ဒေအကြောင်းအရာတိကို ပြောပြီးကေ အဂု ပုံနှိပ်ထုတ်ဝီလိုက်တေ ရခိုင်ရာဇဝင်သစ်ကျမ်းအကြောင်းကို ဆက်ပြောချင်သိမ့်ရေ။ အခင်ရို့အသျှေခါက ၁၉၈၅-ဝန်းကျင်မှာမှ အခင်ရေ ဒေ ရခိုင်ရာဇဝင်သစ်ကျမ်းကို မြောက်ဦးမြို့ သျှစ်သောင်းဘုရား သန့်ရှင်းရေးအသင်းက လက်နှိပ်စက်နန့် ခိုးလို့ရိုက်ပနှာ တိုးတိုးတိတ်တိတ်ဖြန့်ချိရေစာအုပ်ကိုရာ ဖတ်ဖူးရေ ခင်မောင်သန်း။ ယင်း မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ခေတ်အခါက အေရခိုင်ရာဇဝင်သစ်ကျမ်းနန့်အတူ ရခိုင်ရေးရာဆိုင်ရာ စာအုပ်စာတမ်းတိရေ ဗမာစစ်အစိုးရကို တော်လှန်တိုက်ခိုက်တေ စာအုပ်စာတမ်းလို့ ယင်းခေတ်

ပါဝိကောင်စီက သတ်မှတ်ထားကတ်တေ။ လက်နှိပ်စက်နန့်ရိုက်ထားလို့ စာလုံးတိ မပီမသစွာကို ဖတ်ယင်းနန့် အခင်ရို့ကျေနပ်နီခရရေ။

တစ်ရက်နီန့်ခါ ဆရာကြီးဦးဦးသာထွန်းအိမ်ကို အခင် အမှတ်မထင် ရောက်လားခရေ။ အိမ်ထက်မှာ ဆရာကြီး ဦးဦးသာထွန်းရေ စာအုပ်တစ်ပုံကြားမှာ အလုပ်ရှုပ်နီရေ။ ယေအခါ အခင်က ဆရာကြီးဘေးမှာရှိရေ စာအုပ်တိရေ ဇာစာအုပ်တိပါလေလို့ မိန်းကြည့်လိုက်တေခါ ရခိုင်ရာဇဝင်စာအုပ်စာတမ်းတိ၊ ပီစောင်တိနန့် ရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်ကို မြင်ခရရေ။ ဆရာကြီးက ရခိုင်တစ်မျိုးသားလုံးအတွက် တန်ဖိုးမဖြတ်နိုင်ရေ အရှင်စန္ဒမာလာလင်္ကာရ ရှီးသားရေ ရခိုင်ရာဇဝင်သစ်ကျမ်းအကြောင်းကို ပြောပြဖူးရေ။ ဒေစာအုပ်စွာ ၁၉၃၂ခုနှစ် လောက်က မန္တလေးမြို့၊ ဟံသာဝတီ ပိဋကတ်ပုံနှိပ်တိုက်က ထုတ်တေစာအုပ်ဖြစ်တေ။ ထုတ်ခရေခါက အတွဲနှစ်တွဲ အဖြစ် ထုတ်ခစွာဖြစ်တေ။ ယင်းခေတ် ယင်းကာလက စာအုပ်အရေအတွက်ရေ ရာဂဏန်းလောက်ရာ ထုတ်ခစွာ ဖြစ်တေလို့ဆိုရေ။ အခင်လေ့ စာအုပ်အဖုံးကို အားရပါးရကြည့်ခွင့်ရာ ရခရေ။ စာအုပ်ကိုကား ဖတ်ကြည့် လေ့လာခွင့်တောင်မရခ။ ယင်းပိုင်နန့် ဒေရခိုင်ရာဇဝင်သစ်ကျမ်းကို ၁၉၉၅-ခုနှစ်လောက်က အခင်ပုံနှိပ်ဖို့ ကြိုးစားရေခါ ဆရာကြီးမောင်ဗသိန်းက ရခိုင်ရို့မှာ ရာဇဝင်စာအုပ်ပေါင်းများစွာ ဟိကေလေ့ ဒေအရှင်စန္ဒမာလာလင်္ကာရ ရှီးသားရေ ရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်စွာ ယင်းခေတ်မတိုင်ခင်က ရှိကရှီးသားခရေ ရခိုင်ရာဇဝင်စာအုပ်တိကို စုစည်းပနာ တည်းဖြတ်ထားစွာ စာအုပ်ဖြစ်လို့ ဒေစာအုပ်ရေ ရခိုင်တစ်မျိုးသားလုံးအတွက် အရေးအကြီးဆုံး အဖိုးအတန်ဆုံး စာအုပ်ဖြစ်တေ။ အရှင်ဘုရား စန္ဒမာလာလင်္ကာရရေ ရှိကရှီးသားခရေ ရခိုင်ရာဇဝင်စာအုပ်တိ၊ ပီစောင်တိမှာ ကွဲလွဲနီရေ ကွဲလွဲချက်တိနန့် မင်းနာမည်တိ ရခိုင်ဘုရင်နာမည်တိ သက္ကရာဇ်တိကိုပါ ညှိနှိုင်းစီစဉ်ခထားခရေစာအုပ်ဖြစ်တေအတွက် ရခိုင်တစ်မျိုးသားလုံးအတွက် အလွန်တရာအရေးပါရေ စာအုပ်ကောင်း တစ်အုပ်ဖြစ်တေလို့ဆိုရေ။ ရခိုင်ရာဇဝင်ကို လေ့လာကတ်ဖို့ဆိုကေ ဒေစာအုပ်ကို လက်မလွှတ်သင့်။ ယင်းအတွက် ဖြစ်အောင်ထုတ်သင့်ရေစာအုပ်တစ်အုပ်လို့ အခင်ကို ဆရာကြီးက အားပီးခရေ ခင်မောင်သန်း။

အခင်ရေ ၁၉၉၇-ခုနှစ်လောက်မှာ အထက်ကပြောခရေအတိုင်း ဒေရမ်းပြဲတောင်ကျောင်းဆရာတော် အရှင် စန္ဒမာလာလင်္ကာရ ရှီးသားရေ ရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်ကို ပုံနှိပ်ခပါကေလေ့ ဒုတိယအုပ်က သတ္တမတွဲကို ကြောက်အား လန့်အားနန့် ဖြဲဆုတ်ပနာ ဖြန့်ချီခရရေအတွက် ရခိုင်တစ်မျိုးသားလုံးနန့်ပတ်သက်တေ ရာဇဝတ်မှု တစ်ခုကို ကျူးလွန်ခရေပိုင် ဒေနီန့်ထိ အခင်ခံစားနီရတုန်းပါသိမ့် ခင်မောင်သန်း။ ဒေစာအုပ် ပုံနှိပ်မှတ်တမ်းကို ဖော်ပြရဖို့ဆိုကေ ပထမအုပ်ကို ပထမအကြိမ်အဖြစ် ၁၉၃၂ ခုနှစ်က ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်၊ မန္တလေးမြို့က ဖြန့်ချီထုတ်ဝီခရေ။ ယင်းပထမတွဲစာအုပ်ကို ဒုတိယအကြိမ်အဖြစ် ရခိုင်သားကြီးစာပေကိုယ်စား တက်လမ်းစာပေက ၁၉၉၇-ခုနှစ်မှာ ထုတ်ဝီခရေ (ယင်းခေတ်ကာလက စာအုပ်ထုတ်ဝီခွင့်မရှိဘဲ ပုံနှိပ်ထုတ်ဝီလို့ မရနိုင်ရေအတွက် အခင်ရေ တက်လမ်းစာပေက ပုံနှိပ်ခွင့်ကတ်ကိုစီ ငှားလို့ ထုတ်ဝီခရစွာဖြစ်တေ)။ ဒုတိယအုပ်ကို ပထမအကြိမ် အဖြစ် ၁၉၃၂-ခုမှာဗျာယ် ဟံသာဝတီ ပိဋကတ်စာပုံနှိပ်တိုက်၊ မန္တလေးမြို့က ဖြန့်ချီခဖြစ်တေ။ ယင်းဒုတိယအုပ်ကို ဒုတိယအကြိမ်အဖြစ် ရခိုင်သားကြီးစာပေကိုယ်စား တက်လမ်းစာပေက ၁၉၉၇-ခုနှစ်မှာပင် ထုတ်ဝီခပါရေ။ တတိယအကြိမ်အဖြစ် ပထမအုပ်နန့် ဒုတိယအုပ်ကို နှစ်အုပ်ပေါင်းဗျာယ် ရာပြည့်စာအုပ်တိုက်က ၂၀၁၄-ခုနှစ်မှာ ထုတ်ဝီဖြန့်ချီလိုက်တေ။ အဂုတစ်ကြိမ်ရေ အခင်ရို့ရခိုင်သားကြီးစာပေက ပထမအုပ်နန့် ဒုတိယအုပ် နှစ်အုပ်စလုံးကို ပေါင်းဗျာယ် ဒေ ၂၀၁၇-ခုနှစ်မှာ စတုတ္ထအကြိမ်အဖြစ် ထုတ်ဝီဖြန့်ချီလိုက်စွာဖြစ်တေ ခင်မောင်သန်း။

အရှင်ဘုရားစန္ဒမာလာလင်္ကာရ ရမ်းဗြဲတောင်ကျောင်းဆရာတော်ရေ ဒေစာအုပ်အပြင် (၁) ဥတုဘောဇနေ သံပေါက်ကျမ်း (၁၂၅၈)၊ (၂) ပဋ္ဌိစ္စသမုပ္ပာဒပကာသနီကျမ်း (၁၂၆၁)၊ (၃) မင်္ဂလာမြတ်ခေါင်ချီသော နာရဒ ဇာတ်တော်ကြီးလင်္ကာ (၁၂၆၂)၊ (၄) ကပ္ပဝိနိစ္ဆယကျမ်း (၁၂၇၀)၊ (၅) ဝေရမဏီသီလဝိနိစ္ဆယကျမ်း (၁၂၇၂)၊ (၆) ဝိသာခုပေါသထသုတ် နိဿယသစ် (၁၂၇၂)၊ (၇) သမ္မာဝါဒဒီပကကျမ်း (၁၂၇၄)၊ (၈) သဏ္ဌာယပဟာနကျမ်း (၁၂၇၄)၊ (၉) စောဒကာဒိဝိနိစ္ဆယကျမ်း (၁၂၇၅)၊ (၁၀) သရဏဂုဏ်ဝိနိစ္ဆယကျမ်း၊ (၁၁) ဝိဂ္ဂဟာနယကျမ်း၊ (၁၂) ဝေရမဏီသင်္ခေပသမာဒါနကျမ်း၊ (၁၃) ကာလိကဝိနိစ္ဆယကျမ်း၊ (၁၄) ပဏ္ဍိကုဒ္ဓဏကျမ်း၊ (၁၅) မျှော်ဒီပဏ္ဍိနယ နယ်ပုံကျမ်း (၁၂၈၂)၊ (၁၆) ရာဇဓ္ဓမ္မသင်္ခေပကျမ်း (၁၂၉၂) ရှိကိုလေ့ ရှိုးသားစိစဉ်ခရေလို့ ၂၀၁၄-ခုနှစ်က ရာပြည့်ပုံနှိပ်တိုက်ကထုတ်တေ စာအုပ်မှာ ဂုဏ်ပြုပနာ မှတ်တမ်းတင်ထားစွာကို တွိရရေထော ခင်မောင်သန်း။

ခင်မောင်သန်း ငါရို့ ဒေရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်ထွက်နိုင်ဖို့အတွက် စာစီလိုက်၊ ပရုဖတ်လိုက် လုပ်နီကတ်စွာ တစ်နှစ်ကျော်ကြာဗျာကာ။ ယေဒါလေ့ အမှားမစင်နိုင်နှမ်း။ ယင်းအတွက် မြောက်ဦးမြို့က ဆရာမောင်ကျော်ဇော (နောင်အေး အနောက်)ဘားကို ဆရာတစ်ခေါက် ထပ်လို့ ပရုဖတ်ပီးပါလို့ အကူအညီ တောင်းလိုက်တေအတွက် ဆရာက ဂရုတစိုက် ပရုဖတ်ပီးပနာ စာအုပ်မှာပါရေ အမှား အကျအနတိနန့်အတူ "ရာပြည့်စာအုပ်တိုက်"ကထုတ်တေ စာအုပ်မှာပါရေ အမှားတိ အကျအနတိကိုပါ ထောက်ပြပနာ အခင်ဘားသို့ ရှိုးပို့ရေစာကိုလေ့ မင်းဖတ်ကြည့်ဖို့ရအောင် ဒေစာနန့်အတူ ပို့လိုက်ယင့်။

သို့

ကိုလှမြင့်

အစ်ကို့ဘားက ရခိုင်ရာဇဝင်သစ်ကျမ်း ကွန်ပျူတာစာစီနန့် ရာပြည့်စာအုပ်တိုက်ထုတ် ရခိုင်ရာဇဝင်သစ်ကျမ်း (၁၀၂၉) စာအုပ်ကြီးနှစ်အုပ်ကို ရှိမှာချပနာကြည့်ယင်း ကျွန်တော်မွန်းလားပါရေ။ ကွန်ပျူတာစာစီကျမ်းကြီးတစောင်လုံးကို စာအကျအပေါက်၊ စာလုံးပေါင်းသတ်ပုံအမှားအယွင်းစစ်ဆေးမှု (proof reading) လုပ်ဖို့ကိစ္စကို စဉ်းစားပနာ ကြက်သိန်းထမိစွာ အမှန်ပါ။ စာအုပ်ကထူရေနန့်၊ စာကများရေနန့်၊ စာလုံးချေတိက ငယ်ရေနန့် ကိုယ်တိုင်က စာပြရရေအလုပ်က တဖက်၊ ဗာဟီရအလုပ်တိကတဖက်နန့် အလုပ်ကခပ်များများဆိုခါ ရောက်နီရေအသက်အရွယ်နန့် လုပ်နိုင်ပါဖို့လားဂုလို့ တွန့်ဆုတ်မိပါရေ။

ယင်းပိုင်တွေဝေနီယင်းက မိတ်ဆွေကြီး မင်းပြားမင်းသိန်းဇံ ပြောဖူးရေ စကားတခွန်းကိုအတွက်ပေါ်ခီပါရေ။ 'တောင်ကျောင်းရာဇဝင်ဆိုစွာ ဇာနှစ်ခါဖတ်ဖတ် ဖတ်ပြီးဗျာယ်ဆိုစွာမဟီ၊ တခါထပ်ဖတ်ကေ အသိသစ်တခါ ထပ်တိုးရေ' ဆိုစွာပါ။

အစ်ကိုသိရေအတိုင်း ကျွန်တော်က သမိုင်းသမားမဟုတ်၊ ရသစာပီဖက်ကိုခပ်ယိုင်ယိုင်၊ သမိုင်းကိုမဖတ်လား၊ မလေ့လာလားဆိုကေ ဖတ်တော့ဖတ်တေ၊ လေ့လာရေ။ ယေဒါလည်း ကျွန်တော်သမိုင်းကိုဖတ်စွာ လေ့လာစွာက တမျိုးပါ။ သမိုင်းထဲကိုဝင်လားဖို့မဟုတ်၊ မိမိ၏ရသစာပီနန့်ပေါင်းစပ်ဖို့၊ ရသစာပီအဆင့်ကိုမြှင့်တင်ဖို့၊ ရသစာပီဝမ်းစာကို ဖြည့်ဖို့အတွက်ပါ။

ယင်းပိုင်နန့် ဒေတောင်ကျောင်းရာဇဝင် (ရခိုင်ရာဇဝင်သစ်ကျမ်း) ကို ၃-၄ ခါ ဖတ်ဖြစ်ပါရေ။ လိုအပ်တေ အခါ လိုအပ်သလောက် ဖတ်စွာဖြစ်လို့ နှံ့နှံ့စပ်စပ်မဟီ၊ ယေဘုယျသဘောပါ။ လိုရေခါပြန်လှန်လို့ရအောင် မင်နီနန့်တို့၊

အောက်ကမျဉ်းသား၊ ယင်းပိုင်ပါ။ ဖတ်ပြန်ရေခါလည်း မိမိနှင့်တိုက်ရိုက်သက်ဆိုင်ရေလို့ သတ်မှတ်ထားသော စန္ဒသူရိယမင်း အကြောင်းကစီ စလို့ဖတ်ဖြစ်ပါရေ။ များသောအားဖြင့်က ဒုတိယတွဲကစဖတ်စွာ များပါရေ။ ကမ္ဘာပျက်ဟန် တည်ဟန်ကပင် လေ့လာသင့်ရေဆိုစွာသိကေလည်း အချိန်မပီးနိုင်စွာတမျိုး၊ ကိုယ့်စိတ်ကို ဖျားယောင်းလို့ မရစွာတမျိုးနန့် ပထမတွဲ၊ ဒုတိယတွဲရို့ကို မဖတ်ဖြစ်ပါ။

အဂု ပရုဖတ်ရဖို့ဆိုရေ တာဝန်နန့်ဆိုခါ အစကပင် အသေးစိတ်မဖတ်လို့မရဗျာယ်လေ၊ ထိုး (ကျမ်းဦးပဏာမ) ဆိုစွာကပင် အာရုံစိုက် ဖတ်ဖို့ကျပါဗျာယ်လေ။ အယင်ခေါက်တိက ကျော်-ကျော်ပနာ အပြိန်းဖတ်ခစွာတိကိုလည်း စိတ်နှစ်လို့ဖတ်ရဖို့ဗျာယ်မနမ်းယေ။ ဖတ်ဖြစ်တေဆိုစွာပင်က ကိုယ့်အတွက် အမြတ်ဗျာယ်လို့ မှတ်ယူပါရေ။ ယေပြီးကေ ကိုမင်းသိန်းဇံပြောစကားပိုင် အသိသစ်တစ်ခုတော့ ရလာဖို့ပါဗျာယ်လေ။

အစ်ကိုပို့လိုက်တေ ကွန်ပျူတာစာစီကျမ်းတကျမ်းလုံးကို ပရုဖတ်ရဖို့ဗျာယ်ဆိုကေ (က) တောင်ကျောင်းရာဇဝင်ကို နိဒါန်းကပင် နိဂုံးထိ အစအဆုံး အသေးစိတ်ဖတ်ဖြစ်လားဖို့၊ (ခ) အသိသစ်တခုခုရလာဖို့၊ ဒေအကျိုးနှစ်ခုကို မျှော်ကိုးပနာ ပင်ပန်းကေလည်း ပင်ပန်းလီပတ်စီ၊ လုပ်မေဆိုပနာ ဆုံးဖြတ်ချက်ချလိုက်ပါရေ။

ရာပြည့်စာအုပ်တိုက်ထုတ် ရခိုင်ရာဇဝင်သစ်ကျမ်း စာအုပ်ကြီးကလည်း သားနားခံ့ညားရေနန့် ဖတ်ကောင်းထမန်းပါ။ စာအုပ်ဖွဲ့စည်းပုံကအစ 'ကျမ်း'ဆိုရေနှာမည်နန့်လိုက်အောင် ပျင်ဆင်ဖန်တီးထားစွာပါကို။ ကပ်ထူဖုံး၊ စာရွက် အကောင်းမျိုး၊ မင်ကျမင်န ပြတ်သားထင်ရှားရေ စာလုံးတိနန့်ပါ။ ကောင်းစွာမှာ ထပ်ဆင့်ကောင်းမွန်စွာတခုက မူရင်းမှာပါရေ ရခိုင်၊ မြန်မာ သက္ကရာဇ်တိကို ခရစ်သက္ကရာဇ်နန့် ရက်၊ လ အတိအကျ တွက်ချက် ပြောင်းလဲ ပီးထားစွာပါ။ နမူနာအဖြစ်ဆိုကေ မူရင်းမှာ (လောင်းကြက်မြို့ကို သက္ကရာဇ် ၆၁၃ ခု နယုန်လဆန်း ၂ ရက် စနေနေ့ ရတနာကျိန်းမြှောက်၍ ကန်စန်းကန်လင်္ကနှင့် တည်တော်မူလေ၏)ဆိုစွာကို အောက်ခြေမှတ်စုမှာ (၂၂ ဧပြီ ၁၂၅၁) လို့ ဖော်ပြပြီးထားစွာမျိုးပါ။ ကျွန်တော့်ပိုင် အလွယ်လမ်းသမားတိအတွက် အနည်းအသုံးတည့်စွာကမဟုတ်ပါ။

နောက်တမျိုးက မူရင်းမှာ (ယိုးဒယားဘုရင်ဖြနရာဇ်)ဆိုစွာကို (Naresuan - အေဒီ ၁၅၉၀-၁၆၀၅) လို့ ယှဉ်ပြပီးထားစွာမျိုးပါ။ ခေတ်ပြိုင်သမိုင်းတိနန့် နှိုင်းယှဉ်လေ့လာဖို့အတွက် အကျိုးပြုပါရေ။

ယင်းပိုင် ကောင်းခြင်းလက္ခဏာတိနန့် ပြည့်စုံနီရေအတွက် ရာပြည့်မူကို လက်ကိုင်ထားပနာ အစ်ကို့ ကွန်ပျူတာစာစီမူကို ကျွန်တော် (proof reading) လုပ်ပါရေ။

---

(ရာပြည့်မူ)ကို ကိုင်ပြီး ပရုဖတ်လို့ ဖတ်လို့လာလတ်စွာ ပထမဆုံး အမှတ်ထင်ထင် အင့်ရစွာက (တလိုင်း) ဆိုရေ ဝေါဟာရပါ။ ကွန်ပျူတာမူမှာက (တလိုင်း)၊ ရာပြည့်မူမှာကျခါ (မွန်) ဖြစ်နီပါရေ။ ၃-၄ ခါ တွိရစွာပါ။ စာပေ စိစစ်ရေးကြောင့် ရာပြည့်မူမှာ (မွန်)လို့ လုပ်ထားစွာဟိလီဖို့လို့ တွက်ပါရေ။ ယင်းကြောင့် ကွန်ပျူတာမူက (တလိုင်း)ကို ပျင်မပစ်ဘဲ ဆက်လို့လုပ်ပါလတ်ပါရေ။ နောက်ဆုံး သတ္တမတွဲကိုရောက်တေအခါမှာတော့ ရာပြည့်မူ၏ ချို့ယွင်းချက်တိကို မကန်မရွှံ့ တွိပါလတ်ရပါရေ။

ဒေပိုင်ပါ။

ကွန်ပျူတာမူကိုဖတ်လိုက်၊ ရာပြည့်မူနန့် ပြန်တိုက်ကြည့်လိုက် လုပ်ယင်းလုပ်ယင်းနန့် ရာပြည့်မူစာမျက်နှာ (၄၉၄)၊ စာကြောင်း (၉) မှာ (သားမယားတို့ကိုဖမ်းယူပြီးလျှင် မိန်းမများကို လက်ခြေတို့၌ ကြိုးနှင့်တုပ်နှောင်၍ မြစ်တွင် ပစ်ချလေ၏။) ဆိုရေဝါကျမပါစွာကို တွိရပါရေ။ အရာ စာမျက်နှာ (၄၉၅)၊ စာကြောင်း (၃) မှာ

(ငါတို့ မြန်မာသစ္စာရေအခင်မခံဟု) ဆိုရေစာစု၊ စာကြောင်း (၆) မှာ (သိမ်းရုံးယူ၍မြေလှန်ပြီးလျှင်) ဆိုရေစာစုနန့် (မိန်းမတို့ကို ယူဆောင်လေကုန်သည်ဖြစ်၍ စနည်းရှာလည်း လူမရှိဖြစ်လေ၏။) ဆိုရေစာစုရို့လည်း ရာပြည့်မူမှာ ပါမလာပါ။ (အေချင့်တိစွာ စာလုံးချေတလုံးတလီ မဟုတ်တေအတွက် မတော်တာဆအမှား မဟုတ်နိုင်ပါ။ တသီးတမင် ဖြုတ်ချထားခစွာတိပါရာ။ မူရင်းကို ပျင်ပစ်တေဆိုစွာ စည်းမစောင့်စွာပါ။ သစ္စာမဲ့စွာပါ။ ရာပြည့်ပိုင် နာမည်ကျော် စာအုပ်တိုက်ကြီးတခုအနေနန့် မလုပ်အပ်တေကိစ္စ ဖြစ်ပါရေ။

အေလောက်တည်းလားဆိုကေ မဟုတ်ပြန်ပါသိ ကိုလှမြင့်၊ အေထက်ဆိုးစွာတိ ဟိပါသိရေ။

(အင်္ဂလိပ်စသော ဥရောပတိုက်သား ဣန္ဒိယတိုင်းပြည်သို့ ဝင်လာသည့်အကြောင်းအစ)ကို ရှီးသားဖော်ပြရာမှာ ကျွန်တော်ရို့ဆရာတော်ကြီးက သက္ကရာဇ်တိကို ခရစ်ယံနန့် ရခိုင် (မြန်မာ)နှစ်ခုတွဲပနာ တိကျနိုင်မာစွာ တင်ပြထားပါရေ။ အင်္ဂလိပ် (ဥရောပ)သမိုင်းကို အထူးပြုလေ့လာပနာ ဖော်ပြပါရှိသော ခရစ် ခုနှစ်၊ လ၊ ရက်တိကို ရခိုင် (မြန်မာ) သက္ကရာဇ်သို့ ပြောင်းလဲတွက်ချက်ပြထားစွာပါ။ အေချင့်စွာ ရခိုင်ရာဇဝင်သစ်ကျမ်း လေ့လာသူရို့အနေနန့် သက္ကရာဇ် နှစ်မျိုးစလုံးကို နှိုင်းယှဉ်နားလည်စီချင်သော ဆရာတော်ကြီး၏ စေတနာကို ဖော်ပြနီရေပိုင် ကမ္ဘာ့သမိုင်းကိုပါ နားလည်သိဟိထားသော ဆရာတော်ကြီး၏ ဉာဏ်ပညာပြယုဂ်လည်း ဖြစ်ပါရေ။ ဥပမာအနေနန့်ဆိုကေ ဒေပိုင်ပါကား။

(ခရစ်ယံသက္ကရာဇ် ၁၄၉၈ ခုနှစ်၊ မေလ အရက်နှစ်ဆယ်နေ့၊ မြန်မာသက္ကရာဇ် ၈၆၀ ပြည့်၊ နံယုန်လတွင် အိန္ဒိယတိုင်း၊ အနောက်တောင်ကမ်း၌ တည်ရှိသော ကုလီကတ်မြို့သို့ ဆိုက်ရောက်လာသည်နှင့် ..)

လို့ မူရင်းမှာ ဆရာတော်ကြီး၏ဖော်ပြချက်ကို ရာပြည့်က (ခရစ်ယံသက္ကရာဇ် ၁၄၉၈ ခုနှစ်၊ မေလ အရက်နှစ်ဆယ်နေ့) ဆိုရေစာသားကို ဖြုတ်ပစ်လိုက်ပါရေ။ ဒေပိုင်ဖြုတ်ပစ်စွာမျိုး အခု (၂၀) နီးပါးဟိပါရေ။

အေလုပ်ရပ်ကတော့ ကောင်းကောင်းကြီးတရားလွန်ရေလို့ မှတ်ပါရေ။ ဆရာတော်ကြီး၏ လေ့လာအားထုတ်မှု၊ ကမ္ဘာ့သမိုင်းတို့အထိ လက်လှမ်းမီရေ ဆရာတော်ကြီး၏ဉာဏ်ပညာ ဗဟုသုတရို့ကို ဖျောက်ဖျက်ဖုံးကွယ်ပစ်စွာမျိုး မဟုတ်ပါလား ကိုလှမြင့်။ ဆရာတော်ကြီး၏ အားထုတ်မှုကို ရာပြည့်၏ဖန်တီးတီထွင်မှုပိုင် ရောင်တော်ပြန်နန့် ရောလွှတ်ပနာ မရိုးမသား ဦးနှောက်ဖောက်စားသောလုပ်ရပ်ဖြစ်တေလို့ ကျွန်တော်ယူဆပါရေ။

ဒေရခိုင်ရာဇဝင်သစ်ကျမ်းဆိုစွာ ကျွန်တော်ရို့ရခိုင်တိ၏ အရေးပါသော သမိုင်းမှတ်တမ်းလည်းဖြစ်တေပိုင်၊ ရခိုင်ရို့၏ ယဉ်ကျေးမှုအမွှေအနှစ်လည်း ဖြစ်ပါရေ။ ဒေကျမ်းကို ရာပြည့်က သူရို့၏စီးပွားရေးအရ ပြန်ရိုက်ပြီး ရောင်းစားရာမှာ အဂုပိုင် သူ့ရို့အလိုကျ ပျင်ချင်ပိုင်ပျင်ပစ်တေဆိုစွာ ကျွန်တော်ရို့၏ ရခိုင်ယဉ်ကျေးမှုကို စော်ကားစွာပင် ဖြစ်တေလို့ ကျွန်တော်ခံယူပါရေ။

ပြောရဖို့ဆိုကေ ဗုဒ္ဓပူဇနိယယိမ်းအကကို မြန်မာရိုးရာဆီမီးခွက်အကလို့ ပုံပြောင်းပစ်စွာမျိုး၊ ရခိုင်ရိုးရာသကြန် နံ့သာသွီးပွဲကို မြန်မာ့ရိုးရာနံ့သာသွေးပွဲလို့ ခပ်တည်တည်ကြေငြာစွာမျိုးပါဗျာယ်။ ထားပါဖိ။

ယင်းပိုင်တိကြောင့် သတ္တမတွဲအထိရောက်လို့ လက်စသတ်ဖို့ လက်တလုံးလောက်အလိုမှာမှ တစ်ကပြန်စဖို့ ကျပြန်ပါရေ။ ရာပြည့်ပုံနှိပ်တိုက်က ထုတ်ဝီလိုက်တေ ရခိုင်ရာဇဝင်သစ်ကျမ်းမူကို လုံးဝအယုံအကြည်မဟိ၊ အန္တရာယ်ကျလားပြီးကေ ထိုးအယင်ကပင် ကျွန်တော့်မှာဟိနီရေ ရခိုင်ရာဇဝင်သစ်ကျမ်း (၁၂၉၃ ခုနှစ်၊ မန္တလေး ဟံသာဝတီပိဋကတ်တိုက်) မူရင်းကိုရာ အတည်ပြုရလီဖို့ဗျာယ်ဆိုပနာ အစကပင် ပြန်စစ်ရပြန်ပါရေ။

ယင်းပိုင် နှစ်ခါထပ်စစ်နီရလို့ မကြာသင့်ဘဲ အချိန်ကြံ့ကြာလားရစွာပါ။

အကောင်းဖက်က ကြည့်ကတ်ပါမေ ကိုလှမြင့်။ အဂုပိုင် နှစ်ခါထပ်စစ်ပစ်လိုက်တေအတွက် ပထမ

တခေါက်က လျှမ်းပစ်ခဲ့စွာတိကို ပြန်မြင်၊ ပြန်တွိလာပါရေ။ မူရင်းကျမ်းက ထူးခြားရေ စာလုံးပေါင်းသတ်ပုံ၊ ဝေါဟာရတိကို သတိထားမိလာပါရေ။ ပထမတခေါက်က အမှန်လို့ အတည်ပြုထားစွာတိကို ပြန်ပျင်ရစွာတိ ဟိလာပါရေ။ ယင်းကြောင့် အအေဝ ပြန်ပို့လိုက်တေ အစ်ကို့ကွန်ပျူတာမူမှာ ၉၅% မှန်လီဖို့လို့ အာမခံလိုက်ပါယင်။

မူရင်းစာအုပ်ကိုပါ အစ်ကို့ကွန်ပျူတာမူကိုပါ တဖြိုင်တည်းမှာ နှစ်ခုဖတ်နီရခြင်း၊ ကျွန်တော့်အသက်အရွယ်အရ မျက်စိက အားမပြည့်ဗျာယ်ဖြစ်ခြင်း၊ မူလစာပြုရေအလုပ်နန့် တခြားဗာဟီရအလုပ်တိနန့် ထွီးနီရခြင်းရို့ကြောင့် ၅% လောက်ကို ချွင်းချက်ထားရစွာဖြစ်ပါရေ။

---

မန္တလေး၊ ဟံသာဝတီပိဋကတ်တိုက်မူကို လက်ကိုင်ထားပနာ ပြန်စစ်ကြည့်လိုက်တေအခါ အဂုလက်ဟိ ကျွန်တော်ရို့ ရွီးသားနီကတ်တေ အရွီးအသားတိနန့် ဆရာတော်ကြီးအသုံးပြုခရေ အရွီးအသားတိ အင်တန်လောက် ကွဲလွဲနီစွာတွိရပါရေ။ ကျွန်တော်စာရင်းချကြည့်ပါမေကား။

၁။ နောက်ပစ် (ဲ) စာလုံးပေါင်းဟူသမျှမှာ ဆရာတော်ကြီးက ဝစ္စပေါက် (း) ထည့်ပါရေ။
နမူနာ - မြဲး ၊ ဝဲး ၊ ပဲး ၊ တဲး ၊ ခဲး
အစ်ကို့ကွန်ပျူတာမူမှာ ဒေပိုင်စာလုံးအားလုံးကို ကျွန်တော်ပျင်ပီးဖို့ အားမရွိပါ။ အစ်ကိုသိအောင် ပြောပြစွာပါ။

၂။ (ၡ ၊ ၐ) ရို့မှာလည်း အောက်မြစ် (ု) ထည့်ပနာ (ၡု ၊ ၐု) လို့ရွီးပါရေ။ ထူးထူးခြားခြားသုံးရေဆိုစွာ သိရပြီးကေ အဂုခေတ် အောက်မြစ်မပါပဲသုံးစွာနန့် အတူတူရာလို့ ယူဆပနာ ကျွန်တော်မပျင်လိုက်ပါ။ သိထားဖို့တော့ လိုပါရေလေ။

၃။ သဝေထိုး၊ ယေးချ၊ ကကွီးသတ် (ော်) (အောက်ကာရံ) စာလုံးအားလုံးကို သဝေထိုး၊ ယေးချ၊ သေးသေးတင် (ော်) လို့ရွီးပါရေ။
နမူနာ - ယော်ကျား ၊ မြော် ၊ ကျော် ၊ အနော်
အေစာလုံးတိကိုတော့ခါ ကျွန်တော်မြင်တွိသရွီကို မူရင်းနန့်တိုက်ပနာ ပျင်ပီးလိုက်ပါရေ။

၄။ လုပ်နိုင်၊ ကိုင်နိုင် - ဆိုပနာ အဂုခေတ် (နိုင်) လို့ရွီးစွာကို (ဟထိုး) ထည့်ပြီး (လုပ်နှိုင်၊ ကိုင်နှိုင်) လို့ ရွီးပါရေ။

၅။ (လည်းကောင်း) နန့် (၎င်း) ကို ဆရာတော်ကြီးက သတ်သတ်မှတ်မှတ် မူတခုထားပနာသုံးရေလို့ ပြောလို့ မရပါ။ အလျဉ်းသင့်ရေပိုင် သုံးထားစွာတွိရပါရေ။ ယေဒါလည်း မူရင်းအတိုင်း တလုံးချင်းကို စိတ်ရှည်လက်ရှည်နန့် ကျွန်တော်ပျင်လိုက်ပါယင်။

၆။ ကျွန်တော်မှတ်ထားသလောက် တခြားစာလုံးတိကတော့ခါ

| | | |
|---|---|---|
| မိုး (ရာသီ) | ကို - | မိုယ်း |
| မိဖုရား | ကို - | မိဘုရား |
| (ဘုန်း) တန်ခိုး | ကို - | တန်းခိုး |
| ပဲခူး (မြို့) | ကို - | ပဲးခိုး |
| ဇရပ် | ကို - | စရပ် |

ဆယ့် (တစ်/နှစ်) ကို - ဆဲ့
သောင်းကျွန်း ကို - သောင်းကြမ်း
(မစား) ဘဲ ၊ (မလုပ်) ဘဲ ကို - ပဲး
ပြုပြင် ကို - ပြုပျင်
သောကြာ ကို - သောက်ကြာ
အိန္ဒိယ ကို - ဣန္ဒြိယ
သူဌေး ကို - သေဌေး
ရှိဖြစ်ပါရေ။ ဆရာတော်ကြီး၏မူအတိုင်း ပျင်လိုက်ပါယင့်။

---

ပြောရဖို့ဆိုကေ ပြောချင်စွာတိက အများကြီးပါ ကိုလှမြင့်။

Proof reading ကို လုပ်လာယင်း လုပ်လာယင်းနန့် တခုသတိပြုမိလာပါထော။ ဒေ ရာဇဝင်သစ်ကျမ်းကို ပြုစုရာမှာ ဆရာတော်ကြီး အကိုးအကားပြုစွာ ကျမ်း၊ စာအုပ်၊ ပိထုပ်၊ ရတု၊ လင်္ကာ၊ ပါဠိပိဋကတ်စာပီတိ သင့်အောင် အများရာမနားယေဆိုစွာပါ။ ကိုမောင်သိန်းဇံပြောရေ အသိသစ်တစ်ခုရရေဆိုစွာပါလားမသိ။ ဆရာတော်ကြီး၏ ကိုးကားချက်၊ နှိုင်းယှဉ်ချက်၊ ဝေဖန်ချက်တိကို မနည်းမနော သတိထားမိရေအတွက် ရောက်တေ နီရာမှာ တန့်ထား၊ အစကပြန်ဖတ်ပနာ င့် light marker တချောင်းနန့် ကိုးကားချက်၊ စာပီ၊ သမိုင်း၊ ရာဇဝင်၊ ကျမ်း၊ သာသနာတော်ဆိုင်ရာ ပါဠိ၊ ပိဋကတ် နာမည်တိကို မှတ်သားစာရင်းလုပ်ကြည့်ပါရေ။ ယင်းပိုင် စာရင်းလုပ်ကြည့်လိုက်ခါမှ ကျွန်တော်ရို့ အကိုရို့ ထောက်လှမ်းမမီနိုင်သော မကြံအပ်မစည်အပ်သော ဆရာတော်ကြီး၏ ဉာဏ်ပညာ အနက်အယှိုင်းနန့် စာပီကျမ်းဂမ် နှံ့စပ်မှုကို အံ့အားကြီးကျပနာ ခန့်မှန်းသိဟိလာရပါရေ။

ကျွန်တော် ကိုယ့်ဖာသာကိုယ် အမျိုးအစားခွဲ၊ ခေါင်းစဉ်တပ်၊ တတ်သလောက်မှတ်သလောက် အက္ခရာ ဝလိစီပနာ အေပိုင်စာရင်းတခု လုပ်ထားလိုက်ပါရေ။

## ရခိုင်ရာဇဝင်သစ်ကျမ်းအတွက် ဆရာတော်ကြီးစန္ဒမာလာလင်္ကာရ၏ ကျမ်းကိုးစာရင်း

**ပါဠိတော်/သုတ်**

၁။ ဂေါဝိန္ဒသုတ်
၂။ စူဠဝါပါဠိတော်
၃။ ပါထေယျပါဠိတော်၊ စက္ကဝတ္တိသုတ်
၄။ ပေတာဝတ္ထုပါဠိတော်
၅။ ပေတာဝတ္ထုပါဠိတော်၊ နန္ဒကပေတာဝတ္ထု
၆။ မဟာပရိနိဗ္ဗာနသုတ်
၇။ ဝိနည်းမဟာဝါပါဠိတော်
၈။ သုတ်မဟာဝါ၊ ပရိနိဗ္ဗာနသုတ်
၉။ သုတ်မဟာဝါပါဠိတော်၊ မဟာဂေါဝိန္ဒသုတ်
၁၀။ အင်္ဂုတ္တရပါဠိတော်၊ တိကနိပါတ်၊ ဝိသခုပေါသထသုတ်

**အဋ္ဌကထာ**

၁။ ဓမ္မပဒအဋ္ဌကထာ
၂။ နေမိဇာတ်အဋ္ဌကထာ
၃။ ပရိနိဗ္ဗာနသုတ် အဋ္ဌကထာ
၄။ ပါရာဇိကဏ်အဋ္ဌကထာ
၅။ ဗုဒ္ဓဝင်အဋ္ဌကထာ
၆။ ဝိဘင်းအဋ္ဌကထာ

၇။ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ
၈။ သီလက္ခန်အဋ္ဌကထာ
၉။ သီလက္ခန်အဋ္ဌကထာ (အမ္ဗဋ္ဌသုတ်အဖွင့်)
၁၀။ သုပ္ပါထေယျပါဠိတော်၊ ၎င်းအဋ္ဌကထာ
၁၁။ သုတ္တနိပါတ်အဋ္ဌကထာ
၁၂။ သုတ်ပါထေယျအဋ္ဌကထာ
၁၃။ သုတ်ပါထေယျအဋ္ဌကထာ (အဂ္ဂညသုတ်အဖွင့်)
၁၄။ သုတ်မဟာဝါအဋ္ဌကထာ
၁၅။ အနာဂတဝင်အဋ္ဌကထာ
၁၆။ အင်္ဂုတ္တရ၊ ဧကနိပါတ်အဋ္ဌကထာ
၁၇။ အင်္ဂုတ္တိုရ်အဋ္ဌကထာ
၁၈။ အင်္ဂုတ္တိုရ်နိပါတ်အဋ္ဌကထာ၊ တေဒဂ္ဂဝဂ်၊ မဟာပဇာပတိဂေါတမီဝတ္ထု
၁၉။ ဧကနိပါတ်၊ အင်္ဂုတ္တရအဋ္ဌကထာ (ဇမ္ဗူဒီပပေယျာလဝဂ်)

**နိပါတ်**

၁။ စတုက္ကနိပါတ်
၂။ စတုက္ကနိပါတ်၊ ပုစိမန္ဒဝဂ်၊ တိတ္တိရဇာတ်
၃။ စတုက္ကနိပါတ်၊ အင်္ဂုတ္တရပါဠိတော်
၄။ စတ္တာလီသနိပါတ်၊ တေသကုဏဇာတ်
၅။ တိကနိပါတ်
၆။ တိကနိပါတ်၊ မန္ဓာတုဇာတ်
၇။ တိံသနိပါတ်၊ ယေဒိသဇာတ်
၈။ ဒသနိပါတ်၊ ဃဋပဏ္ဍိတဇာတ်
၉။ ပဉ္စကနိပါတ်၊ တစသာရဇာတ်
၁၀။ ဝိသတိနိပါတ်၊ ယေဒိသဇာတ်
၁၁။ သတ္တတိနိပါတ်၊ ကုသဇာတ်
၁၂။ သတ္တနိပါတ်၊ ဂန္ဓာရဇာတ်
၁၃။ သတ္တနိပါတ်၊ မဟာကပိဇာတ်
၁၄။ သတ္တနိပါတ်၊ အင်္ဂုတ္တရပါဠိတော်
၁၅။ အဋ္ဌနိပါတ်၊ အင်္ဂုတ္တရပါဠိတော်
၁၆။ အသီတိနိပါတ်၊ မဟာဟံသဇာတ်
၁၇။ အင်္ဂုတ္တရတိကနိပါတ်ပါဠိတော်၊ ဝိသခုပေါသထသုတ်
၁၈။ ဧကနိပါတ်
၁၉။ ဧကနိပါတ်၊ တစသာရဇာတ်

**ဋီကာ**

၁။ ကင်္ခါဋီကာသစ်
၂။ ဇိနာလင်္ကာရဋီကာ
၃။ ဋီကာကျော်
၄။ တေရသကဏ္ဍဋီကာ
၅။ ပရမတ္ထဒီပနီဋီကာ
၆။ ပရိနိဗ္ဗာနသုတ်ဋီကာ
၇။ မဟာဝင်ဋီကာ
၈။ ရူပသိဒ္ဓိဋီကာ
၉။ ဝိမတိဝိနောဒနီဋီကာ
၁၀။ ဝိသုဒ္ဓိမဂ်၊ သာရတ္ထဋီကာ
၁၁။ သာရတ္ထဋီကာ
၁၂။ သာရတ္ထဒီပနီဋီကာ
၁၃။ သဒ္ဒတ္ထဘေဒစိန္တာဋီကာ
၁၄။ သုတ်မဟာဝါဋီကာ
၁၅။ သုတ်မဟာဝါအဋ္ဌကထာဋီကာ
၁၆။ အမ္ဗဋ္ဌသုတ်အဖွင့်၊ ၎င်းဋီကာ

**ကျမ်း**

၁။ ဂဏ္ဍာန်းကျမ်း
၂။ ဂေါတမပုရာဏ်ကျမ်း
၃။ စွယ်စုံကျော်ထင်ကျမ်း
၄။ စွယ်စုံကျော်ထင်အဖြေကျမ်း
၅။ ဇိနတ္ထပကာသနီကျမ်း
၆။ ဇမ္ဗူဒီပဥက္ကြိယနယ်ပုံကျမ်း
၇။ ဒိဋ္ဌာနုဂတိကျမ်း

၈။ ဒီပဝင်ကျမ်း
၉။ ပထဝီဝင်ကျမ်း
၁၀။ ပထဝီဝင်နယ်ပုံကျမ်းများ
၁၁။ ဆန္ဒကပ္ပဝိနိစ္ဆယကျမ်း
၁၂။ မကန္တပူရာမ်ကျမ်း
၁၃။ မဟာရာဇဝင်ကျမ်း
(စဉ့်ကိုင်ဒေဝသေဌေးသားမောင်ကုလား)
၁၄။ မဟာဝင်ကျမ်း
(ဉတ္တရပိဟာရဝါသီဆရာ)
၁၅။ မဟာသုဓာတကကျမ်း
၁၆။ မူလရာဇဝင်ကျမ်းကြီး
(အမတ်ကြီးဦးဒိုးဝေ)
၁၇။ မြန်မာစာညွန့်ပေါင်းကျမ်း
၁၈။ ရခိုင်ရာဇဝင်ကျမ်း
၁၉။ ရာဇနီတိကျမ်း
၂၀။ ရာဇဘိသေကကျမ်း
၂၁။ ရာဇဝင်ကျမ်း
၂၂။ ရာဇသေဝကကျမ်း
၂၃။ ရာဇဓောဝါဒကျမ်း (မုံရွေးဆရာတော်)
၂၄။ လောကပညတ္တိကျမ်း
၂၅။ လောကဗျူဟာကျမ်း
၂၆။ လောကီဒိဋ္ဌာနုဂတိကျမ်း
၂၇။ လောထုပ္ပတ္တိကျမ်း
၂၈။ သမန္တစက္ခုဒီပနီကျမ်း
၂၉။ သာသနာလင်္ကာရကျမ်း
၃၀။ သီဟဠဝတ္ထုကျမ်း
၃၁။ သူရိယသိဒ္ဓန္တကျမ်း
၃၂။ သေနင်္ဂဗျူဟာကျမ်း
၃၃။ အာဒိကပ္ပကျမ်း
၃၄။ အာဒိကပ္ပကမ္ဘာဦးကျမ်း
၃၅။ ဣန္ဒြိယရာဇဝင်ကျမ်း

မှတ်ချက် ။ ။ မူရင်းရခိုင်ရာဇဝင်သစ်ကျမ်းမှာ ဆရာတော်ကြီးက 'ကျမ်း' လို့ နာမည်တပ်ထားပီးသော ကျမ်းတိကို ဖော်ပြစွာဖြစ်ပါရေ။

**ရာဇဝင်**

ရခိုင်ရာဇဝင်သစ်ကျမ်းထဲမှာ ဆရာတော်ကြီးက ကိုးကားထားရေအကြိမ်အရွီအတွက်ကိုပါ လက်သည်းကွင်းထဲမှာ ဖော်ပြလိုက်ပါယင့်။

၁။ ဆရာမည်ရာဇဝင် (၉၄ ကြိမ်)
၂။ ပြည်၏ရာဇဝင်ကြီး (ဦးဒိုးဝေ)
၃။ မဟာရာဇဝင်ကြီး
၄။ မြန်မာတို့ရာဇဝင်ကြီး
၅။ မြန်မာရာဇဝင်
၆။ မှန်နန်းရာဇဝင် (၅၆ ကြိမ်)
၇။ ရခိုင်ရာဇဝင်
၈။ ရခိုင်ရာဇဝင်လင်္ကာ (ဦးစံတင်)
၉။ ရခိုင်ရာဇဝင်အရေးတော်ပုံ
၁၀။ ရခိုင်ရာဇဝင်အင်းစောက် (၄၈-ကြိမ်)
၁၁။ ရာဇဝင်
၁၂။ ရာဇဝင်ကြီး (၁၃-ကြိမ်)
၁၃။ ရာဇဝင်ကျောက်ရိုး
၁၄။ ရာဇဝင်ဆက်
၁၅။ ရာဇဝင်ပေါင်းချုပ်
၁၆။ ရာဇဝင်လင်္ကာ (၂၃-ကြိမ်)
၁၇။ ရာဇဝင်သစ် (၄၁-ကြိမ်)
၁၈။ ရာဇဝင်ဟောင်း (၁၂၂-ကြိမ်)

**အထွေထွေ**

၁။ ကထာဝတ္ထု
၂။ ကျပင်းဘုန်းတော်ကြီးတရားစာ
၃။ စိန္တာဘုတ္တိ
၄။ ဓမ္မဒီပါစာတမ်း

| | | | |
|---|---|---|---|
| ၅။ | ဒီသာဒေယျစာတမ်းများ | ၂၃။ | မြောက်ဦးမြို့ဆက်ရာဇဝင်လင်္ကာ (ဦးမောင်သာအောင်) |
| ၆။ | ဒီပဝင် | ၂၄။ | ရမ်းပြည့်မြို့စားတရားမတရားသူကြီး ကာတီ၏မှတ်တမ်း |
| ၇။ | ဒီပဝင်စာကိုယ် | | |
| ၈။ | ဒေညဝတီအရေးတော်ပုံ | | |
| ၉။ | ဓာတ်တည်ခန်း (မင်းဖလောင်း/ရာဇဝင်) | ၂၅။ | ရွှေမျှဦးဓမ္မသတ် |
| ၁၀။ | နားတော်သွင်းလင်္ကာ | ၂၆။ | လောကဒီပနီ |
| ၁၁။ | နန်းသိမ်းသြဘာရတု (ဦးပေါ်ဦး) | ၂၇။ | လောကနီတိ |
| ၁၂။ | ပါထေယျ | ၂၈။ | လောကီပုံပြင်ကျောက်စာသမိုင်း |
| ၁၃။ | ပေတာဝတ္ထု | ၂၉။ | ဝိဇယမင်းစစ်အောင်ခြင်း |
| ၁၄။ | ဘစောဖြူမင်းသမီးခြင်း (အဒူမင်းညိုခြင်း) | ၃၀။ | ဝိစူရဇာတ်တော်ကြီးဝတ္ထု |
| | | ၃၁။ | သမန္တစက္ခုဒီပနီ |
| ၁၅။ | ဘိုးတော်ကောင်းမှု၊ စန္ဒမုနိဘုရားကျောက်စာ | ၃၂။ | သာရတ္ထဒီပနီ |
| ၁၆။ | မဏိမဉ္ဇူ | ၃၃။ | သာသနာလင်္ကာရ |
| ၁၇။ | မဟာဇနကဇာတ်တော်ကြီး | ၃၄။ | သုဝဏ္ဏသာမဇာတ် |
| ၁၈။ | မဟာမုနိသမိုင်း | ၃၅။ | သန္တိဌလင်္ကာ |
| ၁၉။ | မဟာဝင် | ၃၆။ | အဘိဓာန် |
| ၂၀။ | မဟာဝင်ဂါထာ | ၃၇။ | အင်္ကုရပေတဝတ္ထု |
| ၂၁။ | မဟာဝင်ဝတ္ထု | ၃၈။ | ဦးပေါ်ဦးလျှောက်ထုံး |
| ၂၂။ | မိလိန္ဒပဉှာ | | |

ဆရာတော်ကြီး စန္ဒမာလာလင်္ကာရစွာ ဘဝတသက်တာမှာ အဂု ရခိုင်ရာဇဝင်သစ်ကျမ်းအပါအဝင် ကျမ်းပေါင်း (၁၇)ကျမ်း ပြုစုထားခရေလို့ အမှာစာထဲမှာ ဖတ်ရပါရေ။

ရခိုင်ရာဇဝင်သစ်ကျမ်းတခုတည်းကို ပြုစုရာမှာတောင် ကျွန်တော်ပြခရေ အထက်ကစာရင်းပါ လောကီ လောကုတ္တရာ စာပီကျမ်းဂန်တိကို ဆရာတော်ကြီး လေ့လာဖတ်ရှုပြီးနောက်နိုင်ခရေဆိုကေ … အရာ (၁၆) ကျမ်း အတွက် ဆိုကေပါ။

အစ်ကိုရို့ ကျွန်တော်ရို့ ထောက်လှမ်းလို့မဗွီ၊ နှိုင်းချိန်လို့မရနိုင်လောက်တေ မဟာသမုဒ္ဒရာလောက် နက်ယှိုင်း ကျယ်ပြောသော စာပီအတတ်ပညာ၊ စာပီဗဟုသုတနန့် ကုံလုံပြည့်ဝသော ဆရာတော်ကြီးဖြစ်တေလို့ပြောကေ လက်ခံနိုင် ကတ်ပါဖို့ရာ။

ကိုလှမြင့်

ကျမ်းနိဂုံး (၁၃) ဂါထာပါဌ်အနက်ထဲက နံပါတ် (၈) မှာ အဂုပိုင်ဆိုပါရေ။ (၈) ဓေနပုညကမ္မေန၊ ဤသို့ ရာဇဝင်ကျမ်းကို ကြိုးပမ်းအားထုတ် ပြုလုပ်စီရင်ရသော ကောင်းမှုကံစေတနာကြောင့်။ အဟံ၊ ငါသည်။ တီသပါရမီ၊ သုံးဆယ်သောပါရမီတို့ကို။ ပူရေတွာန၊ ပြည့်စုံတော်မူစေပြီး၍။ အနာဂတေ၊ နောင်အခါဌ်။ ပညာဓိကံ၊ ပညာဖြင့်အလွန် မြတ်သော။ ဗုဒ္ဓတ္တံ၊ ဘုရားအဖြစ်သို့။ ပတ္တံ၊ ရောက်သည်။ ဘဝါမိ၊ ဖြစ်ရပါလို၏။

**ရခိုင်သားကြီးစာပေ**

ဘုရားအဖြစ်ကို ရောက်ရပါလို၏လို့ ဆရာတော်ကြီး ဆုတောင်းခပါရေ။ ဒေ ရခိုင်ရာဇဝင်သစ်ကျမ်းတခုတည်း နန့်တောင် ပညာရောင်ဟိန် တထိန်ထိန်တဝင်းဝင်း လင်းလက်တောက်ပမှုကို အထင်အရှားပြသနိုင်ခသော ကျွန်တော်ရို၏ ဆရာတော်ကြီးစွာ ပါရမီပြည့်စုံရေ ဘဝတခုမှာ ဘုရားအဖြစ်ကို ဧကန်မုချ ရဟိလိမ့်မေလို့ ကျွန်တော် မဖိုတ်မသုန် ယုံကြည်ပါရေ။

ဆရာတော်ကြီး ပြုစုခသော ဒေ ရခိုင်ရာဇဝင်သစ်ကျမ်းကို ထက်သန်သောစေတနာနန့် ဒုတိယအကြိမ် အကောင်းဆုံး ထုတ်ဝီနိုင်ဖို့ ဖွဲ့ထည့်ပနာ ကြိုးစားနိရေ ကိုလှမြင့်နန့် ဆရာတော်ကြီးကျမ်း ကွန်ပျူတာစာမှုကို အမှားအကင်းဆုံးဖြစ်အောင် ဖတ်ရှုစစ်ဆေးပီးရေ ကျွန်တော်ရို့နှစ်ယောက်လည်းသွင့် ဒေပြုလုပ်ရသော ကောင်းမှုကံ စေတနာကြောင့် ဆရာတော်ကြီး ဘုရားအဖြစ်ကိုရောက်တေဘဝမှာ ဆွမ်းချေတယောက်မ၊ သစ်သီးချေတလုံးကို အတူတူ ဆက်ကပ်လှူဒါန်းနိုင်သော ညီအစ်ကိုအရင်း ဖြစ်ရပါလို၏လို့ ဆုတောင်းလိုက်ကတ်ပါမေပလင်။

ခင်မင်လေးစားစွာဖြင့်

မောင်ကျော်ဇော(နောင်အေး)
မြောက်ဦးမြို့
၂၀၁၇ ခု၊ ဇန္နဝါရီ ၂၄ ရက်

---

ဒေ ရှီးထားရေစာကို မင်းဖတ်ကြည့်ရေခါ ဆရာဇလောက်အာရုံစိုက်ပနာ ဖတ်ထားလေ့ဆိုစွာကို တွိရရေ မဟုတ်လား။

ဒေစာကို အဆုံးသတ်ရှီးချင်စွာက အယင့်အယင်က ထုတ်ဝီခရေ ဒေရခိုင်ရာဇဝင်သစ်ကျမ်းစာအုပ်မှာ ဒုတိယအုပ် စာအုပ်ထဲက သတ္တမတွဲကို ဆုတ်ဖြဲပနာ ထုတ်ဝီဖူးရေအမှားအတွက် ဒေ အဂုထုတ်ဝီရေစာအုပ်ကို အတတ်နိုင်ဆုံး ကြိုးစားပနာ ပထမအကြိမ် ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်က ထုတ်ဝီရေ စာအုပ်မှာပါရေ စာလုံးပေါင်းသတ်ပုံ မူရင်းအတိုင်း ပြည့်ပြည့်စုံစုံနန့် ပြန်လို့ထုတ်ဝီမှုကို ကျေနပ်ပီးကတ်ပါလို့ စာဖတ်ပရိသတ်အားလုံးကို ဝန်ချတောင်းပန်လိုက်ပါယင့်။ ဒေစာအုပ်ကို ပရုဖတ်ပီးရေ ဆရာမောင်ကျော်ဇော နှင့် ဆရာဦးသန့်ဇင် (ကံ့ကော်ကောင်းကင်)မိသားစုကိုလည်း ကျေးဇူးတင်ကြောင်း မှတ်တမ်းတင်ပါရေ။

အဂုထုတ်ဝီလိုက်တေ ရခိုင်ရာဇဝင်သစ်ကျမ်း နှစ်တွဲပေါင်းစာအုပ်၏ မျက်နှာဖုံးကိုလေ့ မြောက်ဦးမြို့မှာရှိရေ မြောက်ဦးမြို့တည် ဘုရားငါးပါးထဲက လေးမျက်နှာစေတီဘုရား၏ ကြည်ညိုစဖွယ် နီထွက်စမြင်ကွင်းမှာ ဖူးမြင်ရရေပုံတော်ကို ဖော်ပြပီးလိုက်ပါရေ။ စာဖတ်ပရိသတ်တိ အမြတ်တနိုး သိမ်းထားဖူးမျှော်နိုင်ဖို့အတွက်ပါရာ ခင်မောင်သန်း။

တူမောင် ခင်မောင်သန်းရို့ မိသားစုအားလုံး
ကျန်းမာကတ်ပါစီ
အခင် ရခိုင်လှမြင့်
၁၅.၂.၂၀၁၇



ရမ္မာဝတီ၊ ရမ်းပြည့်မြို့မ၊
တောင်ကျောင်းဆရာတော်ဘုရားကြီးပုံတော်။

# ရမ္မာဝတီ (ရမ်းဗြဲမြို့)
# တောင်ကျောင်းဆရာတော် (ရခိုင်ရာဇဝင်သစ်ကျမ်းပြုဆရာတော်)
# ဘဒ္ဒန္တစန္ဒမာလာလင်္ကာရ၏ ထေရုပ္ပတ္တိအကျဉ်း

**ဖွားမြင်တော်မူခြင်း**

ဆရာတော်သည် ၁၂၂၃ ခုနှစ်တွင် ရခိုင်ပြည်နယ်၊ ရမ်းဗြဲမြို့နယ်၊ ရွာပုလဲရွာ၌ ခမည်းတော် ဦးအောင်ကျော်ဇော၊ မယ်တော်ဒေါ်ဝင်းလှဖြူတို့မှ ဖွားမြင်တော်မူခဲ့ပါသည်။ ငယ်မည်မှာ ကျော်ဇောအောင် ဖြစ်ပါသည်။

**ရှင်၊ ရဟန်းပြုခြင်း**

၁၂၃၉ ခုနှစ်တွင် ရှောက်ချောင်းဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်ရှိတော်မူခဲ့သည်။ ၁၂၄၂ ခုနှစ်၊ ရမ်းဗြဲမြို့၊ တောင်ကျောင်းဆရာတော် ဘဒ္ဒန္တ သာရမေဓာကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘာဝသို့ ရောက်တော်မူပါသည်။

**စာပေသင်ယူခြင်း**

ဆရာတော်သည် ငယ်စဉ်ကပင် ဉာဏ်အလွန်ကောင်းပြီး စာပေဝါသနာပါခဲ့သည်။ ရှောက်ချောင်းဆရာတော်နှင့် တောင်ကျောင်းဆရာတော် ဘဒ္ဒန္တ သာရမေဓာတို့ထံတွင် သင်ရိုး၊ ပါဠိတော်နှင့် အဋ္ဌကထာ ကျမ်းစာများကို သင်ယူခဲ့ပြီး သရက်မြို့၊ မြို့တပ်ကျောင်းဆရာတော်ထံတွင် ဆက်လက်ပညာသင်ကြားခဲ့သည်။ ၁၂၅၇ ခုနှစ်တွင် မန္တလေးမြို့ ပုခန်းသာသနာပိုင် ဆရာတော်ထံတွင် ဆက်လက်ပညာသင်ယူပါသည်။

**စာပေပို့ချခြင်း**

စာပေများသင်ယူတတ်မြောက်ပြီးနောက်၊ ရမ်းဗြဲမြို့၊ လက်ပံအညာကျောင်း၌ သီတင်းသုံးပြီး တပည့်ရဟန်းသံဃာတော်များကို စာပေများသင်ကြားပို့ချပေးခဲ့ပါသည်။ ၁၂၇၁ ခုနှစ်တွင် ရမ်းဗြဲမြို့တောင်ကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူပြီး စာပေသင်ကြားပို့ချခြင်း၊ ကျမ်းဂန်များရေးသား ပြုစုတော်မူခဲ့ပါသည်။

**ရေးသားပြုစုခဲ့သော ကျမ်းစာများ**

ဆရာတော်သည် ရခိုင်ရာဇဝင်သစ်ကျမ်း အပါအဝင်၊ ကျမ်းပေါင်းများစွာ ရေးသားပြုစုတော်မူခဲ့ပါသည်။ ထိုကျမ်းများအနက် ရှာဖွေတွေ့ရှိခဲ့သည့် ကျမ်းများမှာ-

| | |
|---|---|
| - ဥတုဘောဇနေ သံပေါက်ကျမ်း | (၁၂၅၈ ခုနှစ်) |
| - ပဋ္ဌိစ္စသမုပ္ပါဒ ကာသနီကျမ်း | (၁၂၆၁ ခုနှစ်) |
| - မင်္ဂလာမြတ်ခေါင်ချီ၊ နာရဒဇာတ်တော်ကြီး | (၁၂၆၂ ခုနှစ်) |
| - ကပ္ပဝိနိစ္ဆယကျမ်း | (၁၂၇၀ ခုနှစ်) |
| - ဝေရမဏီသီလ ဝိနစ္ဆယကျမ်း | (၁၂၇၅ ခုနှစ်) |
| - သမ္ဘဝါဒ ဒီပကကျမ်း | (၁၂၇၄ ခုနှစ်) |
| - ဓောဒကဒိ ဝိနစ္ဆယကျမ်း | (၁၂၇၅ ခုနှစ်) |
| - ဓမ္မုဒ္ဒီပ ဣန္ဒိယနယ်ပုံကျမ်း | (၁၂၈၂ ခုနှစ်) |
| - ရာဇဗ္ဗမသချေ်ပကျမ်း | (၁၂၉၂ ခုနှစ်) |
| - ရခိုင်ရာဇဝင်သစ်ကျမ်း | (၁၂၉၃ ခုနှစ်) |

**ရရှိခဲ့သော ဘွဲ့တံဆိပ်တော်**

၁၂၇၅ ခုနှစ်တွင် ပုခန်းသာသနာပိုင် ဆရာတော်ကြီးက 'အရှင်စန္ဒမာလာလင်္ကာရ' အား ရမ္မာဝတီဂိုဏ်းတော်၊ သာသနာပြုဘွဲ့တံဆိပ်တော်ကို အပ်နှင်းခဲ့ပါသည်။

**ဘဝနတ်ထံပျံလွန်တော်မူခြင်း**

၁၂၉၇ ခုနှစ် သက်တော် (၇၄)နှစ် ဝါတော် (၅၄)ဝါတွင် ရမ်းဗြဲမြို့၊ တောင်ကျောင်း၌ ဘဝနတ်ထံပျံလွန်တော်မူခဲ့ပါသည်။

**၂၀၁၅ခုနှစ်၊ ဇန်နဝါရီလထုတ် ရမ္မာဝတီမဂ္ဂဇင်းအမှတ်(၅)မှ ကူးယူဖော်ပြပါသည်။**

# မာတိကာ



## ပထမအုပ် - ပထမတွဲ

**ဤတွင်ရွှေကား ရခိုင်ရာဇဝင်သစ်ကျမ်း ပဌမတွဲ မာတိကာသည် ပြီးပြီ။**

# ဒုတိယတွဲ

ဤတွင် ရွှေကား ရခိုင်ရာဇဝင်သစ်ကျမ်း ဒုတိယတွဲ မာတိကာသည် ပြီးပြီ။

**ရခိုင်သားကြီးစာပေ**

# တတိယတွဲ



**ဤတွင် ရွှေကား ရခိုင်ရာဇဝင်သစ်ကျမ်း တတိယတွဲ မာတိကာသည် ပြီးပြီ။**

# စတုတ္ထတွဲ



**ဤတွင် ရွှေကား၊ ရခိုင်ရာဇဝင်ကျမ်း ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ စတုတ္ထတွဲးတို့၏ မာတိကာပြီးပြီ။**

**ရခိုင်သားကြီးစာပေ**

# ဒုတိယအုပ် – ပဥ္စမတွဲ



# ဆဋ္ဌမတွဲ



# သတ္တမတွဲး

တရာ့တစင်း။မင်းထက်မင်းတို့။စွန့်သွင်းဝင်ပါ။
မဟာပိဋကာ။ရက္ခပူရ။နာမပျုံ့လှိုင်။ရခိုင်ပြည်ကြီး။မြို့သီးသီးတွင်၊
ဘုန်းမီး နေ-လ။အစိုးရကြသော။မဟာသမ္မတ။သကျ
သာကိန်၊အသင်္ခိန်ဟု။ရာဇိန်သက်ဆင်း၊
ရခိုင်မင်းတို့၏။ခြင်းရာမှုပွတ်၊ဖြစ်ပျက်ဇာတ်ကို။နာဂတ်
နောင်လာ။မျိုးလေးဖြာတို့၊ကောင်းစွာသိစေရန်။ရည်ရွယ်သန်၍။

**ရမ္မာဝတီ။ရမ်းပြည့်မြို့မ။**

ဒက္ခိဏပိဟာရရာမ ကျောင်းတိုက်ကြီး၌၊
ယာဗိတ်ရှင်ပြီး။ဘိတင်းသုံး နေထိုင်တော်မူသော

**စန္ဒမာလာလင်္ကာရ**

အမည်ရှိတော်မူသော

**တောင်ကျောင်းဆရာတော်ဘုရားကြီးသည်၊**

ပါဠိ-အဋ္ဌကထာ၊ဋီကာ-ပုံပြင်။
ရာဇဝင်-အသီးသီးတို့မှ။ထုတ်နှုတ်သုမ်သင်။တန်ဆာဆင်၍။
စီရင်ရေးသားတော်မူအပ်သော။

# ရခိုင်ရာဇဝင်သစ်ကျမ်း။

ပဌမအုပ်။

---

"ဆရာ-ဦးဘုရင်"ကြီးကြပ်ပျင်ဆင်သည်။

၁၂၉၃-ခု၊တပို့တွဲလ။

---

မန္တလေးမြို့၊
ဟံသာဝတီ ပိဋကတ်စာပုံနှိပ်တိုက်။

ရခိုင်သားကြီးစာပေ

# နိဒါန်း

မဟာသုဒဿန၊ အယုဇ္ဈပူရိန်၊ မာဃိနိစံမြန်း၊ ဝတိန်နန်းသို့၊ ပွင့်လန်းသာယာ၊ ထောမနာဖြင့်၊ ဩဘာကိတ္တိ၊ ကျော်စောခြင်းရှိလှသော၊ မဟာဝိဟိက၊ နာမတင့်လှိုင်း၊ သမိုင်းကြေညာ၊ ဝေဖြာသညီ၊ ရမ္မာဝတီကျွန်း၏ အလယ်ချက်မတွင်၊ အတ္တ-ပရ၊ နှစ်ဝ-အကျိုး၊ မျှော်ကိုးခါခါ၊ ကျင့်အာစာနှင့်၊ ဗုဒ္ဓ-ဓမ္မာ၊ သံဃာ-တွင်ဘိ၊ ဂုဏ်လျှံညှိုးသား၊ သာဝိတ္တိဆန်း၊ သုံးနိုင်ပန်းလည်း၊ ရွှင်လန်းနိစ္စ၊ မိဂမဖြင့်၊ လေးဝမြဲဟွစိုရ်၊ မြဲကြည်ညိုရှု၍၊ မငြိုသီလ၊ ပဋ္ဌဂံလည်း၊ ခဏာမကွာ၊ ခြောက်ဖြာနာယက၊ ဂုဏ်ပေါင်းခလျက်၊ သတ္တ- သူတော်၊ ဥစ္စာမော်လည်း၊ အပော်အစ္ဆရိ၊ အံ့ဖွယ်ရှိသား၊ မြတ်ဘုရား၏၊ ယောကြားဓမ္မ၊ အဋ္ဌင်္ဂမူ၊ တလလေးလီ၊ အမြဲတည်၍၊ ကိုးမည်ဂုဏ်လျှံ၊ အရပ်ကို၊ စူဝံမမေ့၊ စေ့စေ့ဆယ်ဖြာ၊ မြတ်ပုညာဟု၊ အစုစုလည်း၊ တခုမကျန်၊ သူတော်မွန်တို့၏နေရာ၊ ရွာပုလဲရွာလျှင်၊ ဖွားရာဇာတိရှိသော ရမ်းပြည့်မြို့၊ တောင်ကျောင်းဆရာတော်ဘုရားကြီးသည် သုခဝမုန၊ မဟာဒ္ဓနဂုဏ်၊ လောက်လုံနိုင်ဖြိုး၊ အမျိုးကြီးမှ၊ ဖွားသီး ထမြောက်၊ အရွယ်ရောက်သောအခါ၊ ကောဇာသက္ကရာဇ် ၁၂၃၉-ခုတွင် ရှောက်ချောင်းရွာဂါမ၊ ဝိဟာရ၌၊ ပါကဋထေရ်မွန်၊ သီလဝန်အကျော်၊ ဖြစ်ကြီးဖြစ်တော်မူသော ဆရာတော် ဘုရားကြီးထံ နိယံမပြတ်၊ ဆည်းကပ်ဝပ်တွား၊ သင်ရိုးစာပေများကို သင်ကြားတော်မူပြီးနောက်၊ ကောဇာသက္ကရာဇ် ၁၂၄၂-ခုနှစ်သို့၊ ရောက်လစ်သောအခါ၊ တေဇာညီးညီး၊ တောက်ထိန်မီးကဲ့သို့၊ ဝေနီးထင်ပေါ်၊ ကျော်ထက်ကျော်သော၊ ပိဋကတ္တယဆေက၊ ဝေဒပါရဂူ၊ သူမတူဟန်၊ ထူးကဲချွန်သော၊ ရမ်းပြည့်မြို့-တောင်ကျောင်း ဆရာတော် ဘုရားကြီးထံ၊ တဖန်ဆည်းကပ်၊ ပရိယတ်ဓမ္မ၊ အဝဝတို့ကို၊ ကျနသေချွေ၊ သင်ခြေရမြောက်၊ ရဟန်း ဖြစ်ချိန်သို့ရောက်သောအခါ၊ ၎င်းဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍၊ သုသီလဝါ ဆရာထေရ်ကျော်၊ သံဃာတော် ၇၀ တို့နှင့်တကွ၊ စတုဗ္ဗကမ္မဝါ၊ ဥတ်ရုံကာဖြင့်၊ မဟာသီမ၊ သိမ်ခဏ္ဍာ၌၊ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်လေသတည်း။

ထိုရမ်းပြည့်မြို့ တောင်ကျောင်းဆရာတော် ဘုရားကြီး၏ခြေရင်းတော်၌ ပရိယတ္တိတရား၊ ပွားများ လေ့လာ၊ နေစဉ်ခါဝယ်၊ နှစ်ဝါရမြောက်၊ ရောက်တုံလတ်သော်၊ မရမ္မရဋ္ဌ၊ သာသနာ့နေခြည်၊ ထိန်ကြည်ဝင်းစက်၊ လင်းလင်းလက်သော၊ သရက်မြို့မတိုက်၊ သုံးထပ်ကျောင်း ဆရာတော် ဘုရားကြီးထံ၊ နိယံမပြတ်၊ ဆည်းကပ်ဝပ်တွား၊ မခြားနေ့ည၊ ဥဿာဟဖြင့်၊ ပိဋကတ္တယအဖြာဖြာ၊ ပါဠိ

အဋ္ဌကထာ၊ ဋီကာ-အနု၊ မဓုယောဇနာ၊ ဒေသနာ တင့်လျှမ်း၊ ခက်ဆစ်ကျမ်းတို့ကို၊ ပြိုးပြမ်းသင်ကြား၊ တတ်မြောက်ငြားတော်မူပြီးသည့်နောက် မိမိ၏မူလ ဖွားမြင်ရာဖြစ်သော၊ မဟာဝိဟိက၊ တိုင်းဌာနသို့၊ ပြန်ကြွပြီးကာ၊ လက်ပံအညာကျောင်းကြီး၌၊ သီတင်းသုံးတော်မူလျက်၊ ထိုထိုသို့သော ပရိယတ်၊ ထပ်ထပ်ဝန်းရံ၊ ပျားနှမယ်အုံသား၊ အလုံးစုံသော တပည့်သီသာ၊ ပေါင်းများစွာတို့အား၊ ကောင်းစွာသင်ကြား၊ တရားမြိုက်ဆေး၊ မြတ်ရေအေးကို တိုက်ကျွေးဝေငှတော်မူပြီးနောက်၊ အရောက်ကောဇာ (၁၂၅၇)ထောင့်နှစ်ရာနှင့်၊ ငါးဖြာခုနစ်နှစ်၊ ရောက်တုံလစ်သော်၊ ရတနာပုဥ္ဆ၊ ဗျာဒိတ်ရသား၊ နာမသင်းထုံ၊ မန်းဖေယျုံဟု၊ ဝုဏ်သိရ်ပျံ့မွှေး၊ စာတမ်းကြွေးသည့်၊ မန္တလေးနေပြည်တော်ကြီးသို့ ကြွတော်မူကာ၊ အရှေ့ပြင်-ခင်မကန် ဆရာတော်ဘုရားကြီးထံ၊ ကျိုးနွံစွာဆည်းကပ်၍၊ နှစ်လ-ကျော်၊ သုံးလခန့်နီးနီး၊ နိဿရည်းအရပ်ရပ်၊ ခဲကပ်စွာလှ၊ ဝိနယတို့ကို၊ နေ့ညမကွာ၊ သင်ဆဲသောအခါတွင်၊ သမ္ဗုဒ္ဓိသာသနာပိုင်၊ ပခန်းဆရာတော်ဘုရားကြီးက ပစ္ဆိမဘာဂ၊ တိုင်းဌာန၌၊ သာသနာ့နေဝန်း၊ ထွန်းလင်းရှည်ကြာ၊ တည်စေရန်အလို့ငှာ၊ အားသွန်ကြိုးစား၊ ရွက်ဆောင်နိုင်မည့် ပုဂ္ဂိုလ်များကို၊ ညွှန်ကြားပြသ၊ ပေးအပ်ရမည်ဟု အမိန့်တော်ရှိရာတွင်၊ ပိဋကတ္တယဆေက နာနာနယကောဝိဒ၊ စွယ်လှမုန်သောက်၊ မာတင်မြောက်သော၊ ရှေး-တောင်ကျောင်းဆရာတော်၊ ဂြင်းတော ဆရာတော်၊ ကျောက်ဖြူ-ယပ်လှဲဆရာတော်၊ ရောက်ချောင်းဆရာတော်တို့ကို၊ ညွှန်ပြလျှောက်ထားလေရာ ယခု ဤ“ရခိုင်ရာဇဝင်သစ်ကျမ်း”ကို ရေးသားပြုစုတော်မူသော ရမ်းပြည့်မြို့၊ တောင်ကျောင်း ဆရာတော် “အရှင်စန္ဒမာလာလင်္ကာရ”မထေရ်ကို၊ ရမ္မဝတီဂိုဏ်းထောက်။ ရှေ့တောင်ကျောင်း ဆရာတော်ဘုရားကြီးကို ဂိုဏ်းအုပ်အဖြစ်နှင့် ခန့်ထားတံဆိပ်စာချွန် ပေးသနားတော်မူရာ၊ ၎င်းတံဆိပ်တော်များကိုယူဆောင်၍၊ မိမိဇာတိဒေသ၊ တိုင်းဌာနသို့၊ မြန်းကြွပြီးကာ၊ ဘုရားမြတ်စွာ၊ စိန္တေယျာ၏၊ သာသနာနေရောင်၊ ဝေဝေပြောင်လျက်၊ ရွှေတောင်ကြီးအလား၊ မြင့်မားတာရှည်၊ တည်စေသမှု၊ အာရုံပြုလျက်၊ ကြည့်ရှုသုစ်သင်၊ ဝေဟင်အဇ္ဈာ၊ ထက်ဝဋ္ဌာဝယ်၊ စကြာပုဏ္ဏမိန်၊ သူရိန္ဒ-ယုဂလ၊ အစုံပသကဲ့သို့၊ ထွန်းပခိုင်ဖြိုး၊ ကြီးပွားတော်မူရန်၊ အဖန်ဖန် အထပ်ထပ်၊ မလပ်ဥဿာဟ၊ ဝီရိယဖြင့်၊ ပရက္ကမအကျိုး၊ သယ်ပိုးရွက်ဆောင်တော်မူကာ၊ ကျမ်းဂန်ပေါင်းအဖြာဖြာတို့ကို၊ မကွာနေ့ည၊ ပို့ချ၍နေတော်မူသည့် အတွင်း၌ပင်။

(၁) ၁၂၅၈-ခုနှစ်၊ ဥတ္တဘောဓနေသံပေါက် ကျမ်းကို ရေးသားတော်မူလေသည်။

(၂) ၁၂၆၁-ခုနှစ်တွင် ပဋိစ္စသမုပ္ပါဒ ပကာသနီ ကျမ်းကို ရေးသားတော်မူလေသည်။

(၃) ၁၂၆၂-ခုနှစ်တွင် မင်္ဂလာမြတ်ခေါင်ချီ-သော၊ “နာရဒဇာတ်တော်ကြီး” လင်္ကာကို ရေးသားတော်မူလေသည်။

(၄) ၁၂၇၀-ပြည့်နှစ်တွင် “ကပ္ပဝိနိစ္ဆယကျမ်း”ကို ရေးသားတော်မူလေသည်။

(၅) ၁၂၇၃-ခုနှစ်တွင် ဝေရမဏိသီလ ဝိနိစ္ဆယ ကျမ်းနှင့် ဝိသာခုပေါသထသုတ် နိဿယသစ်ကို ရေးသားတော်မူလေသည်။

(၆) ၁၂၇၄-ခုနှစ်တွင် သမ္မာဝါဒ ဒီပကကျမ်းနှင့် သဏ္ဌာယပဟာနကျမ်းကို ရေးသားတော်မူလေသည်။

(၇) ၁၂၇၅-ခုနှစ်တွင် ဓာဒကာဒိ ဝိနိစ္ဆယကျမ်းကို ရေးသားတော်မူလေသည်။

(၈) ၁၂၈၂-ခုနှစ်တွင် ဓမ္မုဒ္ဒီပ-ဣန္ဒြိယနယ်ပုံ ကျမ်းကို ရေးသားတော်မူလေသည်။

(၉) ၁၂၉၂-ခုနှစ်တွင် ရာဇတ္တမသင်္ခေပကျမ်းကို စီရင် ရေးသားတော်မူလေသည်။

ဤသို့ပြဆိုအပ်ခဲ့ပြီးသော ဂန္ထဝိသောဓက၊ ဂန္ထကာရဖြစ်တော်မူသော ဆရာတော်ဘုရားကြီးသည်

ရှေးရှေးသော ကာလ၌၊ ရေးသား၍ထားခဲ့သော ရခိုင်ရာဇဝင် အရပ်ရပ်တို့သည်၊ တခုနှင့်တခုမတူ၊ အယူကွဲပြား၊ ရှေ့စကား နောက်စကား၊ မညီညွတ်များ၍၊ နောက်သား နောင်လာ လူတကာတို့ သေချာဂနုမှတ်သားရန် အဝဝတို့ကို၊ လွယ်လင့်တကူနှင့် မှတ်သားနာယူစေခြင်းငှာ ကျောက်ဖြူမြို့ လယ်ဝန်ထောက်မင်း "ဦးစံကျော်ရွှေ"သည်၊ ရခိုင်ရာဇဝင်သစ်ကျမ်းကို ရေးသားပါမည့်အကြောင်းနှင့်၊ ကြိမ်ကြိမ် ထပ်ထပ်ရှိသေလေးမြတ်စွာ လျှောက်ထားတောင်းပန်အပ်သည်ကို အကြောင်းပြု၍ ပါဠိတော်-အဋ္ဌကထာ၊ ဋီကာ-ပုံပြင်၊ ရာဇဝင်အရပ်ရပ်တို့ဖြင့် နှီးစပ်ဓေ့ငှ၊ သေချာစွာရှုလျက်၊ ဂရုစိုက်ကာ၊ လေးဖြာသော မဟာပဒေသတို့ဖြင့် ညှိနှိုင်းကာ စံတင်၍ ဩကာသလောက၊ ကမ္ဘာကြီး၏ ဖြစ်ပုံ ပျက်ပုံ၊ ခန်းမျိုးစုံတို့နှင့်တကွ အန္တရကပ်ဦး၌ ဖြစ်သော၊ မဟာသမ္မတမင်းမှစ၍ (၃၃၄၅၆၉)သုံးသိန်း, သုံးသောင်း, လေးထောင်, ငါးရာ, ခြောက်ကျိပ်, ကိုးယောက်မကသောမင်းတို့ကို အရင်းအဦးပြုလျက်၊ မဇ္ဈိမဒေသမင်းဆက်၊ ဒွါရာဝတီ၊ ဓညဝတီ၊ ဝေသာလီ၊ ကျောက်ပန်းတောင်း၊ စမ္ပဝက်၊ ပရိန်၊ လောင်းကြက်၊ မြောက်ဦး စသောမြို့တို့၌ နှစ်လို့ရွှင်လန်း၊ ထီးနန်းစိုးစံတော်မူကြသော၊ ဝါသုဒေဝ စသောမင်းတို့၏ အစဉ်အဆက်ကို ပြဆိုရေးသားရာဖြစ်သော၊ ဤ "ရခိုင်ရာဇဝင်သစ်ကျမ်း"ကြီးကို စာပုံနှိပ်လုပ်ငန်း၌ ကမ်းတဖက်ရောက်၊ တတ်မြောက်ကျွမ်းကျင်လှသည်ဟု၊ အခိလပြည်သူ၊ ရှင်,လူအများတို့၏ ချီးမွမ်းခြင်း အထပ်ထပ်ကိုခံရသော၊ မန္တလေးမြို့၊ ဟံသာဝတီပိဋကတ် စာပုံနှိပ်တိုက်ကြီး၌၊ သိုက်မြိုက်သေချာ၊ ငွေလွှာဘော်သွင်၊ စက္ကူပြင်ဝယ်၊ စက်တင်ပုံနှိပ်လုပ်ဆောင်လတ်ရကား၊ ဗဟုသုတအရာကို၊ အာသာတောင့်တ၊ လိုလားကြကုန် သော ရဟန်းပညာရှိ-လူပညာရှိ စသော၊ အမျိုးကောင်းသား အမျိုးကောင်းသမီးတို့သည်၊ ကျောက်ထီးတန္တု အလေးပြု၍ ကြည့်ရှုမှတ်သားကြစေကုန်သတည်း။



# မွေကန္တာ မွေစေတီတည် ပူဇော်ကြောင်း နိဒါန်းစကား

ဗြိတိသျှဘားမား ရုပ်ရှင်ကုမ္ပဏီသည် ရန်ကုန်မြို့ ကင်းဘဲလ်လမ်းရှိ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက် အဆောက်အအုံ ဂိုဒေါင်ကြီးများကို မြေနေရာများနှင့်တကွ ရုပ်ရှင်စတူဒီယိုရုံအလို့ငှာ ဝယ်ယူရရှိထားရာတွင် ထိုဂိုဒေါင်များအတွင်း၌ တစုံတရာအသုံးမပြုဘဲ သိမ်းထုပ်သိုမှီးထားသော ဟံသာဝတီပုံနှိပ်တိုက်ထုတ် မင်ကျွ မင်နကောင်း၊ မူသန့်၊ စက္ကူကောင်း ပိဋကတ် ပါဠိတော် အဋ္ဌကထာ၊ နိဿယ၊ ဂန္ထန္တရဗဟုသုတ ကျမ်းစာအုပ်ပေါင်း များစွာတို့ကို တွေ့ရှိရလေသည်။

ဤမျှမြင့်မြတ်၍ အဖိုးအနဂ္ဃထိုက်တန်သော ပိဋကတ်တော်နှင့် ဗဟုသုတကျမ်းစာများကို စုပုံထားမည့်အစား ပရိယတ္တိသာသနာ စည်ပင်ပြန့်ပြောစိမ့်သောငှာ သင်အံလေ့ကျက်ကြည့်ရှု သုံးသပ်နိုင်ကြရန် ဖြန့်ဝေလှူဒါန်းရသော် ကောင်းလေစွဟု သတိစေတနာ သဒ္ဓါဖြစ်ပေါ်လာသဖြင့် ရှိသမျှပိဋကတ်တော်များနှင့် ဂန္ထန္တရကျမ်း စာအုပ်များကို အပြီးအပိုင် ဝယ်ယူလိုက်လေသည်။

သို့ပါသော်လည်း များလှစွာသော ကိုးသောင်းကျော် အရေအတွက်ရှိ ပိဋကတ်တော်များနှင့် နှစ်သိန်းကျော် ဂန္ထန္တရစာအုပ်များမှာ တိဖြတ်ဖုံးအုပ်ချုပ်လုပ်ပြီးများ မဟုတ်ရကား ကုမ္ပဏီတဦးတည်းမှာ စေတနာသဒ္ဓါတရားရှိပါငြားလည်း ခွန်အားမမျှ များမြောင်လွန်းလှပါသောကြောင့် ပိဋကတ်တော်ကျမ်းစာအုပ်ကြီး စာအုပ်တအုပ်လျှင် ပြုပြင်ဖုံးအုပ်ချုပ်လုပ်ခအတွက် ကုန်ကျဖွယ်သင့်ငွေ ၁ိ-ဝဲ ကျမျှကို စာအုပ်ဖုံးကျောဘက်တွင် ကမ္ပည်းတံဆိပ်ထိုးနှိပ်ပါရှိသော ဓမ္မဒါနကုသိုလ်ရှင် အသီးသီးတို့က တွဲဖက်ကာကူညီပါဝင်၍ လှူဒါန်းပါသဖြင့် မွေကန္တာ မွေစေတီပူဇော်ခြင်း အထမြောက်သည်ဖြစ်ပါကြောင်း။

ဤကုသိုလ်အလှူကို ဝမ်းမြောက်ဝမ်းသာ သာဓု အနုမောဒနာ ပြုကြပါစေသော်။

အထူးအားဖြင့် အပြီးတိုင်မရောက်နိုင်သော အကျွန်ုပ်တို့ ဓမ္မဒါနကုသိုလ် ဓမ္မစေတီတော်ကြီးကို ကူညီသောအားဖြင့် ကမ္ပည်းထိုးနှိပ်ပါရှိသော ကုသိုလ်ရှင်များ

ရရှိင်သားကြီးစာပေ

သည် ထီးတော်ကြီးတင်လှူ ပူဇော်သည့်အလား ဖြစ်ပါသောကြောင့် ကုသိုလ်ဆက်၊ ကုသိုလ်ဖက်ကလျာဏမိတ်ကောင်းမိတ်မြတ်အဖြစ်ဖြင့် မှတ်သားကာ ဤကုသိုလ်ရှင်များအား ကျေးဇူးအထူးတင်လှပါကြောင်း။

ထိုမှတဖန် ဒါနကထာ မင်္ဂလာစကားကို တဆင့်မှတဆင့် မှာကြားကမ်းလှမ်းရန် ရှိသေးသည့်ပြင် ဤရွှေ ဤမျှလောက်သော ကုသိုလ်ရှင်များနှင့်လည်း ပိဋကတ်တော်ကျမ်းစာအုပ်ကြီးများမှာ ကိုးသောင်းကျော် အရေအတွက်ရှိ၍ များလွန်းလှသဖြင့် ရည်မှန်းသလောက် ဖြန့်ဝေလှူဒါန်းနိုင်ရန် ပြည့်စုံနိုင်မည်မဟုတ်ပါသဖြင့် ဤဒါနကထာနှိုးဆော်စာကိုတွေ့ရှိသူ ရဟန်းရှင်လူတို့သည် ကိုယ်တိုင်လှူဒါန်းပါဝင်ခြင်းဖြင့်၎င်း၊ မိတ်ကောင်းမိတ်မြတ်များအား တိုက်တွန်းစေ့ဆော်ခြင်းအားဖြင့်၎င်း၊ ကြံကြိုက်ခဲလှစွာ အနည်းငယ်မျှသော ငွေဖြင့် ကြီးကျယ်လှသော ပိဋကတ်တော် မဟာဒါနကြီးကို အခွင့်သင့်ခိုက် ပါဝင်၍ ကူညီလှူဒါန်းစေလိုပါကြောင်း တောင်းပန်အပ်ပါကြောင်း။

စာသင်စာချ သောတုဇနေ၊ ဂဏဝါစက၊ သီလဝန္တကလျာဏ၊ ပညာဝန်၊ ဂုဏဝန်၊ ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်အပေါင်းတို့သည် ဝမ်းသာအားရ နှေးညမစဲချပို့၊ သင်အံ့၊ မွေ့ကွန္တာသုံးသပ်ပွဲ ပရိယတ္တိသာသနာတော်ကြီး အခြေစိုက်တိုင်း ထီးတော်ရှင် ကမ္ဘည်းပါ မွော်နုဂ္ဂဟဒါန ကုသိုလ်ရှင်တို့မှာ သာယာလှစွာသော ဆည်းလည်းသံ ငြိမ်းအေးဖြင့် သာသနာတော်ကြီး ပြုစုရသော စေတနာ သဒ္ဓါတရားကို အထပ်ထပ်ပွားနိုင်ကြပါစေသောဝ်။

ဗြိတိသျှဘားမား ရှပ်ရှင်ကုမ္ပဏီလီမိတက် ရန်ကုန်မြို့။



# ရခိုင်ရာဇဝင်သစ်ကျမ်း

## ပထမတွဲ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

### ၁။ ကျမ်းဦးပဏာမ၊ ဂန္ထာရမ္ဘ၊ တဆဲ့သုံးဂါထာ ပါဠိအနက်

(၁) ရာဇာဓိရာဇ သမ္ဗုဒ္ဓံ၊ ဓမ္မံ ရာ ဇိန္န-ပူဇိတံ။
ရာဇာဓမ္မေန သမ္ဗန္ဓံ၊ နတွာ သံဃံ
ရ ဇောရသံ။ (ပဏ္ဍာဝတ္တ)

(၁)အဟံ၊ စန္ဒမာလာ၊ သညာမည်ဆို၊ ငါပုဂ္ဂိုလ်သည်။ ရာဇာဓိရာဇ-ရာဇာဓိရာဇံ၊ မင်းထက်မင်းဖြစ်တော်မူသော။ သမ္ဗုဒ္ဓံ၊ မြတ်စွာဘုရားကိုငင်း။ ရာဇိန္န ပူဇိတံ၊ မင်းထက်မင်းဖြစ်တော်မူသော မြတ်စွာဘုရားသည်၊ ပွားများပူဇော်တော်မူအပ်သော။ ဓမ္မံ၊ ဆယ်ပါးသော တရားတော်မြတ်ကိုငင်း။ ရာဇဓမ္မေန၊ မင်းထက်မင်းဖြစ်တော်မူသော မြတ်စွာဘုရားသည်၊ ဟောကြားပညတ်တော်မူအပ်သော ကျင့်ဝတ်တရားတော်နှင့်။ သမ္ဗန္ဓံ၊ ပြည့်စုံတော်မူသော။ ရ ဇောရသံ-ရာဇဩရသံ၊ မင်းထက်မင်းဖြစ်တော်မူသော မြတ်စွာဘုရား၏၊ ရင်ခွင်တော်နှစ်၊ သားတော်စစ်လည်း ဖြစ်တော်မူထသော။ သံဃံ၊ ရှစ်ယောက်သော ပရမတ္ထ အရိယာ သံဃာတော်မြတ်ကိုငင်း။ နတွာ-နမာမိ၊ ရိုသေမြတ်နိုးရှိခိုးပါ၏။ နတွာ-ရိုသေမြတ်နိုး ရှိခိုးပြီး၍။

('စ'သဒ္ဒါကား၊ ပါဌသေသ)

(၂) ဇောတနာမံ မဟာထေရံ၊
သီလာဒိဂုဏသံယုတံ။
ဝန္ဒိတွာ သိရသာ ဓီရံ၊ ဂရုံ ဂါရဝဘာဇနံ။
(ပဏ္ဍာဝတ္တ)

(၂)ဇောတနာမံ၊ 'ဇောတ'ဟူသော အမည်တော်လည်း ရှိတော်မူထသော။ မဟာထေရံ၊ ဝါတော် ငါးဆဲ့ခုနစ် ဝါရပြီး၊ မဟာထေရ်ကြီးလည်း ဖြစ်တော်မူထသော။ သီလာဒိဂုဏသံယုတံ၊ သီလအာစာရ အစရှိသော ဂုဏ်ကျေးဇူးတော်အပေါင်းနှင့်လည်း ယှဉ်တော်မူထသော။ ဂါရဝဘာဇနံ၊ အရိုအသေပြုခြင်း၏ တည်ရာလည်း ဖြစ်တော်မူထသော။ မေ၊ ငါ၏။ ဂရုံ၊ ဓမ္မာစရိယ၊

ရခိုင်သားကြီးစာပေ

ငယ်ကဆရာဖြစ်တော်မူသော 'ခမောင်းဆည်' ဆရာတော်ကိုလည်း။ သိရသာ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါဖြင့်။ ဝန္ဒိတွာ ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိသေမြတ်နိုး ရှိခိုးပြီး၍။

('စ'သဒ္ဒါကား၊ ပါဠသေသ)

(၃) သာရမေဓံ မဟာဉာဏံ၊ ပရိယတ္တိ ဝိသာရဒံ၊ဂမ္ဘီရံ ဟာသဝစနံ၊ မမ ပဋ္ဌံ နတွာ အဟံ။ ။

(တတိယ'န'ကာရဝိပုလာ)

(၃)သာရမေဓံ၊ 'သာရမေဓာ'ဟူသော အမည်တော်လည်း ရှိတော်မူထသော။ မဟာဉာဏံ၊ ကြီးမြတ်သော ဉာဏ်တော်လည်းရှိတော်မူထသော။ ပရိယတ္တိဝိသာရဒံ၊ ပရိယတ်တို့၌၊ သိတတ်လိမ္မာ၊ ရဲရင့်စွာထသော။ ဂမ္ဘီရံ၊ နက်နဲသော ဉာဏ်အမြင်လည်း ရှိတော်မူထသော။ ဟာသဝစနံ၊ ရွှင်လန်းဆန်းကြယ်သော စကားကိုလည်း ဆိုတော်မူတတ်ထသော။ မမ၊ ငါ၏။ ဉပဇ္ဈံ၊ ဉပဇ္ဈာယ်ဆရာဖြစ်တော်မူသော'တောင်ကျောင်း' ဆရာတော်ကြီးကိုလည်း။ အဟံ၊ အကျွန်ုပ်သည်။ နတွာ- နမာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ နတွာ၊ ရှိသေမြတ်နိုး ရှိခိုးပြီး၍။

('စ'သဒ္ဒါကား၊ ပါဠသေသ)

(၄) စံကျော်ရွှေတိ အဝှာယေန၊ ကျောက်ဖြူနဂရဝါသိနာ။ လယ်ဝန်တိ လဒ္ဓလဒ္ဓေန၊ ဉပါသကေန ယာစိတော။ ။

(ပတျာဝတ္တ)

(၄) ကျောက်ဖြူ နဂရဝါသိနာ၊ ကျောက်ဖြူမြို့၌၊ လူတို့ကျင့်အပ်၊ ကျင့်ရာဝတ်ကို၊ မချွတ်မယွင်း၊ ဖြည့်တင်းနေထိုင်လေ့ရှိထသော။ စံကျော်ရွှေတိအဝှာယေန၊ ငယ်ရွယ်စဉ်က၊ မိဘနှစ်ခြိုက်၊ ခေါ်သမိုက်၍၊ လူ့ဒွတွင်ပေ၊ 'စံကျော်ရွှေ'ဟူသော အမည်လည်း ရှိထသော။ လယ်ဝန်တိလဒ္ဓ လဒ္ဓေန၊ နိုင်ငံပိုင်ရှင်း၊ စိုးရမင်းတို့၊ အပ်နှင်းချီးမြှောက်၊ 'လယ်ဝန်ထောက်'ဟူ၍၊ နောက်၌ရအပ်သော ဘွဲ့ထူးတံဆိပ်လည်း ရှိပေထသော။ ဉပါသကေန၊ ရတနာသုံးရပ်၊ ဂုဏ်သကတ်ကို၊ ကြည်ညွတ်လှစွာ ရှိသေရာဖြင့်၊ စိတ်မှာယူစွဲ၊ မှိဝဲဆည်းကပ်လေ့ရှိသော ဉပါသကာသည်။ ယာစိတော၊ ရှိသေလေးမြတ်၊ တောင်းပန်အပ်သည်ဖြစ်၍။ ဝါ၊ ရာဇဝင်နှင့်၊ ပုံပြင်ဝတ္ထု၊ ကြည့်ရှုစေရန်၊ ရှာကြံပေးအပ်၊ ထပ်ထပ်လာရောက်၊ ကြိမ်ကြိမ်လျှောက်အပ်သည်ဖြစ်၍။ ဝါ၊ အကြိမ်ကြိမ်လျှောက်ထားတောင်းပန်အပ်သောကြောင့်။

(၅) ရစယိဿံ သောခေတ္တာန၊ ရက္ခပုရ ရာဇဝံသံ။ သုသမ္ဗန္ဓပဒက္ခရံ၊ ဟိတာယ သုတသေဝိနံ။ (ဂါထာ သာမညာ)

(၅)သုတသေဝိနံ၊ အကြားအမြင်များခြင်းကို ရှာမှီးလေ့ရှိကုန်သော၊ လယ်ဝန်ထောက် အစရှိသော သူတို့၏။ ဟိတာယ၊ အမြင်အကြား၊ တိုးပွားလိမ္မာစေခြင်း အကျိုးငှာ။ သုသမ္ဗန္ဓပဒက္ခရံ၊ ကောင်းစွာသုခ်သင်ပျင်ဆင်အပ်သော၊ ပုဒ်ပါဌ်အက္ခရာ၊ ဝစနာလင်္ကာရ၊ ပြည့်ဝစုံလင်ခြင်း ရှိထသော။ ရက္ခပုရရာဇဝံသံ၊ မဟာဝိဟိကတိုင်း၊ ရခိုင်ပြည်၌ဖြစ်ကုန်သော မင်းတို့၏အစဉ်အဆက်ကို ဆိုရာဆိုကြောင်းဖြစ်သော 'ရခိုင်ရာဇဝင်သစ်ကျမ်း'ကို။ သော ခေတ္တာန၊ သုခ်သင်ထောက်ရှု၊ သင့်အောင်ပြု၍။ ရစယိဿံ-ရစယိဿာမိ၊ ရေးသားပြုပျင်၊ စီရင်အားထုတ်လိုက်ပေအံ့။

(၆) ပေါရာဏောဟိ ကတံ သတ္တံ၊ ရာဇဝံသ အပါကဋံ။
အတ္ထိကမ္ပိ အသမ္ဗုဒ္ဓံ၊ ဇာနိတုဉ္စ သုဒုက္ကရံ (ပတ္ထာဝတ္တ)

(၆) ပေါရာဏောဟိ၊ အမတ်ကြီး 'ဦးဒိုးဝေ' စသော ရှေးဆရာတို့သည်။ ကတံ၊ ရေးသားပြုဖွဲ့၊ စီရင်အပ်သော။ ရာဇဝံသံ၊ မင်းစဉ် မင်းဆက်၊ ဖြစ်အပျက်ကို၊ ရေးမြွက်ပြဆိုရာ၊ ပြဆိုကြောင်းဖြစ်သော။ သတ္တံ၊ မူလ ရာဇဝင်ကျမ်းသည်။ အပါကဋံ၊ အများအပြားထင်ရှား မရှိလေ။ အတ္ထိကမ္ပိ၊ အနည်းငယ်မျှရှိကြပေသော ရာဇဝင် ကျမ်းသည်လည်း။ အသမ္ဗုဒ္ဓံ၊ အမည်,အိမ်နိမ့်၊ စည်းစိမ်, နန်းဖြစ်၊ သက္ကရာဇ်အကြောင်း၊ နှစ်ပေါင်းမိဘုရား၊ စီစဉ် ထားလျက်၊ ရေးသားခြင်းမပြည့်မစုံလေ။ ဇာနိတုဉ္စ၊ နေရာ တကျ၊ သိရခြင်းငှာလည်း။ သုဒုက္ကရံ၊ အလွန်ခဲယဉ်း၏။

(၇) ပစ္ဆာ ကတရာဇဝံသံ၊ အညမညံ ဝိရုဒ္ဓကံ။
ပုနရုတ္တိသမာကူလံ၊ ပုဗ္ဗာပရမ္ပိ နာသမံ။ (ပဌမ'ရ'ကာရဝိပုလာ)

(၇) ပစ္ဆာ၊ မူလရာဇဝင်ကြီးနောက်၌။ ကတရာဇ ဝံသံ၊ ရေးသားပြုပြင်စီရင်အပ်သော၊ ဓညဝတီအရေးတော် ပုံ၊ ရာဇဝင်အင်းစောက်၊ ဆရာ'မေညိ'ရာဇဝင်၊ ရာဇဝင် လင်္ကာ၊ ရာဇဝင်မှတ်စု၊ ရာဇဝင်သစ်ကျမ်းများသည်။ အညမညံ၊ အချင်းချင်း။ ဝိရုဒ္ဓကံ၊ အိမ်နိမ့်-နန်းရ၊ စည်းစိမ် စသည်၊ မမျှမညီ၊ သွေဖည်တိမ်းပါး၊ ခြားနားဆန့်ကျင်ခြင်း ရှိ၏။ ပုနရုတ္တိသမာကူလံ၊ ရှေးဆိုပြီးလျက်၊ နောက်ဆက် ပြန်ဟပ်၊ အထပ်ထပ်ဆိုခြင်းတို့ဖြင့် နှောင့်ရှက်ရောပြွမ်း ခြင်းရှိ၏။ ပုဗ္ဗာ ပရမ္ပိ၊ ရှေး၌ဆိုထား၊ ကိုယ်စကားနှင့်၊ နောက်ဖျားအမှာ၊ စကားလာသည်လည်း။ နာသမံ၊ အချို့သောအရာ၌ များစွာမညီညွတ်လေ။ ။

(၈) ပဒက္ခရဝါကျဝါစံ၊ သုသောဓေတွာ အလင်္ကိတံ။
တသ္မာ ဟံ အညမညံ၊ သံသန္ဒေတွာဝ- သာဓုကံ။ ။ (ဥဘယ'ရ'ကာရ ဝိပုလာ)

(၈) ပဒက္ခရ ဝါကျဝါစံ၊ ပုဒ်ပါဌ် အက္ခရာ၊ ဆိုရာဝါကျ၊ အထ၊ အသွား၊ စကားအစဉ်ကို။ သုသောဓေတွာ၊ အသတ်, ကာရန်, လိင်, အန်, ဝိဘတ်၊ ဓာတ်,ပုဒ်,အရ၊ သဘာဝကို၊ ထောက်ဆပြုပျင်၊ သင့်အောင်ဆင်၍။ ယသ္မာ၊ အကြင်ကြောင့်။ အလင်္ကိတံ၊ မရေးသားအပ်လေ။ တသ္မာ၊ ထိုသို့ ပြုပျင်၊ သင့်အောင် ဆင်၍၊ စီရင်ခြင်းမပြုလေသောကြောင့်။ အဟံ၊ 'စန္ဒမာလာ'သညာမည်ဆို၊ ငါပုဂ္ဂိုလ်သည်။ အညမညံ၊ ရှေးနောက်စီရင်၊ ရာဇဝင်အချင်းချင်းကို၊ သာဓုကံ၊ ကောင်းစွာ။ သံသန္ဒေတွာဝ၊ နှီးနှောထောက်ရှု၊ ကြိမ်ကြိမ် ပြု၍သာလျှင်။

(၉) အဉ္ဇေဟိ ယုတ္တိအာဂမံ၊ ယောဓေတွာ ယောဇိတဗ္ဗကံ။
နဝရာဇဝံသံနာမ၊ ကရိဿာမိ ယထာဗလံ။
(တတိယ'မ'ကာရဝိပုလာ)

(၉) အဉ္ဇေဟိ၊ ငါတို့ရခိုင်ရာဇဝင်မှ တပါး ကုန်သော၊ မြန်မာတို့၏ မှန်နန်းရာဇဝင်၊ ပုံပြင်, ပဝေဏီ၊ လောကီ, လောကုတ္တရာကျမ်းများစွာတို့မှ။ ယုတ္တိအာဂမံ၊ အသင့် ယုတ္တိအာဂုမ်ဟုဆိုအပ်သော။ ယောဇိတဗ္ဗကံ၊ ပေါင်းယှဉ်အပ်သောအရာကို။ ယောဓေတွာ၊ ပေါင်းယှဉ် ထောက်ရှု၊ သင့်အောင်ပြု၍၊ နဝရာဇဝံသံနာမ၊ ''ရခိုင်ရာဇဝင်သစ်''အမည်ရှိသောကျမ်းကို။ ယထာဗလံ၊ မိမိဉာဏ်သွား၊ စွမ်းအားရှိသည်နှင့်လျော်စွာ။ ကရိဿာမိ၊ ရေးသားပြုပြင် စီရင်လိုက်ပေအံ့။ ။

(၁၀) ရာဇဝံသကံ ဟိ နာမ၊ ပမာထံ
ရာဇကမ္ဗုကေ။
ရဋ္ဌကမ္ဗေစ သဗ္ဗမှိ၊ သာသနမှိ
တုလာတုလံ။ ။
(ပထမ 'ရ' ကာရဝိပုလာ)

(၁၀) ဟိ-ယသ္မာ၊ အကြင်ကြောင့်။ ရာဇဝံသကံနာမ၊ ရာဇဝင်အမည်ရှိသောကျမ်းသည်ကား။ ရာဇကမ္ဗုကေစ၊ မင်းတို့၏ အမှုကိစ္စ၌၎င်း။ ရဋ္ဌကမ္ဗေစ၊ တိုင်းပြည်တို့၏အမှုကိစ္စ၌၎င်း။ သဗ္ဗမှိစ၊ အလုံးစုံသော။ သာသနမှိစ၊ သာသနာတော် အရေးကိစ္စ၌၎င်း။ ပမာထံ၊ နှိုင်းယှဉ်ရာ နှိုင်းယှဉ်ကြောင်း အတိုင်းအရှည်ပမာဏ ဖြစ်၏။ တုလာတုလံ၊ အလေးတင်အပ်သော ချိန်ခွင်ကြီး သဖွယ်လည်း ဖြစ်ပေ၏။

(၁၁) ကာမဋ္ဌာ ယံ တထာဘူတော၊ ရာဇဂ္ဃထာ
ဒိနိသိတော။
ကမ္ဗသကတာ ဉာဏာဋ္ဌ၊ သုတမ္ဗယာဒိတံပန
(ပတျာဝတ္တ)

(၁၁) တထာဘူတော၊ ထိုသို့မင်းတို့၏အမှုကိစ္စ၊ တိုင်းပြည်တို့၏အမှုကိစ္စ၊ အလုံးစုံသော သာသနာတော် အရေးကိစ္စတို့၌၊ ချိန်ခွင်ကြီးသဖွယ် ဖြစ်ပေထသော။ အယံဂန္ထော၊ ဤရခိုင်ရာဇဝင်သစ်ကျမ်းသည်။ ကာမဋ္ဌရာဇက္ကထာဒိ နိသိတော၊ မင်းစကား၊ အမတ်စကား၊ သူခိုးသူပုန် စသော စကားတို့၌ အကယ်၍ကား မှီ၏ရှင့်။ ပနတထာပိ၊ ထိုသို့ပင် မင်းစကား၊ အမတ်စကား စသည်တို့၌ မှီငြားသော်လည်း။ တံ၊ ထိုရခိုင်ရာဇ ဝင်သစ်ကျမ်းစကားကို။ သုဏန္တာနံ၊ နားထောင်ကြားနာရကုန်သော သူတို့အား။ ကမ္ဗသကတဉာဏဋ္ဌ၊ ကံသာလျှင် မိမိတို့၏ ဥစ္စာရှိသည်ဟုသိရသော၊ ကမ္ဗသကတဉာဏ်သည်၎င်း။ သုတမ္ဗယာဒီကဋ္ဌ၊ နားထောင်ကြားနာရသဖြင့် သုတမယ၊ စိန္တာမယ အစရှိသော ဉာဏ်သည်၎င်း။ ဘဝိဿတိ၊ ဖြစ်ပေလတ္တံ့။ ။

(၁၂) ဘဝိဿတိ တံသုဏာတံ၊
ပီတိပါမောဇ္ဇဝဓနံ။
ကမ္ဗဋ္ဌာနဋ္ဌိ၊ သောနာမ၊ ခယံ ဂတော
သုပဿတံ။ ။
(ပဥ္စမ 'တ' ကာရဝိပုလာ)

(၁၂) တံ၊ ထို ရခိုင်ရာဇဝင်သစ် ကျမ်းစကားကို။ သုဏာတံ-သုဏန္တာနံ၊ နားထောင်ကြားနာရကုန်သော သူတို့အား။ ပီတိပါမောဇ္ဇဝဓနဋ္ဌ၊ နှစ်သက်ခြင်း၊ ဝမ်းမြောက်ခြင်း၊ ပီတိပါမောဇ္ဇ ပွားများခြင်းသည်လည်း။ ဘဝိဿတိ၊ ဖြစ်လေလတ္တံ့။ သောပိနာမ၊ ထိုသို့ မဟာသမ္မတ၊ ဝါသုဒေဝစသော မင်းတို့ဖြစ်ပေလျက် လည်း။ ခယံ၊ ပျက်စီးကုန်ဆုံးခြင်းသို့။ ဂတော၊ ရောက်ရ တုံသေး၏ဟူ၍ သုပဿတံ-သုပဿန္တာနံ၊ ကောင်းစွာ ပညာဖြင့် ရှုဆင်ခြင်လေ့ ရှိကုန်သောသူတို့အား။ ကမ္ဗဋ္ဌာနဋ္ဌ၊ ခယဝယ ကမ္ဗဋ္ဌာန်းသည်လည်း။ ဘဝိဿတိ၊ ဖြစ်ပေလတ္တံ့။

(၁၃) တသ္မာ ဇေတံရာဇဝံသံ၊ သုသောဓိတံ
ယထာဘုတံ။
သမာဟိတာ နိသာမေထ၊ ဒုလ္လဘာ ဟိ
အယံ ကထာတိ။
(ပဥ္စမ 'ရ' ကာရဝိပုလာ)

(၁၃) တသ္မာ၊ ထိုသို့ ကမ္ဗသကတဉာဏ်၊ သုတမယ၊ စိန္တာမယ အစရှိသော ဉာဏ်၊ ပီတိပါမောဇ္ဇ ပွားများခြင်း၊ ခယ၊ ဝယ၊ ကမ္ဗဋ္ဌာန်းစီးဖြန်းရသည်မည် ခြင်း၏ အကြောင်းဖြစ်သောကြောင့်။ ယထာဘူတံ၊ ဟုတ်မှန်သည်အတိုင်း။ သုသောဓိတံ၊ ကောင်းစွာ သုတ်သင်စီရင် အားထုတ်လတ္တံ့သော။ ဇေတံရာဇဝံသံ၊ ဤ "ရခိုင်ရာဇဝင်သစ်" အမည်ရှိသောကျမ်းကို။ သမာဟိတာ၊ တည်ကြည်ငြိမ်သက်သောစိတ် ရှိကုန်သည် ဖြစ်၍။ နိသာမေထ၊ သေချာစဉ်းစား နှလုံးထားလျက် မှတ်သားနာယူကြကုန်လော၊ ဝါ၊ မှတ်သားနာယူစေကုန်

သတည်း၊ ဟိယုတ္တံ၊ ထိုသို့တည်ကြည် ငြိမ်သက်သော စိတ်ရှိကုန်သည်ဖြစ်၍၊ သေချာစဉ်းစား နှလုံးထားလျက်၊ မှတ်သားနာယူကြကုန်လော၊ နာယူစေကုန်သတည်းဟု ငါဆိုအပ်သော စကားသည် သင့်မြတ်ပေစွ။ အယံကထာ၊ ဤသို့စေ့ငုကြိမ်ကြိမ်ရှု၍၊ ရေးပြုစီရင်အပ်သော ရခိုင်ရာဇဝင်သစ်စကားနှစ်ကို၊ ဒုလ္လဘာ၊ အလွန်တရာ ရခဲစွာလိမ့်သတည်း။ ဣတိ၊ ဤသည်လျှင် ရတနတ္တယ၊ ပဏာမစသည်ကိုရေးပြစီရင်သော အခန်းပြီး၏။

ဤသို့ပြဆိုအပ်သော ၁၃-ဂါထာတို့တွင် ပထမ ဂါထာဖြင့် ရတနာသုံးပါးတို့ကို ညွတ်တွားရိုကျိုး ရှိခိုးပူဇော်သောအဖြစ်ကို ပြဆိုအပ်ပေသည်။ ဒုတိယ၊ တတိယ နှစ်ဂါထာတို့ဖြင့် ဆရာနှစ်ပါးတို့ကို ညွတ်တွား ရိုကျိုး ရှိခိုးအပ်သော အာစရိယပဏာမကို ပြဆိုအပ်ပေ သည်။ စတုတ္ထဂါထာဖြင့်။ အဘိယာစက၊ တောင်းပန်သူ ဒါယကာကိုပြဆိုအပ်ပေသည်။ ပဉ္စမဂါထာအစ တေရသမအဆုံးရှိသောဂါထာတို့ဖြင့် အမတ်ကြီး "ဦးဒိုးဝေ"အစရှိသော ရှေးဆရာတို့ရေးသား စီရင်အပ်သော မူလရာဇဝင်ကျမ်းကြီးသည် အထင်အရှားများစွာ မရှိ။ အနည်းငယ်မျှသာရှိကြသော ရာဇဝင်ကျမ်းသည် လည်း အပြည့်အစုံမပါလေ။ နောက်၌ မူလရာဇဝင်မှ ထုတ်နှုတ်ရေးသားအပ်သော "ဓညဝတီ"အရေးတော်ပုံ စသော ရာဇဝင်အစောင်စောင်တို့သည် တစောင်နှင့် တစောင် မညီမညွတ် ယွင်းချွတ်တိမ်းပါးရှိသည်များကို ဖြောင့် သားပြုပြင်စီရင်ရေးသားအပ်သောအဖြစ်။ ကရဏာပ္ပကာရ။ ။ ဖြောင့်မှန်ညီညွတ် စေ့စပ်အောင် ရေးသားအပ်သော အနက်အစဉ်ရှိသည်ဟု ဆိုအပ်သော အဘိဓေယျ။ ။"ရခိုင်ရာဇဝင်သစ်ကျမ်း"အမည်ဟု ဆိုအပ်သော အဘိဓာန။ ၎င်းရာဇဝင်သစ်ကျမ်းကို ကြိုးပမ်းအားထုတ်ပြုလုပ်စီရင်သူဟု ဆိုအပ်သောကတ္တား။

ရာဇဝင်သစ်ကို နာခံကြည့်ရှုမှတ်သားရာ၌ ကမ္ဘသကတဉာဏ်၊ သုတမယ အစရှိသော ဉာဏ်တို့ဖြစ်ပွားခြင်း၊ ပီတိပါမောဇ္ဇဖြစ်ပွားခြင်း၊ ကမ္မဋ္ဌာန်းဖြစ်ရခြင်း စသည်တို့ အကျိုးရှိသည်ဟု ပြဆိုအပ်သော ပယောဇဉ်။ ရာဇဝင်သစ်ကျမ်းသည် မင်းစကား၊ အမတ်စကား၊ တိုင်းပြည်စကား စသည်တို့၌မှီသော်လည်း။ ထိုမဟာ သမ္မတမင်း၊ ဝါသုဒေဝမင်း အစရှိသော မင်းအပေါင်းတို့ သည် ကောင်းမှုကုသိုလ်ကံရှိသောကြောင့် မင်းစိုးရာဇာ ဖြစ်တော်မူကြပေသည်ဖြစ်၍ သတ္တဝါတို့မှာ ကံသာလျှင် မိမိဥစ္စာရှိသည်ဟု သိရသော ကမ္မသကတဉာဏ်၊ သုတ မယ အစရှိသောဉာဏ်ဖြစ်ပွားခြင်း၊ ကမ္မဋ္ဌာန်းဖြစ်ရခြင်း အကျိုးရှိသောကြောင့် သမာဓိတရား စိတ်ဝယ်ထား၍ ကြိုးစားဖတ်ရှုနာခံကြပါကုန်လောဟု တိုက်တွန်းအပ်သော ဥယျောဇဉ်တို့ကို ပြဆိုအပ်သည်ဟု မှတ်ရမည်။

**ပဏာမခန်းပြီး၏။**

◆◆◆

**ရခိုင်သားကြီးစာပေ**

## ၂။ ကမ္ဘာပျက်ဟန်, တည်ဟန်အကြောင်း

ဤသို့ ရတနတ္တယ ပဏာမအစ ဥယျောဇနေ အဆုံးတို့ကို သိမ်းကျုံးပြဆိုပြီး၍ ဝိဝဋ္ဋဋ္ဌာယီအစ အန္တရ ကပ်ဦးဖြစ်သော မဟာသမ္မတမင်း၏နောက် တဆဲ့တကပ် မြောက် အန္တရကပ်ဦး၌ဖြစ်သော မဟာသမ္မတမင်းမှစ၍ သုံးသိန်းသုံးသောင်း လေးထောင့် ငါးရာခြောက်ကျိပ် ကိုးယောက်မကသော မင်းတို့ကို အရင်းအဦးပြုလျက် မဇ္ဈိမဒေသမင်းဆက် ဒွါရာဝတီ၊ ဧညဝတီ၊ ဝေသာလီ၊ ကျောက်ပန်းတောင်း၊ စမ္ပဝက်၊ ပရိန်၊ လောင်းကြက်၊ မြောက်ဦးမြို့တို့၌ နှစ်လို့ရှင်လန်း ထီးနန်းစိုးစံတော်မူကြ သော ဝါသုဒေဝ စသောမင်းတို့၏ အစဉ်အဆက်ကိုပြဆို ရေးသားကြသော ရာဇဝင်အရပ်ရပ်တို့မှ စေ့စပ်ညီညာ သည်ကိုယူ၍ မတူတိမ်းပါး မှားယွင်းသည့်အချက်တို့ကို ပယ်ဖျက်သုခ်သင် သင့်အောင် ဆင်လျက် စီရင်ရေးသား မှာထားပြဆိုလတ္တံ့သော ရခိုင်ရာဇဝင်သစ်ကျမ်းကို ကြိုးပမ်းအားထုတ် ပြုလုပ်ရေးသားလိုက်ပေအံ့။ ယင်းသို့ ရေးသားမည့်အရာတွင် ကပ်ကမ္ဘာနှင့်ကင်း၍ ရေးသားခြင်း ငှာ မသင့်ရာသောကြောင့် ကပ်ကမ္ဘာတို့၏ ပျက်ဟန်၊ တည်ဟန်တို့ကို ကျမ်းဂန်လာအထွက်ဖြင့် အမြွက်မျှ ထည့်သွင်းလိုက်ဦးအံ့။

***တသော ဝံ ဝိနာသောစ သဏ္ဌာဟနဥ္စ ဝေဒိတဗ္ဗံ။**

တဿ၊ ထိုကပ်ကမ္ဘာ၏။ ဝိနာသောစ၊ ပျက်စီးသော အဖြစ်ကိုငါး။ သဏ္ဌာဟနဥ္စ၊ တည်သော အဖြစ်ကိုငါး။ ဧဝံ၊ ဤသို့ဆိုလတ္တံ့သော နည်းဖြင့်။ ဝေဒိတဗ္ဗံ၊ သိအပ်၏။

ဤသို့ ဝိသုဒ္ဓိမဂ်၊ သာရတ္ထဋီကာတို့ မိန့်မှာ ဖွင့်ပြတော်မူသည်နှင့်အညီ ဝိဝဋ္ဋဋ္ဌာယီဖြစ်သော သြကာသလောက ကပ်ကမ္ဘာ၏ ပျက်စီးခြင်းသည် လောင်ဘက်၊ ပျက်ဘက်၊ ကုဋေတသိန်း အရေအတွက် ရှိသော စကြဝဠာတို့၏ မီး,ရေ, လေတို့ကြောင့် ပျက်စီး သောအဖြစ်၊ ပျက်ပြီး၍ တဖန်တည်ပြန်သောအဖြစ်ကို သိအပ်၏ဟုဆိုလိုသည်။ ။ ထိုစကားရပ်တွင် ကပ်ကမ္ဘာ ဟူသည်၌ ကပ်သည်အန္တရကပ်၊ အသင်္ချေယျကပ်၊ မဟာကပ်ဟူ၍ သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင် လူတို့၏အသက် အသင်္ချေယျမှဆုတ်၍ ဆယ်နှစ်တမ်းသို့ ကျရောက်သည်ကာလ သတ္ထန္တရကပ်၊ ရောဂန္တရကပ်၊ ဒုဗ္ဘိက္ခန္တရကပ်ဟူသော ကပ်သုံးပါးတွင် တပါးပါး ရောက်၍ သတ္တဝါတို့၏ ပျက်စီးသည်ကို အန္တရကပ်ဟူ၍ ဆိုအပ်၏။ ဤ၌အန္တရကပ်ယူနည်းကို ဋီကာကျော်၊ မဏိမဥ္ဇူတို့၌ လူတို့၏အသက် ဆယ်နှစ်တမ်းနေရသော ကာလမှစ၍အစဉ်အတိုင်းပွားသဖြင့် အသက်အသင်္ချေ တိုင်အောင် နေရသည်မှတဖန်ဆုတ်ယုတ်၍ ဆယ်နှစ် တမ်းတိုင်အောင်သောကာလသို့ ရောက်ပြန်သဖြင့် ကပ်သုံးပါးတို့တွင် တပါးပါးရောက်၍ သတ္တဝါတို့၏ ပျက်စီးသည်ကို အန္တရကပ်ဟူ၍ဆိုလေသည်။

ပထမကပ်ဦးမှဆုတ်၍ ဆယ်နှစ်တမ်းတွင် ပျက်စီးသောကပ်သည် လွတ်ခဲ့လေသောကြောင့်ငါး၊ သုတ်မဟာဝါ အဋ္ဌကထာ၊ ပါထေယျ အဋ္ဌကထာ၊ ငါးဋီကာတို့၌ ကပ်ဦးလူတို့၏ အသက် အသင်္ချေယျ တမ်းမှဆုတ်၍ ဆယ်နှစ်တမ်းသို့ ကျရောက်သည့် ကာလ ကပ်သုံးပါးတွင် တပါးပါးဖြင့် ပျက်စီးသောကပ်ကို အန္တရကပ်ဟူ၍ ဆိုသောကြောင့်ငါး။ လယ်တီဆရာတော် စီရင်အပ်သော ပရမတ္ထ ဒီပနီဋီကာ၌ အန္တရကပ်ဟူသည်၊ လူတို့၏အသက်တမ်းသည် အသင်္ချေယျမှဆုတ်၍ ဆယ်နှစ်တမ်း၊ ဆယ်နှစ်တမ်းမှတက်၍ အသင်္ချေယျတို့၏ အစွမ်းဖြင့်ထင်သော အသင်္ချေယျနှစ်ခုတို့၏အတွင်း၌ ဖြစ်သော ခြောက်ဆဲ့လေးပါးအပြားရှိသော ကပ်ငယ်ကို အန္တရကပ်ဟူ၍ ဆိုအပ်ကြောင်း၊ ကေစိဆရာတို့၊ အန္တရကပ် နှစ်ဆယ်ရှိသည်ဟုဆိုကြောင်း၊ အပရေ ဆရာတို့၊ အန္တရကပ် ရှစ်ဆယ်ရှိသည်ဟုဆိုကြောင်း၊ ဗေဒင်ကျမ်းတို့၌ တဆဲ့လေးကပ်ရှိသည်ဟုဆိုကြောင်း၊ လောက၌ အကြင်အန္တရကပ်ကို မနုအန္တရကပ်ဟူ၍

ဆိုအပ်၏။ ထိုမနုအန္တရကပ်ကို ကပ်ဦးအစ၌ "မဟာသမ္မတ"မင်းတယောက် တယောက်စီ မြောက်သည်ဟု ယူအပ်ကြောင်း၊ ကေစိဆရာတို့ တယောက်သာယူကြောင်းတို့နှင့် ဆိုသောကြောင့်၎င်း၊ အာဒိကပ္ပ ကမ္ဘာဦးကျမ်း၌ ကမ္ဘာဦးသူတို့၏ အသက်တမ်း အမှန်ကား ကုဋေတသိန်း၊ ဤမျှအရေအတွက် အသက်တမ်းရှိသည်ဟူ၍၎င်း၊ မဟာသမ္မတမင်း တင်မြောက်သောအခါ လူတို့သည် အသက်အသင်္ချေဟု ဆိုအပ်သော ကုဋေတသိန်းမှ တရွေ့ရွေ့ဆုတ်ယုတ်၍ အသက်ဆယ်နှစ်တမ်းသို့ ရောက်သောအခါ ကပ်သုံးပါး တွင် တပါးပါးဖြင့် ပျက်စီးသေကြေကြကုန်၏ဟူ၍၎င်း၊ တရားစောင့်သောသူတို့ ကြွင်းကျန်သဖြင့် ဗြဟ္မစိုရ်တရားကို အားထုတ်ကြကုန်၏။ ထိုအခါ "ကပ္ပပဘ၀"မည်သော မိုးကြီးရွာသဖြင့် သူသေကောင်များကို သမုဒ္ဒရာသို့ မျောစေ၍ အန္တရကပ်ကုန်ဆုံးခြင်းကိုပြု၏ဟူ၍၎င်း၊ ဆယ်နှစ်တမ်းမှ တဖန်တက်၍ နှစ်ဆယ်တမ်း၊ လေးဆယ်တမ်း၊ ရှစ်ဆယ်တမ်း စသည်ဖြင့် တက်၍ တက်၍ အသက်အသင်္ချေဟုဆိုအပ်သော ကုဋေတသိန်း လူတို့၏ အသက်တမ်းတိုးတက်၍ ရှည်လေကုန်၏ဟူ၍ ၎င်း၊ နှစ်ဆယ်တမ်းမှတက်၍ လူတို့၏အသက် အသင်္ချေယျဟုဆိုအပ်သော ကုဋေတသိန်းတိုင်အောင် ကာလအတွင်း လူတို့၌ မင်းစိုးရာဇာမရှိပဲ မဖောက်မပြန် ဖြောင့်မှန်သောတရား ရှိကုန်၏ဟူ၍၎င်း၊ နောင်ကာလ ရှည်လျားလတ်သော်၊ ရှေးကမ္ဘာဦးသူတို့ကဲ့သို့ တရားကို မစောင့် မဖြောင့်မမှန် ကျင့်ကြသည့်အတွက် အထက် ကမ္ဘာဦးသူတို့နည်းတူ သမ္မတမင်းတယောက် တင်မြောက် ကြပြန်လေကုန်၏ဟူ၍ ဆိုလေသောကြောင့်၎င်း၊ ဤသို့ဆိုကြသောစကားကို ထောက်ထား စာနာ၍ ကမ္ဘာဦးအသင်္ချေယျမှဆုတ်၍ ဆယ်နှစ်တမ်း၊ ၎င်းဆယ်နှစ်တမ်းမှတက်၍ အသက်အသင်္ချေယျ၊ ဤအသင်္ချေယျနှစ်ဦးတို့၏အကြား ဆယ်နှစ်တမ်း၌ ကျရောက်ဖြစ်ပွားသော ကပ်ကို အန္တရကပ်ဟူ၍မှတ်ရမည်။ ၎င်းအန္တရကပ် ခြောက်ဆဲ့လေးကပ်သည် တခုသော အသင်္ချေယျကပ် မည်၏။ ထိုအသင်္ချေယျကပ်သည်လည်း သံဝဋ္ဋ၊ သံဝဋ္ဋဌာယီ၊ ဝိဝဋ္ဋ၊ ဝိဝဋ္ဋဌာယီဟူ၍ ကာလအားဖြင့် လေးပါးအပြားရှိ၏။ ထိုလေးပါးတို့တွင် ပျက်ဆဲဖြစ်သော ကာလသည် သံဝဋ္ဋကပ်မည်၏။ ပျက်သည်မှ အထက်၌၊ ပျက်တိုင်းတည်သောကာလသည် သံဝဋ္ဋဌာ ယီကပ်မည်။ ပွားဆဲတည်ဆဲဖြစ်သော ကာလသည် ဝိဝဋ္ဋကပ်မည်၏။ ပွားသည်၊ တည်သည်မှုအထက်၌ ပွားတိုင်းတည်သော ကာလသည်၊ ဝိဝဋ္ဋဌာယီကပ်မည်၏။

ထိုကာလလေးပါး အပိုင်းအခြားပမာဏသည်ကား အစစွာကမ္ဘာပျက်မိုးသည် စကြာဝဠာ ကုဋေတသိန်းကို နှံ့စေလျက်ရွာ၏။ လူတို့သည် ဝမ်းမြောက် ဝမ်းသာ မျိုးစေ့တို့ကို ကြဲချစိုက်ပျိုးကြကုန်၏။ ကောက်ပင်တို့သည် နွားစားလောက်သည်ရှိသော် မိုးသည်၊ မြည်း၏ မြည်သော အသံကဲ့သို့သော အသံကိုမြည်လျက် တပေါက်မျှမရွာပဲ ရှိလေ၏။ ကာလရှည်လျားသည်ရှိသော် အစဉ်အတိုင်း နေခုနစ်စင်းတို့သည် ပေါ်ပေါက်၍ မီးတောက်မီးလျှံဖြစ်ပြီးလျှင် ပထမဈာန် သုံးဘုံတိုင်အောင် မီးလောင်၍စဲလေ၏။ ဤမျှလောက် ရှည်ကြာသောကာလကို သံဝဋ္ဋကပ်ဟူ၍ဆိုအပ်၏။ မီးလျှံစဲပြီး၍ အောက်ကောင်းကင်နှင့် အထက်ကောင်းကင် တစပ်တည်း၊ ကြီးစွာသော အမိုက်တိုက်ဖြင့် တခုသော အသင်္ချေယျကပ် ပတ်လုံးတည်သောကာလကို သံဝဋ္ဋဌာယီကပ်ဟူ၍ ဆိုအပ်၏။

ထိုနောက်မှ ကမ္ဘာပြုမိုးသည် အစစွာ 'အန္တကဝိန္ဒ'အရပ် မဒရပ်ပြည်မြောက်ပိုင်း၌ကျသော ဆီးနှင်းကဲ့သို့ ဖျင်းဖျင်းသာသာ နုံးနုံးညှံ့ညှံ့ရွာ၏။ အစဉ်အတိုင်း မိုးသည်ကြာရိုးရှိ၊ တောင်ဝှေးရှိ၊ ကျည်ပွေ့ရှိ၊ ထန်းပင်ရှိရွာ၍ စကြာဝဠာကုဋေတသိန်းကို ပြည့်စေလျက် မိုးသည်စဲလေ၏။ ကာလရှည်လျားသဖြင့် ရေသည်

လျှော့ကျလတ်သော် သံဝဋ္ဋကပ်မပျက်မီ တည်မြဲသော အရာ၌၊ ဘုံဗိမာန်မြေတို့သည်ဖြစ်ကုန်၍ နေလပေါ်သည် တိုင်အောင်သော ကာလကို ဝိဝဋ္ဋကပ်ဟူ၍ ဆိုအပ်၏။ နေ-လ-ပေါ်သည်မှ စ၍တဖန် ကမ္ဘာပျက်မိုး ရွာသည် တိုင်အောင်သောကာလကို ဝိဝဋ္ဋယီအသင်္ချေယျကပ် ဟူ၍ဆိုအပ်၏။ ။ဤအသင်္ချေယျကပ်လေးကပ်သည် တခုသောမဟာကပ်မည်၏။ ။

ဤအသင်္ချေယျကပ် လေးကပ်တွင် သံဝဋ္ဋကပ် သည်လည်း မီးဖျက်သော တေဇောသံဝဋ္ဋကပ်။ ရေဖျက် သော အာပေါသံဝဋ္ဋကပ်။ လေဖျက်သော ဝါယောသံဝဋ္ဋ ကပ်ဟူ၍ သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင် မီးဖျက် သော ကမ္ဘာ၌ နေခုနစ်စင်းတို့၏ အာနုဘော်ကြောင့် အခိုးအလျှံထွက်၍ မြေမှစ၍ ပထမဈာန် သုံးဘုံတိုင်အောင် မုန်ညင်းစေ့ခန့်မျှ အကြွင်းအကျန်မရှိ လောင်၍ခဲလေ၏။ ရေဖျက်သော ကမ္ဘာ၌ ဒုတိယဈာန် သုံးဘုံတိုင်အောင် ဆားခဲကို ရေတွင်ချ၍ ကြေသကဲ့သို့ ကြေပျက်လေ၏။ လေဖျက်သော ကမ္ဘာ၌ တတိယဈာန်သုံးဘုံတိုင်အောင် စကြဝဠာကုဋေတသိန်းလုံး မုန့်မှုန့်ညက်ညက်ကြေ၍ ပျက်လေ၏။ ဤသည်ကား ဝိသုဒ္ဓိမဂ်၊ သာရတ္ထဒီပနီကာ စသည်တို့၌ မိန့်မှာချက် အဓိပ္ပါယ်အကျဉ်း။ ။ အချို့သော ဆရာတို့ကား မီးဖျက်၍သုံးဘုံ၊ လေးဘုံ၊ ငါးဘုံပျက် ကြောင်း။ ရေဖျက်၍ ခြောက်ဘုံ၊ ခုနစ်ဘုံ၊ ရှစ်ဘုံ ပျက်ကြောင်းတို့ကို ကဗျာ၊ ဂါထာ ဖန္တီးကုံး၍ ဆိုကြလေ သည်။ ထိုစကားကို ကျမ်းဂန်သိမြင် ပညာရှင်တို့ ယူငင် ဝန်ခံခြင်း မပြုကုန်။

သံဝဋ္ဋကပ်သုံးပါးဟုဆိုအပ်သော မီး၊ ရေ၊ လေ တို့ဖြင့် ကမ္ဘာပျက်ရိုးကား မီးဖြင့်အစဉ်အတိုင်း ခုနစ်ကြိမ် ဖျက်သည်။ ထိုနောက် ရေတကြိမ်ဖျက်သည်။ ဤကဲ့သို့ မီးခုနစ်ကြိမ်၊ ရေတကြိမ်ဖျက်၍ ခြောက်ဆဲ့လေးကြိမ် မြောက်၌ လေတကြိမ်ဖျက်သည်။ ဤသည်ကား ကမ္ဘာတို့ ပျက်ရိုးတည်း။

ယခုတည်ရှိသော ဘဒ္ဒကပ်ကမ္ဘာသည် ပထမ မီးခုနစ်ကြိမ်ဖျက်ပြီးနောက် ရေတကြိမ်ဖျက်၍ ဒုတိယ- မီးခုနစ်ကြိမ်တွင် ပထမမီးဖျက်၍တည်သော ကမ္ဘာဟူ၍ မိလိန္ဒပဥှာတွင်ဆိုသည်ဟု အချို့ရာဇဝင်ကျမ်းဂန်များ၌ ဆိုကြလေသည်။ ဆိုကြသည့်အတိုင်း မိလိန္ဒပဥှာတွင် မရှိလေ။ နောင်ဤကမ္ဘာကို မီးဖျက်လတ္တံ့ဟူ၍သာ အနာဂတဝင် အဋ္ဌကထာ၌ဆိုကြောင်းနှင့် မှန်နန်းရာဇဝင် တွင် ဆိုလေသည်။

ခပ်သိမ်းသော သတ္တဝါတို့၏ နေထိုင်ရာဌာနဖြစ် သော ဩကာသလောကဖြစ်လိုသည်ရှိသော်။ ကမ္ဘာပြု မိုးရွာသောရေသည် ရွှေ့လျှော့ခန်းလတ်၍ ပျက်လေပြီး သော ဗြဟ္မာဘုံ၊ အထက်ဖြစ်သော နတ်ပြည်လေးဘုံတို့ သည် အစဉ်အတိုင်းဖြစ်ကုန်၏။ ထိုနောင် ပံသုပထဝီ တည်ရာအရပ်သို့ရောက်လျှင် ဓမ္မကရိုဏ်ရေစစ်ကို ပိတ်သောကာလ တည်သောရေကဲ့သို့ ထိုရေသည် လေဖြင့်ချုပ်၍တည်၏။ ထိုရေပေါ်၌ ကောင်းသော အနံ့ အရသာနှင့်ပြည့်စုံသော နတ်ဩဇာကဲ့သို့ ရေမရေသော နို့ယနာ၏ အပေါ်အပြင်ကဲ့သို့ မြေဩဇာသည် ကြာရွက် သဏ္ဌာန်တည်၏။

## ၃။ ကမ္ဘာတည်ပြီးနောက် မဟာဗောဓိ ပလ္လင် တည်ရာ မြေပေါ်ခြင်းအကြောင်း

ထိုသို့မြေပေါ်သောအခါ ဘုရားသခင်တို့၏ ပွင့်တော်မူရာဖြစ်သော မဟာဗောဓိပလ္လင်တည်ရာ မြေအရပ်သည် ရှေးဦးစွာဖြစ်ပေါ်၏။ ကမ္ဘာပျက်သော အခါ၌လည်း နောက်မှပျက်၏။ ထိုမြေ၌ ပုဗ္ဗနိမိတ် ဖြစ် သော ကြာပဒုမ္မာပင်သည် ပေါက်ရောက်၏။ ထိုကြာပင် သည် ဘုရားမပွင့်သော ကမ္ဘာဖြစ်အံ့၊ အပွင့်မရှိ။ ဘုရား ပွင့်အံ့သော ကမ္ဘာဖြစ်အံ့။ ဘုရားအရေအတွက်နှင့်အမျှ ပွင့်၏။ ထိုကြာပွင့်ကိုမြင်၍ ဗြဟ္မာတို့သည် ကြာပွင့် အရေအတွက်အတိုင်း ဘုရားပွင့်အံ့သည်ကိုသိကြကုန်၏။

ထိုဘုရားပွင့်သော ကမ္ဘာတို့တွင် တဆူပွင့်အံ့၊ သာရ ကမ္ဘာ။ နှစ်ဆူပွင့်အံ့၊ မဏ္ဍကမ္ဘာ။ သုံးဆူပွင့်အံ့။ ဝရကမ္ဘာ။ လေးဆူပွင့်အံ့၊ သာရမဏ္ဍကမ္ဘာ။ ငါးဆူပွင့်အံ့၊ ဘဒ္ဒကမ္ဘာမည်၏ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ စသည်တို့၌ လာသည်။

ဘုရားပွင့်သောကမ္ဘာ၌ ကြာပွင့်တွင်ပါသော သင်္ကန်း၊ သပိတ်၊ ပရိက္ခရာရှစ်ပါးကို ဗြဟ္မာတို့ဆွတ်ယူ၍ သုဒ္ဓါဝါသ ဗြဟ္မာ့ပြည်၌ထားလေ၏။

## ၄။ ဗြဟ္မာတို့သည် ဗြဟ္မာ့ပြည်မှစုတေ၍ လူ့ပြည်၌ ကိုယ်ထင်ဖြစ်လာခြင်းအကြောင်း

ထိုအခါ ဗြဟ္မာ့ပြည်မှ ဗြဟ္မာတို့သည် အသက်ကုန်သဖြင့်၎င်း၊ ကံကုန်သဖြင့်၎င်း စုတေ၍ လူ့ပြည်၌ ဥပပတ်ကိုယ်ထင်ဖြစ်လာကုန်၏။ ထိုသူတို့သည် ကိုယ်ရောင်ဖြင့် ထွန်းပကုန်လျက် ဗြဟ္မာကဲ့သို့ ပီတိသာ လျှင် အစာရှိကုန်လျက် ကောင်းကင်၌ ငှက်ကဲ့သို့ပျံဝဲ၍ မွေ့လျော်ကုန်၏။ ယောကျ်ားမိန်းမဟု မရှိ။ သတ္တဝါ ဟူ၍သာ ခေါ်ဝေါ်ကုန်၏။ ထိုသတ္တဝါတို့သည် ယခင် မြေဆီသြဇာဟူသော ရသပထဝီကို စားအံ့သောငှာ အားထုတ်ကုန်သည်ရှိသော် မိမိတို့ကိုယ်ရောင် ကွယ်ခဲ့၍ မိုက်မှောင်အတိဖြစ်လေရကား ကြောက်ခြင်း ပြင်းစွာ ဖြစ်ကြကုန်၏။

## ၅။ ကမ္ဘာဦးသူတို့၏ ဘုန်းကံဓမ္မတာကြောင့် နေလနက္ခတ်တို့ ပေါ်ခြင်းအကြောင်း

ထိုသူတို့၏ ဘုန်းကံကြောင့်၎င်း၊ ဖြစ်မြဲဓမ္မတာ အားဖြင့်၎င်း၊ အတွင်းကား ရွှေ အပကား ဖန်အတိပြီးသော အချင်းယူဇနာငါးဆယ်၊ အဝန်းယူဇနာတရာ့ငါးဆယ် ရှိသော ဘာနုရာဇာမည်သော ရောင်ခြည်တထောင်ဆောင် သော နေမင်းသည် တပေါင်းလပြည့်နေ့ မိန်ရာသီ၌ နှစ်ဆဲ့ခြောက်လုံး ဥတ္တရာဘဒြပိုဒ် နက္ခတ်ကိုစီးလျက် ပြုဗ္ဗဝိဒေဟကျွန်း၏ အလယ် ဥဒည်တောင်ထိပ်မှ ထွက်ပေါ်လာ၍ အလင်းကိုဖြစ်စေ၏။ ကမ္ဘာဦးသူတို့သည် ကြောက်ခြင်းကင်း၍ ရဲရင့်ခြင်းဖြစ်ကုန်သောကြောင့် နေကို သူရိယ-ဟုခေါ်ကြကုန်၏။ ထိုသို့ထွက်ပေါ်လာသော နေမင်းသည် နာရီသုံးဆယ်အခန့်လှည့်၍ကွယ်ခဲ့သော် အမိုက်အတိဖြစ်၍ ကမ္ဘာဦးသူတို့သည် တစုံသော အလင်းကို ရစေသတည်းဟု တောင့်တကုန်သည်ရှိသော် အတွင်းကား ပတ္တမြား အပကားငွေဖြင့်ပြီးသော အချင်းလေးဆဲ့ ကိုးယူဇနာ၊ အဝန်းတရာ့လေးဆဲ့ ခုနစ်ယူဇနာရှိသော ချမ်းအေးသောအရောင်ကို ဆောင်သော လမင်းသည် ကန်ရာသီ၌ တဆဲ့နှစ်လုံး။ ဥတ္တရာဘလ ဂုဏီ နက္ခတ်ကိုစီး၍ နက္ခတ်တာရာ ခြံရံ လျက် အရှေ့မျက်နှာမှ ထွက်ပေါ်လာသည်ရှိသော် ကမ္ဘာဦးသူတို့သည် ဝမ်းမြောက်ဝမ်းသာ ရွှင်မြူးစွာ ဖြစ်ကုန်၏။ ငါတို့အလိုဆန္ဒအတိုင်းရပေသည်ဟူ၍ ဆန္ဒဟူသောအမည်ဖြင့် ခေါ်ဝေါ်ကုန်၏။

မြန်မာတို့ရာဇဝင်ကြီးတွင် ကန်ရာသီ၌ ဟဿတ နက္ခတ်ကိုစီး၍ လပေါ်ထွက်ကြောင်းနှင့်ဆိုသည်။ အာဒိ ကပ္ပကမ္ဘာဦးကျမ်း၌ စိတ်တရနက္ခတ်တွင် အကြွင်း ငါးခဋ္ဌိကာ၊ ပုဏ္ဏမီတိထိပြည့်၍ နေမင်းဝင်သဖြင့် မှောင်အတိ ဖြစ်၏။ နောက် ငါးခဋ္ဌိရှိသောအခါ လမင်းပေါ်ထွက် ကြောင်းနှင့်ဆိုသည်။ လောကဒီပနီ၊ လောကုပ္ပတ္တိကျမ်း တို့၌ ဥတ္တရာဘလဂုနီနက္ခတ်ကိုစီး၍ ထွက်ကြောင်းနှင့် ဆိုသည်ကိုလိုက်၍ ရေးသားလိုက်သည်။

## ၆။ ဩကာသလောက၌ မြင့်မိုရ် သတ္တ ရဘန် သီဒါစသည်တို့၏ ဖြစ်ပေါ်ခြင်း အကြောင်း

ဤသို့နေလတို့သည် ထင်ရှားစွာဖြစ်သော နေ့၌ ပင်လျှင် မြင့်မိုရ်၊ သတ္တရဘန်၊ သီဒါ၊ သမုဒ္ဒရာလေးစင်း၊ ကျွန်းကြီး လေးကျွန်း၊ ကျွန်းငယ်နှစ်ထောင်၊ ဟိမဝန္တာ တော၊ မြစ်ကြီး၊ အိုင်ကြီး၊ စကြဝဠာတောင်တို့သည်

မွေတာအားဖြင့် မရှေးမနှောင်း တပေါင်းလပြည့်နေ့၌ တပြိုင်နက်ဖြစ်ကုန်၏။ ထိုနေ့မှစ၍ နေ့၊ လ၊ နှစ်၊ ဥတု၊ ရတုတို့သည် ထင်ရှားစွာဖြစ်ကုန်၏။

## ၇။ ကမ္ဘာဦးသူတို့သည် မြေဆီမြေလွှာကို စားသဖြင့် လောဘရမ္မက် ထူပြော၍ အာဟာရ ဆုတ်ယုတ်ခြင်းအကြောင်း

ထိုအခါ ကမ္ဘာဦးသူတို့သည် အချို့အဆင်းလှကုန်၏။ အချို့ အဆင်းမလှကုန်။ ထိုသူတို့တွင် အဆင်းလှသောသူတို့သည် အဆင်းမလှသောသူတို့ကို မထီမဲ့မြင်ပြုကုန်သည်ရှိသော် ရသပထဝီ မြေဆီသြဇာ ကွယ်ခဲ့၍ မြေလွှာကိုစားကြကုန်၏။ ရှည်လျားသဖြင့် လောဘရမ္မက်ထူပြော၍ မြေလွှာကွယ်ပြန်လျှင် ပဒါလတာအမည်ရှိသော အနံ့အရသာနှင့်ပြည့်စုံသော နွယ်ချိုသည် ထင်ရှားစွာဖြစ်၍ စားကြပြန်ကုန်၏။ ထိုနွယ်ချိုသည်လည်း ရှေးအတူ ကွယ်ပြန်ခဲ့သည်ရှိသော် အဆင်းအနံ့အရသာနှင့်ပြည့်စုံသော ဖွဲမကပ်သော သလေးဆန်ပင် ထင်ရှားစွာဖြစ်၏။ ထိုအခါ ကမ္ဘာဦးသူတို့သည် သလေးဆန်ပင်မှ ညစားအံ့သောငှာ ညအခါမှ ယူကုန်၏။ နံနက်စားအံ့သောငှာ နံနက်အခါမှယူကုန်၏။ ထိုသို့ယူငြားသော်လည်း ယူရာမထင်၊ အတိုင်းပင် ပေါက်ရောက်ကုန်၏။ ထိုသလေးဆန်ကို ကျောက်ခွက်၌ ထားသည်ရှိသော် အလိုလိုအလျှံထွက်၍ကျက်၏။ ထိုထမင်းသည် မြတ်လေးငုံအဆင်းနှင့်တူ၏။ ထိုထမင်းကို စားသည်ရှိသော် ခဲဖွယ်၊ စားဖွယ် အရသာသည် ထိုသူတို့၏ အလိုအတိုင်းဖြစ်ကုန်၊ ထင်ကုန်၏။

## ၈။ ကမ္ဘာဦးသူတို့သည် ရှေးဖြစ်သော အစာ သုံးပါးကွယ်ခဲ့လျှင် သလေးထမင်းကို စား၍ မိန်းမ၊ ယောကျာ်းဖြစ်ခြင်း အကြောင်း

ရှေးဖြစ်သော အစာသုံးပါးတို့သည် နတ်သြဇာကဲ့သို့ မွတ်သိပ်ခြင်းကိုဖျောက်၍ အာဟာရကိုဆောင်၏။ ဝတ္ထုသိမ်မွေ့သဖြင့် ကျင်ကြီး၊ ကျင်ငယ် မဖြစ်ကုန်။ သလေးထမင်းကိုစားသည်တွင်မှ ဝတ္ထုရုန့်ရင်းသောကြောင့် ကျင်ကြီး၊ ကျင်ငယ်၊ ဝစ္စမဂ်၊ ပဿာဝမဂ်၊ ပုရိသနိမိတ်၊ ဣတ္ထိနိမိတ်၊ ယောကျာ်း၊ မိန်းမအသွင် ထင်ရှားဖြစ်ကုန်၏။

## ၉။ ကမ္ဘာဦးသူတို့သည် အချင်းချင်းတပ်မက်၍ မေထုနသံဝါသဖြစ်ခြင်းအကြောင်း

ထိုအခါ မိန်းမသည် ယောကျာ်းကို၊ ယောကျာ်းသည် မိန်းမကို တပ်မက်သောအားဖြင့် ကြည့်ကြကုန်၏။ ထိုသို့ကြည့်ကြခြင်းကြောင့် ကာမရာဂပူပန်ခြင်းဖြစ်၍ မေထုန်မှီဝဲခြင်းဟူသော ကာယသံသဂ္ဂဖြစ်ကြကုန်၏။ ထိုသို့ သူတော်မဟုတ် သူယုတ်တို့၏အကျင့်ဖြစ်သော မေထုန်မှီဝဲခြင်းကြောင့် ပညာအဆင်အခြင်နှင့် ပြည့်စုံသော သူတို့သည် ကဲ့ရဲ့ညှဉ်းဆဲကြကုန်၏။

## ၁၀။ ကမ္ဘာဦးသူတို့သည် အိမ်ရာ ဆောက်လုပ် နေထိုင်ခြင်းအကြောင်း

ထိုသို့ ကဲ့ရဲ့ညှဉ်းဆဲလေသည်ရှိသော်၊ မကောင်းသော အကျင့်ကို ဖုံးလွှမ်းခြင်းငှာ၊ အိမ်ရာဆောက်၍ နေထိုင်ကြကုန်၏။

## ၁၁။ ကမ္ဘာဦးသူတို့သည် အစာသိုမှီး၍သလေးဆန်သည် အခွံမှေးရုက်ခြင်းအကြောင်း။

ထိုသို့ အိမ်ရာဆောက်၍နေကုန်သော သူတို့တွင် ပျင်းရိသော သူတို့၏ ဒိဋ္ဌာနုဂတိသို့လိုက်၍ အစာသိုမှီခြင်းကို ပြုကုန်သည်ရှိသော် သလေးဆန်တို့သည် ဆန်ခွဲ၊ ဖွဲနု၊ ဖွဲကြမ်းမှေးရုက်ကုန်၏။ ရိတ်ရာယူရာ အရပ်တို့သည်လည်း တဖန် မဖြစ်မရောက်ကုန်။

### ၁၂။ ကမ္ဘာဦးသူတို့သည် အချင်းချင်း ဆိုမြည်တမ်းခြင်းအကြောင်း

ထိုနောင်မှ ကမ္ဘာဦးသူတို့သည် ဤသို့ ဆိုမြည်တမ်းသဖြင့် ညည်းတွားကြကုန်၏။ ရှေးအခါ ငါတို့သည် ရွှင်လန်းစိတ်ဖြင့် ပြီးကုန်၏။ ပီတိသာ အစာရှိသည်ဖြစ်ကုန်၏။ ကိုယ်ရောင်ဖြင့် ထွန်းပကုန်လျက် ကောင်းကင်၌ သွားနိုင်ကုန်၏။ အစဉ်သဖြင့် ရသပထဝီ၊ မြေဆီမြေလွှာ၊ ပဒါလတာ နွယ်ချိုတို့ကိုစားရကုန်၏။ ထိုအစာတို့သည် အကုသိုလ်တရားတို့ကြောင့် ကွယ်ခဲ့ကုန်၍ အလိုလို ပေါက်ရောက်သော သလေးဆန်တို့သည် ထင်ရှားဖြစ်ကုန်၏။ ထိုသလေးဆန်တို့ကို ညစာနံနက်စာ သိမ်းဆည်းသိုမှီခြင်းကြောင့် ရိတ်ရာပယူရာအရပ်တို့သည် အသစ်တဖန် ပြန်၍ မဖြစ် မရောက်ကုန်။ အစုအစုသာ ဖြစ်ကုန် ရောက်ကုန်၏။ ထိုသလေးစပါးပင်တို့ကို ပိုင်းခြားမှတ်သား၍ ဝေယူရသော်ကောင်း၏ဟူ၍ တိုင်ပင်ကြကုန်လျှင် အပိုင်းအခြားထား၍ ဝေယူကြကုန်၏။ ထိုနောင် လျှပ်ပေါ်သော သူတယောက်သည် မိမိအဖို့ကုန်အံ့စိုး၍ တပါးသောသူအဖို့ကို ခိုးယူလေ၏။ တကြိမ် နှစ်ကြိမ် ဆဲရေး၍လွှတ်လိုက်၏။ သုံးကြိမ်မြောက်သောအခါ ရိုက်ပုတ်ပစ်ခတ်ကုန်၏။ ထိုအခါမှစ၍ သူ့ဥစ္စာကိုခိုးခြင်း၊ မုသားဆိုခြင်း၊ ဒဏ်ပေးခြင်းတို့သည် ဖြစ်ကုန်၏။ ထိုသို့ ဖြစ်လတ်သော် ကမ္ဘာဦးသူအပေါင်းတို့သည် စည်းဝေး၍ ဤသို့တိုင်ပင်ကြကုန်၏။ ယခုယုတ်မာသော အမှုအရာတို့သည် ဖြစ်ကုန်ပြီ၊ သီလ သမာဓိပညာနှင့်ပြည့်စုံသော သူတယောက်ကို အစိုးရသောမင်း၏အဖြစ်ဖြင့် သမုတ်တင်မြှောက်၍ ကဲ့ရဲ့ရှုတ်ချအပ်သောသူကို ကဲ့ရဲ့ရှုတ်ချစေအံ့။ နှင်ထုတ်အပ်သောသူကို နှင်ထုတ်စေအံ့။ ငါတို့အဖို့ဖြစ်သော သလေးစပါးကို ဆယ်ဖို့တဖို့ပေးကုန်အံ့ ဟူ၍ တိုင်ပင်ကြကုန်၏။ တိုင်ပင်ကုန်ပြီးသော် အဆင်းအင်္ဂါလက္ခဏာနှင့် ပြည့်စုံသော၊ ကြီးမြတ်သော ဘုန်းတန်ခိုးအာဏာရှိသော နှိမ်နင်းခြင်း၊ ချီးမြှောက်ခြင်းငှာ တတ်နိုင်သော အားရှိသော ငါတို့၏ဂေါတမ ဘုရားအလောင်းတော်အထံသို့ချဉ်းကပ်၍ တောင်းပန်ကုန်ပြီးလျှင် သုံးပါးသော အဘိသိက်သွန်းခြင်းဖြင့် မင်းမြှောက်ကြကုန်၏။

### ၁၃။ ကမ္ဘာဦးသူတို့သည် ထိုမင်းကို သုံးပါးသော အမည်ဖြင့် သမုတ်ခေါ်ဝေါ်ခြင်း အကြောင်း

ဤသို့ ကမ္ဘာဦးသူတို့ ထိုမင်းကို သုံးပါးသော အမည်ဖြင့် သမုတ်အပ်သောကြောင့် ॥ ॥ မဟာဇနေန သမ္မတောတိ မဟာသမ္မတော။ ယောရာဇာ၊ အကြင်မင်းကို၊ မဟာဇနေန၊ များစွာသော ကမ္ဘာဦးသူအပေါင်းသည်။ သမ္မတော၊ မင်းဟူ၍ သမုတ်ခေါ်ဝေါ်အပ်သောအကြောင်းကြောင့်။ သောရာဇာ၊ ထိုမင်းသည်။ မဟာသမ္မတော၊ မဟာသမ္မတမင်းမည်၏။ ॥ ဤသို့သော ဝစနတ်အရဖြင့် မဟာသမ္မတမင်းမည်၏။ ॥ ခေတ္တာနံ အဓိပတီတိ ခတ္တိယော။ ॥ ယောရာဇာ၊ အကြင်မင်းကြီးသည်။ ခေတ္တာနံ၊ လယ်မြေတို့၏။ အဓိပတိ၊ အရှင်တည်း။ ဝါ၊ တနည်းကား။ ခေတ္တာနံ၊ လယ်မြေတို့ကို။ အဓိပတိ၊ အစိုးရသည်တည်း။ ဣတိတသ္မာ၊ ထိုသို့လယ်မြေတို့၏ အရှင်၊ လယ်မြေတို့ကို အစိုးရတော်မူသည်၏အဖြစ်ကြောင့်။ သောရာဇာ၊ ထိုမင်းသည်။ ခတ္တိယော၊ ခတ္တိယမည်၏။ ॥ ဤသို့သော ဝစနတ်အရဖြင့် ခတ္တိယလည်းမည်၏။ ॥ ဓမ္မေန သမေနသတ္တေရဉ္ဇေတီတိရာဇာ။ ॥ ယောဘူပတိ၊ အကြင်ရေ မြေရှင်သည်။ ဓမ္မေန၊ တရားနှင့်။ သမေန၊ ညီညွတ်သဖြင့်။ သတ္တေ၊ သတ္တဝါအပေါင်းတို့ကို။ ရဉ္ဇေတိ၊ နှစ်သက်မြတ်နိုးစေတတ်၏။ ဣတိတသ္မာ၊ ထိုသို့တရားသဖြင့် သတ္တဝါအပေါင်းတို့ကို နှစ်သက်မြတ်နိုးစေတတ်သောသတ္တိကြောင့်။ သောဘူပတိ၊ ထိုရေမြေရှင်သည်။ ရာဇာ၊ ရာဇာမည်၏။ ဤသို့သော ဝစနတ်အရဖြင့် ရာဇာလည်းမည်၏။ ॥ ဤသို့ သမ္မတဟူသော အမည်၊ ခတ္တိယဟူသော အမည်၊ ရာဇာဟူသော

အမည်သုံးပါးဖြင့် ထင်ရှားစွာဖြစ်တော်မူလေ၏။

## ၁၄။ ကမ္ဘာဦးသူတို့သည် အစဉ်သဖြင့် သူတော်ကောင်းတရားကို အားထုတ်၍ အမျိုးလေးပါးတို့ ဖြစ်ပွားခြင်း အကြောင်း

ထိုနောင်မှ အစဉ်သဖြင့် သီလသမာဓိနှင့် ပြည့်စုံသော အချို့သောသူတို့သည် သူ့ဥစ္စာကို ခိုးယူခြင်း၊ မုသာဝါဒဆိုခြင်း၊ ကဲ့ရဲ့ခြင်း၊ ဒဏ်ပေးခြင်းဟုဆိုအပ်သော ယုတ်မာသောတရားတို့ကို ဖျောက်ခြင်းငှာ တောဥ္ဈသစ်ခက်သစ်ရွက်တို့ကို ကုဋီပြု၍နေကုန်၏။ ရွာနိဂုံး၊ မင်းနေပြည်တို့၌ လှည့်လည်၍ဆွမ်းခံသဖြင့် အသက်မွေးကုန်၏။ ဤသို့ယုတ်မာသော အကုသိုလ်တရားကိုပယ်ကုန်သော သူတို့ကို။ ။ အကုသလေ ဓမ္မေ ပဟိယန္တိ ဗာဟိရံ ကရောန္တိ တိ ဗြာဟ္မဏာ ။ ။ ယေကုလပုတ္တာ၊ အကြင်အမျိုးကောင်းသားတို့သည်။ အကုသလေ၊ အကုသိုလ်ဖြစ်ကုန်သော။ ဓမ္မေ၊ တရားတို့ကို။ ပဟိယန္တိ၊ ပယ်ရှားတတ်ကုန်၏။ ဗာဟိရံ၊ အပဖြစ်အောင်။ ကရောန္တိ၊ ပြုတတ်ကုန်၏။ ဣတိတသ္မာ၊ ထိုသို့ အကုသိုလ်တရားတို့ကို ပယ်ရှားတတ်သောသတ္တိ အပဖြစ်အောင်ပြုတတ်သော သတ္တိကြောင့်။ တေကုလပုတ္တာ၊ ထိုအမျိုးကောင်းသားတို့သည်။ ဗြဟ္မဏာ၊ ဗြာဟ္မဏမည်ကုန်၏။ ဝါ၊ ပုဏ္ဏားတို့ မည်ကုန်၏။ ။ ဤသို့သော ဝစနတ်အရဖြင့် ဗြာဟ္မဏ ပုဏ္ဏားမျိုးဟူ၍ဆိုကုန်၏။ အကြင်သူတို့သည် အိမ်ရာ ထောင်၍ လယ်လုပ်ခြင်း၊ ကုန်သွယ်ခြင်းအမှုတို့ကို ပြုသဖြင့် များစွာသော ပစ္စည်းဥစ္စာရှိကုန်၏။ ထိုသူတို့ကို။ ဝိသုံ ကမ္မန္တေ ပယော ဇေန္တီတိ ဝေဿာ။ ။ ယေအမာ။ အကြင်ကြွယ်ဝကုန်သော သူတို့သည်။ ဝိသုံ၊ အသီးအခြား။ ကမ္မန္တေ၊ လယ်လုပ်ကုန်သွယ် ရောင်းဝယ်ဖောက်ကားခြင်းအမှုတို့ကို။ ပယောဇေန္တိ၊ ယှဉ်တတ်ကုန်၏။ ဣတိတသ္မာ၊ ထိုသို့လယ်လုပ်ကုန်သွယ် ရောင်းဝယ်ဖောက်ကားခြင်းအမှုတို့ကို ပြုစုယှဉ်စေတတ်သော သတ္တိကြောင့်။ တေအမာ၊ ထိုကြွယ်ဝကုန်သော သူတို့သည်။ ဝေဿာ၊ ဝေဿာမည်ကုန်၏။ ဤသို့သော ဝစနတ်အရဖြင့် ဝေဿာကုန်သည်မျိုးဟူ၍ ဆိုအပ်ကုန်၏။ အကြင်ဘုန်းကံနည်းသော သူတို့သည် သူတပါးတို့၏ ညွှင်းဆဲကိုခံ၍ ဆင်းရဲသော အမှုအရာရှိကုန်၏။ ထိုသူတို့ကို။ ။ သုဒ္ဒါစာရာ ခုဒ္ဒါစာရာတိသုဒ္ဒါ။ ယေဒလိဒ္ဒါ၊ အကြင်သူဆင်းရဲတို့သည်။ သုဒ္ဒါစာရာ၊ ကြမ်းကြုတ် ရုန့်ရင်းသောအမှုအကျင့်ရှိကုန်၏။ ဣတိတသ္မာ၊ ထိုသို့ ကြမ်းကြုတ်ရုန့်ရင်းအပ်သော အမှုအကျင့် သိမ်ဖျင်းစက်ဆုတ်အပ်သော အမှုအကျင့်ရှိကုန်သော သတ္တိကြောင့်။ တေဒလိဒ္ဒါ၊ ထိုသူဆင်းရဲတို့သည်။ သုဒ္ဒါ၊ သုဒ္ဒမည်ကုန်၏။ ဝါ၊ သူဆင်းရဲမည်ကုန်၏။ ဤသို့ ဝစနတ်အရဖြင့် သုဒ္ဒ သူဆင်းရဲမျိုးဟူ၍ ဆိုအပ်ကုန်၏။ ဤသို့လျှင် မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူဌေးသူကြွယ်မျိုး၊ သူဆင်းရဲမျိုးဟူ၍ အမျိုးလေးပါး ထင်ရှားဖြစ်လေကုန်၏။ ဤသည်ကား သုပ္ပာထေယျပါဠိတော်၊ ၎င်းအဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ၊ သာရတ္ထဒီပနီဋီကာ စသည်တို့၌ မိန့်မှာဖွင့်ပြတော်မူအပ်သည်ကို အကျဉ်းအမြွက် ရေးသားပြဆိုအပ်သော ကမ္ဘာပျက်ခြင်း၊ ကမ္ဘာတည်ခြင်း၊ သမ္မတမင်း တင်မြှောက်ခြင်း၊ အမျိုးလေးပါးဖြစ်ပွားခြင်း အကြောင်းတည်း။

## ၁၅။ ဗြဟ္မာတို့သည် လူပြည်၌ဖြစ်လာကြခြင်း အကြောင်း

ဒိဋ္ဌာနုဂတိကျမ်း၌ကား။ ။ ကမ္ဘာပြုရေသည် ခန်းခြောက်၍ မြေသင်းတို့သည် အနံ့အရသာနှင့် ပြည့်စုံစွာ ဖြစ်လေသည်ကို ဗြဟ္မာတို့သိလေလျှင် ကမ္ဘာတန်ဆာ အကြောင်းဖြင့် အာဘဿရာဘုံမှ များစွာသော ဗြဟ္မာတို့သည် စုတေ၍ လူပြည်တွင် ဥပပတ် ပဋိသန္ဓေအားဖြင့် ယောကျ်ားလည်းမဟုတ်၊ မိန်းမလည်းမဟုတ် အသစ်ခန္ဓာ ဖြစ်လာကုန်သည်။ ယင်းသို့အသစ်ဖြစ်လာသည်ဟူသော

စကားတွင် အသစ်ဟူသည်ကို မာဂဓဘာသာဖြင့် နဝ-ဟူ၍ဆိုလေသည်။ နဝ-သဒ္ဒါသည် ကိုးခုကို ဟောသောကြောင့် အရေအတွက်တကျွန်းလျှင် ကိုးယောက်စီရသင့်လေသည်။ ။ ထို့ကြောင့် တကျွန်းကိုးယောက်၊ ဖြဟ္မာရောက်သည်ဟု နောက်ပညာရှိတို့ဆိုကုန်သည်။ ။ ဘဒ္ဒကပ္ပဝိနိစ္ဆယကျမ်း၌ကား ကိုးယောက်တကျိပ်ဟူ၍ မဆို၊ အများအပြားလာရောက်ကြောင်းနှင့်ဆိုသည်။ ထိုအာဘဿရဗြဟ္မာတို့သည် ကျွန်းကြီးလေးကျွန်းတွင် မြေပေါ်ထက်ဖြစ်သော ချိုမြိန်ကောင်းမြတ်သော မြေဆီ, မြေလွှာတို့ကိုစားကြကုန်သဖြင့် အကျင့်ဖောက်ပြန်ကြလေသော် မြေဆီအရသာကွယ်ပျောက်၍ ကမ္မဇိဒ္ဓိဖြစ်သော မိမိတို့ကိုယ်ရောင်သည်လည်းကွယ်ခဲ့၏။ ထိုသို့ကိုယ်ရောင်ကွယ်ခဲ့သော် အမိုက်အတိဖြစ်သဖြင့် တယောက်ကို တယောက်မမြင်သောကြောင့် အလင်းကိုတောင့်တကြလေသော် ယူဇနာငါးဆယ်ရှိသော ရဝိ-မည်သော နေမင်းသည် ကိုးသိန်းနှစ်ထောင့်ငါးရာ့ရှစ်ဆယ် ခုနစ်ဂါဝုတ်တိုင် တနာရီကို အလင်းဆောင်လျက် ပေါ်ထွက်လာလေလျှင် လောကဓာတ်အလုံး အလင်းချည်းဖြစ်ကုန်၏။ ယင်းသို့ ရဝိဟူသည် အလျင်ဦးက အလင်းရသောရက်ဖြစ်၍ တနင်္ဂနွေရက်ဟူ၍ သမုတ်ကုန်၏။ နေမင်းသည် တရက်ပတ်လုံး အလင်းကိုဆောင်လျက် ဝင်ခြင်းသို့ရောက်လေသော် တဖန်မှောင်အတိ ဖြစ်ပြန်၏။ ငါတို့အား အလင်းတခုရပြန်သော်ကောင်း၏။ အလိုဆန္ဒပြည့်စုံအံ့ဟု တောင့်တစဉ်တွင် လေးဆဲ့ကိုးယူဇနာရှိသော အလင်းအရောင်နှင့်ပြည့်စုံသော ဆန္ဒတခုသည် ပေါ်ထွက်လာပြန်၏။ ဆန္ဒနှင့်ပြည့်စုံသည်ကို အကြောင်းပြု၍ ဆန္ဒဟူ၍ခေါ်ကြကုန်၏။ စကားတိမ်းယိမ်း၍ စန္ဒ-ဟူ၍ ၎င်း၊ လ-ဟူ၍၎င်း ခေါ်ကြကုန်လျက် ထိုရက်ကို ထပ်လင်းလာဟူ၍ သမုတ်ကြကုန်၏။ ဗြဟ္မာတို့သည် အကျင့်ဖောက်ပြန်သောကြောင့် မြေဆီ မြေလွှာသည် ကွယ်ခဲ့၏။ ပဒါလတာမည်သော နွယ်ချိုသည်ဖြစ်လာ၍

စားကြကုန်၏။ ထိုနွယ်ချိုသည်လည်း ရှေးနည်းတူကွယ်ခဲ့ပြန်သဖြင့် အဆင်းအနံ့အရသာနှင့် ပြည့်စုံသော သလေးဆန်သည် ဖြစ်လာပြန်သည်။ ထိုဆန်ကို ထမင်းပြု၍ စားကြရာတွင်မှ မိန်းမ ယောကျ်ားတို့သည် ဖြစ်ကြကုန်၏။ မိန်းမအား မီးလောင်မာကဲ့သို့ အဖုဖြစ်၍ ယားပြီးလျှင် ကွာ၍ကျသောကြောင့် မီးလောင်မာကဲ့သို့ ပေါ်သည်ကိုအစွဲပြု၍ **မီးမာဟူ၍** ခေါ်ကုန်ကြပြန်၏။ ကာလကြာသောအခါ **မိန်းမဟု**ခေါ်လေသည်။ ယောကျ်ားကား ယောင်းယောင်း ယားယား လုံးလုံးပေါ်သည်ကို အကြောင်းပြု၍ **ယောင်းယားဟူ၍** ခေါ်ကြကုန်၏။ ကာလကြာသောကြောင့် **ယောကျ်ားခေါ်လေသည်။** ၎င်းမီးလောင်မာ၊ ယောင်းယောင်းယားယားတို့ကို အင်္ဂါဓာတ-ခေါ်လေသည်။ အင်္ဂါဓာတ်ပေါ်သည်ကို အကြောင်းပြု၍ ထိုရက်ကို အင်္ဂါရက်ဟူ၍ခေါ်လေသည်။ အင်္ဂါဓာတ်ပေါ်ပြီးနောက် မိန်းမယောကျ်ားတို့သည် ပုထုဇာတပေါင်းဖော်ယှဉ်တွဲ မှိုဲကြသည်ကိုအကြောင်းပြု၍ ပုထု-ဟူသည်ကို ကာလကြာသောကြောင့် ဗုဒ္ဓဟူးဟူ၍ ခေါ်လေသည်။ ချစ်အပ်သောသူကို ပိယာခေါ်သည်။ ချစ်တတ်သောသူကို ပိတိခေါ်သည်။ ပိယာ-ကို မယား၊ ပိတိ-ကို လင်ဟူ၍ခေါ်သည်။ ဤသို့ မယားလင်တို့ ပေါင်းဖက်ကြသည်ကို ပညာအဆင်အခြင်နှင့် ပြည့်စုံသောသူတို့သည် မပြုကျင့်အပ်သော ဒုမင်္ဂလာအမှုကို ပြုကြကုန်သည်ဟူ၍ ယောကျ်ားအား ခဲနှင့်ပစ်၍ ဝနဃာတတောအုပ်သို့နှင်ကြလေကုန်၏။ ဝနဃာတတောအုပ်၌ နေကြသည်ကို ဃရာဝါသပြု၍နေကြကုန်သည်ဟူ၍ သမုတ်ကြကုန်၏။ ယင်းသို့ဃရာဝါသပြု၍နေကြရာ အစီးအပွားသားသမီးတို့ စည်ပင်ပြန့်ပွားလေသည်ဖြစ်၍ အလွန်ကောင်းသော သုမင်္ဂလာဟု သမုတ်ကြကုန်၏။ ဤသည်ကိုထောက်၍ အိမ်ဝဇ္ဇြံတံတိုင်းကို လက်မထိစေအပ်။ ရှောင်ကြဉ်သင့်သောသူဟူ၍ နှလုံးသွင်း၍ မိန်းမအိမ်သို့ ယောက်ကျားရောက်လာလျှင် ခဲလှင့်ကန်

တို့ဖြင့်ပစ်ကုန်၏။ ကာလရှည်လတ်သော် ယောက်ကျား တယောက်တွင် မိန်းမနှစ်ယောက် သုံးယောက် မယားကြီး မယားငယ်တို့ဖြင့် မသင့်မတင့် ဒေါသခိုက်ရန်ဖြစ်ပွား လေရာ ဆုံးမစေခြင်းငှာ မဟာပုရိသတယောက်ကို ဂုရုဆရာဟူ၍ မြှောက်ကြလေကုန်၏။ ယင်းသို့ ဆရာမြှောက်သော ဂုရုရက်ကိုအစွဲပြု၍ ဂုရု၊ ကြာသပတေးရက်ဟူ၍ ခေါ်ကြကုန်၏။ ကမ္ဘာဦးသူတို့ သည် အကျင့်သီလပျက်ပြားကြသည်ဖြစ်၍ ဆုံးမအုပ်ချုပ် မင်းလုပ်စေရန် ပညာရှိသူတယောက်ကို မင်းမြှောက်ကြ ပြီးလျှင် ဆယ်ဘို့တဘို့ပေး၍ လုပ်ကျွေးမွေးမြူသည်ကို ဘရတိဟူ၍ဆိုကြကုန်၏။ ဘရတိဟူသည်ကို ဘရဂု၊ ဘရဂုဟူသည်ကို သောက်ကြာဟူ၍ခေါ်ကြကုန်၏။ ယင်းသို့ ဆယ်ဖို့တဘို့ပေး၍ မွေးမြူအပ်သောမင်းအား ရာဇာ ဘိသေကသွန်း၍ အကြီးအကဲအရာ၌ တင်အပ် သည်ကို သောရော‌ဟူ၍ ဆိုကုန်သည်။ သောရော- ဟူသည်ကို စနေ-ဟူ၍ ခေါ်ကြလေကုန်၏။ အကြီးအကဲ တင်မြှောက်အပ်သော မဟာသမ္မတမင်းသည် အမျိုး လေးပါးကိုခြား၍ ပေးလေ၏။ အမျိုးလေးပါးဟူသော် ကား-

ခတ္တိယဝံသ၊ မင်းမျိုး။ ဗြာဟ္မဏဝံသ၊ ပုဏ္ဏားမျိုး။ ဝေသိယဝံသ၊ ကုန်သည်မျိုး။ သုဒ္ဒဝံသ၊ သူဆင်းရဲမျိုးဟူ၍ အမျိုးလေးပါး ခြားနားစွာဖြစ်သတည်း။ ကာလရှည်လျားလတ်သော် မဟာသမ္မတမင်းကြီးအား သားကြီးတကျိပ် ခြောက်ယောက်၊ သားငယ် ရှစ်ကျိပ် ငါးယောက်ဖြစ်ပွားသည်ဖြစ်၍ နှစ်ရပ်ပေါင်းသားတော် တရာ့တပါးတို့သည် အသီးသီးထီးဖြူဆောင်းခြင်း မင်းအဖြစ်သို့ ရောက်ကြလေရကား တရာ့တပါးမင်းတို့ အုပ်စိုးသော တိုင်းပြည်နေသူတို့သည်လည်း လူမျိုး တရာ့တပါးဖြစ်လေသည်ဟူ၍ ဆိုလေသည်။

## ၁၆။ လူမျိုးတရာ့တပါး ဖြစ်ပွားခြင်း အကြောင်း

ငါတို့ရခိုင်ရာဇဝင် အင်းစောက်၌ကား ကမ္ဘာဦး အခါ မဟာသမ္မတမင်းလက်ထက် အမျိုးလေးပါးဖြစ်ကုန် ၏။ အမျိုးလေးပါးဟူသည်ကား မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူဌေးမျိုး၊ သူကြွယ်မျိုး၊ ဤသို့အမျိုးလေးပါး ထင်ရှား ဖြစ်ကုန်၏။ နောင်ကာလ၌ အမျိုးရှစ်ပါးတို့ဖြစ်ပွားကုန်၏။ ရှစ်ပါးတို့ဟူသည်ကား မင်းမျိုး၊ ပုဏ္ဏားမျိုး၊ အမတ်မျိုး၊ သူဌေးမျိုး၊ သူကြွယ်မျိုး၊ ကုန်သည်မျိုး၊ လယ်လုပ်မျိုး၊ သူဆင်းရဲမျိုး၊ ဤသို့ အမျိုးရှစ်ပါး ဖြစ်ပွားကုန်၏။ နောင်ကာလရှည်လျားလတ်သော် ကမ္ဘာတို့၌ အစဉ်ဖြစ်မြဲ အတိုင်းဖြစ်သော တရာ့တပါးသောအမျိုးတို့သည် အသီးသီးဖြစ်ပွားကုန်၏။ ထိုတရာ့တပါးသော အမျိုးတို့ တွင် တယောက်တယောက်သောသူသည် အစိုးရဖြစ်လေ သောကြောင့် လူမျိုးတရာ့တပါး၊ မင်းမျိုးတရာ့တမင်း ဖြစ်လေသည်ဟူ၍၎င်း၊ ဤသို့ရေတွက်၍ပြအပ်သော အမျိုးလေးပါး၊ အမျိုးရှစ်ပါး၊ အမျိုးတရာ့တပါးတို့မှ တခြားတိုင်းကြီး၊ ပြည်ကြီးတို့၌ စဏ္ဍာလ-ဟူသော ဒွန်းစဏ္ဍားမျိုး၊ ပက္ကုသဟူသော ပန်းမှိုက်သွန်မျိုး၊ နေသာဒဟူသော တံငါမျိုး၊ လုဒ္ဒကဟူသော မုဆိုးမျိုး၊ ကန-ဟူသော ဒေါင်းရွှေသမားမျိုး၊ ရထဟူသော သားရေ နယ်သမားမျိုး၊ ဟိန္ဒူဟူသော သူညံ့မျိုးအားဖြင့် များပြား ကြောင်းကို ပါဠိတော်၊ အဋ္ဌကထာကျမ်းတို့၌ လာသည် ဟူ၍၎င်း ဆိုလေသည်။ ထိုတွင် တရာ့တပါးသော လူမျိုးတို့၏အရေအတွက်ကို မှတ်ကျက်ဆောင်ထားစိမ့် သောငှာ ရှေးဆရာတို့ မိန့်မှာစီရင်အပ်သော လင်္ကာသွားကို ရေးသားထုတ်ပြလိုက်ပေအံ့။

တရာ့တပါး၊ လူမျိုးများကို၊ စကားသာယာ၊ နိဒါန်းဖြာပိမ့်၊ မြန်မာပြလိုင်၊ ရခိုင်, ဓါးဝယ်၊ ဘရယ်, တောင်သူ၊ ပြောလူ, ကမ်းယံ၊ ခုနစ်တန်ကို၊ မြန်မာမှချ၊ ရေတွက်ဆလော။ မွန်တ မွန်ညာ၊ မွန်န မွန်သိ၊ မုတ်ဘိလေးရိုး၊ တလိုင်းမျိုးတည်း၊ သျှမ်းမျိုးခေါ်ညွန်း၊

သျှမ်း၊ ယွန်း၊ လင်းဇင်း၊ ချင်းနှင့် ကရင်၊ ကချင်၊ ကသည်း၊ မျက်နှာမည်း၊မြုံငယ်၊ ကုံငယ် ကော်ထုတ်၊ တရုတ်၊ တရက်၊ လဟက်၊ လဟောက်၊ သောက္ကတဲ၊ ဘူ၊ စနေ၊ ပြူနှင့်၊ ခေါ်ယူမှတ်ပိုက်၊ လဝိုက်၊လဝါ၊ သညာခေါ်တွင်၊ အင်ကျင်၊ အင်ကျယ်၊ တိုးနယ်ပလောင်၊ ထပ် နှောင်ဆင့်ပွား၊ ယိုးဒယားတဦး၊ ကတူးနှင့်၊ သက်၊ ရေတွက် မယိမ်း၊ ဇပိန်း၊ ဇပါ၊ များစွာပေါင်းသင်း၊ တနင်းသာရီ၊ ရေတွက်စီသော်၊ ခေါ်ညီတွင်ရိုး၊ သျှမ်းမျိုး သုံးဆယ်၊ ကုလားဝယ်ကား၊ ကလယ်၊ ပသီ၊ ဘရင်ဂျီနှင့်၊ ဇော်ဂီ၊ မာလီ၊ ဘော်ရီ၊ ဟိန္ဒူ၊ ရေဆူ၊ သောကုတ်၊ လဟုတ်၊ ဒေါရား၊ ပုဏ္ဏား၊ ဗသျှူး၊ တထူးခန္တိ၊ တပသီနှင့်၊ ဟာရီ၊ လာက၊ ဝေသာခနှင့်၊ ပဋိစ္စယာ၊ ဥစ္စယာက၊ စန္ဒ၊ စင်ကြဲ၊ သုတ္တံ၊ ဗျာပါ၊ မိစ္ဆာဆကဲ၊ ဦးပြဲ၊ အိမ်ကပ်၊ ကလပ်၊ ဒေါဏ၊ မစ္ဆ၊ ဒေါလာ၊ ဒါရက၊ ပဋ္ဋေ၊ မဋ္ဋေ၊ ခြေချုတ်၊ ဟိန္ဒုတ်၊ လဘဲ၊ သင်းတွဲ၊ သထုံ၊ မှတ်ယုံ၊ သောယာ၊ ဒေါရဏာနှင့်၊ လေဋ္ဌိကာ၊ တောဘာ၊ ပလဝါ၊ ခန္တီ၊ ကာလီ၊ ကြမ်းတန်၊ ဖဟုတန်က၊ သုတံ၊ ကလံ၊ ဇော်ဟန်နှင့်၊ မှတ်ရန်ပဏ္ဍိတ်၊ တိတ်က၊ ရေဆ၊ ဖုသ၊ ဘင်္ဂါလီ၊ ဗာရာဏသီ၊ စုံစီထိုထို၊ သိန်းနိ၊ အင်္ဂလိပ်၊ ခြောက်ကျိပ်မျိုးပြား၊ ကုလားအနွယ်၊ မှတ်ဖွယ် မှန်လှ၊ တရာ့တပါး၊ လူမျိုးများကို၊ စကားသိမ်းရုံး၊ အကျဉ်းချုံးသည်၊ နည်းထုံးစဉ်လာ နိဒါန်းတည်း။ ။ ဟူသောလင်္ကာဖြင့် မှတ်သားလေ။ (ဤသည်ကား လောကီဒိဋ္ဌာနုဂတိကျမ်း၊ ရာဇဝင်ကျမ်းမှ လာသည်ကို သိသာမှတ်ယူရန် ထုတ်ပြန်ရေးပြလိုက်သည့် အကြောင်းတည်း။)

ဤသို့ပြဆိုအပ်သော အမျိုးလေးပါး၊ အမျိုး ရှစ်ပါး၊ အမျိုးတရာ့တပါးတို့ ဖြစ်ပွားကြသောအရာသည် ကမ္ဘာဦးကဖြစ်ကြလေသည်ကို အစွဲပြု၍ ဆိုကြသောအရာ ဖြစ်သည်။ ယခုကာလ၌ကား ထိုမျှမက မရေတွက်နိုင် အောင် အမျိုးကွဲပြားဖြစ်ပွားလေပြီဟူ၍သာ မှတ်ရမည်။ အဘယ်ကြောင့် နည်းဟူမူ ခတ္တိယမျိုးမှ ငါးရှာကိုးဆယ်၊ ဗြာဟ္မဏမျိုးမှ သုံးထောင်ကျော်တို့ များလေကြောင်းနှင့် ဣန္ဒြိယရာဇဝင်ကျမ်း (၁၆၄)နံပါတ်တို့၌ဆိုသောကြောင့် တည်း။ (ဤသည်ကား စကားချပ်)။

## ၁၄။ မဟာသမ္မတမင်းတင်မြှောက်ခြင်း အကြောင်း

ဤစကားရပ်တို့တွင် မဟာသမ္မတမင်း တင်မြှောက်ခြင်းသည် ဝိဝဋ္ဋဋ္ဌာယီအသင်္ချေယျကပ်ဟု ဆိုအပ်သော တကမ္ဘာတွင် မဟာသမ္မတမင်း တကြိမ်သာ မြှောက်၍ တယောက်သာရှိသင့်ကြောင်း။ ။ ကမ္ဘာဦးမှ တင်မြှောက်အပ်သော မဟာသမ္မတမင်းမှဆင်းသက်၍ ငါတို့ဘုရားလောင်း သိဒ္ဓတ္ထမင်းသားတိုင်အောင် ဖြစ်လာ ကြောင်း။ အန္တရကပ်လည်း တကပ်သာရှိသေးကြောင်း။ တနည်းအားဖြင့် လေးကပ်သာရှိကြောင်းတို့နှင့် သက္ကရာဇ် ၁၁၉၁ ခုနှစ်၊ ရတနာပူရ စတုတ္ထမြို့တည် ဝိဇယရံသီ စေတီတော် ဒါယကာမင်းလက်ထက် ရေးသားစီရင်အပ် သော မှန်နန်းရာဇဝင်၌ဆိုလေသည်။ ယင်းသို့မှန်နန်း ရာဇဝင်၌ဆိုအပ်သည်အတိုင်း တကမ္ဘာတွင် မဟာသမ္မတ မင်းတယောက်သာ တင်မြှောက်၍ တယောက်တည်းသာ ရှိသဖြင့် အန္တရကပ်တကပ်သာရောက်သေးလျှင် ဤအန္တရ ကပ်တကပ်တွင်ပင် ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမအားဖြင့် ဘုရားလေးဆူတို့ ဆင့်ကာဆင့်ကာ ပွင့်တော်မူကြကုန်သည်ဟု ယူရလိမ့်မည်။ ယင်းသို့ယူရ လျှင် အန္တရကပ်တကပ်တွင် ဘုရားနှစ်ဆူ၊ သုံးဆူတို့ ပွင့်ရိုးမရှိ။ အန္တရကပ် တကပ်စီခြားပြီး၍ အန္တရကပ် အဆုတ်တွင်သာ တဆူတဆူစီပွင့်တော်မူနိုင်သည်ဟူ၍ သုတ်မဟာ ဝါအဋ္ဌကထာ၊ ဋီကာတို့၌ဆိုသည်နှင့် ဆန့်ကျင်လေသည်။ ထိုကြောင့် ၎င်းအဋ္ဌကထာ၌...

ဣမသ္မိံ တာဝ ကပ္ပေ ကကုသန္ဓော ဘဂဝါစတ္တာလီသ ဝဿသဟဿာယုကကာလေ

နိဗ္ဗုတ္တော။ အာယုပမာ ထံ ပဥ္စကောဋ္ဌာသေကတွာ စတ္တာရိ ဌတွာ ပဥ္စမေဝိဇ္ဇမာနေ ယေဝ ပရိနိဗ္ဗုတော။ တံအာယု ဟာယမာနံ ဒသဝဿကာလံ ပတွာ ပုနဝဍ္ဎမာနံ အသင်္ချေယျံဟုတွာ တတော ပရိဟာယမာနံ တိံသဝဿဟာယ ကာလေဋ္ဌိတံ။ တဒါ ကောဏာဂ မနော ဘဂဝါ နိဗ္ဗုတ္တော။ တသ္မိံပိ တထေဝ ပရိနိဗ္ဗုတေ တံအာယု ဒသဝဿကာလံ ပတွာ ပုန ဝဍ္ဎမာနံ အသင်္ချေယျံ ဟုတွာ ပရိဟာယိတွာ ဝီသတိဝဿသဟ ဿကာလေ ဋ္ဌိတံ။ တဒါကဿပေါ ဘဂဝါ နိဗ္ဗုတ္တော။ တသ္မိံပိ တထေဝ ပရိနိဗ္ဗုတေ တံအာယု ဒသဝဿကာလံ ပတွာပုန ဝဍ္ဎမာနံ အသင်္ချေယျံ ဟုတွာ ပရိဟာယိတွာ ဝဿ သတံကာလံပတ္တံ။ အထအမှာကံ သမ္မာသမ္ဗုဒ္ဓေါ နိဗ္ဗုတ္တော။ ဇဝံအနုပုဗ္ဗေန ပရိဟာယိတွာ ပရိဟာယိတွာ ဝဍ္ဎိတွာ ဝဍ္ဎိတွာ ပရိဟိနဿ ဝေဒိတဗ္ဗံ။ ။ ဟူ၍ ဆိုတော်မူသည်။

ဣမသ္မိံကပ္ပေ၊ ဤဘဒ္ဒကမ္ဘာ၌။ တာဝ၊ ကောဏာဂုံ စသည်တို့၏ ရှေးဦးစွာ။ ကကုသန္ဓော၊ ကကုသန်အမည်ရှိတော်မူသော။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ စတ္တာလီ သဝဿသဟဿာယုကကာလေ၊ လူတို့၏အသက် အနှစ်လေးသောင်းတမ်းကာလ၌။ နိဗ္ဗုတ္တော၊ ပွင့်တော်မူ၏။ အာယုပမာဏံ၊ အသက်တမ်းလေးသောင်းပမာဏကို။ ပဥ္စကောဋ္ဌာသေ၊ ငါးစုတို့ကို။ ကတွာ၊ ပြု၍။ စတ္တာရိ၊ လေးစု အနှစ်သုံးသောင်းနှစ်ထောင်ပတ်လုံး။ ဌတွာ၊ တည်နေတော်မူ၍။ ပဥ္စမေ၊ ငါးစုမြောက်အနှစ်ရှစ်ထောင်သည်။ ဝိဇ္ဇာမာနေယေဝ၊ ထင်ရှားရှိစဉ်ပင်လျှင်။ ပရိနိဗ္ဗုတော၊ ပရိနိဗ္ဗာန်စံယူတော်မူ၏။ တံအာယု၊ ထိုလူတို့၏အသက် လေးသောင်းတမ်းသည်။ ဟာယမာနံ၊ တဖြည်းဖြည်းဆုတ်ယုတ်လတ်၍။ ဒသဝဿကာလံ၊ လူတို့၏အသက် ဆယ်နှစ်တမ်းကာလသို့။ ပတွာ၊ ရောက်၍။ ပုန၊ တဖန်။ ဝဍ္ဎမာနံ၊ တိုးပွားလျက်။ အသင်္ချေယျံ၊ လူတို့အသက် အသင်္ချေယျတမ်းသည်။ ဟုတွာ၊ ဖြစ်၍။ တတော၊ ထိုအသက်အသင်္ချေယျတမ်းမှ။ ပရိဟာယ မာနံ၊ ဆုတ်ယုတ်လျက်။ တိံသဝဿသဟဿကာလေ၊ လူတို့၏အသက်သုံးသောင်းတမ်းကာလ၌။ ဋ္ဌိတံ၊ တည်၏။ တဒါ၊ ထိုသို့လူတို့၏အသက် သုံးသောင်းတမ်းအခါ၌။ ကောဏာဂမနော၊ ကောဏာဂုံအမည်ရှိတော်မူသော။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ နိဗ္ဗုတ္တော၊ ပွင့်တော်မူ၏။ တသ္မိံပိ၊ ထိုကောဏာဂုံအမည်ရှိတော်မူသော မြတ်စွာဘုရားသည်လည်း။ တထေဝ၊ ထိုကကုသန်မြတ်စွာဘုရားအတူသာလျှင်။ ပရိနိဗ္ဗုတေ၊ ပရိနိဗ္ဗာန် စံလွန်တော်မူသည်ရှိသော်။ တံအာယု၊ ထိုလူတို့၏ အသက်သုံးသောင်းတမ်းသည်။ ဒသဝဿကာလံ၊ လူတို့၏အသက် ဆယ်နှစ်တမ်းသို့။ ပတွာ၊ ရောက်၍။ ပုန၊ တဖန်။ ဝဍ္ဎမာနံ၊ တိုးပွားလျက်။ အသင်္ချေယျံ၊ လူတို့၏အသက် အသင်္ချေယျတမ်းသည်။ ဟုတွာ၊ ဖြစ်၍။ ပရိဟာယိတွာ၊ဆုတ်ယုတ်၍။ ဝီသတိဝဿသဟဿကာလေ၊ လူတို့၏အသက်နှစ်သောင်းတမ်းသို့ရောက်သောကာလ၌။ ဋ္ဌိတံ၊ တည်၏။ တဒါ၊ ထိုသို့လူတို့၏အသက် နှစ်သောင်းတမ်းအခါ၌။ ကဿပေါ၊ ကဿပအမည်ရှိတော်မူသော။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ နိဗ္ဗုတ္တော၊ ပွင့်တော်မူ၏။ တသ္မိံပိ၊ ထိုကဿပမြတ်စွာဘုရားသည်လည်း။ တထေဝ၊ ထိုကောဏာဂုံ မြတ်စွာဘုရား အတူသာလျှင်။ ပရိနိဗ္ဗုတော၊ ပရိနိဗ္ဗာန်စံလွန်တော်မူသည်ရှိသော်။ တံအာယု၊ ထိုလူတို့၏အသက်နှစ်သောင်းတမ်းသည်။ ဒသဝဿကာလံ၊ လူတို့၏အသက် ဆယ်နှစ်တမ်းသို့။ ပတွာ၊ ရောက်၍။ ပုန၊ တဖန်။ ဝဍ္ဎမာနံ၊ တိုးပွားလျက်။ အသင်္ချေယျံ၊ လူတို့၏အသက်အသင်္ချေယျတမ်းသည်။ ဟုတွာ၊ ဖြစ်၍။ ပရိဟာယိတွာ၊ ဆုတ်ယုတ်၍။ ဝဿသတံ၊ လူတို့၏အသက် အနှစ်တရာတမ်းဖြစ်သော။ ကာလံ၊ ကာလသို့။

ပတ္တရောက်၏။ အထ၊ ထိုသို့လူတို့၏အသက် တရာတမ်းရောက်သောကာလ၌။ အမှာက်၊ ငါတို့၏။ သမ္မာသမ္ဗုဒ္ဓေါ မြတ်စွာဘုရားသည်။ နိဗ္ဗတ္တော၊ ပွင့်တော်မူ၏။ ဧဝံ၊ ဤသို့။ အနုပုဗ္ဗေန၊ ရှေးနောက်အစဉ်ဖြင့်။ ပရိဟာယိတွာ ပရိဟာယိ တွာ၊ ဆုတ်၍ ဆုတ်၍။ ဝမိုတွာ ဝမိုတွာ၊ တဖန်ပွား၍ တဖန်ပွား၍။ ပရိဟီနံ၊ တဖန်ယုတ်ပြန်၏။ ဣတိ၊ ဤသို့။ ဝေဒိတဗ္ဗံ၊ သိအပ်၏။ ဤကားအနက်။ ။

ငင်းဋီကာ၌လည်း။ ။ နပဂိကေသွိအန္တရကပ္ပေ အနေကာ ဗုဒ္ဓါဥပ္ပဇ္ဇန္တိ၊ ကောဝေ ဥပ္ပဇ္ဇတီတိ။ ။ဟူ၍ ဆိုတော်မူသည်။ ။ ဟိ-သစ္စံ၊ ထိုသစ္စာစကားသည်မှန်၏။ ကေသွိ အန္တရကပ္ပေ၊ တခုသော အန္တရကပ်၌။ အနေကာ၊ များစွာကုန်သော။ ဗုဒ္ဓါမြတ်စွာဘုရားတို့သည်။ နဥပ္ပဇ္ဇန္တိ၊ ပွင့်တော် မမူကုန်။ ပန၊ အများမပွင့်သည်မှတပါး တဆူတည်းသာ ပွင့်တော်မူသည်ကိုဆိုဦးအံ့။ ကောဝေ၊ တဆူတည်းသာလျှင်။ ဥပ္ပဇ္ဇတိ၊ ပွင့်တော်မူ၏။ ဣတိ၊ ဤသို့။ ဝေဒိတဗ္ဗံ၊ သိအပ်၏။ ။ ဤကား အနက်။ ။

ဤသို့ ကျမ်းဂန်လာသောကြောင့် အန္တရကပ် တကပ်တွင် ဘုရားတဆူသာ ပွင့်တော်မူသည်ဟု မှတ်ရမည်။ မှန်နန်းရာဇဝင်တွင် သီလက္ခန် အဋ္ဌကထာ၌။ ပထမကပ္ပိကာနံ။ စသည်ဖြင့်။ ပထမသဒ္ဒါနှင့်ဆိုသည်ကို ထောက်၍ငင်း။ သာရတ္ထဋီကာ၌။ ဣမသ္မိံ တာဝကပ္ပေ။ စသည်ဖြင့်။ တာဝ-သဒ္ဒါနှင့်လာသည်ကိုငင်း။ ။ အာဒိပုရိသော။ စသည်ဖြင့်။ အာဒိ-သဒ္ဒါနှင့်ဆိုသည်ကို ထောက်၍ငင်း။ ဝိဝဋ္ဋဋ္ဌာယီ အစပထမအန္တရကပ်ဦး၌ မဟာသမ္မတမင်းမှဆင်းသက်၍ သိဒ္ဓတ်မင်းသား တိုင်အောင် အသင်္ချေနှစ်ထွဋ်ခေါင်မင်းမျိုးမှ ငါတို့မြတ်စွာဘုရား ဖြစ်တော်မူလာကြောင်းနှင့် ဆိုလေသည်။ ။ ပထမ-သဒ္ဒါ၊ တာဝ-သဒ္ဒါ၊ အာဒိ-သဒ္ဒါနှင့် ဆိုသည်ကို ထောက်၍ ပထမအန္တရကပ်ဦးအဆုတ်၌ ငါတို့ဘုရား ပွင့်တော်မူသည်ဟု ယူခဲ့လျှင်။ သုတ်မဟာဝါ အဋ္ဌကထာ၌။ ဣမသ္မိံ တာဝ ကပ္ပေ ကကုသန္ဓော။ စသည်ဖြင့်ငင်း။ ဓမ္မပဒ အဋ္ဌကထာ၌။ ဣမသ္မိံ ကပ္ပေ သဗ္ဗပဌမံဥပ္ပန္နံ။ စသည်ဖြင့်ငင်း။ ကကုသန်မြတ်စွာဘုရား ပွင့်တော်မူရာကာလကို ဤကမ္ဘာဦး အန္တရကပ်အဆုတ် လေးသောင်းတမ်းတွင် ပွင့်တော်မူသည်ဟု ဖွင့်ပြတော်မူရာ၌ ပထမ-သဒ္ဒါ၊ တာဝ-သဒ္ဒါတို့နှင့်ဆိုတော်မူသော ကြောင့် ပထမ အန္တရကပ်ဦးအဆုတ်တွင် ဘုရားနှစ်ဆူ ပြိုင်၍ ပွင့်တော်မူသည်ဟု ယူသင့်ရန်ရှိလေရကား သုတ်မဟာဝါ အဋ္ဌကထာစကားတို့နှင့် ဆန့်ကျင် လေသည်။ သုတ်မဟာဝါ အဋ္ဌကထာတို့နည်းကိုလိုက်၍ ပထမအန္တရကပ်ဦးအဆုတ် လေးသောင်းကမ်းတွင် ကကုသန်မြတ်စွာဘုရားပွင့်တော်မူကြောင်း။ ဒုတိယ ကပ်အဆုတ် တရာတမ်းတွင် ငါတို့ ဂေါတမ မြတ်စွာ ဘုရား ပွင့်တော်မူကြောင်းတို့နှင့် မိမိဆိုအပ်သော နောက်စကားနှင့်ပင်လည်း ဆန့်ကျင်လေသည်။ ယင်းသို့ ဆန့်ကျင်လေသည်ဖြစ်၍ ပထမ-သဒ္ဒါ၊ တာဝ-သဒ္ဒါ၊ အာဒိ-သဒ္ဒါတို့၏အနက်ကို ပထမကပ်ကို ဟောသည်ဟု မယူမူ၍ အန္တရကပ်ဦးကိုလည်း ဟောသည်ဟုယူမှ ပြဆိုလတ္တံ့သော အာဒိကပ္ပ ကမ္ဘာဦးကျမ်း၊ စဉ့်ကိုင်ဒေဝ သေဌေးသား မောင်ကုလားရေးအပ်သော မဟာရာဇဝင် ကျမ်း၊ ငါတို့ ရခိုင်ရာဇဝင်ကျမ်း၊ ရှေးနောက် အဆက်ဆက် ရေးမြွက်စီရင်ကြသော လောကီပုံပြင် ကျောက်စာသမိုင်း၊ သုတ်မဟာဝါ အဋ္ဌကထာစသော သာသနာတော်ကျမ်း တို့နှင့် ညီညွတ်ရန်ရှိပေကြောင်း။ ။

(၁၈) ငင်းစကားရပ်တို့တွင် အာဒိကပ္ပ ကမ္ဘာဦးကျမ်း (၁၄၄) နံပါတ်တွင် ကမ္ဘာဦးမဟာသမ္မတ တင်မြှောက်သည့်အခါ လူတို့သည်အသက် အသင်္ချေယျ ဟုဆိုအပ်သော နှစ်အရေအတွက် ကုဋေတသိန်းတမ်းမှ တရွေ့ရွေ့ဆုတ်ယုတ်၍ ဆယ်နှစ်တမ်းကျရောက်သော ကာလ သတ္ထန္တရကပ်၊ ရောဂန္တရကပ်၊ ဒုဗ္ဘိက္ခန္တရ ကပ်သုံးပါးတို့တွင် တပါးပါးဖြင့် သေကြေပျက်စီးကုန်၏။

တရားစောင့်သောသူတို့ကျန့်သဖြင့် ဆယ်နှစ်တမ်းမှသည် နှစ်ဆယ်တမ်း၊ လေးဆယ်တမ်း၊ ရှစ်ဆယ်တမ်း စသည်တို့ဖြင့် အသင်္ချေယျဟုဆိုအပ်သော ကုဋေတသိန်း တိုင်အောင်အတွင်း လူတို့၌ မင်းမရှိ မဖောက်မပြန် ညီညွတ်သောတရားရှိကြကုန်၏။ နောက်အတန် ကာလရှည်လျားလတ်သော် ရှေးအထက် ကပ်ဦးသူတို့ ကဲ့သို့ ဝိပရိဖောက်ပြန်၍ မညီမညွတ်သော တရားရှိကြကုန်၏။ ထိုကာလအထက် ကပ်ဦးသူများနည်းအတူ မဟာသမ္မတမင်းတပါး တင်မြှောက်ကြပြန်၏။ ။ ဤကဲ့သို့ချည်းနှင်နှင်ဆုတ်တိုးတက်တုံ အန္တရကပ် တကပ်လျှင်မဟာသမ္မတမင်းတပါး တပါးတင်မြှောက်၍ ခြောက်ဆဲ့လေးကပ်ရောက်သောအခါ မဟာသမ္မတမင်းပေါင်း ခြောက်ကျိပ်လေးယောက်ဖြစ်ကုန်၏ဟူ၍ငြင်း။ ။ (၁၄၆)နံပါတ်တွင် ဝိဝဋ္ဋဋ္ဌာယီကပ်ကြီးအတွင်း အန္တရကပ်ငယ်ရှစ်ကပ်တွင် ကပ္ပပုညရာသီနတ်သည် လူသုံးဦးတို့၏ အမှူးဖြစ်၏။ ကပ္ပပုညရာသီနတ်ဆိုသည်ကား ကကုသန်ဘုရားပွင့်တော်မူ၏ဆိုသည်။ အန္တရကပ်ကိုးကပ်တွင် ဂဝယာနနတ်သည် လူသုံးဦးတို့၏ အမှူးဖြစ်၏။ ဂဝယာနနတ်ဆိုသည်ကား ကောဏာဂုံဘုရားပွင့်တော်မူ၏ဟုဆိုသည်။ အန္တရကပ် ဆယ်ကပ်တွင် ကဿာကြိုက်နတ်သည် လူသုံးဦးတို့၏ အမှူးဖြစ်၏။ ကဿာကြိုက်နတ်ဆိုသည်ကား ကဿပဘုရား ပွင့်တော်မူ၏ဟုဆိုသည်။ အန္တရကပ်တဆဲ့တကပ်တွင် ဂေါတရစာနတ်သည် လူသုံးဦးတို့၏အမှူးဖြစ်၏။ ဂေါတရစာနတ်ဆိုသည်ကား ဂေါတမဘုရားပွင့်တော်မူ၏ဟုဆိုသည်။ အန္တရကပ် ခြောက်ဆဲ့လေးကပ်အနက်တွင် အဋ္ဌမကပ်၊ နဝမကပ်၊ ဒသမကပ်၊ ဧကာဒသမကပ်၊ ဒွါဒသမကပ် ဤငါးကပ်တို့၌သာလျှင် ဘုရားပွင့်မြဲ ဓမ္မတာအားဖြင့်ဖြစ်၏ဟူ၍ငြင်း။ ။ (၁၆၃) နံပါတ်တွင် ဝိဝဋ္ဋဋ္ဌာယီအသင်္ချေယျကပ်၌ အန္တရကပ်ပေါင်း ခြောက်ဆဲ့လေးကပ်တို့တွင် ပထမအန္တရကပ်ဦးမှစ၍ လ,နေတို့၌ အရုပ်အဆင်းသဏ္ဍာန် ထင်ကြောင်းနှင့်ပြဆိုရာ။ (၁) ဝိဝဋ္ဋ ဌာယီ အသင်္ချေယျကပ်ဦးအစ ပထမအန္တရကပ်မှာ လဝန်းနှင့်ဆင်ရုပ်သဏ္ဌာန်ထင်၏။ (၂) ဒုတိယအန္တရကပ်မှာ လဝန်း၌ မြင်းရုပ်သဏ္ဌာန် ထင်၏။ (၃) တတိယအန္တရကပ်မှာ လဝန်း၌ နွားရုပ်သဏ္ဌာန်ထင်၏။ (၄) စတုတ္ထအန္တရကပ်မှာ လဝန်း၌ ကျွဲရုပ်သဏ္ဌာန်ထင်၏။ (၅) ပဥ္စမအန္တရကပ်မှာ လဝန်း၌ သမင်ရုပ်သဏ္ဌာန်ထင်၏။ (၆) ဆဋ္ဌမအန္တရကပ်မှာ လဝန်း၌ ဆိုင်ရုပ်သဏ္ဌာန်ထင်၏။ (၇) သတ္တမအန္တရကပ်မှာ လဝန်း၌ကုလားအုတ်သဏ္ဌာန်ထင်၏။ (၈) အဋ္ဌမအန္တရကပ်မှာ လဝန်း၌ ခွေးရုပ်သဏ္ဌာန်ထင်၏။ (၉) နဝမအန္တရကပ်မှာ လဝန်း၌ ကျားရုပ်သဏ္ဌာန် ထင်၏။ (၁၀) ဒသမအန္တရကပ်မှာ လဝန်း၌ ဝက်ရုပ်သဏ္ဌာန် ထင်၏။ (၁၁) ဧကာဒသမအန္တရကပ်မှာ လဝန်း၌ ယုန်ရုပ်သဏ္ဌာန် ထင်၏။ (၁၂) ဒွါဒသမအန္တရကပ်မှာ လဝန်း၌ သင်္ဘောချူးရုပ်သဏ္ဌာန် ထင်၏။ (၁၃) တေရသမန္တရကပ်မှာ လဝန်း၌ ခြသေ့ရုပ်သဏ္ဌာန် ထင်၏။ (၁၄) စုဒ္ဒသမ အန္တရကပ်မှာ လဝန်း၌ကြွက်ရုပ်သဏ္ဌာန် ထင်၏။ (၁၅) ပန္နရသမအန္တရကပ်မှာ လဝန်း၌ ဆိတ်ရုပ်သဏ္ဌာန်ထင်၏။ (၁၆) သောဠသမ အန္တရကပ်မှာ လဝန်း၌မျောက်ရုပ်သဏ္ဌာန်ထင်၏။ (၁၇) သတ္တရသန္တရကပ်မှာ လဝန်း၌ ကြံ့ရုပ်သဏ္ဌာန်ထင်၏။ (၁၈) အဋ္ဌာရသမအန္တရကပ်မှာ လဝန်း၌လားရုပ်သဏ္ဌာန် ထင်၏။ (၁၉) ဧကူနဝီသတိအန္တရကပ်မှာ လဝန်း၌ နွားနောက်ရုပ်သဏ္ဌာန်ထင်၏။ (၂၀) ဝီသတိအန္တရကပ်မှာ လဝန်း၌ ဝံရွှေရုပ်သဏ္ဌာန်ထင်၏။ (၂၁) ဧကဝီသ အန္တရကပ်မှာ လဝန်း၌လူရုပ်သဏ္ဌာန်ထင်၏။ (၂၂) ဒွါဝီသအန္တရကပ်မှာ လဝန်း၌ ကြက်ရုပ်သဏ္ဌာန်ထင်၏။ (၂၃) တေဝီသအန္တရကပ်မှာ လဝန်း၌ ဟင်္သာရုပ်သဏ္ဌာန် ထင်၏။ (၂၄) စတုဝီသအန္တရကပ်မှာ လဝန်း၌ ငှက်ဝန်ပိုရုပ်သဏ္ဌာန်ထင်၏။ (၂၅)ပဥ္စဝီသအန္တရကပ်မှာ လဝန်း၌

ဥဒေါင်းရုပ်သဏ္ဌာန်ထင်၏။ (၂၆) ဆဗီသအန္တရကပ်မှာ လဝန်း၌ ကြိုးကြာငှက်ရုပ်သဏ္ဌာန် ထင်၏။ (၂၇) သတ္တဗီသအန္တရကပ်မှာ လဝန်း၌ငှက်တော် အမြီးနှစ်ခွရုပ် သဏ္ဌာန်ထင်၏။ (၂၈) အဋ္ဌဗီသအန္တရကပ်မှာ လဝန်း၌ သာလိကာ ငှက်ရုပ်သဏ္ဌာန်ထင်၏။ (၂၉) ဧကူနတိံ သအန္တရကပ်မှာ လဝန်း၌ *တင်ကျီးငှက်ရုပ်သဏ္ဌာန် ထင်၏။ (၃၀) တိံသအန္တရကပ်မှာ လဝန်း၌ ဂဠုန်ရုပ် သဏ္ဌာန်ထင်၏။ (၃၁) ဧကတိံသအန္တရကပ်မှာ လဝန်း၌ ခါငှက်ရုပ်သဏ္ဌာန်ထင်၏။ (၃၂) ဒွတ္တိံသ အန္တရကပ်မှာ လဝန်း၌ ကျေးငှက်ရုပ်သဏ္ဌာန်ထင်၏။ (၃၃) တေတ္တိံသ အန္တရကပ်မှာ လဝန်း၌ဘီလူးရုပ်သဏ္ဌာန် ထင်၏။ (၃၄) စတုတိံသအန္တရကပ်မှာ လဝန်း၌ လင်းတရုပ်သဏ္ဌာန် ထင်၏။ (၃၅) ပဉ္စတိံသအန္တရကပ်မှာ လဝန်း၌ ငှက်ဆင်ရုပ်သဏ္ဌာန်ထင်၏။ (၃၆) ဆတ္တိံသအန္တရကပ်မှာ လဝန်း၌ဖျိုင်းလည်ပြန်ရုပ်သဏ္ဌာန် ထင်၏။ (၃၇) သတ္တတိံသအန္တရကပ်မှာ လဝန်း၌ သိမ်းတောင်ပံရုပ် သဏ္ဌာန်ထင်၏။ (၃၈) အဋ္ဌတိံသအန္တရကပ်မှာ လဝန်း၌ တိန်ညင်ရုပ်သဏ္ဌာန်ထင်၏။ (၃၉) ဧကူန စတ္တာလီသ အန္တရကပ်မှာ လဝန်း၌ မြစ်တွေးစင်ရော်ငှက်ရုပ် သဏ္ဌာန် ထင်၏။ (၄၀) စတ္တာလီသအန္တရကပ်မှာ လဝန်း၌ ကျီးငှက်ရုပ်သဏ္ဌာန်ထင်၏။ (၄၁) ဧက စတ္တာလီသ အန္တရကပ်မှာ လဝန်း၌ ငါးကြင်းရုပ်သဏ္ဌာန် ထင်၏။ (၄၂) ဒွါစတ္တာလီသအန္တရကပ်မှာ လဝန်း၌ ခရုကဲ့သို့ ခွေလျက်သဏ္ဌာန်ထင်၏။ (၄၃) တေစတ္တာလီသ အန္တရကပ်မှာ လဝန်း၌ မိကျောင်းရုပ်သဏ္ဌာန်ထင်၏။ (၄၄) စတုစတ္တာလီသအန္တရကပ်မှာ လဝန်း၌ လိပ်ရုပ် သဏ္ဌာန်ထင်၏။ (၄၅) ပဉ္စစတ္တာလီသအန္တရကပ်မှာ လဝန်း၌ ဂဏန်းရုပ်သဏ္ဌာန်ထင်၏။ (၄၆) ဆစတ္တာလီသ အန္တရကပ်မှာ လဝန်း၌ ငါးဆင်ရုပ်သဏ္ဌာန်ထင်၏။ (၄၈) အဋ္ဌစတ္တာလီသအန္တရကပ်မှာ လဝန်း၌ မေန်းရုပ်သဏ္ဌာန် ထင်၏။ (၄၉) ဧကူလပညာလ အန္တရကပ်မှာ လဝန်း၌ ပုစွန်တုပ်ကွေးရုပ်သဏ္ဌာန်ထင်၏။ (၅၀) ပညာသအန္တရ ကပ်မှာ လဝန်း၌ လင်းပိုင်ရုပ်သဏ္ဌာန်ထင်၏။ (၅၁) ဧကပညာသအန္တရကပ်မှာ လဝန်း၌ ဖားရုပ်သဏ္ဌာန် ထင်၏။ (၅၂) ဒွေပညာသအန္တရကပ်မှာ လဝန်း၌ ဘီလုံးငှက်သဏ္ဌာန်ထင်၏။ (၅၃) တေပညာသအန္တရ ကပ်မှာ လဝန်း၌ငါးကြင်းပွတ်ရုပ် သဏ္ဌာန်ထင်၏။ (၅၄) စတုပညာသ အန္တရကပ်မှာ လဝန်း၌ နဂါးရုပ် သဏ္ဌာန် ထင်၏။ (၅၅) ပဉ္စပညာသ အန္တရကပ်မှာ လဝန်း၌ သားမြီးယပ်သဏ္ဌာန် ထင်၏။ (၅၆) ဆပညာသ အန္တရကပ်မှာ လဝန်း၌ သင်းကျစ်သဏ္ဌာန်ထင်၏။ (၅၇) သတ္တပညာသအန္တရကပ်မှာ လဝန်း၌ ရေအိုင် သဏ္ဌာန်ထင်၏။ (၅၈) အဋ္ဌပညာသ အန္တရကပ်မှာ လဝန်း၌ ဖလားခွက်သဏ္ဌာန်ထင်၏။ (၅၉) ဧကူနသဋ္ဌိ အန္တရကပ်မှာ လဝန်း၌ အုန်းပင်ကဲ့သို့ သဏ္ဌာန်ထင်၏။ (၆၀) သဋ္ဌိအန္တရကပ်မှာ လဝန်း၌ တောင်ဝှေးသဏ္ဌာန် ထင်၏။ (၆၁) ဧကသဋ္ဌိ အန္တရကပ်မှာ လဝန်း၌ မိန္ဓုထိုး သကဲ့သို့ သဏ္ဌာန်ထင်၏။ (၆၂) ဒွါသဋ္ဌိအန္တရကပ်မှာ လဝန်း၌ အကွက်သုံးခုဆိုင်လျက် ပတ္တမြားခုံလောက်ကဲ့သို့ တွတ်တွတ်နီ၍ သုံးခုသဏ္ဌာန် ထင်၏။ (၆၃) တေသဋ္ဌိ အန္တရကပ်မှာ လဝန်း၌ တံခွန်ကြက်လျှာ သဏ္ဌာန်ထင်၏။ (၆၄) စတုသဋ္ဌိ အန္တရကပ်မှာ လဝန်း၌ နှစ်စင်းပြိုင်သော ထီးဖြူသဏ္ဌာန်ထင်၏။ ဤသို့ အန္တရကပ် ခြောက်ဆဲ့ လေးကပ်မှာ လဝန်း၌ အစဉ်အတိုင်း အစမှအဆုံးထိ အသီးအသီးအရုပ် အဆင်းအရေးအကြောင်းတို့ ထင်မြင် ကုန်၏။ နေဝန်းမှာလည်း လဝန်းတံဆိပ်အရေး အကြောင်း အတူပင်လျှင် ထင်မြင်ကုန်၏။

ယင်းသို့ထင်မြင်ရာတွင် နေဝန်းမှာ လဝန်း၌ထင် သော ခြောက်ဆဲ့လေးခု တံဆိပ်အရေးအကြောင်းတို့တွင် တဆဲ့ငါးခုမြောက် ဆိတ်ရုပ်မှစ၍ တဆဲ့လေးခု မြောက် ကြွက်ရုပ်အဆုံးရှိ ခြောက်ဆဲ့လေးခုသော အန္တရကပ်တို့၌

* တင်းကျိတ်ငှက်ဟုခေါ်သည်

အစဉ်အတိုင်း ထင်ကုန်၏ဟူ၍၎င်း။ ။ (၁၈၅)နံပါတ်တွင် ဝိဝဋ္ဋကပ္ပ ဟူသော အသင်္ချေယျ ကပ်ဦး နေလ တို့ပေါ်သည်မှစ၍ ယခုအန္တရကပ် တဆဲ့တကပ်ရှိလေသည်။ ၎င်းတဆဲ့တကပ်အတွင်း တဆဲ့နှစ်ပါးမိုလ် ရေဝတီနက္ခတ်နှင့် ယှဉ်လျက် သုံးယုတ်ခဲ့သည်မှာလည်း အကြိမ်ကုဋေပေါင်း ကိုးရာ့ကိုးဆယ်ကျော်ရှိလေပြီ။ အတိတ်အန္တရကပ် တဆဲ့တကပ်၊ အနာဂတ် အန္တရကပ် ငါးဆဲ့သုံးကပ်ဖြစ်၏။

(၁၉) အာဒိကပ္ပကျမ်းကို ရှေးဦးပထမက မဟာသမ္မတမင်းလက်ထက် ၎င်းမင်း၏တူတော်၊ လောကာဘိနဝိဒ္ဓရသေ့ ဟောတော်မူသည်

၁။ ဒုတိယမဟာသမ္မတမင်း လက်ထက် ဝေဟာသဒိဗ္ဗရသေ့ ဟောတော်မူသည်။ ၂။ တတိယ မဟာသမ္မတမင်းလက်ထက် သူရိယဝိသာရဒရသေ့ ဟောတော်မူသည်။ ၃။ စတုတ္ထမဟာသမ္မတမင်း လက်ထက် လောကဝိဒ္ဓရသေ့ဟောတော်မူသည်။ ၄။ ပဉ္စမ မဟာသမ္မတမင်းထက် ဝရသိဒ္ဓိရသေ့ ဟောတော်မူသည်။ ၅။ ဆဋ္ဌမ မဟာသမ္မတ မင်းလက်ထက် သုဘာသိတရသေ့ဟောတော်မူသည်။ ၇။ အဋ္ဌမမဟာသမ္မတ မင်းလက်ထက် ပုညအမိတရသေ့ ဟောတော်မူသည်။ ၈။ နဝမ မဟာသမ္မတမင်းလက်ထက် ပတိရူပရသေ့ ဟောတော်မူသည်။ ၉။ ဒသမ မဟာသမ္မတမင်း လက်ထက် ရသကိတ္တိရသေ့၊ ဟောတော်မူသည်။ ၁၀။ ဧကာဒသမ မဟာသမ္မတမင်း လက်ထက် မဟာယဝန ရသေ့၊ ဝရပဟာမိရသေ့နှစ်ပါးတို့ ဟောတော်မူကုန်သည်။ ၁၁။ ဟောခဲ့ကြသည့်အတိုင်း အရာရာကေန်မုချမှန် ကြောင်းကို နေလတို့၏တံဆိပ် ထင်မြင်သည်ကိုကြည့်၍ သိလေဟူ၍၎င်း ဆိုလေသည်။ ယင်းသို့ဆိုသည့် အတိုင်း အန္တယကပ် တဆဲ့တကပ်မြောက် ယခုအခါတွင် နေဝန်း၌ ဥဒေါင်းရုပ်၊ လဝန်း၌ ယုန်ရုပ်ရှိကြောင်းနှင့် အပေါင်းများ စွာ သူငါကစ ပြောဟောကြသည်နှင့်ညီမျှ၏ဟု ယူသင့် သည်။

(၂၀) သက္ကရာဇ် ၁၀၇၆-ခုတွင် နန်းတက်သော လောကမာရ်အောင် ဘုရားဒါယကာ တနင်္ဂနွေမင်း လက်ထက် စဋ္ဌကိုင်ဒေဝ သူဌေးသား စီရင်အပ်သော မဟာရာဇဝင်၌လည်း။ ပထမမဟာသမ္မတမင်း တင်မြှောက်ပြီးနောက် တိုင်းခရိုင် ထီးဆောင်းမင်းပေါင်း ခြောက်သောင်း သုံးထောင်ပွားများကြောင်း

ဒုတိယမဟာသမ္မတမင်း တင်မြှောက်သည် နောက် တိုင်းခရိုင်ထီးဆောင်းမင်းပေါင်း ခြောက်သောင်း သုံးထောင်ပွားများကြောင်း။ တတိယ သမ္မတမင်း တင်မြှောက်သည့်နောက် တိုင်းခရိုင်ထီးဆောင်း မင်းပေါင်း ၎င်းနည်းတူပွားများကြောင်း။ စတုတ္ထ မဟာသမ္မတမင်း နောက် တိုင်းခရိုင်ထီးဆောင်းမင်းပေါင်း ရှစ်သောင်း လေးထောင်ပွားများကြောင်း။ ပဉ္စမမဟာ သမ္မတမင်း။ ဆဋ္ဌမ မဟာသမ္မတမင်းနောက် ရှစ်သောင်းလေးထောင်။ သတ္တမ မဟာသမ္မတမင်း အဋ္ဌမမဟာသမ္မတမင်း၊ နဝမ မဟာသမ္မတမင်း၊ ဒသမ မဟာသမ္မတ မင်းတို့နောက် လေးသောင်းလေးထောင်ပွားများကြောင်း။ ။ ဧကာဒသမ မဟာသမ္မတမင်းနောက် တသိန်းရှစ်သောင်း ကိုးထောင် သော တိုင်းခရိုင်ထီးဆောင်းမင်း အပေါင်းပွားများလေ ကြောင်းနှင့် ဆိုလေသည်။ ၎င်းစကားရပ်များကို ယုတ္တိ ယုတ္တာဆောင်၍ မှန်နန်းရာဇဝင်က ပယ်လေသည်။ ယင်းသို့ပယ်သော်လည်း အန္တရကပ်ပေါင်း တဆဲ့တကပ် ရောက်၍ သမ္မတမင်းတဆဲ့ တကြိမ်မြောက်ဖြစ်ကြောင်းကို ကျမ်းဂန်၊ ရာဇဝင်၊ ပုံပြင်၊ ကျောက်စာ၊ အလင်္ကာတို့၌ မိန့်မှာစီရင်ကြသော ဆရာတို့သည် များစွာရှိကြလေသည်။

(၂၁) ရှိဟန်ကား သက္ကရာဇ် ၁၁၇၃-ခုနှစ်၊ မုံရွေးဆရာတော်စီရင်အပ်သော သမန္တစက္ခုဒီပနီကျမ်း ဒုတိယတွဲ (၂၀၃)နံပါတ်တွင် ယခု ငါတို့ဘုရားပွင့်တော်မူ သောကာလသည် တဆဲ့တကပ်မြောက်သော အန္တရကပ် အဆုံးများတွင် ပွင့်တော်မူသည်ဟူ၍ဆိုလေသည်။

(၂၂) သက္ကရာဇ် ၁၁၉၅-ခုနှစ်တွင် ရာဇဝင်ကြီးမှ ထုတ်နုတ်စီရင်အပ်သော ငါတို့ရခိုင်ရာဇဝင် ''အင်းစောက်'' ''ဃ''ချပ်၌ ကမ္ဘာ၏အသက်ဖြစ်သော သံဝဋ္ဋ၊ သံဝဋ္ဋဋ္ဌာယီ၊ ဝိဝဋ္ဋ၊ ဝိဝဋ္ဋဋ္ဌာယီဟူ၍ ကမ္ဘာ၏ အသက်ကပ်ကြီး လေးကပ်တည်း။ ထိုကပ်ကြီးလေးကပ်တို့တွင် တကပ်တကပ်၌ အန္တရကပ်ငယ်သည် ခြောက်ဆဲ့လေးကပ်စီရှိသည်ဖြစ်၍ ဝိဝဋ္ဋဋ္ဌာယီကပ်၏အသက် ခြောက်ဆဲ့လေးကပ်တို့တွင် အစအဦး၌ မဟာသမ္မတမင်းတယောက်တယောက်စီဖြစ်၏ဟူ၍ ကျမ်းဂန်လာသော ကြောင့် ယခုကောဒသမ တဆဲ့တကပ်မြောက် အန္တရကပ်၏ အစအဦး၌ဖြစ်သော မဟာသမ္မတမင်းမှစ၍ မဟာဝံသမင်းတို့၏ အနွယ်အဆက်တို့ကို မဟာဝင်၊ ဒီပဝင်ကျမ်းတို့၌လာသည်အတိုင်း အင်းစောက်၊ ကောက်နုတ်စီရင် ရေးသားပေလတ္တံ့ဟူ၍ ဆိုလေသည်။

(၂၃) သက္ကရာဇ် ၁၂၁၂-ခုနှစ်၊ ရမ်းပြည့်မြို့ဝန် ကျော်ထင်ရာဇာ၏အမှုထမ်း ဦးစံတင်ရေးသားအပ်သော ငါတို့ ရခိုင်ရာဇဝင်လင်္ကာ''ကာ''ချပ်၌။ ။ တကမ္ဘာတွင်၊ မဟာသမ္မတ၊ တွက်ဆရေပြု၊ စတုသဋ္ဌိ၊ သချာရှိသည်၊ ခတ္တိယမျိုး၊ တန်ခိုးထွန်းလျှံ၊ ရွှေနန်းစံတွင်၊ အသင်္ချေ့၊ သမ္မတရာဇာ၊ ကောဒသ၊ ဆဲ့တစ်ကျသော်၊ ဘုရားအလောင်း၊ ကျော်သောင်းပေါက်ပြ၊ ထွန်းနေလသို့၊ သမ္မတရာဇာ၊ မင်းမြတ်စွာလျှင်၊ သတ္တဝါလူပေါင်း၊ ချမ်းသာကြောင်းကို၊ သောင်းဓမ္မူဒိပ်၊ မြင့်ရိုပ်တွင်၊ တံဆိပ်ကျက်သရေ၊ ရွှေနန်းနေလျက်ဟူ၍ စပ်ဆိုလေသည်။

(၂၄) သက္ကရာဇ် ၁၁၆၄-ခုနှစ်၊ ဘိုးတော်ကောင်းမှု စန္ဒာမုနိဘုရား ကျောက်စာ နံပါတ် ၃၆ ၌။ လေးအသင်္ချေ၊ ရေတသိန်းသား၊ ကပ်ကိန်းမဟာ၊ ဆဲ့တခါ၌၊ သစ္စာမှုံရင်၊ ပွင့်တော်မူသော၊ နှစ်ကျိပ် သုံးဆူ၊ ဘုန်းတူမြတ်ဖျား၊ နောင်တော်များ၏။ ညီပွားညီစစ်၊ ညီတော်ချစ် ဖြစ်တော်မူထသော။ အန္တရကပ်၊ ဆဲ့နှစ်ထပ်၌၊ အရပ်သုံးဆူ သုံးပါးလူကို၊ ဆယ်ယူမဂ္ဂင်၊ နိဗ္ဗာန်လွှင်သို့၊ အသချေချေ၊ လွန်လေကုန်ငြား၊ ဘုရားတို့နှယ်၊ ပို့အံ့ရွယ်သား၊ ဘုန်းကြွယ်ရှင်နည်း၊ မိတ္တည်းမြတ်စစ်၊ နောင်တော်ချစ်လည်း ဖြစ်ထသောဟူ၍ဆိုလေသည်။ ဤကျောက်စာ၌ အန္တရကပ်တဆဲ့နှစ်ကပ်တွင် ပွင့်တော်မူလတ္တံ့သော အရိမေတ္တယျမြတ်စွာဘုရား၏ နောင်တော်ဟုဆိုသဖြင့် ငါတို့ မြတ်စွာဘုရား အစ်ကိုတော်သည် အန္တရကပ် တဆဲ့တကပ်မြောက်တွင် ပွင့်တော်မူသည်ဟုဆိုလိုသည်။

(၂၅) စွယ်စုံကျော်ထင် အဖြေကျမ်း၊ ပထမတွဲ၊ ၇၈ နံပါတ်တွင် ကောဒသမမြောက်သော မဟာသမ္မတမင်းမှစ၍ ဥက္ကာကရာဇ်မင်းတိုင်အောင် မင်းပေါင်းနှစ်သိန်းငါးသောင်း နှစ်ထောင့်ငါးရာငါးကျိပ်ခြောက်ဆက်။ ထိုဥက္ကာ ကရာဇ်မင်း၏သားတော် ကပိလဝတ်ပြည်တည် ဥက္ကာမုခမင်းမှစ၍ ဘုရားခမည်းတော် သုဒ္ဓေါဒနတိုင်အောင် မင်းဆက်ပေါင်း ရှစ်သောင်းနှစ်ထောင် တကျိပ်သုံးဆက် နှစ်စုပေါင်း သုံးသိန်းသုံးသောင်း လေးထောင့်ငါးရာ ခြောက်ဆဲ့ကိုးဆက်တွင် ငါတို့ သိဒ္ဓတ်မင်းသားဘုရားပွင့်တော်မူသည်ဟူ၍ရင်း။ ။ ၃၈၇ နံပါတ်တွင်။ ဘဒ္ဒကပ်မည်သော ဤကမ္ဘာ၌ နေလ ပေါ်သည်မှစ၍နောက်ကမ္ဘာပျက်မိုး ရွာသည်တိုင်အောင်သော ကာလသည် ဝိဝဋ္ဋ ဌာယီမည်သော အသင်္ချေယျကပ်တခုမည်၏။ ထိုဝိဝဋ္ဋ ဌာယီမည်သော ဘဒ္ဒကပ်၌ အန္တရကပ်ခြောက်ဆဲ့လေးကပ်ရှိသည်။ ယခုမူကား တဆဲ့တကပ်မျှသာ လွန်သေးသည်။ လွန်ကြောင်းကား အန္တရကပ် ရှစ်ကပ်မြောက်တွင် ကကုသန်ဘုရားပွင့်တော်မူသည်။ ကိုးကပ်မြောက်တွင် ကောဏာဂုံဘုရားပွင့်တော်မူသည်။ ဆယ်ကပ်မြောက်တွင် ဂေါတမဘုရားပွင့်တော်မူသည်ဟု ဒီပဝင်ကျမ်းတို့၌လာသောကြောင့် တဆဲ့တကပ်လွန်ကြောင်းကို သိသာသည်ဟု ဖြေဆိုလေသည်။

(၂၆) ကျပင်းဘုန်းတော်ကြီး တရားစာရှင်ပြုတရားတွင် တခုတခုသော အသင်္ချေယျကပ်၌ အန္တရကပ်ငယ်သည် ခြောက်ဆဲ့လေးကပ်စီရှိသတည်း။ ထိုအန္တရကပ်တို့၏အစ၌ သမ္မတတဆူကနက်ထူ၍ ဇမ္ဗူကျွန်းလုံး စိုးမြဲတည်းဟူ၍ငင်း။ ။ ယခုခေတ်ကာလသည် ဆဲ့တကပ်ကျသောအဖြစ်ဖြင့် တကျိပ်တမင်းမူသော ဥဏ္ဏဂူအစ သမ္မတအလောင်းတော်၏ သားတော်မြေးတော်မြစ်တော်ကာစ ရောဇ၊ ဝရရောဇ၊ ကလျာဏ၊ ဝရကလျာဏ စသည်ဖြင့်ဖြစ်ကြ လေသည်ဟူ၍ငင်းစပ်ဆိုရေးသားလေသည်။

(၂၇) လယ်တီဆရာတော်စီရင်အပ်သော ပရမတ္ထ ဒီပနီဋီကာ၌လည်း ရှေးကပြဆိုခဲ့သည့်အတိုင်း အန္တရကပ်တကပ်တွင် သမ္မတမင်းတဦးတဦး တင်မြှောက်၍ ယခုရောက်ဆဲကပ်ကို တဆဲ့တကပ်မြောက်ဖြစ်သော အန္တရကပ်ဖြစ်ကြောင်းနှင့်ဆိုပြီးလျှင် တကမ္ဘာတွင် မဟာသမ္မတမင်း တယောက်သာရှိသည်ဟုဆိုသော မှန်နန်းရာဇဝင်ဆရာများကို ကေစိဝါဒသမားဟူ၍ ရေးသားပြဆိုလေသည်။ ဤသို့ ရေးသားပြဆို အပ်သော ကျမ်းဂန်၊ ရာဇဝင်၊ ပုံပြင်ကျောက်စာ၊ အလင်္ကာတို့၌ မိန့်မှာချက်အရကို ထောက်ဆစာနာလျှင် တကမ္ဘာတွင် မဟာသမ္မတမင်း တဦးမက အန္တရကပ် ခြောက်ဆဲ့လေးကပ်အလိုက် ခြောက်ဆဲ့လေးယောက်ပင် မြှောက်တင်သည်ဟု မှတ်ရမည်။

(၂၈) ၎င်းပြင် ကမ္ဘာဦးက တင်မြှောက်အပ်သော မဟာသမ္မတမင်းမှသက်ဆင်း၍ သားတော်ရာဇာ၊ မြေးတော် ဝရရာဇစသည်ဖြင့် ပွားများဖြစ်ထွန်းလေကြောင်းနှင့် မှန်နန်းရာဇဝင်၊ ၁၉ နံပါတ်၌ဆိုသည်။ ။ ပြဆိုအပ်ခဲ့ပြီးသော ကျမ်းဂန်ရာဇဝင်၊ ပုံပြင်ကျောက်စာတို့၌ ၎င်း။ ဝိသုဒ္ဓိမဂ်အဋ္ဌကထာတို့၌၎င်း မလာမရှိ။ မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သူဌေးမျိုး၊ သူဆင်းရဲမျိုးတို့ ဖြစ်ပွားကြောင်း မျှသာဆိုလေသည်။ သီလက္ခန်အဋ္ဌကထာ၊ အမ္ဗဋ္ဌသုတ်အဖွင့် ၎င်းဋီကာတို့၌သာလျှင်။ ပဌမ ကပ္ပိကာနံကိရ ရညော မဟာသမ္မတဿ ရောဇောနာမ ပုတ္တော အဟောသိ။ ။ စသည်ဖြင့် သားတော်ရောဇ၊ မြေးတော် ဝရရောဇ စသည်တို့ ဆင်းသက်ဖြစ်ထွန်းလေကြောင်းနှင့် ဆိုသည်။ ။ ယင်းသို့ သီလက္ခန်အဋ္ဌကထာ၌ ပြဆိုအပ်သော မဟာသမ္မတမင်းကို ကမ္ဘာဦးမဟာသမ္မတမင်းဖြစ်သည်အယူဖြင့်ဆိုလေသော အရာသာဖြစ်သည်။ သီလက္ခန်အဋ္ဌကထာ၌ပြဆိုအပ်သော မဟာသမ္မတမင်းသည် အန္တရကပ် တဆဲ့တကပ်မြောက် ကပ်ဦး မဟာသမ္မတမင်းသာဖြစ်သည်ဟုယူမှ ရှေး၌ပြဆိုအပ်သော ကျမ်းဂန်ရာဇဝင်၊ ပုံပြင်ကျောက်စာများနှင့် ညီရာသည်။

ထို့ပြင် ကမ္ဘာတည်ဦး မဟာသမ္မတမင်းမှစ၍ ဆင်းသက်ဖြစ်ပွားသော အမျိုးလေးပါးသည်ပင် အသက်တမ်း ယုတ်လျော့၍ ဆယ်နှစ်တမ်းတိုင်လျှင် အန္တရကပ်ဖျက်ဆီးသည်။ တဖန် ထိုအမျိုးလေးပါးသည်ပင် အသက်တမ်းတက်ပွားပြန်၍ အသက်အသင်္ချေနေသည်။ ထိုဖြစ်ရင်း အမျိုးလေးပါးသည် ကမ္ဘာကြေသည် တိုင်အောင် ဆက်လက်တည်နေကြသည်ဖြစ်၍ တက်ကပ်မှာ မင်းမရှိ မဆိုသာဟူ၍ မှန်နန်းရာဇဝင် ၅၁ နံပါတ်၌ ဆိုသည်။ ယင်းသို့ဆိုရာ၌ အန္တရကပ်ပျက်စီး၍ သေကြေပျက်စီးသည်တွင် မဆိုနိုင်ဦး။ ဝိဋူဍဘဖျက်ဆီး၍ သာကီဝင်မင်းမျိုး ပျက်စီးကြောင်းကို ဓမ္မပဒအဋ္ဌကထာ ပထမအုပ် ၂၈၁ နံပါတ်၌။ ။ ဇဝံသာကီယဝံသော ဝိဋူဍဘေန ဥပစ္ဆိန္နော။ ဇဝံ၊ ဤသို့။ သာကီယဝံသော၊ သာကီဝင်မင်း၏ အမျိုးသည်။ ဝဋူဍဘေန၊ ဝိဋူဍဘမင်းကြောင့်။ ဥပစ္ဆိန္နော၊ ပျက်စီးလေ၏။ ဟူ၍ဆိုလေသည်။ ငါတို့ ရခိုင်ရာဇဝင်၊ ဒုတိယမြောက်ဦးမြို့တည်၊ မင်းပါကြီး၊ ကိုးဆက်အဆုံး၊ မင်းစနေလက်ထက်တွင်၊ သာကီဝင်မင်းမျိုး ပြတ်စဲလေကြောင်းနှင့် ဆိုလေသည်။ ဤသို့ အနည်းငယ်မျှနှင့်ပင် သာကီဝင်မင်းမျိုး ပြတ်စဲလေသည်ကို ထောက်၍ ဆယ်နှစ်တမ်း အန္တရကပ်သို့ကျရောက်

ပျက်စီးရာ၌ ဆိုဖွယ်ရာမရှိ၊ အမျိုးလေးပါးပျက်ပြားပြုန်းတီးလေသည်ဟူ၍ယူရမည်။ ထို့ကြောင့် ပါထေယျပါဠိတော် စက္ကဝတ္တိသုတ် ၅၂ နံပါတ်၌။ မယ်ခေါ် အကုသလာနံ ဓမ္မာနံ သမာဒါန ဟေတု ဧဝရူပံ အာယတံ ဉာတိက္ခယံ ပတ္တာဟူ၍ ဟောတော်မူသည်။ ခေါ၊ စင်စစ်။ မယ်၊ ငါတို့သည်။ အကုသလာနံ၊ အကုသိုလ်ဖြစ်ကုန်သော။ ဓမ္မာနံ၊ တရားတို့၏။ ဝါ၊ တရားတို့ကို။ သမာဒါနဟေတု၊ ဆောက်တည်ပြုကျင့်ခြင်းဟူသော အကြောင်းကြောင့်။ ဧဝရူပံ၊ ဤသို့သဘောရှိသော။ အာယတံ၊ ကြီးစွာသော။ ဉာတိက္ခယံ၊ ဆွေမျိုးတို့၏ ပျက်စီးခြင်းသို့။ ပတ္တာ၊ ရောက်ကြကုန်ပြီ။ ။ ဤသို့ကပ်သုံးပါးတွင် တပါးပါးဖြင့် ခုနစ်ရက်အတွင်း သေကြေပျက်စီး၍ ကြွင်းကျန်သောသူတို့အား အမျိုးလေးပါးတို့ကို ပိုင်းခြားပြုပြင်နိုင်ရန် အကြောင်းမရှိလေ။ အန္တရကပ်မကြုံမီ ဆယ်နှစ်တမ်း၌ဖြစ်သော သူတို့သည် မင်းစိုးရာဇာ၊ ဆရာသမား၊ မိဘ၊ ဘိုးဘွား၊ ညီသားနှမ၊ ကုသိုလ်မှုကိုပင် သိကြသူတို့မဟုတ်။ အယုတ်ခွေးကြက်၊ နွားဝက်နှင့်မူ ပုံပမာတူကြောင်းနှင့် စက္ကဝတ္တိသုတ်တွင် ဟောတော်မူသည်။ ကြွင်းကျန်သူ အချင်းချင်း ပေါင်းသင်းဆက်ဆံလျက် တဦးကိုတဦး ကြည်နူးချစ်ခင်ခြင်း စသောတရားကို ကြိုးစားဖြည့်ကျင့်မှ အဆင့်ဆင့်အသက်ပွား၍ အသင်္ချေယျတိုင်အောင် ရှည်လေသည်ဟု ပါထေယျပါဠိတော်။ ၎င်းအဋ္ဌကထာတို့၌ မိန့်မှာ ဖွင့်ပြတော်မူသည်ကိုထောက်လျှင် တက်ကပ်တွင် မင်းမရှိဟူ၍ဆိုအပ်သော အာဒိကပ္ပကမ္ဘာ ဦးကျမ်းမဟာရာဇဝင်ကြီး စကားတို့သည် ဖြောင့်သားမှန်ကန်ကြောင်း ယူသင့်သည်။

တက်ကပ်ကုန်၍ အသင်္ချေယျတမ်းအဆုတ်တွင်းသာ လူယုတ်မာတို့ ပေါ်လာဖြစ်လာခြင်းကြောင့် သင်းပင်းညီညာ၍ မဟာသမ္မတမင်းတဦး တင်မြှောက်ကြသည်ဖြစ်၍ ဆုတ်ကပ်တွင်မှ မဟာသမ္မတ စသော မင်းစိုးရာဇာရှိသည်ဟု ယူသင့်သည်။

ဤသည်ကား တကမ္ဘာတွင် မဟာသမ္မတမင်းတယောက်မက ခြောက်ဆဲ့လေးယောက်ပင် ရှိသင့်ကြောင်းတို့ကို ကျမ်းပေါင်းရာဇဝင်ပုံပြင်စကားတို့နှင့် ထောက်ထားနှိုင်းဆ ရေးပြစီရင်အပ်သော အခန်းတည်း။

(၂၉) ယင်းသို့တင်မြှောက်အပ်ကုန်သော မဟာသမ္မတမင်းတို့အား ဇမ္ဗူဒိပ်ကျွန်းသူတို့ ဆယ်ဖို့တဖို့ပေးဆက်ကြကြောင်း၊ ထိုသို့ တင်မြှောက်ကြပြီးသောအခါ ဇမ္ဗူဒိပါကျွန်းသူတို့သည် မဟာသမ္မတမင်းတို့ကိုမှီ၍ အသက်မွေးကြကုန်၏။ မိမိတို့လုပ်ဆောင်၍ရအပ်သော ပစ္စည်းဥစ္စာတို့ကို မဟာသမ္မတမင်းတို့အား ဆယ်ဖို့တဖို့၊ ဆယ်နိုင်တနိုင်၊ ဆယ်လုံးတလုံး၊ ဆယ်ပွင့်တပွင့် ပေးဆက်ကြကုန်၏။ ထိုသို့ ပေးဆက်အပ်ကုန်သောပစ္စည်းဥစ္စာတို့သည် အလွန်များသည်ဖြစ်၍ ထိုမဟာသမ္မတမင်းတို့သည် ပြန့်ပြောစွာဖြစ်သောအားဖြင့် ခတ္တိယမဟာသာလအဖြစ်သို့ ရောက်ကုန်၏။ ထိုမဟာသမ္မတမင်းတို့သည် မင်းကျင့်တရား ဆယ်ပါး၊ သင်္ဂြိုဟ်ခြင်းလေးပါးနှင့်အညီ မင်း၏ချမ်းသာကို ခံစားတော်မူကြလေကုန်သတည်း။

(၃၀) ထို သမ္မတမင်းအပေါင်းတို့တွင် ယခုဆဲ့တကပ်မြောက် အန္တရကပ်ဦးဖြစ်သော မဟာသမ္မတမင်းသည် ကုသဝတီပြည်ကို တည်ထောင်ကြောင်း။ ထိုမဟာသမ္မတမင်းသည် နောင်လာလတ္တံ့သောအခါ နိုးသားဒါးပြအစရှိသော သူပုန်သူကန်တို့သည် မနောက်ယှက်နိုင်အောင် မြို့၊ ပြ၊ ကျုံး၊ မြောင်း ပစွင်၊ ရင်လျှောက်-အစရှိသော မြို့၏အင်္ဂါခုနစ်ပါး၊ မြို့၏အစာ လေးပါးနှင့်ပြည့်စုံသော မလ္လတိုင်းကုသဝတီပြည်ကို တည်ထောင်တော်မူ၏။

ထိုမှစ၍ အိမ်ရှေ့မင်း၊ စစ်သူကြီး အစရှိသောသူတို့သည်ဖြစ်ကုန်၏။ ထိုမဟာသမ္မတမင်းကား မင်းကျင့်တရားဆယ်ပါး၊ မင်းတို့၏သင်္ဂြိုဟ်ခြင်းလေးပါးတရားနှင့်အညီ သက်တော်နှစ်ပေါင်း အသင်္ချေပတ်လုံး ကိုယ်တော်မြတ် စီးပွား၊ သားတော်အစဉ်၊ မြေးတော်

အဆက်၊ မြစ်တော်အညွန့်တို့၏စီးပွား၊ ပြည်သူလူထု အပေါင်းတို့၏စီးပွားကို ဆောင်တော်မူသတည်း။

## ၃၁။ မဟာသမ္မတမင်း၏ သားတော်၊ မြေးတော်၊ မြစ်တော် နှစ်ကျိပ်ရှစ်ပါးတို့၏ အစဉ်အဆက်အကြောင်း

ထိုမဟာသမ္မတမင်း၏ သားတော်၊ မြေးတော်၊ မြစ်တော်တို့၏ အနွယ်အစဉ်အဆက်ကား မဟာသမ္မတမင်း၊ ထိုမင်းသား ရောဇမင်း၊ ရောဇမင်းသား ဝရရောဇမင်း၊ ဝရရောဇမင်းသား ကလျာဏမင်း၊ ကလျာဏမင်းသား ဝရကလျာဏမင်း၊ ဝရကလျာဏမင်းသား ဥပေါသထမင်း၊ ဥပေါသထမင်းသား မန္ဓာတ်မင်း၊ မန္ဓာတ်မင်းသား ဝရမင်း၊ ဝရမင်းသား ဥပဝရမင်း၊ ဥပဝရမင်းသား စေတိယမင်း၊ စေတိယမင်းသား မုစလမင်း၊ မုစလမင်းသား မဟာမုစလမင်း၊ မဟာမုစလမင်းသား၊ မုစလိန္ဒမင်း၊ မုစလိန္ဒမင်းသား သာဂရမင်း၊ သာဂရမင်းသား သာဂရဒေဝမင်း၊ သာဂရဒေဝမင်းသား ဘရတမင်း၊ ဘရတမင်းသား အင်္ဂိရသမင်း၊ အင်္ဂိရသမင်းသား ရုစိမင်း၊ ရုစိမင်းသား သုရုစိမင်း၊ သုရုစိမင်းသား ပတာပမင်း၊ ပတာပမင်းသား မဟာပတာပမင်း၊ မဟာပတာပမင်းသား ပနာဒမင်း၊ ပနာဒမင်းသား မဟာပနာဒမင်း၊ မဟာပနာဒမင်းသား သုဒဿနမင်း၊ သုဒဿနမင်းသား မဟာသုဒဿနမင်း၊ မဟာသုဒဿနမင်းသားနေရုမင်း၊ နေရုမင်းသား မဟာနေရုမင်း၊ မဟာနေရုမင်းသား အစ္စိတမင်း၊ ဤနှစ်ကျိပ်ရှစ်ယောက်သော မင်းတို့သည်ကား မဟာသမ္မတမင်းမှစ၍ သားတော်၊ မြေးတော်၊ မြစ်တော် အစဉ်ဖြစ်သတည်း။

## ၃၂။ ထိုနှစ်ကျိပ်ရှစ်ယောက်သောမင်း အနက် ဥပေါသထမင်းမှ ဆင်းသက်သော မန္ဓာတ်မင်း၏အစိုးရခြင်းအကြောင်း

ထိုနှစ်ကျိပ်ရှစ်ယောက်သော မင်းတို့တွင် ဥပေါသထမင်း၏ သားမန္ဓာတ်စကြာမင်းသည် ဂေါတမဘုရားရှင် အလောင်းတော်တည်း။ ထိုမန္ဓာတ်စကြာမင်းသည် ကျွန်းငယ်နှစ်ထောင်အရံရှိသော ကျွန်းကြီးလေးကျွန်း၌ စကြာမင်း၏ စည်းစိမ်ကိုခံစားတော်မူပြီး၍ စတုမဟာရာဇ်နတ်ပြည်၌လည်း ကာလအရှည် နတ်၏စည်းစိမ်ကို ခံစားတော်မူပြီးလျှင် တာဝတိံသာနတ်ပြည်၌ သိကြားမင်းသုံးကျိပ် ခြောက်ယောက်အသက်နှင့်အမျှ နတ်၏စည်းစိမ်ကို ခံစားတော်မူ၍ အသက်အသချို့ နေတော်မူသည်ဟု တိကနိပါတ် မန္ဓာတုဇာတ်၌ဆိုသည်။

## ၃၃။ မန္ဓာတုမင်း၏ အခြင်းအရာအကြောင်း

ထိုမန္ဓာတုမင်းအလောင်းသည် ကိုးဆဲ့ တကမ္ဘာထက်က ဝိပဿီဘုရားရှင် သာသနာတော်အတွင်း၌ ဆတ္တာသည်ဖြစ်၍ သံဃာတော်နှင့်တကွ ဘုရားရှင် ဆွမ်းဘုဉ်းပေးတော်မူရာတွင် ပဲစေ့ကို ဈေးမှာဝယ်ပြီးလျှင် သံဃာတော်နှင့်တကွ ဘုရားရှင် သပိတ်တော်၌ ကျပါစေဟုရည်မှတ်၍ ကြဲဖြန့်လေသော် ရည်မှတ်တိုင်းသပိတ်တော်၌ ကျဝင်လေသည်ဖြစ်၍ ကြည်ညိုစွာသောစိတ်ဖြင့် ကာမဘောဂီတို့ထက် မြတ်သောဆု၊ လက်ပမ်းပေါက်ခတ်လျှင် ရတနာမိုးရွာသောဆုတို့ကို တောင်းဖူးသောကြောင့် ကာမဘောဂီ နတ် လူတို့ထက် မြတ်သော အဂ္ဂပညတ်လေးပါးတွင် တပါးအဖို့သို့ ရောက်၏။ လက်ဝဲလက်ကိုခွေ၍ လက်ယာလက်ဖြင့် လက်ပမ်းပေါက်ခတ်လျှင် ရတနာမိုး ဒူးပုဆစ်နှစ်အောင် ရွာ၏။ ဤကား မန္ဓာတုမင်း၏အကြောင်းနှင့်တကွ ဘုန်းတန်ခိုးအာနုဘော်တို့ကိုဆိုသော စကားရပ်တည်း။

## ၃၄။ မဟာသမ္မတမင်းမှစ၍ အဆက်ဆက် သောမင်းတို့၏တိုင်းပြည်တည်ထောင်ခြင်းတို့ကို ပြဆိုခြင်းအကြောင်း

ထိုနှစ်ကျိပ်ရှစ်ယောက်သော မင်းတို့တွင် အချို့သောမင်းကား ကုသဝတီပြည်၌နေကုန်၏။ အချို့သောမင်းကား ရာဇဂြိုဟ်ပြည်၌နေကုန်၏။ ထိုနှစ်ကျိပ်ရှစ်ယောက်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော အစ္စိတမင်း၏ သားတော်ဖြစ်သော ဒိသမ္ပတမင်းသည် မိဓိလာမြို့မှထွက်၍ ကုသဝတီမြို့ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ပေါင်းကား တရာဖြစ်သတည်း။ ထိုတရာသော မင်းဆက်တို့တွင် နောက်ဆုံးဖြစ်သော အရိန္ဒမမင်း၏ သားတော်ဖြစ်သော ဘေရိန္ဒမင်းသည် ကုသဝတီပြည်မှ တဆဲ့နှစ်ယူဇနာရှိသော ရဲမက်ဗိုလ်ပါ ဆင်, မြင်း အလုံးအရင်းနှင့်တကွထွက်၍ အယုဇ္ဈပူရမြို့ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်တို့ကား ငါးဆဲ့ခြောက်ဆက်ဖြစ်သတည်း။ ထိုငါးဆယ့် ခြောက်ဆက်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော ဒုဗ္ဗသဟမင်း၏ သားတော်ဖြစ်သော စေတိယတိသမင်းသည် အယုဇ္ဈပူရပြည်မှထွက်၍ ဗာရာဏသီမြို့ကို တည် ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ကား ခြောက်ကျိပ်ဖြစ်သတည်း။ ထိုခြောက်ကျိပ်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော အဓိတသေနမင်း၏ သားတော်ဖြစ်သော ဝိဓိတသေနမင်းသည် ဗာရာဏသီပြည်မှထွက်၍ ကမ္ပလ-အမည်ရှိသောပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏သား,မြေးဖြစ်သော မင်းဆက်ပေါင်းကား ရှစ်သောင်းလေးထောင်ဖြစ်သတည်း။ ထိုရှစ်သောင်း လေးထောင်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော ဖြဟ္မဒတ်မင်း၏သားတော်ဖြစ်သော မဟာတိဿ အမည်ရှိသောမင်းသည် ကမ္ပလပြည်မှ ထွက်၍ဟတ္ထိပူရပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ပေါင်းကား သုံးဆဲ့ခြောက်ဆက် ဖြစ်သတည်း။ ထိုသုံးဆဲ့ ခြောက်ဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော ကမ္ပလဝံသမင်း၏ သားတော်ဖြစ်သော ဒိသမ္ပမင်းသည် ဟတ္ထိပူရပြည်မှ ထွက်၍ ကေစက္ကပြည်ကို တည်ထောင် ပြုစု၍နေ၏။ ထိုမင်း၏သားမြေးဖြစ်သော မင်းဆက်ပေါင်းကား သုံးဆဲ့နှစ်ဆက်ဖြစ်သတည်း။ ထိုသုံးဆဲ့ နှစ်ဆက်တို့တွင် နောက်ဆုံးဖြစ်သော ပူရိန္ဒဒေဝမင်း၏ သားတော်ဖြစ်သော ဘူမိပါလမင်းသည် ကေစက္ကပြည်မှ ထွက်၍ ဝဇိရပြည်ကိုတည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ပေါင်းကား နှစ်ကျိပ်ရှစ်ဆက်ဖြစ်သတည်း။ ထိုနှစ်ကျိပ်ရှစ်ဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော သာဓိနမင်း၏သားတော်ဖြစ်သော ဓနိန္ဒမင်းသည် ဝဇိရပြည်မှထွက်၍ မဓုရပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏သားမြေးဖြစ်သော မင်းဆက်ပေါင်းကား နှစ်ကျိပ်နှစ်ဆက်ပင်ဖြစ်သတည်း။ ထိုနှစ်ကျိပ်နှစ်ဆက်တို့တွင် နောက်ဆုံးဖြစ်သော မဓ္မဂုတ္တမင်း၏ သားတော်ဖြစ်သော သိရိဂုတ္တမင်းသည် မဓုရပြည်မှထွက်၍ အရိဋ္ဌပူရပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား,မြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်ရှစ်ဆက်ဖြစ်သတည်း။ ထိုတကျိပ်ရှစ်ဆက်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော သိခိဝ္မမင်း၏ သားတော်ဖြစ်သော ဓမ္မရာဇာမင်းသည် အရိဋ္ဌပူရပြည်မှ ထွက်၍ ဣန္ဒပတ္တနဂိုရ်ပြည်ကို တည်ထောင်ပြုစု၍ နေ၏။ ထိုမင်း၏သားမြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်ခုနစ်ဆက်ဖြစ်သတည်း။ ထိုတကျိပ်ခုနစ်ဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော ဖြဟ္မဒေဝ မင်း၏ သားတော်ဖြစ်သော ဗလဒတ္တမင်းသည် ဣန္ဒပတ္တနဂိုရ်ပြည်မှထွက်၍ ကေစက္ကပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား,မြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်ငါးဆက်ဖြစ်သတည်း။ ထိုတကျိပ်ငါးဆက်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော ဗလဒတ္တမင်း၏သားတော်ဖြစ်သော ဟဋ္ဌပါလမင်းသည် ကေစက္ကပြည်မှထွက်၍ ကောသမ္ဗီပြည်ကို တည်ထောင်ပြုစု၍

နေ၏။ ထိုမင်း၏ သား၊ မြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်လေးဆက်ဖြစ်သတည်း။ ထိုတကျိပ်လေးဆက်သော မင်းတို့တွင်နောက်ဆုံးဖြစ်သော ဟတ္ထိဒေဝမင်း၏ သားတော်ဖြစ်သော နရိန္ဒမင်းသည် ကောသမ္ဗီပြည်မှထွက်၍ ကဏ္ဍကုဋ္ဌိပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား၊မြေးဖြစ်သော မင်းဆက်ပေါင်းကား ကိုးဆက်ဖြစ်သတည်း။ ထိုကိုးဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော နရဒေဝမင်း၏ သားတော်ဖြစ်သော ဓနိန္ဒမင်းသည် ကဏ္ဍကုဋ္ဌိပြည်မှထွက်၍ ရောရုဝပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား၊မြေးဖြစ်သော မင်းဆက်ပေါင်းကား ခုနစ်ဆက်ဖြစ်သတည်း။ ထိုခုနစ်ဆက်တို့တွင် နောက်ဆုံးဖြစ်သော မဟိန္ဒမင်းသည် ရောရုဝပြည်မှထွက်၍ စမ္ပာနဂိုရ်ပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား၊ မြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်နှစ်ဆက်ဖြစ်သတည်း။ ထိုတကျိပ် နှစ်ဆက်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော နာဂဒေဝမင်း၏ သားတော်ဖြစ်သော ဗ္ဗသရိယမင်းသည် စမ္ပာနဂိုရ် ပြည်မှထွက်၍ မိဓိလာပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏သားမြေးဖြစ်သော မင်းဆက်ပေါင်းကား နှစ်ကျိပ်ငါးဆက်ဖြစ်သတည်း။ ထိုနှစ်ကျိပ်ငါးဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော သမုဒ္ဒဒတ္တမင်း၏ သားတော်ဖြစ်သော သုဒေဝမင်းသည် မိဓိလာပြည်မှ ထွက်၍ ရာဇဂြိုဟ်ပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား၊ မြေးဖြစ်သော မင်းဆက်ပေါင်းကား နှစ်ကျိပ်ငါးဆက်ပင်ဖြစ်သတည်း။ ။ ထိုနှစ်ကျိပ်ငါးဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော ဟိရိတတ္တမင်း၏ သားတော်ဖြစ်သော သမုတိဒေဝမင်းသည် ရာဇဂြိုဟ်ပြည်မှထွက်၍ တက္ကသိုလ်ပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ပေါင်းကား တကျိပ်နှစ်ဆက်ဖြစ်သတည်း။ ထိုတကျိပ်နှစ်ဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော တာလိသမင်းသည် တက္ကသိုလ်ပြည်မှထွက်၍ ကုသိနာရုံပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သားမြေးဖြစ်သော မင်းဆက်ပေါင်းကား တဆဲ့နှစ်ဆက်ပင်ဖြစ်သတည်း။ ထိုတဆဲ့နှစ်ဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော သုဒိန္နမင်း၏သားတော်ဖြစ်သော ပုရိန္ဒမင်းသည် ကုသိနာရုံပြည်မှထွက်၍ တာမလိတ္တိပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏သား၊မြေးဖြစ်သော မင်းဆက်ပေါင်းကား ကိုးဆက်ဖြစ်သတည်း။ ထိုကိုးဆက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သော သာဂရဒေဝမင်း၏ သားတော်ဖြစ်သော မဃဒေဝမင်းသည် တာမလိတ္တိပြည်မှ ထွက်၍ မိဓိလာပြည်ကို တည်ထောင်ပြုစု၍နေ၏။ ထိုမင်း၏ သား၊ မြေးဖြစ်သော မင်းဆက်ပေါင်းကား ရှစ်သောင်းလေးထောင်ဖြစ်သတည်း။ ထိုရှစ်သောင်းလေးထောင်သောမင်းတို့တွင် နောက်ဆုံးဖြစ်သော နေမိမင်းသည် မိဓိလာပြည်၌ပင် မင်းပြု၍နေ၏။ (ဤအရာတွင် သီလက္ခန်အဋ္ဌကထာ၊ ဒီပဝင်စာကိုယ်၊ မဟာဝင်ဋီကာတို့၌ ရှစ်သောင်းလေးထောင်သော မင်းတို့အရေအတွက်သို့ မဃဒေဝမင်း မပါသေး။ ၎င်းမင်းနှင့်သော် ရှစ်သောင်းလေးထောင် တယောက် ဖြစ်သင့်ကြောင်းနှင့်ဆိုသည်။ နေမိဇာတ် အဋ္ဌကထာ၊ မဟာဝင်ကျမ်းတို့၌ကား မဃဒေဝမင်း တယောက်လွန်သော်လည်း အနည်းငယ် အယုတ်အလွန်ကို မရေတွက်မူ၍ ရှစ်သောင်း လေးထောင်သာ ဆိုလေသည်)။ ထိုမင်း၏ နောက်ဆုံးဖြစ်သော နေမိမင်း၏သားတော်ကား ကာဠာရဇနကမင်းမည်၏။ ထိုမင်း၏သားတော် သမင်္ကရမင်း။ ထိုမင်း၏သားတော် အသောစမင်း။ ထိုမင်း၏သားတော် မြေးတော်ဖြစ်သော မင်းဆက်ပေါင်းကား ရှစ်သောင်းလေးထောင်ဖြစ်သတည်း။ ကာဠာရဇနကမင်းမှစ၍ ရေတွက်သည့်ရှိသော် ရှစ်သောင်းလေးထောင် သုံးယောက်သော မင်းတို့သည် ဗာရာဏသီပြည်၌ဖြစ်ကုန်၏။ ထိုရှစ်သောင်းလေးထောင် သုံးယောက်သော မင်းတို့တွင် နောက်ဆုံးဖြစ်သောမင်းကား

ဝိဇယမင်းတည်း။ ထိုမင်း၏သား ဝိဇယသေနမင်း။ ထိုမင်း၏သား မဓ္ဓသေနမင်း။ ထိုမင်း၏သား ဝိဇယသေနမင်း။ ထိုမင်း၏သား မဓ္ဓသေနမင်း။ ထိုမင်း၏သား နာဂသေနမင်း။ ထိုမင်း၏သား သမ္မုတမင်း။ ထိုမင်း၏သား ဒီသမ္မုတိမင်း။ ထိုမင်း၏သား ရေနုမင်း။ ထိုမင်း၏သား ကုသမင်း။ ထိုမင်း၏သား မဟာကုသမင်း။ ထိုမင်း၏သား ဝိသိဋ္ဌမင်း။ ထိုမင်း၏သား ဒသရဋ္ဌမင်း။ ထိုမင်း၏သား ရာမမင်း။ ထိုမင်း၏သား ဝိဋ္ဌာရဋ္ဌမင်း။ ထိုမင်း၏သား စိတ္တရံသီမင်း။ ထိုမင်း၏သား ဥက္ကာကရာစ်မင်း။ ဤတကျိပ်ခြောက်ဆက်သောမင်းတို့သည် ဗာရာဏသီပြည်၌ဖြစ်ကုန်၏ဟူ၍ မဟာဝင်မှန်နန်းရာဇဝင်တို့၌ ရေးသားပြီးလျှင် အဆုံးစွန်ဖြစ်သော ဥက္ကာကရာစ်မင်းကြီးအား မိဘုရားငါးယောက်ရှိကြောင်း စသည်တို့ဖြင့် ဆိုလေသည်။

(၁၅) သီလက္ခန် အဋ္ဌကထာ၊ အမ္ဗဋ္ဌသုတ်အဖွင့် ၂၀၄ နံပါတ်၌ကား မဟာသမ္မတမင်း၏သားတော် ရောဇမင်း။ ရောဇမင်း၏သားတော် ဝရရောဇမင်း။ ဝရရောဇမင်းသားတော်ကလျာဏမင်း။ ကလျာဏမင်း သားတော် ဝရကလျာဏမင်း။ ဝရကလျာဏမင်း သားတော် မန္ဓာတုမင်း။ မန္ဓာတုမင်းသားတော် ဝရမန္ဓာတုမင်း။ ဝရမန္ဓာတုမင်း သားတော်ဥပေါသထမင်း။ ဥပေါသထမင်း သားတော် ဝရမင်း။ ဝရမင်းသားတော် ဥပဝရမင်း။ ဥပဝရမင်းသားတော် မက္ခဒေဝမင်းတိုင်အောင် တဆဲ့တဆက်ဆိုပြီးလျှင် မက္ခဒေဝမင်း၏သားမြေး မြစ်အဆက်ဆက်တို့သည် ရှစ်သောင်းလေးထောင်ဖြစ်လေကြောင်း၊ ရှစ်သောင်းလေးထောင်သော မက္ခဒေဝမင်းတို့၏နောက်မှ သုံးယောက်သော ဥက္ကာကရာစ်မင်းတို့သည် ဖြစ်လေကြောင်း၊ ထိုသုံးယောက်သော ဥက္ကာကရာစ်မင်းတို့တွင် သုံးကြိမ်မြောက်ဖြစ်သော ဥက္ကာကရာစ်မင်းကြီးအား မိဘုရားငါးယောက်ရှိကြောင်း စသည်တို့ဖြင့် ဆိုလေသည်။

ယင်းသို့ဆိုအပ်သော အဋ္ဌကထာကို ၎င်းဋီကာ၌ မိန့်မှာဖွင့်ပြသည်မှာ။ ။ တေသံပစ္ဆတောတိ၊ တေသံ မက္ခဒေဝပရမ္ပရာဘူတာနံ ကာဠာရဇနကပရိယောသာနာနံ အနေကသတသဟဿာနံ ရာဇူနံ အပရဘာဂေ ဩက္ကာကောနာမရာဇာ အဟောသိ။ တဿပရမ္ပရာဘူတာနံ အနေကသတသဟဿာနံ ရာဇူနံ အပရဘာဂေ ပုနာပရော ဩက္ကာ ကောနာမရာဇာ အဟောသိ။ တံ သန္ဓာယာဟ၊ တယောဩက္ကာကဝံသာ အဟေသုံ၊ တေသု တတိယ ဩက္ကာ ကဿာတိ အာဒိ။ ။ ဟူ၍ ၂၈၂ နံပါတ်တွင် ဖွင့်ပြတော်မူသည်။ တေသံပစ္ဆတောတိ တေသံပစ္ဆတော၊ ဟူသည်ကား။ မက္ခဒေဝပရမ္ပရာဘူတာနံ၊ မက္ခဒေဝမင်း၏ သားမြေးအစဉ် အဆက်ဖြစ်ကုန်သော။ ကာဠာရဇနကပရိယောသာနာနံ၊ ကာဠာရဇနက မင်းအဆုံးရှိကုန်သော။ အနေကသတ သဟဿာနံ၊ အသိန်းမကဖြစ်ကုန်သော။ တေသံ ရာဇူနံ၊ ထိုမင်းတို့၏။ အပရ ဘာဂေ၊ နောက်အဘို့၌။ ဩက္ကာကောနာမ၊ ဥက္ကာကအမည်ရှိသော။ ရာဇာမင်းသည်။ အဟောသိ၊ ဖြစ်၏။ တဿ၊ ထိုဥက္ကာကမင်း၏။ ပရမ္ပရာဘူတာနံ၊ သားမြေး အစဉ်အဆက်ဖြစ်ကုန်သော။ အနေကသတ သဟဿာနံ၊ အသိန်းမကဖြစ်ကုန်သော။ ရာဇူနံ၊ မင်းတို့၏။ အပရဘာဂေ၊ နောက်အဘို့၌။ ပုန၊ တဖန်။ အပရော၊ တပါးသော။ ဩက္ကာကောနာမ၊ ဥက္ကာကအမည်ရှိသော။ ရာဇာ၊ မင်းသည်။ အဟောသိ၊ ဖြစ်၏။ တံ၊ ထိုသုံးကြိမ်မြောက်ဖြစ်သော ဥက္ကာကရာစ်မင်းကို။ သန္ဓာယ၊ ရည်၍။ တယောဩက္ကာကဝံသာ အဟေသုံ၊ တေသု တတိယ ဩက္ကာ ဿာတိအာဒိ၊ တယောဩက္ကာကဝံသာ အဟေသုံ၊ တေသု တတိယ ဩက္ကာကဿ-ဤသို့ အစရှိသောစကားကို။ အာဟ၊ အဋ္ဌကထာဆရာ မိန့်မှာတော်မူ၏။ ။ (ဤသို့အနက်ပေး)။

အဓိပ္ပါယ်မှာ မဟာသမ္မတမင်းမှစ၍ မက္ခဒေဝမင်းတိုင်အောင် တဆဲ့တဆက်သော မင်းတို့၏နောက် ရှစ်သောင်းလေးထောင်သော မင်းတို့၏အဆုံး၌ ဥက္ကာ

ကရာဇ်မင်း သုံးဆက်ဖြစ်ပွားရာ တတိယဥဏ္ဏာကရာဇ်မင်းအား မိဘုရားငါးယောက်ရှိကြောင်း ယူရမည်ဟု အဋ္ဌကထာ၌ဆိုသည်။ ဋီကာအလိုမှာ မဏ္ဍဒေဝမင်း၏နောက် ကာဏ္ဍာရဇနကမင်း အဆုံးရှိကုန်သော အသိန်းမကသော မင်းတို့၏အဆုံး၌ ပထမဥဏ္ဏာကရာဇ်မင်း တကြိမ်ဖြစ်ပွားကြောင်း။ ။ ၎င်းမင်းတို့၏နောက် အသိန်းမကသော မင်းတို့၏အဆုံး၌ ဒုတိယဥဏ္ဏာကရာဇ်မင်း တကြိမ်ဖြစ်ပွားကြောင်း။ ၎င်းမင်းတို့၏နောက် အသိန်းမကသော မင်းတို့၏အဆုံး၌ တတိယဥဏ္ဏာကရာဇ်မင်း တကြိမ်ဖြစ်ပွားကြောင်း။ ၎င်းသုံးယောက်သော ဥဏ္ဏာကရာဇ်မင်းတို့တွင် နောက်ဆုံး သုံးကြိမ်မြောက်သော ဥဏ္ဏာကရာဇ်မင်းကိုရည်၍ အဋ္ဌကထာဆရာဆိုသည်ဟု ဖွင့်ပြတော်မူသည်။ ဤအဋ္ဌ ကထာ၊ ဋီကာတို့၏အလိုမူ နောက်ဆုံးဥဏ္ဏာကရာဇ် မင်းနေပြည်သည် ဗာရာဏသီပြည်မဟုတ်၊ ကုသဝတီပြည်သာ ဖြစ်သင့်သည်။ အဘယ်ကြောင့်ဟူမူ။ ရာမောနာမ ဗာရာဏသီရာဇာ။ စသည်ဖြင့် နောက်၌ဆိုလေသည်ဖြစ်သောကြောင့်တည်း။ မဟာဝင်၊ မှန်နန်းရာဇဝင်တို့၌ ဗာရာဏသီပြည်၌ နေကြောင်းနှင့်ဆိုသည်။ ထိုစကားသည် ပထမဥဏ္ဏာကရာဇ် တဦးတည်းအဖြစ်ဖြင့်ယူ၍ဆိုလေသောကြောင့် အမှန်မယူသာ။ (ဤကားစကားချပ်)။

## ၃၆။ ဥဏ္ဏာကရာဇ်မိဘုရား စသည်တို့၏ အကြောင်း

ယင်းသို့ပြဆိုအပ်သော ဥဏ္ဏာကရာဇ်မင်း သုံးဦးတွင် နောက်ဆုံးဖြစ်သော ဥဏ္ဏာကရာဇ်မင်းကြီးသည် ကုသဝတီပြည်၌ မင်းပြုတော်မူ၏။ ထိုဥဏ္ဏာကရာဇ်မင်း၏ မိဘုရားသည် ဟတ္ထာမိဘုရား၊ စန္ဒာမိဘုရား၊ ဇာလိနီမိဘုရား၊ ဝိသာခါ မိဘုရားဟူ၍ ငါးယောက်ရှိသတည်း။ ထိုငါးယောက်တို့တွင် တယောက်တယောက်၌ ငါးရာငါးရာစီ အခြံအရံအလုပ်အကျွေးရှိကုန်၏။ အကြီးဖြစ်သော ဟတ္ထာမိဘုရား၏သားတော်ကား ဥဏ္ဏာမုခလည်းတပါး၊ ကရကဏ္ဍလည်းတပါး၊ ဟတ္ထိနိကလည်းတပါး၊ နိပုဏလည်းတပါး ဤသို့လေးပါးတည်း။ သမီးတော်ကား ပိယာလည်းတပါး၊ သုပိယာလည်းတပါး၊ အာနန္ဒာလည်းတပါး၊ ဝိဇိတာလည်းတပါး၊ ဝိဇိတသေနာလည်းတပါး ဤသို့ငါးပါးတည်း။ ဤသားတော် သမီးတော်ကိုးပါးတို့ကို ဖွားမြင်တော်မူပြီးနောက် ဟတ္ထာမိဘုရားကြီးသည် အနိစ္စရောက်တော်မူ၏။ ဥဏ္ဏာကရာဇ်မင်းကြီးသည် တယောက်သော အဆင်းအရွယ်နှင့်ပြည့်စုံသော မင်းသမီးကို မိဘုရားအရာ၌ ထားတော်မူ၍ များမကြာလျှင် ထိုမိဘုရားသည် သားတော် ဇန္တုမင်းသားကိုဖွားတော်မူ၍ ငါးရက်မြောက်သောနေ့၌ သားတော်ကို တန်ဆာဆင်လျက် မင်းကြီးအားပြလေ၏။ မင်းကြီးလည်း အလွန်ချစ်နှစ်လိုတော်မူသည်ဖြစ်၍ မိဘုရားအား ဆုပေးတော်မူ၏။ မိဘုရားလည်းပေးသောဆုကို နှုတ်ဖြင့်သာယူ၍ သားတော်အရွယ်သို့ရောက်လျှင် ဆွေမျိုးတို့နှင့်တိုင်ပင်၍ အခြားသောဆုကိုမယူ။ ဇန္တုသတို့သားကို မင်းပြုစေဟူသောဆုကိုသာတောင်း၏။ မင်းကြီးလည်း သားတော်အကြီးတို့ ရှိပေသည်ဟု အကြိမ်ကြိမ်ပယ်တော်မူ၏။ လျှောက်ဖန်များလတ်သော် သားတော်လေးပါးတို့ကို ခေါ်တော်မူ၍ ဤသို့မိန့်တော်မူ၏။ ငါ့သားတို့ရှိလျက် မိဘုရား၏ဇန္တုသတို့သားကို မင်းပြုစေဟူသောဆုကို အကြိမ်ကြိမ်တောင်းချေ၍ ငါ့သားတို့ ငါ့အပါးတွင်နေသော် အန္တရာယ်ဖြစ်အံ့ထင်သည်။ ထင်သောကြောင့် မင်္ဂလာရှိသော ဆင်၊ မြင်း၊ ရထားတို့ကိုသာရှိရစ်စေ၊ ငါ့သားတို့ အလိုရှိသော ရထားဆင်မြင်းတို့ကိုယူ၍ အရပ်တပါးသို့ သွားကြလေ၊ ငါမရှိမှလာ၍ မင်းပြုရစ်ကုန်ဟုဆို၍ အမတ်ရှစ်ဦးတို့နှင့်တကွ လွှတ်တော်မူလိုက်၏။

## ၃၇။ ဥဏ္ဏာကရာဇ်မင်း၏ သားတော် သမီးတော်တို့သည် ရဲမက်ဗိုလ်ပါတို့နှင့် ကုသဝတီပြည်မှထွက်သွား၍ ကပိလဝတ်ပြည်ကို

## တည်ထောင်ဖန်ဆင်း၍ နေထိုင်ခြင်း အကြောင်း

သားတော်လေးပါးတို့သည် များစွာငိုကြွေး မြည်တမ်းခြင်းကိုပြု၍ ခမည်းတော် မင်းကြီး၊ အကျွန်ုပ်တို့ အပြစ်ကိုသည်းခံတော်မူပါဟူ၍ မင်းကြီးကိုငင်း၊ မိဘုရား မောင်းမမိဿံတို့ကိုငင်း သည်းခံစေ၍ အကျွန်ုပ်တို့လည်း မောင်တော်တို့နှင့်အတူ လိုက်ပါကုန်အံ့ဟု မင်းကြီးအား ပန်ကြား၍ မြို့မှထွက်သော နမတော်တို့ကိုယူ၍ ကုသဝတီမြို့မှထွက်ကြကုန်၏။ ။

ဤအရာတွင် မဟာဝင်၊ ငါတို့ရခိုင်ရာဇဝင် အင်းစောက်တို့၌ ဗာရာဏသီမြို့မှ ထွက်ကြောင်းနှင့် ဆိုကြလေသည်။ ယင်းသို့ဆိုသောစကားသည် နောက်၌ ရာမ အမည်ရှိသော မင်းသည်လည်း ဗာရာဏသီမြို့မှ ထွက်ကြောင်းကို မိမိတို့ဆိုလတ္တံ့သော စကားနှင့်ငင်း၊ သီလက္ခန်အဋ္ဌကထာနှင့်ငင်း မညီလေ။

သီလက္ခန်အဋ္ဌကထာ၌။ ။ နဂရာ၊ မြို့မှ။ နိက္ခမိံသု၊ ထွက်ကြကုန်၏။ ဟူ၍သာဆိုသည်။ မည်သည့် မြို့မှ ထွက်ကြောင်းကို မဆိုလေ။ ရာမမင်းထွက်သော မြို့ကိုသာလျှင်။ ။ ရာမောနာမ၊ ရာမအမည်ရှိသော။ ဗာရာဏသိရာဇာ၊ ဗာရာဏသီမင်းသည်။ ကုဋ္ဌရောဂေါ၊ နူနာစွဲကပ်သည်ဖြစ်၍။ နာဋကိတ္တိဟိစ၊ ကခြေသည်တို့ သည်ငင်း။ ဩရောဓေဟိစ၊ ကိုယ်လုပ်မောင်းမတို့သည် ငင်း။ ဇိဂုစ္ဆိယမာနော၊ စက်ဆုပ်ရွံရှာအပ်သည်ဖြစ်၍။ တေန သံဝေဂေန၊ ထိုသို့နူနာ စွဲကပ်ခြင်း ကခြေသည် ကိုယ်လုပ် မောင်းမတို့ စက်ဆုပ်ရွံရှာခြင်းကြောင့်ဖြစ်သော ထိတ်လန့် ခြင်းဖြင့်။ ဇေဋ္ဌပုတ္တဿ၊ သားကြီးအား။ ရဇ္ဇံ၊ မင်းအဖြစ် ကို။ ဒတွာ၊ ပေးတော်မူ၍။ အရညံ၊ တောသို့။ ပဝိသိတွာ၊ ဝင်တော်မူ၍။ ဟုဆိုတော်မူသောကြောင့် မင်းသားတို့ ထွက်သောမြို့သည် ဗာရာဏသီမြို့မဟုတ်၊ ရာမမင်း ထွက်သောမြို့သာ ဗာရာဏသီမြို့ဖြစ်ကြောင်းကို မှတ်ရမည်။ မင်းသားတို့ ထွက်သောမြို့ကိုကား ကုသဝတီမြို့မှ ထွက်သည်ဟုယူရမည်။ ယူသင့်ကြောင်းမှာ ပထမ ဥက္ကာကရာဇ်မင်းကြီးသည် ဗာရာဏသီမြို့၌ နေကြောင်းနှင့် မဟာဝင်၊ ရာဇဝင်တို့၌ဆိုသည်။ ဒုတိယ ဥက္ကာကရာဇ် မင်းကြီးသည် ကုသဝတီမြို့၌ နေကြောင်းနှင့် သတ္တတိ နိပါတ် ကုသဇာတ်၌ဆိုသည်။ တတိယ ဥက္ကာကရာဇ် မင်းကြီးနေသော မြို့ကိုမည်သည့်မြို့ဖြစ်ကြောင်းနှင့် မဆိုသော်လည်း ကုသဇာတ်၌ ဆိုအပ်သော ဥက္ကာကရာဇ်မင်း၏ အဆက်အနွယ်သည်လည်း ကုသဝတီမြို့၌ ဖြစ်သဖြင့် တတိယဥက္ကာ ကရာဇ်မင်းကြီးသည် ကုသဝတီမြို့၌နေ၍ ငင်းကုသဝတီမြို့မှ ထွက်ကြလေသည်ဟု ယူသင့်လေသည်။ ယင်းသို့ယူသင့်လေသည် ကိုထောက်၍ ဝိဓုရဇာတ်တော်ကြီး ဝတ္ထုနိဂုံးတွင် ထိုမင်းသား မင်းသမီးတို့သည် အသီးအသီး စုံဖက် တည်ထောင်ကာမျှဖြင့် သာကီဝင်ဟူသောအမည်ကို မရသေး။ ကုသဝတီနေပြည်တော်၌ ခမည်းတော် ဥက္ကာကရာဇ်မင်းကြီး ကြားတော်မူသောကြောင့် သကျဝတဘော ရာဇကေမာရာဟု သုံးကြိမ်အံ့ဩတော်မူသော ဘုန်းကြီးသော မင်း၏နှုတ်ဩဇာတစ်တိကိုစွဲ၍ သာကီဝင်ဟု ခေါ်ဝေါ်ကုန်သတည်းဟူ၍ ၁၀၆ နံပါတ်၌ဆိုသည်။ ဤသည် ယုတ္တိသာဓကများကိုထောက်၍ မင်းသားတို့ ထွက်သောမြို့ကို ကုသဝတီမြို့ဟု ယူသင့်ကြောင်းနှင့် ဆိုလိုက်သည်။ (ဤသည်ကား စကားချပ်)။

ကုသဝတီမြို့မှထွက်ကြသော မင်းသားတို့ကို မြင်လျှင် ဤမင်းသားတို့သည် ခမည်းတော် ဥက္ကာကရာဇ် မင်းကြီးလွှန်တော်မူသဖြင့် ပြန်လာတော်မူ၍ ဤကုသဝတီ ပြည်တော်၌ မင်းပြုတော်မူလတ္တံ့၊ ငါတို့သည်လိုက်၍ လုပ်ကျွေးကုန်အံ့ဟုကြံ၍ များစွာသောလူတို့သည် အစဉ် လိုက်ကြကုန်၏။ ပထမရက်၌ တယူဇနာ၊ ဒုတိယရက်၌ နှစ်ယူဇနာ၊ တတိယရက်၌ သုံးယူဇနာခန့်မျှ လိုက်ကြကုန်၏။ မင်းသားတို့သည် ထိုမျှလောက်သော ရဲမက်ဗိုလ်ပါတို့ကို မြင်လေသော် ဤမျှလောက်သော ရဲမက်ဗိုလ်ပါနှင့်

ပြည်ထောင် ချင်းမင်းတပါးတို့ကို တိုက်ယူသည်ရှိသော် ရခိုင်လောက်၏။ ရခိုင်လောက်သော်လည်း သူ့ပြည်ကို ကိုယ်၏ပြည်ပြုသဖြင့် အဘယ်အကျိုးရှိအံ့နည်း။ ငါတို့ ကြောင့် သူတပါးတို့ မဆင်းရဲလေကောင်း။ ဓမ္မဒီပါ မြေပြင်သည် ကျယ်ဝန်း၏။ လွတ်လပ်ရာ၌သာ ငါတို့မြို့ တည်ထောင်၍နေအံ့ဟူ၍ မြို့ရွာရာကြလေသော် ငါတို့ ဂေါတမဘုရားအလောင်း ကြွယ်ဝစွာသော ကပိလပုဏ္ဏား သည် ဃရာဝါသကိုစွန့်၍ ရသေ့ရဟန်းပြုပြီးလျှင် ဟိမဝန္တာနံပါး ရေကန်အနီး ကျွန်းတောဝ်၌ သခ်မ်းဆောက်၍ နေတော်မူ၏။ ထိုကပိလ ရသေ့ကား ဘူမိဇာလမည်သော မန္တရားကိုတတ်၏။ ထိုမန္တရား၏အာနုဘော်ဖြင့် အထက် ကောင်းကင်သို့ အတောင်ရှစ်ဆယ်၊ အောက်မြေထဲသို့ လည်း အတောင်ရှစ်ဆယ်တိုင်အောင် အကျိုးအပြစ်ကို သိမြင်သတည်း။ ထိုကပိလရသေ့နေထိုင်သော သခ်မ်းရာ အရပ်၌ ပေါက်ရောက်သော မြက်နွယ်ချုံတို့သည် လက်ယာရစ်လည်လျက် အရှေ့မျက်နှာအရပ်သို့သာ အဖျားအညွန့်တက်ကုန်၏။ ခြင်္သေ့၊ သစ်၊ ကျား အစရှိသောကြမ်းကြုတ်စွာသော တောသားတိရစ္ဆာန်တို့ သည်လည်း ထိုအရပ်သို့ရောက်လျှင် မကြမ်းကြုတ်နိုင် ကုန်။ ထိုအရပ်တွင်နေသော သမင်၊ ဒရယ်အစရှိသော ခွန်အားနည်းသော တောသားတိရစ္ဆာန်ပင်ဖြစ်သော်လည်း ခြင်္သေ့၊ သစ်၊ ကျား အစရှိကုန်သော ခွန်အားကြီးသော တိရစ္ဆာန်တို့ကို ခြိမ်းခြောက်၍ ပြေးစေနိုင်၏။ ကပိလရသေ့ သည် ဤသို့သော မြေ၏ကျေးဇူးကိုမြင်၍ ဤမြေအရပ် ကား မြတ်သောအရပ်တည်းဟုသိလေလျှင် ထိုအရပ်၌ သခ်မ်းဆောက်၍နေတော်မူ၏။ ထိုအခါ မြို့ရာရှာသော မင်းသားတို့ရောက်လာသည်ကိုမြင်လျှင်မေး၍ မြို့ရာ ရှာကြောင်းကိုသိလေသော် မင်းသားတို့၌သနား၍ ဤသခ်မ်းရာ၌ တည်သောမြို့သည် ဇမ္ဗူဒိပ်ကျွန်း၌ မြတ်သောမြို့ဖြစ်လတ္တံ့။ ဤမြို့၌ ဖွားမြင်သူတယောက်ကို ယောကျ်ားအရာ အထောင်သော်လည်း မနိုပ်စက်နိုင်ရာ။ ဤအရပ်၌ မြို့တည်၍သခ်မ်းရာ၌ မင်းအိမ်ကို ပြုကြကုန် လော့။ ဤအရပ်တွင်နေသော သူတို့သည် ဒွန်းစဏ္ဍားသား ပင်ဖြစ်သော်လည်း စကြာဝတေးမင်း၏ အာဏာစက်ကဲ့သို့ ကြီးသောအာဏာနှင့် ပြည့်စုံလေရာ၏ဟုဆို၏။ ရှင်ရသေ့ သခ်မ်းရာ မဟုတ်တုံလောဟု မင်းသားတို့ဆိုလေလျှင် ငါ၏သခ်မ်းရာဟု မအောက်မေ့လင့်ကုန်။ ငါ့အား သင့်တော်ရာ၌ သခ်မ်းဆောက်၍ပေးပြီးလျှင် မြို့တည်၍ ကပိလဝတ်ဟူသောအမည်ကို မှည့်ကြကုန်လော့ဟုဆို၏။ မင်းသားတို့လည်း ရှင်ရသေ့ဆိုတိုင်း မြို့တည်၍နေတော်မူ ကြကုန်၏။ မြို့တည်ပြီးလျှင် ကပိလရှင်ရသေ့၏နေရာ အရပ်၌တည်သည်ကိုအစွဲပြု၍ ကပိလဝတ်မြို့ဟု အမည် တွင်လေ၏။ ငါတို့ရခိုင်ရာဇဝင်အင်းစောက်၌ သက္ကရာဇ် ၈၃၅၅ခု၊ တပေါင်းလ၌မြို့တည်သည်။ သက္ကရာဇ် ၈၃၅၆-ခု၊ ဝါဆိုလပြည့်နေ့ဝန်းပေါ် အချိန်တွင် နန်းတက် တော်မူကြောင်းနှင့်ဆိုသည်။

ဂုင်းစကားကို အဋ္ဌနမင်းဖြိုသော ၈၆၄၅-ခု၊ "ဏ,၀, စ,နွေ" ကိန်းနှင့်ထောက်သော် ဥက္ကာမုခမင်းနှင့် အဋ္ဌနမင်းသည် နှစ်ပေါင်း ၂၉၀ ခန့်မျှသာကွာသည်။ ဥက္ကာမုခမင်းမှစ၍ အဋ္ဌနမင်းတိုင်အောင် မင်းဆက်ပေါင်း ၈၂၀၀၁ ဆက်ဖြစ်ရကား မင်းတပါးလျှင် တရက်ကျော် ခန့်သာ နန်းစံရန်ရှိသောကြောင့်။ နှမနှင့်မောင်၊ ပြည်တည် ထောင်၍၊ နှစ်ထောင်ရှစ်သောင်း၊ မင်းများနှောင်းဝယ်၊ ထပ်လောင်းအသစ်၊ စောစစ်နရိန္ဒ်၊ ဇေယျာသိန်နောက်၊ သုံးဆယ်ခြောက်တွင်။ ဟူ၍ သိဒ္ဓတ်မင်းတိုင်အောင် ဆိုအပ်သော မင်းဆက်ပေါင်းနှင့် နန်းစံမညီလေ။ ။ (ဤသည်ကား စကားချပ်)။

### ၃၈။ ဥက္ကာမုခမင်းသားညီနောင် လေးပါးတို့ သည် အမျိုးအနွယ်ကိုစောင့်သဖြင့် နှမတို့နှင့် စုံဖက်၍ သာကီဝင်မျိုး တွင်ခြင်းအကြောင်း

ဥက္ကာမုခမင်းညီနောင် လေးပါးတို့နှင့်အတူ

ခမည်းတော် ဥက္ကာကရာဇ်မင်းကြီးထည့်လိုက်သော အမတ်ရှစ်ဦးတို့သည် မင်းသားတို့သည် အရွယ်သို့ရောက်ကြပြီ။ ခမည်းတော်အထံ၌ဖြစ်သော် ခမည်းတော်မင်းကြီးသည် သားတော် သမီးတော်တို့အား အိမ်ထောင်ချပေးရာ၏။ ယခုကား ငါတို့တာဝန်ဖြစ်ချေသည်ဟုကြံ၍ မင်းသားတို့နှင့် တိုင်ပင်ကြသော် မင်းသားတို့လည်း ငါတို့နှင့်မျိုးနွယ်တူသော မင်းသမီးကိုလည်းမမြင်၊ နှမတော်တို့နှင့် မျိုးနွယ်တူသော မင်းသားကိုလည်း မမြင်။ အမျိုးအနွယ်မတူသော သူတို့နှင့် ပေါင်းဖော်ခြင်းကြောင့်ဖြစ်သော သားသမီးတို့သည် မစင်ကြယ်ကုန်ရာ။ အမျိုးအနွယ်ရောယှက်ခြင်းသို့ ရောက်ကုန်ရာသည်ဟု အမျိုးအနွယ်ကိုစောင့်သဖြင့် နှမတော်ငါးပါးတွင် ပိယာမည်သော နှမတော်အကြီးကို အမိအရာ၌ထား၍ နှမလေးပါးနှင့် မောင်တော်လေးပါး မောင်နှံအစုံ ဖြစ်ကြလေကုန်၏။ ထိုအကြောင်းကို ခမည်းတော်မင်းကြီး ကုသဝတီနေပြည်တော်ကကြားလေလျှင်။။ သကျဝတဘောရာဇ ကုမာရာဟူ၍ မိန့်တော်မူ၏။ ။ ဘော၊ အိုအချင်းတို့။ ရာဇကုမာရာ၊ မင်းသားတို့သည်။ သကျဝတ၊ အမျိုးအနွယ်ကို စောင့်ရှောက်အံ့သော ငှာ တတ်နိုင်ကုန်စွတကားဟူ၍ မိန့်တော်မူသော စကားကို အစွဲပြု၍ ကပိလဝတ်မြို့၌ဖြစ်သော မင်းမျိုးတို့သည် သာကီဝင်မင်းမျိုးဟူ၍ တွင်ကုန်၏။ ။ ဤသည်ကား ကပိလဝတ် သာကီဝင်မင်းမျိုးတို့အကြောင်း။

## ၃၉။ ကောလိယပြည် တည်ခြင်းအကြောင်း

ကောလိယမင်းတို့အကြောင်းကား။ ။ ဥက္ကာမုခအစရှိသော မင်းညီနောင်လေးပါးတို့ အမိအရာ၌ထားသော ပိယာမည်သော နှမတော်အကြီးသည် အခါတပါး ကုဋ္ဌနူနာစွဲရောက်၍ ကိုယ်လက်မသန့်ဖြစ်လေသော် မောင်တော်တို့သည် ထိုအနာကား အတူတကွ စားသောက်နေထိုင်သောသူတို့အား ကူးစက်တတ်သော သဘောရှိသည်ဟု ကြံစည်တိုင်ပင်လျက် ဥယျာဉ်ကစားသွားဟန်ပြု၍ နှမတော်အကြီး ပိယာကို ရထားပေါင်းချုပ်ဖြင့် တောသို့ဆောင်ပြီးလျှင် တခုသော တောအရပ်၌ လိုဏ်ဂူဥမင်တူးစေ၍ သစ်ပျဉ်ကာရံမိုးသော အိမ်ကိုပြုပြီးမှ စားသောက်စရာ ဘောဇဉ်ခဲဖွယ်တို့ကို လုံလောက်အောင်သွင်းထား၍ မြေဖြင့် လုံခြုံစွာဖိပြီးသော် ထိုလိုဏ်အိမ်၌ မင်းသမီးကိုထားကြလေ၏။ ထိုအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသား၊ ရာမအမည်ရှိသော မင်းသည်တရားနှင့်အညီ မင်းပြု၏။ ထိုမင်းသည်လည်း နူနာရောဂါစွဲရောက်၍ ဆေးဝါးသုံးစားသော်လည်း မလွတ်မကင်းသည်နှင့် မိဘုရားမောင်းမစသော အလုပ်အကျွေးတို့သည် ငြီးငွေ့ရွံရှာသည်ကို အကြောင်းပြု၍ ထိတ်လန့်ခြင်း သံဝေဂတရားယူ၍ မင်းအဖြစ် အလိုဆန္ဒကင်းသဖြင့် သားကြီးအား တိုင်းပြည်ကိုအပ်နှင်းပြီးသော် တောသို့ဝင်၍ သစ်ရွက်၊ သစ်သီး၊ သစ်မြစ်သစ်ဖုတို့ကို စားသုံးလျက် တော၌နေ၏။ မရှည်မြင့်မီ နူနာကင်းလွတ်၍ ရွှေအဆင်းကဲ့သို့ တင့်တယ်စွာဖြစ်လေ၏။ ။ ထိုမင်းသည် တောင်မြောက်လေးပါး လှည့်လည်ကြည့်ရှုသည်တွင် ကြီးစွာသောအခေါင်းရှိသော သစ်ပင်ကြီးတပင်ကိုတွေ့၍ ထိုသစ်ပင်၌ တဆဲ့ခြောက်တောင် ပမာဏရှိသောအရပ်ကိုသုတ်သင်၍ တံခါးကြီး၊ တံခါးငယ်တပ်ထားပြီးလျှင် ထန်းကျင့်လှေကားထောင်၍ အိမ်အမှတ်ဖြင့် ထိုသစ်ပင်၌ နေလေ၏။ ညည့်အခါ သမင်၊ ဒရယ်အစရှိသော တိရစ္ဆာန်တို့၏ အသံကို နားခံလျက် ဤအရပ်မှ ခြသေ့်အသံကြား၏။ ဤအရပ်မှ ကျားသံကြား၏။ စသည်ဖြင့် အသံကြားရာ အရပ်ကိုမှတ်၍ နံနက်သို့ရောက်သောအခါ ထိုအရပ်သို့သွားပြီးသော် ခြသေ့်၊ ကျားတို့၏ စားကြွင်းအသားတို့ကိုယူခဲ့၍ ချက်ပြုတ်ဖုတ်ကင်စားသောက်၏။ ဤသို့သော နည်းဖြင့် ထိုအရပ်ဝယ်နေလေသော် တနေ့သ၌ ပိယာမင်းသမီး၏ ကိုယ်နံ့ကိုရသဖြင့် မိုးသောက်ထအခါ ကျားလာ၍ မင်းသမီးနေရာအရပ်၌ မြေကိုယက်လေ၏။

မြေစာကုန်လတ်သော် ပျဉ်ငယ်အပေါက်ဖြင့် ကျားကိုမြင်၍ မင်းသမီးသည် ကြောက်လန့်တကြား ဟစ်ကြွေးလေ၏။ ထိုအသံကို ရာမမင်းကြားသည်ရှိသော် ဤအသံကား တောသားတိရစ္ဆာန်တို့၏ အသံမဟုတ်၊ လူမိန်းမ အသံတည်းဟုမှတ်သားပြီးမှ နံနက်အခါထိုအရပ်သို့သွားပြီးသော် ဤတွင်း၌ အဘယ်မည်သောသူ နေဘိသနည်းဟု မေးလေ၏။ မင်းသမီးလည်း မိန်းမဖြစ်ကြောင်းကို ပြန်ကြား၏။ အမျိုးအနွယ်ကိုမေးသဖြင့် ဥက္ကာကရာဇ် မင်းကြီး သမီးတော်ဖြစ်ကြောင်းကို ကြားပေ၏။ အဘယ်ကြောင့် ဤအရပ်၌နေသနည်းဟုရာမမင်းမေးလျှင် နူနာစွဲရောက်ကြောင်းနှင့် အခြင်းအရာခပ်သိမ်းကိုကြား၍ သိပြီးမှ ထွက်ဘိလောဟုခေါ်သည်ကို ဇာတိမာန်ဖြင့် မထွက်မလာနေသောကြောင့် ရာမမင်းက ငါလည်းမင်းမျိုးတည်းဟု ခတ္တိယစစ်မင်းအဖြစ်ကို ပြန်ကြားပြီးလျှင် ထန်းကျင့်လှေကားဖြင့် တက်စေ၍ မင်းသမီးကို မိမိနေရာသို့ဆောင်လေ၏။ နေရာသို့ရောက်လျှင် မိမိသုံးဆောင်တော်မူသော သစ်ရွက်၊ သစ်သီး၊ သစ်မြစ်၊ သစ်ဖု၊ ဆေးဝါးတို့ကို ပေးကမ်းစားသုံးစေ၏။ မင်းသမီးလည်း မကြာမြင့်မီ နူနာရောဂါကင်းလွတ်၍ ရွှေအဆင်းကဲ့သို့ ရင်းဖြစ်လေရကား အတူတကွပေါင်းဖက်ခြင်းကို ပြုကြကုန်၏။ မင်းသမီးသည် ရှေးဦးစွာ သားမြွာနှစ်ယောက်ကိုဖွား၏။ ဤသို့ အစုံအစုံ တဆဲ့ခြောက်ကြိမ် မွေးဖွားသဖြင့် သားတော်သုံးကျိပ် နှစ်ယောက်ဖြစ်သတည်း။ သားတော်တို့အရွယ်သို့ ရောက်လေသော် ခမည်းတော် ရာမမင်းလည်း မင်းသားတို့တတ်စရာ အလုံးစုံသော အတတ်ကိုသင်ပေ၏။

အခါတပါး ဗာရာဏသီပြည်မှ မုဆိုးတယောက်သည် ဥစ္စာရတနာရှာသည်ဖြစ်၍တောတောင်၌ လှည့်လာသည်ရှိသော် မင်းကြီးကိုမြင်၍ ဗာရာဏသီမင်းအဖြစ်ကို သိသဖြင့် အကျွန်ုပ်သည် ရှင်မင်းကြီးအား သိပါ၏ဟု နှုတ်ခွန်းဆက်သလျှောက်ထားလေ၏။ မင်းကြီးလည်း အလုံးစုံသောအကြောင်းအရာကို မေးမြန်းတော်မူ၏။ မင်းကြီးနှင့် မုဆိုးမေးမြန်းပြောဆို၍နေစဉ် မင်းကြီးထံ ခစားလာသော သားတော်တို့ကိုမြင်၍ ဘယ်သူ့သားမြေး ဖြစ်ပါသနည်းဟုမေး၏။ မင်းကြီးလည်း ငါ၏သားတော်များဖြစ်ကြောင်းကို မုဆိုးအားပြန်ကြားပေ၏။ သားတော်တို့ မယ်တော်အနွယ်ကိုမေး၍သိပြီးသော် ဤစကားကား ငါ့အား မြတ်သောလက်ဆောင်ဖြစ်တော့သည်။ ဤလက်ဆောင်ကို ဗာရာဏသီမင်းအား ဆက်သအံ့ဟု ကြံပြီး၍ တောမှဖယ်ခဲ့ပြီးသော် အလုံးစုံသော အကြောင်းကို ဗာရာဏသီမင်းအား လျှောက်ကြားလေ၏။ ဗာရာဏသီမင်းလည်း ခမည်းတော်ကိုရှိုးပင့်အံ့ဟု စစ်အင်္ဂါလေးပါးနှင့်တကွသွားလေ၍ ခမည်းတော်ကို ရှိခိုးခယပြုပြီးသော် ဗာရာဏသီပြည်သို့ပြန်၍ မင်းပြုတော်မူပါဟု လျှောက်၏။ ခမည်းတော်ရာမမင်းလည်း ငါကား ဗာရာဏသီပြည်ကို အလိုမရှိ။ ဤအရပ်၌ ကလောပင်ကို ပယ်ပြီးလျှင် မြို့တည်ဘိလောဟု သားတော်ကို မိန့်တော်မူ၏။ သားတော် ဗာရာဏသီမင်းလည်း ခမည်းတော်ဆိုတိုင်း ကလောပင်ကိုပယ်၍ ကျေးလက်ခရိုင်နှင့်တကွ မြို့တည်လေ၏။ ကလောပင်ကိုပယ်၍ မြို့တည်လေသောကြောင့် ထိုမြို့ကို ကောလနဂရဟူ၍၎င်း၊ ကျားတို့ကျက်စားရာ သွားရာ၌တည်သောကြောင့် ဗျဂ္ဃပထဟူ၍၎င်း မှည့်ကုန်၏။ ဤမျှလောက်သော အဆောက်အအုံကို ပြုပြီး၍ ခမည်းတော်ကို ခယရှိသေစွာ ရှိခိုးပြီးသော် ဗာရာဏသီပြည်သို့ပြန်လေ၏။ ရာမမင်း၊ ပိယာမိဘုရားတို့သည်လည်း သားတော် ဗာရာဏသီမင်း ပြန်သွားပြီးသည့်နောက် ကောလနဂရမြို့၌ပင် မင်းစည်းစိမ်ကို ခံစားသဖြင့် သားတော်တို့အရွယ်သို့ ရောက်ကြလေသော် သားတော်တို့အား မယ်တော်မိဘုရား ဤသို့မိန့်တော်မူ၏။ ကပိလဝတ်ပြည်၌နေသော သာကီဝင်မင်းတို့သည် မောင်တော် ဦးရီးတော်တို့ပေတည်း။ ဦးရီးတော်တို့၏

သမီးတော်များကား ထုံးမြိတ်ဝတ်စားခြင်း ဤသို့သော ရှိ၏။ ထိုသာကီဝင်မင်းသမီးတို့သည် ရောဟဏီမြစ်၌ ရေကစားမှတ်ပြုကြကုန်၏။ မောင်တို့ရေဆိပ်သို့သွား၍ ထုံးမြိတ်ဝတ်စား တင့်တယ်ထူးခြားသောအမူအရာကို မြင်သဖြင့် ကြိုက်နှစ်သက်ရာကိုယူလေဟု မယ်တော် မိဘုရား မှာတော်မူ၏။ သားတော်တို့လည်း ရေဆိပ်သို့ ရောက်လျှင် ကပိလဝတ်ပြည်မှလာသော သာကီဝင် မင်းသမီးတို့ ရေချိုးပြီးလျှင် ဆံကိုသွေ့စေလျက်နေသော အခါ ကြိုက်နှစ်သက်ရာခေါ်ယူပြီးလျှင် မိမိတို့အမျိုးအမည် ကို ပြန်ကြား၍သွားလေ၏။ ထိုအကြောင်းကို သာကီဝင် မင်းသားတို့ကြားလေသော် ခွေမျိုးမကွဲမပြား တူတော်များ ပင် ဖြစ်တော့သည်ဟု ခွင့်ပြုလေ၏။ ဤသို့လျှင် ရာမမင်း၊ ပိယာမိဘုရားတို့ကို အစပြု၍ ကောလိယမင်းမျိုး ဖြစ်သတည်း။ ဤကား ကောလိယပြည်တည်ခြင်း အကြောင်းတည်း။

## ၄၀။ ဒေဝဒဟပြည်တည်ထောင်ခြင်း အကြောင်း

ဒေဝဒဟမင်းတို့၏ အကြောင်းကား။ ။ ကပိလ ဝတ်ပြည်၌နေကုန်သော သာကီဝင်မင်းတို့သည် နှလုံးမွေ့ လျော်ဖွယ်ရှိသော ရေအိုင်ကြီးအနီး၌ မင်းတဲဆောက်၍ ရေဖျန်းသဘင် ပျော်ရွှင်ကစားမှတ်ပြုကုန်၏။ ထိုသို့ ပျော်ရွှင်ကစားရာ မင်းတဲကိုအကြောင်းပြု၍ ပြည်ကြီး ဖြစ်လတ်သော် ရေအိုင်အနီးအပါး၌တည်သည်ကို အကြောင်းပြု၍ ထိုပြည်သည် ဒေဝဒဟပြည်ဟုတွင်၏။ ထိုဒေဝဒဟပြည်၌နေသော မင်းတို့သည်လည်း ဒေဝဒဟ သာကီဝင်မင်းဟု တွင်ကုန်၏။ ထိုဒေဝဒဟ သာကီဝင် မင်းတို့သည်လည်း ကပိလဝတ်ပြည်ထောင်မင်း၊ ကောလိယပြည်ထောင်မင်းတို့ကဲ့သို့ အလုံးအရင်း ဆင်မြင်း ဗိုလ်ပါ ဖြိုးခိုင်စွာရှိသဖြင့် ထီးဖြူဆောင်းခြင်း ပြည်ထောင် မင်းအဖြစ်သို့ရောက်ကုန်၏။ ဤကား ဒေဝဒဟပြည် တည်ခြင်းအကြောင်းတည်း။ ။

## ၄၁။ ကပိလဝတ်ပြည်ကို တည်ထောင်သော ဥက္ကာမုခမင်းမှ သီဟဿရမင်းတိုင်အောင် မင်းဆယ်ဆက်တို့၏ အကြောင်း

ကပိလဝတ်ပြည်ကို အစိုးရသော ဥက္ကာမုခမင်း ကား စကားပြောတော်မူလျှင် ခံတွင်းမှ စက်ပြောင်ပြောင် ထွက်သောဟူ၏။ ဥက္ကာမုခမင်း၊ ထိုမင်း၏သားတော် နိပုဏမင်း။ ထိုမင်း၏သားတော် စန္ဒိမမင်း။ ထိုမင်း၏ သားတော် စန္ဒမုခမင်း။ ထိုမင်း၏ သားတော် ဝေဿန္တရာ မင်း။ ထိုမင်း၏ သားတော် ဇာလီမင်း။ ထိုမင်း၏ သားတော် သီဟဝါဟနမင်း။ ထိုမင်း၏သားတော် သီဟဿရမင်း။ ဥက္ကာမုခမင်းမှစ၍ သီဟဿရမင်းတိုင် အောင် မင်းပေါင်းဆယ်ဆက်တည်း။

မှန်နန်းရာဇဝင်၌ တဆဲ့တဆက်ဟူ၍ကား ဆို၏။ အရေအတွက်မပါ၊ ဆယ်ဆက်သာပါလေသည်။ မဟာဝင်နှင့်ငါတို့ရခိုင်ရာဇဝင် အင်းစောက်တို့၌ ဆယ်ဆက် သာ ရေတွက်၍ဆိုလေသည်။ (ဤကား စကားချပ်)။

## ၄၂။ သီဟဿရမင်းမှစ၍ ဇယသေနမင်း တိုင်အောင် ရှစ်သောင်းနှစ်ထောင် သောမင်း တို့၏အကြောင်း

ထိုသီဟဿရမင်း၏သားတော် မြေးတော်အစဉ် အဆက်အားဖြင့် ဇယသေနမင်းတိုင်အောင် ရှစ်သောင်း နှစ်ထောင်တည်း။ ။

## ၄၃။ ဇယသေနမင်းသားတော် သီဟဟနုမှ စ၍ သိဒ္ဓတ္ထမင်းတိုင်အောင် မင်းတို့ကို ပြဆိုခြင်း အကြောင်း

ဇယသေနသားတော် သီဟဟနုမင်း။ ထိုသီဟ ဟနု မင်းသားတော် သုဒ္ဓေါဒနမင်းတည်း။ ကပိလဝတ် ပြည်ကို အစိုးရသော ဇယသေနမင်းသားတော် သီဟဟနု။ နမတော် ယသော်ဓရာ။ ။ ဒေဝဒဟပြည်ကို အစိုးရသော

ဥက္ကာကရာဇ် သာကိဝင်မင်း၊ ယသဝတီ မိဘုရားကြီး၏ သားတော်ဖြစ်သော ဒေဝဒဟမင်းနှင့် ဖယသေနမင်းသည် သားတော် သမီးတော်တို့ကို မောင်နှံစုံဖက်တော်မူကြ ကုန်သတည်း။ အဉ္စနမင်းကို မဟာသုပ္ပဗုဒ္ဓဟူ၍ အင်္ဂုတ္တရ၊ ဧကနိပါတ် အဋ္ဌကထာတို့၌ဆိုသည်။ ဖယသေနမင်းသား သီဟဟနုမင်းကို ဒေဝဒဟမင်းသမီးတော် ကဉ္စနာနှင့် စုံဖက်ရာတွင် ဖွားမြင်သည်ကား သုဒ္ဓေါဒန၊ ဒေါတောဒန၊ သက္ကောဒန၊ သုက္ကောဒန၊ အမိတ္တောဒန၊ နှမတော် အမိတ္တာမင်းသမီး၊ ပါလိတာ မင်းသမီး၊ သားတော်ငါးပါး၊ သမီးတော်နှစ်ပါး၊ ပေါင်းခုနစ်ပါးတည်း။ ဖယသေန မင်းသမီးတော် ယသော်ဓရာနှင့် ဒေဝဒဟမင်းသားတော် အဉ္စနမင်းသားကို စုံဖက်ရာတွင် ဖွားမြင်သည်ကား သိရိမဟာမာယာ မင်းသမီး၊ ညီမတော် ပဇာပတိ ဂေါတမီမင်းသမီး၊ မောင်တော် ဒဏ္ဍပါဏိ၊ ညီတော် သုပ္ပဗုဒ္ဓ၊ သမီးတော်နှစ်ပါး၊ သားတော်နှစ်ပါး၊ ပေါင်းလေးပါးတည်း။ သီဟဟနု မင်းသားတော် သုဒ္ဓေါဒနမင်းနှင့် အဉ္စနမင်းသမီးတော် သိရိမဟာမာယာ၊ ညီမတော် ပဇာပတိဂေါတမီ၊ သည်နှစ်ပါးကိုစုံဖက်ရာတွင် သိရိမဟာမာယာ၌ သိဒ္ဓတ္ထမင်းသားကို ဖွားမြင်တော်မူသည်။ ညီမတော် ပဇာပတိ ဂေါတမီတွင် ဇနပဒ ကလျာဏီနှင့် နန္ဒမင်းသားကို ဖွားမြင်တော်မူသည်။ ဇနပဒကလျာဏီကား ငယ်မည် ရူပနန္ဒာတည်း။ ဇနပဒ ကလျာဏီအမည်ကား ကြီးမှတွင်သော အမည်တည်း။ ထိုဇနပဒကလျာဏီသည် ဘုရားလောင်းထက်ကြီးသည်ကို အင်္ဂုတ္တိုရ် အဋ္ဌကထာ၌ဆိုကြောင်းနှင့် မှန်နန်းရာဇဝင် ၃၂ နံပါတ်၌ဆိုသည်။ ဆိုသည့်အတိုင်း အင်္ဂုတ္တိုရ် ဧကနိပါတ် အဋ္ဌကထာ၊ ဧတဒဂ္ဂဝဂ်၊ မဟာပဇာ ပတိ ဂေါတမီဝတ္ထုအဖွင့် ၂၇၀ နံပါတ်၌…

မဟာမာယာတဿ ဇာတဒိဝသတော သတ္တမေ ဒိဝသေကာလံ ကတွာ တုသိတပုရေ နိဗ္ဗတ္တိ။ သုဒ္ဓေါဒန မဟာရာဇာ မဟာသတ္တဿ မာတုစ္ဆံ မဟာပဇာပတိ ဂေါတမိံ အဂ္ဂမဟေသိဋ္ဌာနေ ဌပေသိ။ တသ္မိံကာလေ နန္ဒကုမာရော ဇာတော။ ဟူ၍ နန္ဒမင်းသားကို ဘုရားလောင်းအောက် ခုနစ်ရက် ငယ်ကြောင်းနှင့်ဆိုသောကြောင့် ဇနပဒကလျာဏီ ကြီးသည်ဟု ယူသင့်သည်။ ။ မဟာမာယာ၊ မဟာမာယာ မိဘုရားသည်။ တဿ၊ ထိုဘုရားလောင်းအား။ ဝါ၊ ဘုရားလောင်းကို။ ဇာတဒိဝသတော၊ ဖွားမြင်တော်မူသော နေ့မှ။ သတ္တမေ၊ ခုနစ်ရက်မြောက်သော။ ဒိဝသေ၊ နေ့၌။ ကာလံ၊ စုတေမနေ သေလွန်ခြင်းကို။ ကတွာ၊ ပြု၍။ တုသိတပုရေ၊ တုသိတာနတ်ပြည်၌။ နိဗ္ဗတ္တိ၊ ဖြစ်လေ၏။ သုဒ္ဓေါဒန မဟာရာဇာ၊ သုဒ္ဓေါဒနမင်းကြီးသည်။ မဟာသတ္တဿ၊ ဘုရားလောင်း၏။ မာတုစ္ဆံ၊ မိထွေးဖြစ်သော။ မဟာပဇာပတိ ဂေါတမိံ၊ မဟာပဇာပတိ ဂေါတမီကို။ အဂ္ဂမဟေသိ ဌာနေ၊ မိဘုရားကြီးအရာ၌။ ဌပေသိ၊ ထားတော်မူ၏။ တသ္မိံ ကာလေ၊ ထိုသို့ မိဘုရားကြီး အရာထားသောကာလ၌။ နန္ဒကုမာရော၊ နန္ဒမင်းသားသည်။ ဇာတော၊ ဖွားမြင်တော်မူ၏။ ဤသို့အနက်ပေး။ ။ (ဤကား စကားချပ်)။ သီဟဟနု မင်းသမီးတော် အမိတ္တာနှင့် အဉ္စနသားတော် သုပ္ပဗုဒ္ဓကို စုံဖက်ရာတွင် ဖွားမြင်သည်ကား သမီးတော် ဘဒ္ဒကဉ္စနာ နှင့် မောင်တော်ဒေဝဒတ်ကို မြင်သတည်း။

သုဒ္ဓေါဒနမင်းကြီးသားတော် ဘုရားလောင်း သိဒ္ဓတ္ထကုမာရနှင့် သုပ္ပဗုဒ္ဓမင်းကြီးသမီး ဘဒ္ဒကဉ္စနာကို စုံဖက်တော်မူရာတွင် သားတော် ရာဟုလာကိုဖွားမြင်သည်။ ဘုရားရှင် ဘိုးတော် အဉ္စနမင်းသည် သက္ကရာဇ် ရှစ်ထောင်ခြောက်ရာ လေးဆဲ့ငါးခုကိုဖြိုတော်မူ၍ နှစ်ခု ကြွင်းထားသော သက္ကရာဇ်ခြောက်ဆဲ့ခုနစ်ခု၊ ဝါဆိုလပြည့်၊ ကြာသပတေးနေ့ ဥတြာသာဠ်နက္ခတ်နှင့် ယှဉ်လျက် သိရိမဟာမာယာဝမ်း၌ ဘုရားလောင်း ပဋိသန္ဓေနေတော်မူသည်။ ဆယ်လစေ့၍ သက္ကရာဇ်ခြောက်ဆဲ့ရှစ်ခု၊ ကဆုန်လပြည့်၊ သောကြာနေ့၌ နေထွက်တပဟိုရ်အချိန်၊

သိဟ်လက်၊ မြင်္ဂာစန်း၊ ဝိသာခါနက္ခတ်နှင့်ယှဉ်လျက် ဖွားမြင်တော်မူသည်။ သက်တော် တဆဲ့ခြောက်နှစ်သို့ ရောက်တော်မူသောအခါ ဘဒ္ဒကဉ္စနာမင်းသမီးကို ယသော်ရောသမုတ်၍ ရာဇဘိသေက ခံတော်မူပြီးလျှင် မင်းဆက်တကာတို့မစံရသော ဆောင်းဥတုအားလျော်စွာသော ဘုံကိုးဆင့်ရှိသော ရမ္မပြာသာဒ်၊ နွေဥတုအားလျော်စွာသော ဘုံငါးဆင့်ရှိသော သုရမ္မပြာသာဒ်၊ မိုးဥတုအားလျော်သော ဘုံခုနစ်ဆင့်ရှိသော သုဘပြာသာဒ် ဟူသော သုံးဆောင်သော ပြာသာဒ်နန်းတော်အတွင်း၌ မင်းသမီးအပေါင်း လေးသောင်းခြံရံလျက် တဆဲ့သုံးနှစ်တိုင်တိုင် မင်းစည်းစိမ်ကို ခံစားတော်မူသတည်း။

## ၄၄။ မဟာသမ္မတမင်းမှစ၍ ဘုရားလောင်း သိဒ္ဓတ်မင်းသားတိုင်အောင် မင်းဆက်တို့ကို နှစ်ရပ်ခွဲ၍ပြဆိုခြင်းအကြောင်း

ဆိုအပ်ခဲ့ပြီးသော မင်းစဉ်အားဖြင့် မဟာသမ္မတမင်းမှစ၍ ဥက္ကာကရာဇ်တိုင် နှစ်သိန်းငါးသောင်း နှစ်ထောင့်ငါးရာ ငါးကျိပ်ခြောက်ယောက်တရပ်၊ ဥက္ကာကရာဇ်မင်းကြီး၏သားတော် ဥက္ကာမုခမင်းမှစ၍ ဘုရားလောင်း သိဒ္ဓတ်မင်းတိုင် ရှစ်သောင်း နှစ်ထောင် တကျိပ်သုံးယောက်တရပ်၊ နှစ်ရပ်စုမင်းပေါင်း သုံးသိန်း သုံးသောင်း လေးထောင့်ငါးရာ ခြောက်ကျိပ် ကိုးယောက်တည်း။

## ၄၅။ တဆဲ့တကပ်မြောက် အန္တရကပ်ဦး မဟာသမ္မတမင်းမှစ၍ ဥက္ကာကရာဇ် မင်းဆက်တိုင်အောင် အစိတ်အစိတ်ပြုသဖြင့် ရေတွက်သော် နှစ်ဆဲ့လေးဆက် ရှိသည်ကိုပြခြင်းအကြောင်း

ဤသို့ဆိုအပ်ခဲ့ပြီးသော မင်းဆက်အပေါင်း၌ မဟာသမ္မတမင်း၏ အဆက်နှစ်ကျိပ်ရှစ်ဆက်- ၁။ အစ္စိတမင်း၏ အဆက်တရာ- ၂။ အရိန္ဒမမင်း၏ အဆက် ငါးကျိပ်ခြောက်- ၃။ ဒုပ္ပသဟမင်း၏အဆက် ခြောက်ကျိပ်- ၄။ အဇိတသေနမင်း၏အဆက် ရှစ်သောင်း လေးထောင်- ၅။ ဖြဟ္မဒတ်မင်း၏အဆက် သုံးကျိပ် ခြောက်- ၆။ ကမ္ဗလဝံသမင်း၏အဆက် သုံးကျိပ်နှစ်- ၇။ (မှန်နန်းရာဇဝင်မှာ သုံးကျိပ်ခြောက်ဟုဆို၏။ လေးဆက်ပိုလေသည်)။ ပူရိန္ဒမင်း၏ အဆက်နှစ်ကျိပ် ရှစ်ဆက်- ၈။ သာဓိနမင်း၏အဆက် နှစ်ကျိပ်နှစ်ဆက်- ၉။(မဟာဝင်ဝတ္ထုမှာ နှစ်ကျိပ်ရှစ်ဆက်ဟုဆို၏။ ခြောက်ဆက်ပိုလေသည်။) ဓမ္မဂုတ္တမင်း၏ အဆက်တကျိပ် ရှစ်ဆက်- ၁၀။ သိခိပ္ပမင်း၏အဆက် တကျိပ်ခုနစ်ဆက်- ၁၁။ ဖြဟ္မဒေဝမင်း၏အဆက် တကျိပ်ငါးဆက်- ၁၂။ ဗလဒတ္တမင်း၏အဆက် လေးဆက်- ၁၃။ (မဟာဝင်ဝတ္ထုမှာ တကျိပ်ခြောက်ဟုဆို၏၊ နှစ်ဆက်ပိုလေသည်။) ဟတ္ထိဒေဝမင်း၏ အဆက်ကိုးဆက်- ၁၄။ နရဒေဝမင်း၏ အဆက် ခုနစ်ဆက်- ၁၅။ မဟိန္ဒမင်း၏ အဆက် တကျိပ် နှစ်ဆက်- ၁၆။ နာဂဒေဝမင်း၏အဆက် နှစ်ကျိပ် ငါးဆက်- ၁၇။ သမုဒ္ဒတ္တမင်း၏အဆက် နှစ်ကျိပ် ငါးဆက်- ၁၈။ ဟိမကရမင်း၏အဆက် တကျိပ် နှစ်ဆက်- ၁၉။ တာလိဿရမင်း၏အဆက် တကျိပ် နှစ်ဆက်- ၂၀။ ပူရိန္ဒ မင်း၏ အဆက်ကိုးဆက်- ၂၁။ မဏ္ဍဒေဝမင်း၏အဆက် ရှစ်သောင်းလေးထောင်- ၂၂။ နေမိမင်း၏အဆက် ရှစ်သောင်းလေးထောင် တကျိပ် ကိုးဆက်- ၂၃။ ဥက္ကာကာရာဇ်မင်း၏ အဆက်ရှစ်သောင်း လေးထောင် တကျိပ်သုံးဆက်-၂၄။ ဤသို့ တိုင်းပြည်ပြုဖြစ်သော မင်းကိုအစွဲပြုသဖြင့် အစိတ်အစိတ်ဖြစ်သော မင်းဆက်ပေါင်းသည် နှစ်ဆဲ့လေးစုဖြစ်သတည်း။

ထိုနှစ်ဆဲ့လေးစုတို့တွင် ပထမအစု၌ တဆယ့်တကပ်မြောက်အန္တရကပ်ဦး မဟာသမ္မတမင်းသည် ရောဇဓသောမင်းတို့၏ ရှေးဦးစွာဖြစ်သောကြောင့် သစ်ပင်ကြီး အမြစ်နှင့်တူ၏။ ရောဇ အစရှိသော နှစ်ကျိပ်

ခုနစ်ယောက်သော မင်းတို့သည် သစ်ပင်ကြီး၏ပင်စည်နှင့် တူ၏။ အစ္စိတမင်း၏ အနွယ်အဆက်ဖြစ်သော တရာသော မင်းမှစ၍နောက်နောက် နှစ်ဆဲ့သုံးစိတ်ဖြစ်သော အစုတို့ သည် သစ်ပင်ကြီး၏ ခက်မခက်သေး၊ အညွန့်အဖူး၊ အပွင့်အသီးနှင့် တူကုန်၏။ ဤသို့ အစိတ်အားဖြင့် နှစ်ဆဲ့ လေးစု၊ အပေါင်းအားဖြင့်ကား ဘုရားလောင်း သိဒ္ဓတ္ထမင်းတိုင်အောင် သုံးသိန်းသုံးသောင်းလေးထောင် ငါးရာ ခြောက်ကျိပ်ကိုးယောက်ဖြစ်သည်ဟု မဟာဝင်၊ ဒီပဝင်တို့၌ ပြဆိုအပ်သောစကားသည် အကျဉ်းအားဖြင့် ပြဆိုအပ်သော စကားသာဖြစ်သည်ဟုမှတ်ရမည်။ ။ အကျဉ်းဖြစ်ကြောင်းကို ရှေး၌ပြဆိုအပ်သည့်အတိုင်း နေမိမင်း၏သား ကာဠာရဇနကမင်းမှစ၍ ဥက္ကာကရာဇ် မင်းတိုင်အောင် ရှစ်သောင်းနှစ်ထောင် တကျိပ်ကိုးမျှသာ ပြဆိုလေသည်။ ။ သီလက္ခန် အဋ္ဌကထာ၌ တတိယ ဥက္ကာကရာဇ်မင်း၏သား ဥက္ကာမုခမင်းမှစ၍ သာကီဝင် မင်းဆက်မင်းနွယ် အဆက်ဆက် ဆင်းသက်ပြန့်ပွားလေ ကြောင်းနှင့်ဆိုသောကြောင့်ရုံး။ ဝုံးဋီကာ၌ ပထမဥက္ကာ ကရာဇ်မင်း၏ သားမြေးအဆက်ဆက် အသိန်းမက ဆင်းသက်ဖြစ်ပွားကြောင်း၊ ဒုတိယဥက္ကာ ကရာဇ် သားမြေးမြစ်အဆက်ဆက်လည်း ထိုအတူ အသိန်းမက ဆင်းသက်ဖြစ်ပွားကြောင်းနှင့် ဆိုသည်ကို ထောက်၍ အကျဉ်းမျှသာပြဆိုကြောင်းကို သိရလေသည်။ (သာကီဝင်မင်းတို့၏ အဆက်အနွယ်တွင်လည်း သီဟဿရမင်း၏ သားမြေးအဆက်ဆက် ဇယသေနမင်း တိုင် ရှစ်သောင်းနှစ်ထောင်ဟူ၍သာ မဟာဝင်၊ ဒီပဝင်တို့၌ လာသည်။ သီဟဿရမင်း၏သားမြေး အဆက်ဆက် ဘဂုသာကီဝင်တိုင် ရှစ်သောင်းနှစ်ထောင်။ ဘဂုသာကီဝင် မင်း၏ သားမြေးအဆက် ဇယသေနမင်းတိုင် ရှစ်သောင်း နှစ်ထောင်ပြန့်ပွားလေသည်ဟု ဥတ္တရဝိဟာ ရဝါသီဆရာ တို့ပြုသော မဟာဝင်ကျမ်းတွင်လာကြောင်းကို ယခုရှိ မဟာဝင်ဋီကာ၌ပြဆိုသဖြင့် မပယ်ခဲ့လေရကား သာကီဝင် မင်းအနွယ်အဆက်သည် ရှစ်သောင်းနှစ်ထောင်မကဟူ၍ သိရလေသည်။ (ဤကား စကားချပ်)။

## ၄၆။ ဘုရားလောင်း သိဒ္ဓတ္ထမင်းသား ဘုရား ဖြစ်တော်မူသောအကြောင်း

ဘုရားလောင်း သိဒ္ဓတ္ထမင်းသည် မင်းမဖြစ်မီ တဆယ့်ခြောက်နှစ် မင်းစည်းစိမ်တဆဲ့သုံးနှစ် စံတော် မူပြီးမှ သက်တော်နှစ်ဆဲ့ကိုးနှစ် ရောက်တော်မူသောအခါ သူအို၊ သူနာ၊ သူသေ၊ ရဟန်း နိမိတ်လေးပါးကို မြင်တော်မူ၍။ သက္ကရာဇ် ၉၇ခု၊ ဝါဆိုလပြည့်၊ တနင်္လာနေ့၊ မြင်းယာဉ်စီး၍ တောထွက်တော်မူသည်။ အနော်မာမြစ်နား၌ ဃဋိကာရဗြဟ္မာလှူအပ်သော ကမ္ဗာ့ တန်ဆာ၊ ကြာတိုက်တွင်ပါသော ပရိက္ခရာရှစ်ပါးကိုခံယူ၍ ရဟန်းပြုတော်မူသည်။ ရဟန်းပြုတော်မူပြီးသော် အာဠာရ၊ ဥဒကရသေ့တို့အထံ၌ ခုနစ်ရက်နေတော်မူ၍ ရျာန် သမာပတ်ကိုဖြစ်စေပြီးလျှင် ဤအကျင့်သည် သဗ္ဗညုတ ဉာဏ်သို့ ရောက်အံ့သောအကြောင်း မဟုတ်ချေသေး။ အကြောင်းကိုရှာအံ့ဟုကြံတော်မူပြီးလျှင် ဥရုဝေဠတောသို့ ရောက်တော်မူ၍ ဒုက္ကရစရိယာအကျင့်ကို ခြောက်နှစ် ကျင့်တော်မူ၍ သက္ကရာဇ် တရာ့သုံးခု၊ ကဆုန်လပြည့်နေ့ နံနက်စောစောအခါ ဘုရားတကာတို့ လက်ဦးစွာခံမြဲဖြစ် သော သုဇာတာလှူသော ဃနာဆွမ်းမြိတ်ကို အဇပါလ ညောင်ပင်ရင်း၌ ရွှေခွက်နှင့်တကွခံတော်မူ၍ နေရဉ္စရာ မြစ်နားသို့ ရှေးရှုသွားတော်မူပြီးသော် လေးဆဲ့ကိုးလုပ် ဘုဉ်းပေးတော်မူပြီးမှ ဘုရားတကာတို့ မိဋ္ဌာန်မြဲဖြစ်သော ရွှေခွက်ကိုမျှောတော်မူ၍ ညချမ်းသောအခါ၌နတ်တို့ စီရင်အပ်သောလမ်းဖြင့် နေရဉ္စရာမြစ်နား ဆွမ်းစားရာ အရပ်မှသည် အနောက်မြောက် နှစ်မိုင်ခန့်ဝေးသော ဗောဓိ မဏ္ဍိုင်သို့ ကြွတော်မူသောအခါ သောတ္ထိယအမည်ရှိသော လုလင်သည် ကပ်လှူအပ်သော မြက်ရှစ်ဆုပ်ကိုခံတော်မူ ၍ ဗောဓိမဏ္ဍိုင်၏ အရှေ့မြောက်အရပ်၌ ရပ်တော်မူ၍

ဗောဓိမဏ္ဍိုင်၏ အရှေ့ရှုးရှုး၌ ဖြန့်ဖျူးကြဲတော်မူလေလျှင် တဆဲ့လေးတောင် အမြင့်ဆောင်သော ရတနာပလ္လင်တော်ပေါက်၍ ထိုရတနာပလ္လင်ထက် အင်္ဂါလေးပါးရှိသော ဝီရိယကိုဓိဋ္ဌာန်တော်မူ၍ နေမဝင်မီ မာရ်စစ်သည်ကို အောင်မြင်တော်မူသည်။ ညဥ့်ဦးယံ၌ ပုဗ္ဗေနိဝါသဉာဏ်ကို ရတော်မူသည်။ သန်းခေါင်ယံ၌ ဒိဗ္ဗစက္ခုဉာဏ်ကို ရတော်မူသည်။ မိုးသောက်ယံ၌ ပဋိစ္စသမုပ္ပါဒ်ကို အနုလောမ၊ ပဋိလောမအားဖြင့် ဆင်ခြင်တော်မူ၍ ဒသဗလဉာဏ်၊ စတုဝေသာရဇ္ဇဉာဏ်၊ ဆအသာဓာရဏဉာဏ် အစရှိသော ဂုဏ်တော်အပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သော အာသဝက္ခယဉာဏ်ကိုရတော်မူလျှင် အလုံးစုံသောဘုရားဂုဏ်နှင့် ပြည့်စုံတော်မူသော သမ္မာသမ္ဗောဓိသဗ္ဗညုဘုရားအဖြစ်သို့ ဗုဒ္ဓဟူးနေ့နံနက် အရုဏ်တက်အချိန်တွင် ရောက်တော်မူသည်။

## ၄၇။ ဣသိပတန မိဂဒါဝုန်တော ပဉ္စဝဂ္ဂီငါးယောက်တို့ကို တရားဟောတော်မူကြောင်း

ဤသို့ဘုရားအဖြစ်သို့ ရောက်တော်မူသော် လေးဆဲ့ကိုးရက်ပတ်လုံး သတ္တဋ္ဌာနဌ်နေတော်မူပြီးမှ လင်းလွန်းပင်ရင်းမှပြန်တော်မူ၍ အဇပါလညောင်ပင်အနီး၌ နေတော်မူသောအခါ တရားတော်၏နက်နဲသိမ်မွေ့သည်၏အဖြစ်ကို ဆင်ခြင်တော်မူသဖြင့် တရားဟောတော်မမူလိုသော စိတ်တော်ရှိသည်ကိုသိ၍ စကြဝဠာတသောင်းမှလာကုန်သော နတ်ဗြဟ္မာအပေါင်းတို့နှင့်တကွ သဟံပတိဗြဟ္မာမင်းသည် မြင်းမိုရ်တောင်လုံးရှိလောက်သော ရတနာပန်းကုံးဖြင့်ပူဇော်၍ တရားဟောတော်မူခြင်းငှာ တောင်းပန်လတ်သည်ရှိသော် ကျွတ်ထိုက်သောသတ္တဝါတို့ရှိသောအဖြစ်ကို မြင်တော်မူ၍ ခွင့်ပြုတော်မူပြီးမှ ရှေးဦးစွာ တရားဟောထိုက်သူကို ကြည့်တော်မူပြီးသော် အာဠာရ၊ ဥဒကရသေ့တို့၏ စုတေသောအဖြစ်ကိုသိတော်မူ၍ ပဉ္စဝဂ္ဂီရဟန်းငါးယောက်တို့၏ ကျေးဇူးကို ဆင်ခြင်တော်မူပြီးမှ ဗောဓိမဏ္ဍိုင်အရပ်မှ အနောက်မြောက် တဆဲ့ရှစ်ယူဇနာဝေးသော ဗာရာဏသီပြည်သို့ ခြေကြောင်းခရီးကြွတော်မူလေသော် ဗောဓိမဏ္ဍိုင်နှင့် ဂယာသီသမြို့၏အကြား သုံးဂါဝုတ် ခြောက်မိုင်ရှိခရီး၌ ဥပကမည်သော အာဇီဝကနှင့်တွေ့တော်မူလျှင်ထိုသူသည် နောက်မှကျွတ်လတ္တံ့သည်ကို မြင်တော်မူ၍ ဥပနိဿယပေးတော်မူသဖြင့် ဘုရားအဖြစ်ကိုပြ၍ ကြွတော်မူလေလျှင် ညချမ်းအခါ ဗာရာဏသီပြည်၏အနီး အရှေ့ဘက်အရပ်ရှိ ဣသိပတနမိဂဒါဝုန်တောသို့ ရောက်တော်မူ၍ ဝါဆိုလပြည့် စနေနေ့ အရှေ့လောကဓာတ်မှ လ,ပေါ်ထွက်ခြင်း၊ အနောက်လောကဓာတ်မှ နေဝင်ခြင်း၊ တောအုပ်၏ တင့်တယ်ခြင်းဖြစ်သော စကြဝဠာ တသောင်းမှလာကုန်သော နတ်ဗြဟ္မာအပေါင်းတို့၏အလယ်၌ ပဉ္စဝဂ္ဂီငါးယောက်တို့ကို တိုင်တည်၍။ ဒွေမေ ဘိက္ခဝေအန္တာ ပဗ္ဗဇိတေန နသေဝိတဗ္ဗာ။ ။ အစရှိသော ဓမ္မစက္ကပဝတ္တနသုတ်ကို ဟောတော်မူသည်။ ဒေသနာတော်အဆုံး၌ ပဉ္စဝဂ္ဂီငါးဦးတို့၏ အကြီးအမှူး ကောဏ္ဍညနှင့်တကွ တဆဲ့ရှစ်ကုဋေသော နတ်ဗြဟ္မာတို့သည် သောတာပတ္တိဖိုလ်၌ တည်ကြလေကုန်၏။ ဒွေ၊ နှစ်ပါးကုန်သော။ ဣမေအန္တာ၊ ဤကာမ သုခလ္လိကာနု ယောဂ၊ အတ္တကိလမထာ နုယောဂဟုဆိုအပ်သော အယုတ်တရားနှစ်ပါးတို့ကို။ န သေဝိတဗ္ဗာ၊ မမှီဝဲ မပြုကျင့်အပ်ကုန်။ ဤသို့ အနက်ပေး။ ။

## ၄၈။ လေးဆဲ့ငါးဝါပတ်လုံး ဝါဆိုတော်မူစဉ်အကြောင်း

(၁) ဘုရားဖြစ်တော်မူ၍ ထိုဗာရာဏသီပြည် မိဂဒါဝုန်ကျောင်းတော်၌ ရှေးဦးပထမ ဝါဆိုတော်မူသည်။ ဝါတွင်း၌ ပဉ္စဝဂ္ဂီငါးယောက်နှင့်တကွ နို့ဆွမ်းလှူသော သုဇာတာ၏သား ယသ သတို့သား အမှူးရှိသော ငါးကျိပ်

ငါးယောက်တို့သည် ရဟန္တာအဖြစ်သို့ ရောက်တော်မူကြကုန်၏။ ထိုဝါတွင်းကာလ၌ လောကဝယ် မြတ်စွာဘုရားနှင့်တကွ လူ့ရဟန္တာအဖြစ် ခြောက်ကျိပ်တပါးဖြစ်သတည်း။ ။ (၂)နှစ်ကြိမ်မြောက်ဝါကို ရာဇဂြိုဟ်ပြည်ဝေဠုဝန်ကျောင်းတော်၌ ဆိုတော်မူသည်။ (၃)သုံးကြိမ်မြောက်ဝါ၊ လေးကြိမ်မြောက်ဝါတို့ကိုလည်း ဝေဠုဝန်ကျောင်းတော်၌ပင် ဆိုတော်မူသည်။ (၄) ငါးကြိမ်မြောက်ဝါကို ဝေသာလီပြည် မဟာဝုန်ကျောင်းတော်၌ ဆိုတော်မူသည်။ (၅)ခြောက်ကြိမ်မြောက်ဝါကို မကုလတောင်၌ဆိုတော်မူသည်။ (၆)ခုနစ်ကြိမ်မြောက်ဝါကို တာဝတိံသာနတ်ပြည်၌ဆိုတော်မူသည်။ (၇)ရှစ်ကြိမ်မြောက်ဝါကို ဘဂ္ဂတိုင်း၊ သံသုမာရဂိရိပြည်၌ ဆိုတော်မူသည်။ (၈)ကိုးကြိမ်မြောက်ဝါကို ကောသမ္ဗိပြည်၌ ဆိုတော်မူသည်။ (၉)ဆယ်ကြိမ်မြောက်ဝါကို ပါလိလေယျကတော၌ ဆိုတော်မူသည်။ (၁၀)တဆဲ့တကြိမ်မြောက်ဝါကို နာလကအမည်ရှိသော ပုဏ္ဏားရွာ၌ဆိုတော်မူသည်။ (၁၁)တဆဲ့နှစ်ကြိမ်မြောက်ဝါကို ဝေရဉ္စပြည်၌ ဆိုတော်မူသည်။ (၁၂)တဆဲ့သုံးကြိမ်မြောက်ဝါကို စာလိယတောင်၌ ဆိုတော်မူသည်။ (၁၃)တဆဲ့လေးကြိမ်မြောက်ဝါကို သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ ဆိုတော်မူသည်။ (၁၄)တဆဲ့ငါးကြိမ်မြောက်ဝါကို ကပိလဝတ်ပြည်၌ ဆိုတော်မူသည်။ (၁၅)တဆဲ့ခြောက်ကြိမ်မြောက်ဝါကို အာဠဝီပြည်၌ ဆိုတော်မူသည်။ (၁၆) တဆဲ့ခုနစ်ကြိမ်မြောက်ဝါကို ရာဇဂြိုဟ်ပြည်၌ ဆိုတော်မူသည်။ (၁၇)တဆဲ့ရှစ်ကြိမ်မြောက်ဝါ၊ တဆဲ့ကိုးကြိမ်မြောက်ဝါတို့ကို စာလိယတောင်၌ ဆိုတော်မူသည်။ (၁၈)နှစ်ဆယ်ဝါကို ရာဇဂြိုဟ်ပြည်၌ ဆိုတော်မူသည်။ (၁၉)ဤသို့ဘုရားဖြစ်သည်မှစ၍ ဝါနှစ်ဆယ်တိုင်အောင် မမြဲသောနေတော်မူခြင်းဖြင့် ထိုထိုသော အရပ်တို့၌ ဝါဆိုတော်မူသည်။ ထိုနောက်မှကား နှစ်ဆယ့်လေးဝါပတ်လုံး သာဝတ္ထိပြည်ကို အမှီပြု၍သာ လျှင် ဇေတဝန်ကျောင်းတော်၊ ပုဗ္ဗာရုံကျောင်းတော်တို့ကို အမြဲသုံးဆောင်သောအားဖြင့် ဝါဆိုတော်မူ သည်။ (၂၀) အဆုံးစွန်၊ ပဉ္စစတ္တာလီသဝါကိုကား ဝေသာလီပြည်၏အနီး ဝေဠုဝရွာ၌ ဆိုတော်မူသည်။ ဤ၌ အကြိမ်နှစ်ဆယ်သည် ကြွရောက်နေထိုင်တော်မူသော အမှတ်ဖြစ်သည်။ အရပ်ဌာနကား (၁) ဗာရာဏသီ၊ (၂) ရာဇဂြိုဟ်၊ (၃)ဝေသာလီ၊ (၄)မကုလတောင်၊ (၅)တာဝတိံသာ၊ (၆) သံသုမာဂိရိ၊ (၇)ကောသမ္ဗီ၊ (၈) ပလလဲတော၊ (၉)နာလကပုဏ္ဏားရွာ၊ (၁၀)ဝေရဉ္စ၊ (၁၁)စာလိယတောင်၊ (၁၂)သာဝတ္ထိ၊ (၁၃)ကပိလ၊ (၁၄)အာဠဝီ၊ (၁၅)ဝေဠုဝ၊ ဤသို့အရပ်ဌာနကား တဆဲ့ငါးရပ်ဖြစ်သည်။

လင်္ကာအားဖြင့် မှတ်လိုသော်။ တက်ထွန်းကျက်သရေ၊ သုံးလူ့ဆွေကား၊ အောင်မြေသိရီ၊ ဗောဓိသမီပ၊ ရပ်ဌာနဥ္၊ နှစ်လမှန်ကယ်၊ ရက်ခြောက်ဆယ်ဖြင့်၊ သပ္ပာယ်မျှတ၊ နေပြီးမှလျှင်၊ ပထမဝါ၊ ဗာရာဏသီ၊ မြိုင်တောမှီ၏။ နောက်ချီဒုတိယ၊ တတိယနှင့်၊ စတုတ္ထဝါ၊ ပြည်ရာဇဂြိုဟ်၊ ဝါးညိုကျောင်းလှ။ ဝါကပ်မျှ၏၊ ပဉ္စမဝါ၊ ပြည်ဝေသာလီ၊ လိစ္ဆဝီမင်းပေါင်း၊ ဆောက်တုံ့ရှောင်းသည်၊ ကျောင်းမဟာဝန်၊ တတန်ဆဋ္ဌ၊ မကုလတောင်မှာ၊ ခုနစ်ဝါသော်၊ ဝတိံသာရောက်၊ မြောက်တုံ့ရှစ်ဝါ၊ ဘဂ္ဂါယန၊ ကိုးဝါကျသော်၊ ဌာနပူရီ၊ ကောသမ္ဗီ၌၊ ဃောသိတာရုံ၊ ရွှေဘုံမှီကပ်၊ ဆယ်ဝါရပ်ကား၊ မလျှပ်သိပ်သည်း၊ ပလလည်းသာမော၊ အင်ကြင်းတောဝယ်၊ ရှင်စောမှီကာ၊ ဆဲ့တဝါကား၊ နာဠာထင်ရှား၊ ပုဏ္ဏားနေထ၊ ရပ်ဂါမတည်း၊ ဒွါဒသယှဉ်၊ ဝေရဉ္စခေါ်၊ ဆဲ့သုံးသော်ကား၊ တောင်ကျော်သာလှ၊ စာလိယ၌၊ ကပ်ထမှီကာ၊ ဆဲ့လေးဝါတွင်၊ သာဝတ္ထိ တောင်စွန်၊ ဇေတဝန်ထင်ရှား၊ ရှင်ပျော်ပါး၏၊ ဆဲ့ငါးဝါမှ၊ ကပိလတွင်၊ စိမ်းမြရိပ်သာ၊ နိဂြောဓဟု၊ ကျောင်းသာ စံမြောက်၊ ဆဲ့ခြောက်ဝါစီ၊ အာဠဝီဟု၊ ပူရီဖက်မှဲ၊ ပျော်စံခဲ့၍၊ ဆဲ့ခုနစ်ဝါ၊ ထိုသောခါလျှင်၊ ရာဇဂြိုဟ်ဌာန၊ သာလှဗိမာန်၊ နတ်ထံ

တုလျော၊ ဝါးတောညိုလှဲ၊ အောင်ပွဲဖွဲ့၍၊ တဆဲ့ရှစ်ဝါ၊ ဆဲ့ကိုးဝါ၌၊ စာလိယရောက်၊ ဝါဆိုမြောက်၏။ ပယ်ဖျောက်ရန်ကွာ၊ နှစ်ဆယ်ဝါကား၊ ရာဇဂြိုဟ်ငှင်း၊ ရောက်ပြန်ရှောင်း၏။ နှစ်ပေါင်းဝီသ၊ ပထမဗောဓိ၊ မုနိမြတ်စွာ၊ ဝါဆိုပါလည်း၊ မြဲစွာမရှိ၊ နောက် ဗောဓိကား၊ သာဝတ္ထိမှာ၊ ပုဗ္ဗာရုံမှန်၊ ဇေတဝန်ဟု၊ နှစ်တန်ကျောင်းမှာ၊ လူးလာမဝေး၊ နှစ်ဆဲ့လေးဝါ၊ နေပြီး ခါမှ၊ နိဗ္ဗာနသို့၊ ကြွအံ့လူလူ၊ ဝါတခုကား၊ ဝေဠုဝရွာ၊ ကပ်မိုလာ၏။ သချာမှတ်သား၊ ဆဲ့ငါးဌာန၊ ပဥ္စဝဂ္ဂာ၊ ဝါလေးဆဲ့ငါး၊ သက်ကားရှစ်ဆယ်၊ တိုင်ခါဝယ်၌၊ ဘုန်းကြွယ်ထွတ်ခေါင်၊ ခေမာသောင်သို့၊ ရွှေဖောင် တော်ယွန်း၊ စံသိမ်းမြန်းသည်။ သုံးခန်းလူတို့မှန်ကူတည်း။ ဟူသော ဤလင်္ကာဖြင့် မှတ်ရာသည်။ (ဤကား စကားချပ်)။ ။

## ၄၉။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူ၍ တေဇောဓာတ်မီး လောင်တော်မူကြောင်း

ဤသို့ ဘုရားဖြစ်တော်မူပြီး၍ လေးဆဲ့ငါးဝါ ပတ်လုံး ခပ်သိမ်းသော လူနတ်ဗြဟ္မာ သတ္တဝါအပေါင်းတို့အား တရားတည်းဟူသော မြိန့်မြတ်သောအရသာကို သောက်စေတော်မူ၍ ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်တော၌ သက္ကရာဇ်တရာ့လေးဆဲ့ ရှစ်ခု၊ ကဆုန်လပြည့်၊ အင်္ဂါနေ့၊ မိုးသောက်ယံအချိန်တွင် ပရိနိဗ္ဗာန်စံလွန်တော်မူသည်။ ပရိနိဗ္ဗာန်စံတော်မူပြီး၍ ပထမ သတ္တာဟခုနစ်ရက်လွန်ပြီးနောက်မှ တပည့်အခြံအရံ ငါးရာနှင့်တကွ အရှင်မဟာကဿပလာရောက်၍ ရွှေစက်တော် စုံကို ဦးတိုက်ပြီးလျှင် ဒုတိယသတ္တာဟခုနစ်ရက်လွန်ပြီးသော ကဆုန်လပြည့်ကျော် တဆဲ့နှစ်ရက်၊ တနင်္ဂနွေ နေ့၌ တေဇောဓာတ်လောင်တော်မူသည်။ တေဇောဓာတ်လောင်တော်မူပြီးသည်နောက် မလ္လာမင်းတို့သည် ဓာတ်တော်တဆယ့်ခြောက်ပြည်တို့ကို အထူးထူးသော ပူဇော်ခြင်းတို့ဖြင့် ပူဇော်ယူဆောင်လျက် မြို့တွင်း မင်းကွန်း စရပ်၌ထား၍ ခုနစ်ရက်ပတ်လုံးပူဇော်ချီးမြှင့်ကြသော တတိယသတ္တာဟအကုန် နယုန်လဆန်းငါးရက်၊ တနင်္လာနေ့၌ ဓာတ်တော်များကို ဒေါဏပုဏ္ဏားဝေဘန်၍ ပေးသောနေ့ဖြစ်လေသည်။

ဤအရာတွင် မဟာပရိနိဗ္ဗာနသုတ်နှင့် ပါရာဇိကဏ်အဋ္ဌကထာတို့၌ ဒုတိယသတ္တာဟမပါလေ။ ပရိနိဗ္ဗာနသုတ် အဋ္ဌကထာ၊ ငင်းဋီကာ၊ သာရတ္ထဋီကာတို့၌ကား သုံးသတ္တာဟစီဟုဆိုလေသည်။ သမန္တစက္ခုဒီပနီ ပထမ ၈၂ နံပါတ်၊ ဇိနတ္တပကာသနီ ၆၇၃ နံပါတ်တို့၌ ငင်းနည်းတူဆို၍ တေဇောဓာတ်လောင်သောနေ့ကို ကဆုန်လပြည့်ကျော် တဆဲ့နှစ်ရက်၊ တနင်္ဂနွေနေ့ဟူ၍ ဆိုလေသည်။ မှန်နန်းရာဇဝင် ၅၅ နံပါတ်၌ကား လပြည့်ကျော် တဆဲ့သုံးရက်နေ့ဟုဆိုပြီးလျှင် သုံးသတ္တာဟဆိုသော ပရိနိဗ္ဗာနသုတ် အဋ္ဌကထာကို နိုင်မာသည်ဟု မယူလေ။ မိမိရေးသားသောရာဇဝင်၌လည်း တေဇောဓာတ်လောင်ရုံသာဆို၍ နောက်ဓာတုပူဇာ သတ္တာဟမပါလေ။ (ဤကား စကားချပ်)

## ၅၀။ ဓာတ်တော်၊ စွယ်တော်တို့ကို ဝေဖန်၍ အသီးအသီး ကိုးကွယ်ကြသည့် အကြောင်း

ထိုအခါ ရာဇဂြိုဟ်ပြည် အဇာတသတ်မင်း၊ ဝေသာလီပြည် လိစ္ဆဝီမင်း၊ ကပိလဝတ်ပြည် သာကီဝင်မင်း၊ အလ္လကပ္ပပြည် ဗုလယမင်း၊ ရာမရွာ ကောလိယမင်း၊ ဝေဋ္ဌဒီပပြည် ပုဏ္ဏားမျိုး၊ ပါဝါပြည် မလ္လာမင်းမျိုး၊ ကုသိနာရုံပြည် မလ္လာမင်းမျိုးဟူသော ရှစ်ပြည်ထောင်မင်းတို့ ဓာတ်တော်ကိုအကြောင်းပြု၍ ကြီးစွာခိုက်ရန်ဖြစ်လတ္တံ့သည်ကို ဒေါဏပုဏ္ဏားဆုံးမပြီးလျှင် တေဇောဓာတ်လောင်ပြီးသည့်နောက် ခုနစ်ရက်မြောက် နယုန်လဆန်းငါးရက်၊ တနင်္လာနေ့၌ ဓာတ်တော်ကိုဝေဖန်၍ တပြည်ထောင်စီ မဂဓနေ့စ်စလယ်ဝင်၊ နှစ်ပြည်နှစ်ပြည်စီသော ဓာတ်တော်တို့ကို ပေးအပ်လိုက်လေသည်။ (ရာဇဝင်ကြီးမှာ တဆဲ့

တပြည်ထောင်မင်းတို့ကို ဝေလိုက်ကြောင်းနှင့်ဆိုသည်။ သုတ်မဟာဝါ၊ ပရိန္ဒိဗ္ဗာနသုတ်နှင့် မညီလေ)။ ။

လက်ယာအထက် စွယ်တော်ကို သိကြားမင်းယူ၍ တာဝတိံသာ စူဠာမဏိစေတီတွင် ဌပနာသွင်း၍ ကိုးကွယ်လေသည်။ လက်ယာအောက်စွယ်တော်ကိုကား ဇယသေန နဂါးမင်းယူ၍ နဂါးပြည်တွင် ရတနာစေတီ၌ ဌပနာသွင်း၍ ကိုးကွယ်လေသည်။ လက်ဝဲအထက် စွယ်တော်ကိုကား ဂန္ဓာရတိုင်းသား ရဟန်းတပါးယူ၍ ဂန္ဓာရမင်းကြီးအား အပ်လေသဖြင့် ဂန္ဓရတိုင်း၊ တက္ကသိုလ်ပြည်၊ ပက်ဿူဝါမြို့စေတီ၌ ဌပနာသွင်း၍ ကိုးကွယ်လေသည်။ လက်ဝဲအောက်စွယ်တော်ကိုကား အရှင်သာရိပုတ္တရာ တပည့် အရှင်ခေမမထေရ်သည် မီးရဲရဲတောက်သော ထင်းပုံထဲမှယူ၍ ကလိင်္ဂရာဇ်မင်းအား ဆက်သဖြင့် ကလိင်္ဂတိုင်း၊ ဒန္တပူရပြည် ဗြဟ္မဒတ်မင်းမှစ၍ ကုမာသိဝမင်းတိုင်အောင် သက္ကရာဇ်ရှစ်ရာ့သုံးဆယ်ပြည့်ထိ ကြုတ်တော်တွင်သွင်း၍ ကိုးကွယ်လေသည်။ ကုမာသိဝမင်းလက်ထက်မှ သမီးတော် ဟေမမာလာ၊ သမက်တော် ဒန္တကုမာရမင်းတို့ယူဆောင်၍ သီဟိုဠ်ကျွန်း၊ အနုရာဓမြို့ ကိတ္တိသိရိမေဃမင်းနန်းစံ ကိုးနှစ်တွင် ရောက်သဖြင့် သီဟိုဠ်မင်းဆက် ကိုးကွယ်လေသည်။ ယခုအခါ အနုရာဓမြို့မှ အရှေ့တောင်ထောင့် ကိုးဆဲ့ငါးမိုင်ကွာသော သေခန္ဒမြို့တွင် ကျောက်တိုင်၊ နှစ်ဆင့်တိုက်ကျောင်းကလေး၌ ရွှေကြုတ်အတွင်း သွတ်သွင်းချီးမြှင့်ကိုးကွယ်လျက်ရှိလေသည်။

ဤလက်ဝဲအထက် စွယ်တော်ကား ကလိင်္ဂရစ်ပြည်၊ အောက်စွယ်တော်ကား ဂန္ဓာရပြည်သို့ရောက်လေသည်ဟု မှန်နန်းရာဇဝင် ၅၆ နံပါတ်တွင်ဆိုသည်။ ၂၄၄ နံပါတ်တွင်ကား လက်ဝဲအောက်စွယ်တော်ကိုကား ကလိင်္ဂရစ်ပြည်မှသည် သီဟိုဠ်ကျွန်းသို့ ယူဆောင်ကြောင်းနှင့် ဆိုပြန်လေသည်။ သမန္တစက္ခုဒီပနီ ဒုတိယတွဲ ၂၅၃ နံပါတ်၌ အောက်လက်ဝဲစွယ်တော်သည် ကလိင်္ဂတိုင်း၊ ဒန္တပူရပြည်မှ သာသနာသက္ကရာဇ် ရှစ်ရာသုံးဆယ်တွင် ကိတ္တိသိရိမေဃမင်းလက်ထက် သီဟိုဠ်ကျွန်း အနုရာဓမြို့သို့ ရောက်ကြောင်းနှင့်ဆိုသည်။ ကိုးရာသုံးဆဲ့ငါးနှစ်ကျော်မှဟုပါသည်ကို စွယ်စုံကျော်ထင် သာသနာလင်္ကာရတို့နှင့်ညီ၍ ရှစ်ရာ့သုံးဆယ်ရေးလိုက်သည်၊ ဓာတ်တော်ဝေဘန်ပြီးနောက်ရောက်လာသော မောရိယမင်းတို့ကား သင်္ချိုင်းတော်မှ စန္ဒကူးမီးသွေးကိုယူ၍ မိမိပြည်တွင် အင်္ဂါရထူပစေတီတည်လျက် ကိုးကွယ်ကြလေသည်။ ဓာတ်တော်ဝေဖန်၍ပေးသော ဆရာဒေါဏပုဏ္ဏားမှာ ဥဿျောင်ကြား၌ ဝှက်ထားသော အထက်လက်ယာစွယ်တော်ကို သိကြားမင်းယူလေသည်။ မြေ၌ဝှက်ထားသော အောက်လက်ယာစွယ်တော်ကို နဂါးမင်းယူလေသည်။ ပုဆိုးကြား၌ဝှက်ထားသော အထက်လက်ဝဲစွယ်တော်ကို ဂန္ဓာရတိုင်းသား ရဟန်းတော်တပါး ယူလေသည်။ ယင်းသို့ယူလေသည်ကို မိမိဝှက်ထားသူဖြစ်၍ ဓာတ်တော်ဝေစုမတောင်းဝံ့ရကား ဓာတ်တော်ခြင်သော မဂဓနေ့စိစလယ်ဝင် ပြည်တောင်းကို မင်းများထံခွင့်ပန်လျက် တုမ္ဗစေတီတည်၍ ကိုးကွယ်လေသည်။ အောက်လက်ဝဲစွယ်တော်ကို တေဇောဓာတ် မီးရဲရဲတောက်လောင်နေစဉ်တွင် ရှင်သာရိပုတ္တရာတပည့် ခေမအမည်ရှိသော ရဟန္တာတပါးယူ၍ ကလိင်္ဂတိုင်း ဗြဟ္မဒတ်မင်းကို ပေးလေသည်။ (ဤကား စကားချပ်)။ ရာဇဂြိုဟ်ပြည်ရှင် အဇာတသတ်မင်း အစရှိသော ရှစ်ပြည်ထောင်မင်းတို့သည်လည်း မိမိဝေစုရ နှစ်ပြည်သောဓာတ်တော်တို့ကို ပင့်ဆောင်လျက် မိမိတို့ပြည်၌ စေတီတည်၍ ကိုးကွယ်ကြလေသည်။

ဤသည်ကား တဆဲ့တကပ်မြောက်သော အဋ္ဌရကပ်ဦးအစ၌ တင်မြောက်တော်မူအပ်သော မဟာသမ္မတမင်းမှစ၍ သိဒ္ဓတ်မင်းသား ဘုရားဖြစ်တော်မူ၍ ပရိနိဗ္ဗာန်စံယူတော်မူသည်နောက် ဓာတ်တော်၊ မွေတော်တို့ကိုစေတီတည်၍ ကိုးကွယ်ကြသော အကြောင်းတည်း။

### ၅၁။ ယခုအခါ၌ ယခင်ဆိုအပ်သော မဟာသမ္မတအစရှိသော မင်းများတို့၏ တည်ထောင်စိုးစံတော်မူရာ ဇမ္ဗူဒီပါ ကျွန်း၊ မဇ္ဈိမဒေသ၊ ပစ္စန္တအရပ်၊ မြို့ရွာ၊ နိဂုံးမြို့၏အင်္ဂါ အစရှိသည်တို့ကို လျှော်ရာသွင်းပြလိုက်သည်အကြောင်း

ဇမ္ဗူဒီပ်ကျွန်း တည်ထွန်းပုံအကြောင်းမှာ ယူဇနာတသောင်းရှိသော ဇမ္ဗူဒီပါကျွန်းတွင် တောနေ သုံးထောင်၊ ရေနေသုံးထောင်၊ လူနေလေးထောင်၌ လူတို့ မတရားသည်ဖြစ်၍ ရေဖျက်လေသဖြင့်ရေနေလေးထောင် ဖြစ်လေသည်။ လူနေသုံးထောင်သာ ရှိတော့သည်။ ထိုသို့ လူနေသုံးထောင်၊ တောနေသုံးထောင်၊ ရေနေလေးထောင် အားဖြင့် ယူဇနာတသောင်းဖြစ်၏။ ထိုယူဇနာ တသောင်းရှိသော ဇမ္ဗူဒီပါကျွန်း၏သဏ္ဍာန်ကား မြောက်အဖို့၌ ကျယ်သည်။ တောင်အဖို့၌ လှည်းဦးသဏ္ဍာန်ရှိသည်ဟု သုတ်မဟာဝါပါဠိတော် မဟာဂေါဝိန္ဒသုတ်၌လာသည်။ ထို ဇမ္ဗူဒီပါကျွန်းသည်ကား တောင် - မြောက် အလျားလည်း ယူဇနာတသောင်းရှိသည်။ အရှေ့ အနောက်လည်း ယူဇနာတသောင်းရှိသည်ဟု သာရတ္ထ ဒီပနီဋီကာ၌လာသည်။ ရာဇဝင်ကြီး၌ကား ဇမ္ဗူဒီပါကျွန်း၏သဏ္ဍာန်သည် သုံးထောင့်ရှိ၏။ အနောက်တောင်ထောင့် ကျွန်းဦးမှသည် မြောက်ကျွန်းဦးတိုင် ယူဇနာတသောင်း၊ မြောက်ကျွန်းဦးမှသည် အရှေ့တောင်ထောင့် ကျွန်းဦးတိုင် ယူဇနာတသောင်း၊ အရှေ့ကျွန်းဦးမှသည် အနောက်ကျွန်းဦးတိုင် ယူဇနာတသောင်းရှိသည်ဟု ဆိုလေသည်။ ယင်းသို့ဆိုအပ်သောစကားကို ဂေါဝိန္ဒသုတ်နှင့် မညီဟူ၍ မှန်နန်းရာဇဝင်က ပယ်လေသည်။

(၅၂) ယခုကာလ အသုံးပြုကြသော အင်္ဂလိပ် မြေနယ်ပုံနှင့်ထောက်ရှုလျှင် အရှေ့မြောက်ထောင့် တရုတ်ပြည် ပင်လယ်ကမ်းနားမှစ၍ အနောက်တောင်ထောင့် အာဖရိကတိုက်ပင်လယ်နားကျအောင် အဖြောင့်သန်းတရာ့ခုနစ်ဆဲ့ငါး အသာခန့်၊ မိုင်ပေါင်း တသောင်းနှစ်ထောင်ခုနစ်မိုင်ခန့်၊ ယူဇနာပေါင်း တထောင့်ငါးရာကိုးယူဇနာခန့်၊ အလျား။ ။ အနောက်မြောက်ထောင့် ပေါ်တုဂီပြည်ပင်လယ်ကမ်းမှစ၍ အရှေ့တောင်ထောင့် ယိုးဒယားပြည် ပင်လယ်ကမ်းနားထိ အဖြောင့် သန်းတရာ့သုံးဆယ်အသာခန့်၊ မိုင်ပေါင်းရှစ်ထောင်ကိုးရာ့ခုနစ်ဆယ်ခန့်၊ ယူဇနာပေါင်းတထောင့်တရာ့ နှစ်ဆဲ့တယူဇနာခန့်လည်း အလျား။ တောင်နှင့်မြောက် ကျယ်သောနေရာ ယိုးဒယားအငူစွန်းမှသည် ရုရှားပြည် မြောက်ပိုင်း ဓိဗေရိယပြည်အဆုံး ပင်လယ်ကမ်းတိုင်အောင် အသာပေါင်း ရှစ်ဆယ်ခန့်၊ မိုင်ပေါင်း ငါးထောင် ငါးရာ့နှစ်ဆယ်ခန့်၊ ယူဇနာပေါင်း ခြောက်ရာ့ကိုးဆယ်ခန့်။ အလယ်ပိုင်းမကျဉ်းမကျယ်သောနေရာ တောင်ဘက်၊ ကိုမိုရင်အငူမှသည် မြောက်ဘက်ရုရှားပြည် ဓိဗေရိယ အနောက်ပိုင်းပင်လယ်ကမ်းတိုင်အောင် အသာပေါင်း ခုနစ်ဆယ်ခန့်၊ မိုင်ပေါင်းလေးထောင်ရှစ်ရာသုံးဆယ်ခန့်၊ ယူဇနာပေါင်း ခြောက်ရာ့သုံးယူဇနာခန့်။ ကျယ်သောနေရာ တောင်ဘက် အာရေဗျပြည်ပင် လယ်ကမ်းမှသည် ရုရှားပြည် မြောက်ပိုင်းလာဖလဲပင်လယ်ကမ်းတိုင်အောင် အသာပေါင်း လေးဆဲ့ငါးအသာခန့်၊ မိုင်ပေါင်း သုံးထောင့်တရာ ငါးမိုင်ခန့်၊ ယူဇနာပေါင်း သုံးရာ့ရှစ်ဆဲ့ရှစ်ယူဇနာခန့်ရှိသည်ကိုမြင်ရသဖြင့် အရှေ့အနောက် အလျားယူဇနာပေါင်း တထောင့်ငါးရာကျော်ခန့်ရှိသည်။ တောင်နှင့်မြောက် အနံယူဇနာပေါင်း ခြောက်ရာကိုးဆယ်ကျော်ခန့်ရှိသည်ဟု မှန်ယူရန်သင့်ပေသည်။

(၅၃) ယူဇနာဖွဲ့ရာ၌ လေးတောင်အယနတာဖြင့် ငါးရာလျှင် တကောသ၊ လေးကောသ တဂါဝုတ်၊ လေးဂါဝုတ် တယူဇနာဟုဖွဲ့ဆိုအပ်သော ရူပသိဒ္ဓိဋီကာစကားသည် သာရတ္ထဒီပနီဋီကာ၊ ဝိမတိဝိနောဒနီဋီကာတို့နှင့် ညီညာသင့်မြတ်သည်ဖြစ်၍ အယနတာတမိုင်၌ အတောင်လေးတောင်ရှိသည်။ အင်္ဂလိပ်တို့ တမိုင်မှာ

တဆုံတတောင်ရှိ ပိုပေါင်းသုံးရာ့နှစ်ဆယ်၊ အတောင်ပေါင်း သုံးထောင့်ငါးရာ့ နှစ်ဆယ်ရှိသည်ဖြစ်သောကြောင့် အင်္ဂလိပ်တို့မိုင်ထက် အတောင်လေးရာ့ရှစ်ဆယ် ပိုလေသည်။ ယင်းသို့ ပိုလေသည်ကို မရေတွက် မယူမူ၍၊ အင်္ဂလိပ်တို့တမိုင်နှင့် အမျှပြု၍၊ အင်္ဂလိပ်တို့ ရှစ်မိုင်ကို တယူဇနာထားလျက် တွက်ယူလျှင် ကျမ်းဂန်အလာ ယူဇနာစကားသည် ကိုက်ညီသောကြောင့် တယူဇနာ ဟူသည်ကို အင်္ဂလိပ်တို့ ရှစ်မိုင်ကျယူရမည်။ အကျယ်ကို သိလိုမူ ငါတို့စီရင်အပ်သော ဇမ္ဗူဒီပဏ္ဏတ္တိယ နယ်ပုံကျမ်း ၄၅ နံပါတ်တို့၌ယူလေ။ (ဤကား စကားချပ်)။

(၅၄) ယင်းသို့ ကျမ်းဂန်အလို ပြဆိုအပ်သော အလျားအနံ ယူဇနာတသောင်း၊ အဝန်းယူဇနာ သုံးသောင်းရှိသော ဇမ္ဗူဒီပါကျွန်း၏ အရှေ့တောင်ပိုင်း ခပ်နီးနီးတွင် အမြင့် ယူဇနာငါးရာရှိသည်ဖြစ်၍ ရှစ်သောင်း လေးထောင်သော တောင်ထွတ်တို့ဖြင့် တန်ဆာဆင်အပ်သော ဟိမဝန္တာတောင်ကြီးသည်ရှိ၏။ ထိုဟိမဝန္တာတောင်ကြီး၏ တောင်ဘက်နံပါး၌ တကမ္ဘာလုံး တည်လတ္တံ့သော ဇမ္ဗုသပြေပင်ကြီးသည် ပေါက်ရောက်၏။ ထိုဇမ္ဗုသပြေပင်ကြီးသည် လုံးပတ်အားဖြင့် တဆုံငါးယူဇနာရှိ၏။ ပင်ရင်းက ပင်ခွတိုင်အောင် ယူဇနာငါးဆယ်ရှိ၏။ ပင်ခွမှသည် ခက်ဖျားတိုင်အောင် ယူဇနာငါးဆယ်ရှိသည်ဖြစ်၍ ယူဇနာတရာမြင့်၏။ အသီးသည် အိုးစရည်းခန့် ပမာဏရှိ၏။ အရသာသည် နတ်သုဒ္ဓါကဲ့သို့ဖြစ်၏။ (ဤအရာတွင် မဟာဝင်ဝတ္ထု ဇမ္ဗူဒီပါဇာတမ်း၊ မှန်နန်းရာဇဝင်တို့၌ ဇမ္ဗုသပြေပင်သည် မြောက်ဘက်ကျွန်းဦး၌ ပေါက်ကြောင်းနှင့် ဆိုလေသည်။ ကေနိပါတ် အင်္ဂုတ္တရ အဋ္ဌကထာ၊ ဇမ္ဗူဒီပပေယျာလဝဂ် ၃၈၆ နံပါတ်၌ ဟိမဝန္တ ပဗ္ဗတေဇာတာ ကပ္ပဋ္ဌာယိနီ မဟာဇမ္ဗူနာမအတ္ထိဟူ၍ ဟိမဝန္တာတောင်၌ ပေါက်ရောက်ကြောင်းကို ဆိုသည်နှင့် မညီလေ။ ဟိမဝန္တပဗ္ဗတေ ဟိမဝန္တာတောင်၌။ ဇာတာ၊ ပေါက်ရောက်သော။ ကပ္ပဋ္ဌာယိနီ၊ တကမ္ဘာပတ်လုံး တည်လတ္တံ့သော။ မဟာဇမ္ဗူနာမ၊ ဇမ္ဗုသပြေပင်ကြီး မည်သည်။ အတ္ထိ၊ ရှိ၏။ ဤကားအနက်။ ဤသို့ တကမ္ဘာပတ်လုံးတည်လတ္တံ့သော ဇမ္ဗုသပြေပင်ရှိသည် ၏အဖြစ်ကြောင့် ဤငါတို့ကျွန်းကို ဇမ္ဗူဒီပါကျွန်းဟူ၍ ခေါ်လေကြောင်းနှင့် ၎င်းအင်္ဂုတ္တရ အဋ္ဌကထာ၊ ၎င်းနံပါတ်၊ ဝိနည်းမဟာဝါပါဠိတော် ၃၄ နံပါတ်တို့၌ ယာယဇမ္ဗူယာ ဇမ္ဗူဒီပေါပညာယတိဟူ၍ မိန့်တော်မူသည်။ ယာယဇမ္ဗူယာ၊ အကြင်ဇမ္ဗုသပြေပင်ဖြင့်။ ဇမ္ဗူဒီပေါ၊ ဇမ္ဗူဒီပါကျွန်းဟူသော အမည်သည်။ ပညာယတိ၊ ထင်ရှား၏။ ဝါ၊ ခေါ်ဝေါ်အပ်၏။ (ဤကား အနက်)။

(၅၅) ဤသို့ ဇမ္ဗုသပြေပင်ဖြင့် ထင်ရှားသော ဇမ္ဗူဒီပါကျွန်း၏ ယူဇနာတသောင်းတွင် တောနေ သုံးထောင်ဖြင့် ရေတွက်အပ်သော ဟိမဝန္တာတောင်၌ ပေါက်ရောက်သော ဇမ္ဗုသပြေပင်တော၌ မြစ်ကြီးတို့သည် စီးဆင်းကုန်၏။ ထိုမြစ်ကြီးတို့စီးဆင်းရာ နှစ်ဖက်ကမ်းပါး၌ ဇမ္ဗုသပြေသီးမှည့်တို့သည် ကြွေကျကုန်၏။ ထိုကြွေကျရာ၌ ရွှေပင်ရွှေညှောက်တို့သည် ပေါက်ရောက်ကုန်၏။ ထိုသို့ပေါက်ရောက်သော ရွှေပင် ရွှေညှောက်တို့သည် မြစ်ရေအဟုန်ဖြင့်မျော၍ အစဉ်သဖြင့် ဂင်္ဂါမြစ်၊ မဟာသမုဒ္ဒရာသို့ ဝင်လေကုန်သည်ဖြစ်၍ ထိုရွှေကို ဇမ္ဗူရာဇ်ရွှေဟူ၍ ခေါ်ဝေါ်ကြောင်းနှင့် သာရတ္ထ ဒီပနီဋီကာတွင် ဆိုသည်။

(၅၆) ထိုဟိမဝန္တာတောင်မင်းနှင့် တောင်ထွဋ်၊ တောင်တန်းတို့မှ စီးဆင်းကုန်သော ငါးရာသောမြစ်တို့ဖြင့် ဆန်းကြယ်၏။ အကြင်အရပ်၌ အချင်းယူဇနာငါးဆယ်၊ အဝန်းယူဇနာ တရာ့ငါးဆယ်ရှိသော အိုင်ကြီးခုနစ်အိုင်တို့သည်၎င်း ရှိကုန်သေး၏။ ထိုခုနစ်အိုင်တို့ အမည်ကား အနောတတ္တအိုင်၊ ကဏ္ဏမုဏ္ဍအိုင်၊ ရထကာ ရအိုင်၊ ဆဒ္ဒန္တအိုင်၊ ကုဏာလအိုင်၊ မန္ဒာကိနီအိုင်၊ သီဟပ္ပပါတအိုင်၊ ဤခုနစ်အိုင်တည်း။ ။ ထိုခုနစ်အိုင်တို့တွင် အနောတတ္တအိုင်ကိုရံသော သုဒဿနတောင်၊ စိတ္တကူဋ

တောင်၊ ကာလကူဋတောင်၊ ဂန္ဓမာဒနတောင်၊ ကေလာသကူဋတောင်၊ ဤတောင်ငါးလုံးတို့သည် အနံအားဖြင့် ယူဇနာငါးဆယ်၊ အလျားအားဖြင့် ယူဇနာနှစ်ရာ၊ အစောက်အားဖြင့် ယူဇနာနှစ်ရာနှင့်နှင့်ရှိသည်ဖြစ်၍ တောင်ညွန့်တို့သည် ကျိုးနှုတ်သီးသဏ္ဌာန် အနောတတ္တအိုင်ကိုယွန်း၍ ချည်း တည်ကြကုန်၏။ ထိုတောင်တို့တွင် သုဒဿနတောင်သည် ရွှေဖြင့်ပြီး၏။ စိတ္တကူဋတောင်သည် ရတနာခုနစ်ပါးဖြင့်ပြီး၏။ ကာလကူဋတောင်သည် ကျောက်စိမ်းကျောက် ညိုဖြင့် ပြီး၏။ ဂန္ဓမာဒနတောင်သည် ချိပ်သွေးရည်၊ ပတ္တမြားကျောက်အဆင်းဖြင့်ပြီး၏-ဟု၊ အာဒိကပ္ပကမ္ဘာဦး ကျမ်း၌ဆိုသည်။ သာရတ္ထဒီပနီဋီကာ၌၊ ဂန္ဓမာဒနတောင်သည် တောင်လျှို တောင်ဝှမ်းဖြင့်ပြီး၏ ဟုဆိုသည်။ ဗိနာလင်္ကာရဋီကာ၌၊ မသာရကန်ဖြင့်ပြီး၏ဟု ဆိုသည်။ ကေလာသကူဋတောင်သည် ငွေဖြင့်ပြီး၏။ သုဒဿနတောင်သည် အနောတတ္တအိုင်၏ မြောက်မျက်နှာက ကာရံ၏။ စိတ္တကူဋတောင်သည် အရှေ့မျက်နှာက ကာရံ၏။ ကာလကူဋတောင်သည် တောင်မျက်နှာက ကာရံ၏။ ဂန္ဓမာဒနတောင်သည် အနောက်ယွန်းယောင်က ကာရံ၏။ ကေလာသကူဋတောင်သည် အနောက်မြောက်က ကာရံ၏ဟူ၍ အာဒိကပ္ပကမ္ဘာဦးကျမ်း၌ ဆိုသည်။ ဂန္ဓမာဒနတောင်သည် အတွင်း၌ မြအဆင်းရှိ၏။ အကျော်၊ စံပါ၊ ကရမက် စသောနံ့သာမျိုးဆယ်ပါးဖြင့် တင့်တယ်၏။ အထူးထူးသော ဆေးတို့ဖြင့် ဖုံးလွှမ်း၍ လဆုတ်ပက္ခ ဥပုသ်နေ့၌ မီးတောက် မီးလျှံကဲ့သို့ ထွန်းပ၏။ ထိုဂန္ဓမာဒန တောင်၌၊ အရှင်ပစ္စေကဗုဒ္ဓါတို့နေရာ၊ နန္ဒမူ-အမည်ရှိသော ရွှေဂူ။ ပတ္တမြားဂူ။ ငွေဂူ-ဟူ၍၊ သုံးဂူရှိ၏။ ထိုသုံးဂူတို့တွင် ပတ္တမြားဂူအနီး၌ အမြင့်တယူဇနာ။ အချင်းတယူဇနာရှိသော မဉ္ဇူသကပန်းပင်ရောက်၏။ ထိုပန်းပင်သည် ရေပန်း၊ ကြည်းပန်းအလုံးစုံပွင့်၏။ အရှင်ပစ္စေကဗုဒ္ဓါတို့သည် စည်းဝေးတော်မူသောနေ့၌ကား၊ အထူးသဖြင့် ပွင့်၏။ ထိုအနောတတ္တအိုင်၏ အောက်အပြင်ကား၊ မြင်းသီလာကျောက်ဖျာအပြင်သာတည်း။ ဖန်အဆင်းနှင့်တူသော ငါးရှိ၏။ ကြည်လင်သန့်ရှင်းစွာသော၊ မြအဆင်းနှင့်တူသော ရေလည်းရှိ၏။ ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ တန်ခိုးကြီးသောရသေ့၊ သိကြား-စသော နတ်တို့ ချိုးသောက်ကစားရာ များစွာသော စောင်းတန်းလှေကားလည်း ရှိ၏။ ထိုအနောတတ္တအိုင်၌၊ လေးပါးသော ပြွန်တို့သည် ရှိကုန်၏။ ထိုလေးပါးသော ပြွန်တို့တွင်၊ အနောက်မျက်နှာ ဆင်ခံတွင်းပြွန်မှ ထွက်သောရေသည် အနောတတ္တအိုင်ကို လက်ယာရစ်သုံးပတ်လည်၍ အနောက်တူရူသို့ ရှေ့ရှုသွားပြီးလျှင်၊ အနောက်သမုဒ္ဒရာသို့ ပေါင်းဝင်လေ၏။ မြောက်မျက်နှာ မြင်းခံတွင်းပြွန်မှ ထွက်သောရေသည်လည်း၊ အနောတတ္တအိုင်ကို လက်ယာရစ်သုံးပတ်လည်၍ မြောက်တူရူသို့ ရှေ့ရှုသွားပြီးလျှင် မြောက်သမုဒ္ဒရာသို့ ပေါင်းဝင်လေ၏။ အရှေ့မျက်နှာ ခြင်္သေ့ခံတွင်းပြွန်မှ ထွက်သောရေသည်လည်း၊ အနောတတ္တအိုင်ကို လက်ယာရစ်သုံးပတ်လည်၍ အရှေ့တူရူသို့ ရှေ့ရှုသွားပြီးလျှင် အရှေ့သမုဒ္ဒရာသို့ ပေါင်းဝင်လေ၏။ တောင်မျက်နှာ နွားခံတွင်းပြွန်မှ ထွက်သောရေသည်ကား အနောတတ္တအိုင်ကို လက်ယာရစ်သုံးပတ်လည်ပြီးလျှင်၊ တောင်သို့ရှေ့ရှု ကျောက်ဖျာအပြင်ဖြင့် ယူဇနာခြောက်ဆယ်တိုင်တိုင် စီးလာ၏။ ဤသို့ တဆဲ့နှစ်ခွေလှည့်၍နေသော မြစ်ကို အာဝဋ္ဋဂင်္ဂါ-ဟူ၍ ဆိုသည်။ ထိုမှ ကျောက်ဖျာအပြင်ဖြင့် ယူဇနာခြောက်ဆယ်တိုင်တိုင် စီးသောမြစ်ကို ကဏှဂင်္ဂါ-ဟူ၍ဆိုသည်။ ထိုကျောက်ဖျာမှ ထွက်လာသော မြစ်သည်၊ တခုသောတောင်ကို ခတ်လေ၏။ ထိုသို့ခတ်သောရေအဟုန်သည်၊ အချင်းချင်း သုံးဂါဝုတ်အတိုင်းအရှည်ဖြင့်၊ ကောင်းကင်သို့တက်၍၊ ယူဇနာခြောက်ဆယ် သွားပြီးလျှင် တောင်ကိုကျော်၍၊ တိယဂ်လမည်သော ကျောက်ဖျာအပြင်၌ ကျလေ၏။ ကောင်းကင်သို့ ယူဇနာခြောက်ဆယ်စီးသွားသောမြစ်ကို အာကာသဂင်္ဂါ-ဟု

ဆိုအပ်၏။ ကျောက်ဖျာအပြင်သည် ရေအဟုန်ကြောင့် ကွဲးပေါက်၍၊ ယူဇနာငါးဆယ်ရှိသော ရေကန်ဖြစ်၏။ ထိုရေကန်ကို တိယဂ်လပေါက္ခရဏီ-ဟု ဆိုလေကုန်၏။ ထိုကျောက်ကိုထွင်းဖောက်၍ ယူဇနာခြောက်ဆယ်စီးလေ၏။ ထိုကျောက်ကိုထွင်း၍ စီးသောမြစ်ကို ဗဟာလဂင်္ဂါ-ဟူ၍လည်း ဆိုသည်။ ထိုသို့ ကျောက်ကိုထွင်း၍စီးသော ဗဟာလဂင်္ဂါမြစ်မှသည်၊ မြေကိုထွင်း၍စီးသော မြစ်ကို၊ ဥမင်္ဂဂင်္ဂါ-ဟူ၍ ဆိုသည်။ ထိုဥမင်္ဂဂင်္ဂါမြစ်မှထွက်လေသည်ရှိသော်၊ ဝိဇ္ဈာမည်သော တောင်ဖီလာတခုကို ခတ်လေ၍၊ လက်ငါးချောင်းကဲ့သို့၊ ငါးဖြာထွက်၍၊ ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီ၊ သရဘူ၊ မဟီ-ဟူသော မြစ်ကြီးငါးစင်းတို့သည် လူ့ပြည်သို့ စီးလာ၍ တောင်သမုဒ္ဒရာသို့ ပေါင်းဝင်လေ၏-ဟူ၍ အင်္ဂုတ္တရအဋ္ဌကထာ။ သာရတ္ထဒီပနီစသည်တို့၌ ဆိုသည်။

(၅၇) ဤ ဇမ္ဗူဒီပါကျွန်း၌ လူနေသုံးထောင်တွင် အနောက်မြောက်ပိုင်းနယ် တက္ကသိုလ်ပြည် ပက်သျှဝါမြို့မှသည် အရှေ့တောင်ပိုင်းနယ် မဒရပ်ပြည် ကိုမိုရင်အငူထိ အလျား အင်္ဂလိပ်မိုင်ပေါင်းတထောင့်ကိုးရာ။ အရှေ့မြောက်ပိုင်းနယ် အာသန်ပြည်မှသည် အနောက်တောင်ပိုင်းနယ် ခရာချိပြည်အထိ အနံ အင်္ဂလိပ်မိုင်ပေါင်း တထောင်ကိုးရာ။ အရှေ့ဘက်၌ ဘင်္ဂလားအော်ပင်လယ်၊ အနောက်ဘက်၌ ဟာလတောင်တန်း၊ တောင်ဘက်၌ အိန္ဒိယသမုဒ္ဒရာ၊ မြောက်ဘက်၌ ဟိမဝန္တာတောင်တန်းအားဖြင့် ရှစ်ပါးသော နယ်နိမိတ်တို့ဖြင့်ပိုင်းခြားအပ်သော သုံးထောင့်ပုံသဏ္ဌာန်တောင်ဘက်အစွန်း ရှည်ထွက်သော အလျားအနံ ဧရိယာစတုရန်းမိုင်ပေါင်း တသိန်းငါးသောင်းခန့်ရှိသော၊ လူဦးရေပေါင်း သုံးဆဲ့နှစ်ကုဋေခန့်ရှိသော ပြည်ကြီးကို အနောက်ဘက်အနီး၌ ဣန္ဒုမြစ်ကြီးရှိသည်ကို အကြောင်းပြု၍ ဣန္ဒိယပြည်ဟူ၍ ခေါ်ဆိုအပ်ကြောင်းနှင့် ပထဝီဝင်နယ်ပုံကျမ်းများ၌ ဆိုသည်။ ။ ဤသို့ ပြဆိုအပ်သော ဣန္ဒိယပြည်ကြီးအတွင်း အရှေ့အနောက် အလျား ယူဇနာသုံးရာ၊ တောင်မြောက် အနံယူဇနာ နှစ်ရာငါးဆယ်၊ အဝန်းယူဇနာကိုးရာရှိသော မဇ္ဈိမဒေသတိုက်သည် အလယ်တွင်အကြီး၊ အဖျားနှစ် ဖက်အငယ်၊ မုရိုးစည်သဏ္ဌာန်ရှိသည်ဟု ဇကနိပါတ်၊ အင်္ဂုတ္တရအဋ္ဌကထာ စသည်တို့၌ ဆိုသည်။ ။

(၅၈) ထိုမဇ္ဈိမဒေသအပိုင်းအခြားသည်ကား၊ အရှေ့သို့အလား၊ ဇင်္ဂလနိဂုံးရွာ။ အရှေ့တောင်သို့ အလား၊ သလဋ္ဌဝတီမြစ်။ တောင်သို့အလား၊ သေတကဏ္ဏိကနိဂုံးရွာ။ အနောက်သို့အလား၊ ထုနမည်သောပုဏ္ဏားရွာ။ မြောက်သို့အလား၊ ဥသီရဒ္ဓဇမည်သောတောင်။ ဤသို့ နယ်နိမိတ်ငါးရပ်အတွင်းသည်၊ ဖြူစင်သန့်ရှင်းသော သူတို့၏ နေရာဖြစ်သောကြောင့်၊ မဇ္ဈိမဒေသမည်၏။

(၅၉) ဤမဇ္ဈိမဒေသအပိုင်းအခြား နိမိတ်ငါးရပ်အတွင်း အရှေ့တောင်ဘက်နိမိတ်၊ သလဋ္ဌဝတီမြစ်ဟူသည်ကို အာသံပြည်သို့ မြစ်ဖျားခံသော ချင်းတွင်းမြစ်ကို ယူရမည်ဟု မြန်မာဆရာတော်တို့ ရေးသားအပ်သော စွယ်စုံကျော်ထင် စသောကျမ်းများ၌ဆိုသည်။ ယင်းသို့ ဆိုအပ်သောစကားများသည် တေရသကဏ္ဍဋီကာ၊ သဏ္ဌတအဘိဓာန် ဋီကာ စသောကျမ်းတို့နှင့် မညီမညွတ်ဖြစ်ကြောင်းကို ငါတို့စီရင်အပ်သော ဇမ္ဗူဒီပဏ္ဍိယနယ်ပုံကျမ်း ၂၄ နံပါတ်တို့၌ရှုလေ။ ထိုတွင် သဏ္ဌတအဘိဓာန်ဋီကာအလိုမှာ မဇ္ဈိမဒေသ၏အရှေ့ဘက်နိမိတ် ဝင်္ဂတိုင်းဖြစ်သော ဘင်္ဂလား၊ ကာမရူပတိုင်းဖြစ်သော ရှောင်ဖြူမြို့များကိုယူရမည်။ အနောက်ဘက်နိမိတ်ကို ဒေလီ၊ ဘာရတ၊ ပန်ဂျပ်ပြည်ထိယူရမည်။ တောင်ဘက်နိမိတ်ကို ဝိန္ဓျတောင်ထိယူရမည်။ မြောက်ဘက်နိမိတ်ကို ဟိမဝန္တာတောင်ထိယူရမည်။ ငုင်းလေးပါးသော နိမိတ်အတွင်းဖြစ်သော မဇ္ဈိမဒေသတွင် တောင်ဘက်အနီးအရပ်၌ ခပ်သိမ်းသော မြတ်စွာဘုရားတို့ပွင့်တော်မူရာ မဟာဗောဓိပင်ကြီးသည် ရာဇဂြိုဟ်ပြည်၏ အနောက်တောင် အင်္ဂလိပ်မိုင်ပေါင်း သုံးဆဲ့လေးမိုင်၊ ယူဇနာအားဖြင့်

လေးယူဇနာခွဲရှိသော ဥရုဝေဠုတောအနီး နေရဉ္ဇရာမြစ်အနောက်ဘက် ဗုဒ္ဓယရာရွာနားတွင် ကုန်းပြင်မြင့် မြေညီညာ၌ ကောင်းစွာပေါက်ရောက်တော်မူလေသည်။ ထိုသို့ မဟာဗောဓိပင်ပေါက်ရောက်တော်မူရာ မြေမျက်နှာအရပ်ကို အဝန်းယူဇနာသုံးသောင်းရှိသော ဇမ္ဗူဒီပါကျွန်း၏အလယ်ချက်မ ဌာနအရပ်ဖြစ်တော်မူသောကြောင့် ဗောဓိမဏ္ဍိုင်ဟူ၍ ဆိုလေသည်။

(၆၀) မှန်နန်းရာဇဝင် သမန္တစက္ခုဒီပနီ ဒုတိယတွဲ တို့တွင်ကား မဇ္ဈိမဒေသအလယ်ချက်မ၌ မဟာဗောဓိပင် ပေါက်ရောက်ကြောင်းနှင့် ဆိုကြလေသည်။ ထိုစကား ရပ်သည်။ ဗောဓိမဏ္ဍော ဇမ္ဗုဒီပဿ မဇ္ဈေနာဘိဋ္ဌာနိယောဟူ၍ ဖွင့်ပြအပ်သော သုတ်မဟာဝါဋီကာ ၄၄ နံပါတ်၌ဆိုအပ်သည်နှင့်မညီပေ။ ဗောဓိမဏ္ဍော၊ ဗောဓိမဏ္ဍိုင်အရပ်သည်။ ဇမ္ဗုဒီပဿ၊ အဝန်းယူဇနာသုံးသောင်းရှိသော ဇမ္ဗူဒီပါကျွန်း၏။ မဇ္ဈေ၊ အလယ်၌။ နာဘိဋ္ဌာနိယော၊ အချက်အချာဖြစ်ရာဌာန ဒေသဦးကိုင်မဏ္ဍိုင် အရပ်မည်၏။ ဤသို့ အနက်ပေး။ ။ အကျယ်ကို အလိုရှိမူ ငါတို့စီရင်အပ်သော ဇမ္ဗူဒီပ ဣန္ဒြိယနယ်ပုံကျမ်း ၁၁၈ နံပါတ်၌ယူလေ။

## ၆၁။ ပြည်ကြီးတို့ကို ပြခြင်းအကြောင်း

ယင်းသို့ မဟာဗောဓိပင်၏ ပေါက်ရောက်တော်မူရာ မဟာဗောဓိမဏ္ဍိုင်အရပ်ကို ရံပတ်လျက်တည်ရှိကြကုန်သော တိုင်းကြီးပြည်ကြီးအသီးသီးတို့သည် ကမ္ဘာဦး မဟာသမ္မတမင်းများတို့ တည်ထောင်ဖန်ဆင်းအပ်သော မလ္လတိုင်း၊ ကုသဝတီပြည်။ ကာသိတိုင်း၊ ဗာရာဏသီပြည် အစရှိသည်ဖြင့် ဖြစ်ထွန်းပေါ်ပေါက်လျက်ရှိလေရာ ဤတဆဲ့တကပ်မြောက် အန္တရကပ်ဦး မဟာသမ္မတမင်းမှစ၍ အသိန်းအသောင်းမကသော မင်းတို့တည်ထောင်ဖန်ဆင်းပြုစုအပ်သော တိုင်းပြည်ခရိုင်တို့တွင် သုတ်မဟာဝါ ပါဠိတော်ဂေါဝိန္ဒသုတ်အရ ဂေါဝိန္ဒပုဏ္ဏားဝေဖန်အပ်၍ပေးအပ်သော တိုင်းပြည်သည် မဇ္ဈိမဒေသအတွင်း ခုနစ်တိုင်းခုနစ်ပြည်ရှိကုန်၏။ ခုနစ်တိုင်း ခုနစ်ပြည်ဟူသည်။ ။ (၁)အရှေ့တောင်ဘက်၌ မဟာနဒီမြစ်နားရှိ ကုဟာက်ခေါ်သော ကလိင်္ဂတိုင်းဒန္တပူရပြည်။ (၂)အရှေ့ဘက် အလယ်ပိုင်းအနားတွင် ဟူဂလီမြစ်အနီးရှိသော ချန္ဒာနဂိုရ်ခေါ်သော အင်္ဂတိုင်းစမ္ပာနဂိုရ်ပြည်။ (၃)မြောက်ဘက်၌ ဂင်္ဂါမြစ်တောင်ဘက်ကမ်းအနီးရှိ ပတနာခေါ်သော အဿကတိုင်း ပါဋလိပုတ်ပြည်။ (၄)အနောက်မြောက်ဘက်၌ ဂင်္ဂါမြစ်မြောက်ဘက်ကမ်းနားရှိ ဗာဏရပ်ခေါ်သော ကာသိတိုင်းဗာရာဏသီပြည်။ ။ (၅) အနောက်ဘက်၌ ဒေလီမြို့တောင်ဘက်အနီးရှိ ဘာရတခေါ်သော သိဝိတိုင်းရောရုဝပြည်။ (၆) အနောက်တောင်ဘက်၌ ဝိန္ဈတောင်တန်းအနီးရှိ အဝန္တိတိုင်း မဟေသယခေါ်သော ဥဇ္ဇေနီပြည်။ (၇)အလယ်ပိုင်း တောင်ဘက်၌ ဗိရာခေါ်သော ဝိဒေဟတိုင်း မန်ဒလာခေါ်သော မိဓိလာပြည်ဟူ၍ ခုနစ်ပြည်ရှိသတည်း။ ။ ထိုခုနစ်ပြည်တို့တွင် ဒန္တပူရပြည်၌ သတ္တဘူမင်း။ စမ္ပာနဂိုရ်ပြည်၌ ပထမဓတရဋ္ဌမင်း။ ပါဋလိပုတ်ပြည်၌ ဒုတိယ ဓတရဋ္ဌမင်း။ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း၊ ရောရုဝပြည်၌ ဘာရတမင်း။ ဥဇ္ဇေနီပြည်၌ ဝေဿဘူမင်း။ မိဓိလာပြည်၌ ရေဏုမင်းတို့သည် မင်းပြုကုန်၏ ဤသည်ကား မဇ္ဈိမဒေသအတွင်း ခုနစ်ပြည်ထောင်မင်းတို့ စိုးစံနေထိုင်ကြသည်ကို ဆိုသောအခန်းတည်း။ ။

(၆၂) သေယျထာပိ ဘိက္ခဝေ၊ အစရှိသည်ဖြင့် အင်္ဂုတ္တရပါဠိတော်၊ တိကနိပါတ်၊ ဝိသာခုပေါသထသုတ်အရ ဟောပြတော်မူအပ်သော တိုင်းပြည်တို့သည် တဆဲ့ခြောက်တိုင်း တဆဲ့ခြောက်ပြည်ဟူသည်။ (၁) ဣန္ဒြိယပြည်အတွင်း အရှေ့တောင်ဘက်၌ ဝင်္ဂတိုင်းဖြစ်သော ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း တဆဲ့ခုနစ်မိုင်ခန့်၊ ယူဇနာပေါင်း နှစ်ယူဇနာခွဲ သုံးယူဇနာခန့်အကွာတွင် ဟူဂလီမြစ်၏ အနောက်ဘက်

ကမ်းနား၌ လူနေသုံးသောင်းကျော်ခန့်နှင့် တည်ရှိသော အင်္ဂတိုင်း စမ္ပာနဂိုရ်ပြည်။ ။ (၂)ဝင်္ဂတိုင်း ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်းနှစ်ရာလေးဆဲ့တမိုင်ကျော်ခန့်၊ ယူဇနာပေါင်း သုံးဆယ်ကျော်ခန့်အကွာတွင် လူဦးရေတထောင်ကျော်ခန့်နှင့် တည်ရှိသော ရာဇဂိရိမြို့သည် မဂဓတိုင်းရာဇဂြိုဟ်ပြည်။ (၃)ဝင်္ဂတိုင်း ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း လေးရာ၊ ယူဇနာပေါင်း ငါးဆယ်ခန့်အကွာတွင် ဂင်္ဂါမြစ်၏ မြောက်ဘက်ကမ်းနား၌ လူနေတသိန်းကျော်နှင့်တည်ရှိသော ဗာရာဏသီမြို့သည် ကာသိတိုင်း ဗာရာဏသီပြည်။ (၄) ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်ဘက်အရပ် အင်္ဂလိပ်မိုင်ပေါင်း ငါးရာနှစ်ဆဲ့သုံးမိုင်ခန့်၊ ယူဇနာပေါင်း ခြောက်ဆဲ့ငါးယူဇနာခန့်အကွာတွင် အိမ်ခြေနှစ်ထောင်ကျော်ခန့်နှင့်တည်ရှိသော ဗလမ္ပူမြို့သည် ကောသလတိုင်း၊ သာဝတ္ထိပြည်။ (၅) ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ်၊ အင်္ဂလိပ်မိုင်ပေါင်း နှစ်ရာ့ရှစ်ဆယ်။ ယူဇနာပေါင်း သုံးဆဲ့ငါးယူဇနာခန့် အကွာတွင်၊ လူဦးရေ နှစ်သိန်းရှစ်သောင်းလေးထောင်နှင့် တည်ရှိသော ပတနာမြို့သည်၊ အဿကတိုင်း၊ ပါဋလိပုတ်ပြည်။ (၆)၎င်းအဿကတိုင်း ပါဋလိပုတ်ပြည်၏ မြောက်ဘက်၊ ဂင်္ဂါမြစ်ကမ်းမှ၊ အင်္ဂလိပ်မိုင်ပေါင်း နှစ်ဆယ်ခန့်။ ယူဇနာပေါင်း နှစ်ယူဇနာခွဲ၊ သုံးယူဇနာခန့်အကွာတွင် တည်ရှိသော၊ ဗိစာရရွာငယ်အနီးအပါးပတ်လည် ဝန်းကျင်တခိုသည်၊ ဝဇ္ဇီတိုင်း၊ ဝေသာလီပြည်။ (၇)ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အင်္ဂလိပ်မိုင်ပေါင်း နှစ်ရာ့နှစ်ဆယ်အကွာတွင်၊ အဿကတိုင်း၊ ပါဋလိမြို့မှ အနောက်မြောက်ယွန်း၊ ဂင်္ဂါမြစ်၏ မြောက်ဘက်ကမ်းမှ အင်္ဂလိပ်မိုင်ပေါင်း တရာ့တဆယ်ကျော်ခန့်။ ယူဇနာပေါင်း တဆဲ့သုံးယူဇနာကျော်၊ လေးယူဇနာခန့်အကွာတွင် တည်ရှိသော၊ တစ္ဆိတူရိယာခေါ်၊ ဝေသာလီမြို့သစ်၊ ၎င်းမြို့သစ်ဘူတာရုံမှ၊ အရှေ့မြောက်သို့ အင်္ဂလိပ်မိုင်ပေါင်း နှစ်ဆယ်အကွာတွင် အိမ်ခြေတရာကျော်ခန့်နှင့်တည်ရှိသော၊ ကဆိန္နာရာမမြို့သည်၊ မလ္လတိုင်း၊ ကုသိနာရုံပြည်။ (၈)ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ်၊ အင်္ဂလိပ်မိုင်ပေါင်း သုံးရာ့ခုနစ်ဆဲ့ကိုးမိုင်ခန့်။ ယူဇနာပေါင်း လေးဆဲ့ခုနစ်ယူဇနာကျော်ခန့် အကွာတွင် တည်ရှိသော၊ ဆိုဟာပူရမြို့သည်၊ စေတိယတိုင်း၊ သောတ္ထိယပြည်။ (၉)၎င်းစေတိယတိုင်း၊ သောတ္ထိယပြည်မှ အနောက်ဘက်၊ အင်္ဂလိပ်မိုင်ပေါင်း ရှစ်ဆဲ့တစ်မိုင်ခန့်။ ယူဇနာပေါင်း တဆယ်ကျော်ခန့်အကွာတွင်တည်ရှိသော၊ ဂိရာမြို့သည်၊ ဘဂ္ဂတိုင်း၊ သံသုမာရ ဂိရိပြည်။ (ဤဘဂ္ဂတိုင်းကား၊ တဆဲ့ခြောက်ပြည်တွင် မဝင်မပါ။ နီးစပ်သည်ဖြစ်၍ ရေးလိုက်သည်။)။ (၁၀)ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ်၊ အင်္ဂလိပ်မိုင်ပေါင်း ငါးရာ့ကိုးဆယ်ခန့်။ ယူဇနာပေါင်း ခုနစ်ဆဲ့သုံးယူဇနာကျော်ခန့်အကွာတွင် တည်ရှိသော၊ ကုဆမြို့သည်၊ ဝံသတိုင်း၊ ကောသမ္ဗီပြည်။ (၁၁)ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ်၊ အင်္ဂလိပ်မိုင်ပေါင်း နှစ်ရာ့သုံးဆယ်ကျော်ခန့်။ ယူဇနာပေါင်း တရာနှင့် လေးယူဇနာကျော်ခန့်အကွာတွင်၊ လူဦးရေပေါင်း တသိန်းခြောက်သောင်းကျော်ခန့်နှင့် တည်ရှိသော ပန်ဂျပ်နိုင်ငံအရှေ့ပိုင်း ဒီလီမြို့သည်၊ ကုရုတိုင်း၊ ဣန္ဒပတ္တနဂိုရ်ပြည်။ (၁၂)၎င်းဒီလီမြို့မှ အနောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း နှစ်ရာ့သုံးဆယ်၊ ယူဇနာပေါင်း နှစ်ဆဲ့ရှစ်ယူဇနာခန့်အကွာတွင် ပန်ဂျပ်နိုင်ငံ၏ အလယ်ပိုင်း ရဝီမြစ် တောင်ဘက်ကမ်းပေါ်၌ လူဦးရေပေါင်း ကိုးသောင်းငါးထောင်နှင့်တည်ရှိသော လာဟိုမြို့တော်သည် ကုရုတိုင်း ပဥ္စာလပြည်။ (ဤသည်ကား ဝိသတိနိပါတ် သောမဿဇာတ်အလို။ ။ မဟာဇာတ်တော်ကြီး၊ တိံသနိပါတ်၊ ဇယဒိသဇာတ်တို့အလိုမှာ ကပိလတိုင်း ဥတ္တရပဥ္စာလပြည်ဟုဆိုသည်။ ဤဇာတ်နိပါတ်တို့ကို ထောက်လျှင် ပန်ဂျပ်နိုင်ငံ အရှေ့ပိုင်းကို ကုရုတိုင်း ဣန္ဒပတ္တနဂိုရ်ပြည်။ အနောက်ပိုင်းကို ကပိလတိုင်း

ဥတ္တရပဉ္စာလပြည်ဟူ၍ယူသင့်သည်)။ (၁၃) ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း ငါးရာတဆဲ့ခုနှစ်မိုင်ခန့်၊ ယူဇနာပေါင်း ခြောက်ဆဲ့ငါးယူဇနာခန့်အကွာတွင် ဂင်္ဂါမြစ် တောင်ဘက်အနီး၌ လူဦးရေပေါင်း ခုနစ်သောင်းကျော်နှင့်တည်ရှိသော မိဇပူရမြို့သည် မဈ္ဈတိုင်း မဈ္ဈပူရပြည်။ (၁၄) ဝင်္ဂတိုင်းဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း တထောင့်တရာ့လေးမိုင်ခန့်၊ ယူဇနာပေါင်း တရာသုံးဆဲ့ရှစ်ယူဇနာခန့်အကွာတွင် အရဝလ္လိတောင်ရိုး အနောက်မြောက်၌တည်ရှိသော မာဝါမြို့များသည် သူရသေနတိုင်းရာဇပုတ်ပြည်။ (၁၅)ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်ယွန်း အင်္ဂလိပ်မိုင်ပေါင်း ရှစ်ရာနှစ်ဆဲ့ နှစ်မိုင်ခန့်၊ ယူဇနာပေါင်း တရာ့သုံးယူဇနာခန့်အကွာတွင်တည်ရှိသော မလ္လဝါနယ်ရှိ ဥဇ္ဇေနီမြို့သည် အဝန္တိတိုင်း မဟောသယပြည်၊ ဥဇ္ဇေနီပြည်။ (၁၆) ဝင်္ဂတိုင်း၊ ဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း တထောင့်နှစ်ရာတဆဲ့ကိုးမိုင်ခန့်၊ ယူဇနာပေါင်း တရာငါးဆဲ့နှစ် ယူဇနာကျော်ခန့်အကွာ ပန်ဂျပ်နိုင်ငံ၏မြောက် ဟိမဝန္တာတောင်တန်း အနောက်ပိုင်း လူဦးရေပေါင်း ခုနစ်သိန်းခန့်ရှိသော ကရှမီရနယ် အဝင် အပါ ပက်သျှဝါမြို့သည် ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်။

ဤဂန္ဓာရတိုင်း၊ ကရှမီရတိုင်းနှစ်တိုင်းတို့သည် တက္ကသိုလ်ပြည်ဖြစ်ကြောင်းကို သတ္တနိပါတ် ဂန္ဓာရဇာတ်၌။ ကသ္မီရဂန္ဓာရာတိ၊ ကသ္မီရ ဂန္ဓာရ ရဋ္ဌဝါသိနော။ ။ ဟူ၍ ဖွင့်ပြအပ်သော သာရတ္ထဒီပနီတို့ကို ထောက်၍ သိလေ။ ကသ္မီရ ဂန္ဓာရာတိ၊ ကသ္မီရတိုင်း၊ ဂန္ဓာရတိုင်းတို့၌ နေကုန်သောသူတို့သည်။ ဤသို့အနက်ပေး။ ဤအရာတွင်ယောနကတိုင်းကို တိကနိပါတ်တွင် မဟောမပြသော်လည်း သုတ်မဟာဝါ အဋ္ဌကထာ၌ တဆဲ့ခြောက်တိုင်းတွင် အပါအဝင်ပြု၍ ဖွင့်ပြတော်မူသောကြောင့် ယောနကတိုင်းကို ဆက်၍ပြလိုက်အံ့။ ဝင်္ဂတိုင်း ဘင်္ဂလားမြို့မှ မိုင်ပေါင်းခြောက်ရာ့တဆယ်ခန့်၊ ယူဇနာပေါင်း ခုနစ်ဆယ့်ခြောက် ယူဇနာခန့်အကွာ ဂုမတီမြစ်ကမ်းပေါ်၌ လူဦးရေပေါင်း သုံးသိန်းခန့်နှင့်တည်ရှိသော လက်ခနောင်မြို့များသည် ကာလယောနကတိုင်း၊ အယုဒ္ဓပြည်။ ။ ဤယောနကတိုင်းကို သာသနာလင်္ကာရ၊ မှန်နန်းရာဇဝင်တို့၌ အရှေ့ပြည် သံလွင်မြစ်အနောက်ဘက် မောယွန်းကိုးပြည်ထောင်ကို ယူလေသည်။ ဒသနိပါတ်၊ ဃဋပဏ္ဍိတဇာတ် ဣန္ဒြိယရာဇဝင်တို့နှင့် မညီလေ။ ဝင်္ဂတိုင်းဘင်္ဂလားမြို့မှ အနောက်မြောက်အရပ် အင်္ဂလိပ်မိုင်ပေါင်း တထောင့်နှစ်ရာ လေးဆဲ့နှစ်မိုင်ခန့်၊ ယူဇနာပေါင်း တရာငါးဆဲ့ ငါးယူဇနာကျော်ခန့်အကွာတွင်တည်ရှိသော ဂူဇရတ်ကျွန်းဆွယ်၌ ကဗုဇမြို့များသည် ကမ္ဗောဇတိုင်း ဂူဇရတ်ပြည်။ ဤကမ္ဗောဇတိုင်း၊ မလ္လဝါတိုင်း၊ ဝါသိန္ဓတိုင်းတို့သည် ဣန္ဒြိယပြည်ကြီး အနောက်တောင်အရပ်၌တည်ကြောင်းကို မကန္တ ပူရာဏ်ကျမ်း "ဂု"ချပ်၌ဆိုသည်။ ဤသည်ကား အင်္ဂုတ္တရ တိကနိပါတ်ပါဠိတော်၊ ဝိသာ ခုပေါသထသုတ်၌ ဟောတော်မူအပ်သော တိုင်းကြီးတဆဲ့ခြောက်တိုင်း၊ ပြည်ကြီး တဆဲ့ခြောက်ပြည်တို့၏ အကြောင်းတည်း။

## ၆၃။ ပြဆိုအပ်သော တိုင်းကြီး တဆဲ့ခြောက်တိုင်း၊ ပြည်ကြီး တဆဲ့ခြောက်ပြည်တို့မှ တပါး ကြွင်းကျန်သေးသော တိုင်းပြည်များတို့ကိုလည်း အကျဉ်းအားဖြင့် ပြဆိုအပ်သော အကြောင်း

ကြွင်းကျန်သေးသော တိုင်းပြည်များတို့မှာ ...(၁)မဇ္ဈိမဒေသအတွင်း အရှေ့တောင်အရပ်၌ ဥရိယပြည်။ (၂)မဒရပ်မြောက်ပိုင်း မဒ္ဒရစ်တိုင်း သာဂလပြည်။ (၃)အနောက်တောင်အရပ်၌ အလ္လကပ္ပတိုင်း လောဘတ်ပြည်။ (၄) ဝေဠုဒီပတိုင်း ပူရန္တပ္ပပြည်။ (၅) အနောက်မြောက်အရပ်၌ မဒ္ဒရစ်တိုင်း ဇေတမင်းကြီးနေသော မခုရပြည်။ (၆)ဝေရဉ္ဇပြည်။ (၇)ကဏ္ဍကုစ္ဆိပြည်။ (၈)

သောရေယျပြည်။ (၉)အာဠဝီပြည် (၁၀) သင်္ကဿ နဂိုရ်ပြည်။ (၁၁)ပယာဂပြည်။ (၁၂) အသိတဉ္စနပြည်၊ လေဋ္ဌမြို့အနီးသာဂလပြည်၊ (ဤသာဂလပြည်သည် မိလိန္ဒမင်းကြီးစိုးစံသော မြို့ပင်ဖြစ်လေသည်။ သာသနာ လင်္ကာရ၊ မှန်နန်းရာဇဝင်တို့၌ သျှမ်း ယွန်းပြည်ဟုဆို၏။ အကျယ်ကို ဓမ္မဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၄၃ နံပါတ်၌ ယူလေ။) (၁၃) မြောက်အရပ်၌ သတ္တတိုင်း ကပိလဝတ် ပြည်။ (၁၄)ကောလိယပြည်၊ ဒေဝဒဟပြည်။ (၁၅)သာကေတပြည်။ (၁၆)ပါဝါပြည်။ ပေါင်း တဆဲ့ ခြောက်ပြည်။

မဇ္ဈိမဒေသအနီးရှိ ပစ္စန္တအရပ်တိုင်းပြည်များမှာ ...(၁) ဣန္ဒိယပြည်ကြီး၏ အရှေ့တောင်အရပ်၌ ဝင်္ဂတိုင်း ဘင်္ဂလားပြည်။ (၂)မဒရပ်တောင်ပိုင်းရှိ ဒက္ခိဏ မဒရ ခေါ် မိုက်စိုရ်ပြည်။ (၃)မဟိသကတိုင်း အန္ဒကစိန္ဒပြည်။ (၄)ဝနဝါသီပြည်။ (၅)တောင်ဘက်အရပ်၌ သာမည ယောနကတိုင်း ပဋ္ဌိရမဏ္ဍိပြည်။ (၆)မဟာရဋ္ဌတိုင်း ဒေဩဂိရိပြည်။ (၇)အနောက်တောင်အရပ်၌ သုရဋ္ဌတိုင်း သုဝဏ္ဏဘူမိ ဘုံဘိုင်ပြည်။ ဤသုဝဏ္ဏဘူမိ ဘုံဘိုင်ပြည် မည်သင့်ကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာ၊ မကန္တပူ ရာဏ်ကျမ်း၊ ပေတဝတ္ထုပါဠိတော်၊ နန္ဒကပေတဝတ္ထု စသည်နှင့်ညှိ၍ ကြည့်ရှုလေ။ အကျယ်သာခကေလိုမူ ငါတို့ စီရင်အပ်သော ဓမ္မဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၅၂ နံပါတ်၌ ယူလေ။ (၈)ခရာချီပြည်၊ ဟဲဒရဗဒ်ပြည်။ (၉)အနောက် ဘက်အရပ်၌ အပရန္တပြည်။ (၁၀) ကာဗူပြည်။ (၁၁)ပါရှာ ပြည်၊ ဂြိတ်ပြည်။ (၁၂)အရှေ့ တူစတန်ပြည်။ (၁၃) ဟိမဝန္တာတောင် အနောက်မြောက်စွန်းရှိ တိဗက်ပြည်။ (၁၄) ဟိမဝန္တာအလယ်စုတွင်တည်ရှိသော ဖိန်ပြည်။ (၁၅)နီပါပြည်။ (၁၆) ဘူတာန်ပြည်။ (၁၇)အရှေ့ဘက် အရပ်၌ ကောသလ္လတိုင်း အာသံပြည်၊ မဏိပူရ ကသည်း ပြည် (၁၈) ကာမရူပတိုင်း၊ ရောင်ဖြူပြည် (၁၉) စစ်တကောင်းပြည်။ ပေါင်း တဆဲ့ကိုးပြည်။ ။

ဤမှတပါး ငါတို့ရခိုင်ပြည်၊ မြန်မာပြည်၊ ယိုးဒယားပြည်၊ တောင်ခွင်ပြည်၊ အနမ်းပြည်၊ ကောရိယ ပြည်၊ တရုတ်ပြည်၊ ရုရှားပြည်၊ ဇာမနီပြည်၊ ဆွေဒင်ပြည်၊ နော်ရဝေပြည်၊ ဒေနပြည်၊ ဟောလန်ပြည်၊ ဗေလဂျံပြည်၊ ဩဇတြေပြည်၊ ဟံဂေရီပြည်၊ စစ္စလံပြည်၊ ရိုမေနီယံပြည်၊ ဆာဗိယံပြည်၊ မုန္တီနီကရိုပြည်၊ ဗာလဂေရီယန်ပြည်၊ တူရကီပြည်၊ ဤကျစ်ပြည်၊ ဣတလီယန်ပြည်၊ ဖရန့်သစ်ပြည်၊ ဧပိန်ပြည်၊ ပေါ်တူဂီပြည်၊ အီဒင်ပြည်၊ အာဖရိကတိုက် တောင်ပိုင်း မြောက်ပိုင်းပြည် အားဖြင့် များပြားစွာသော တိုင်းပြည်ခရိုင် နိုင်ငံအပေါင်း တို့သည် ထောင်သောင်းမက ပွားများကြလေသည်ဟူ၍ မှတ်ရမည်။ ဤသည်ကား ဇမ္ဗူဒီပါကျွန်းရှိ မြို့ရွာခရိုင် နိုင်ငံအကြောင်းတည်း။

သီဟိုဠ်ကျွန်း၊ ဘိလပ်ကျွန်း၊ ဇပန်ကျွန်းများတို့ ကိုကား ဇမ္ဗူဒီပါကျွန်း၏အရံဖြစ်သော ကျွန်းဟူ၍သာ မှတ်ရမည်။ (ဤသည်ကား စကားချုပ်)။

## ၆၄။ ဂါမ၊ နိဂမ၊ နဂရတို့၏အကြောင်း

ဂါမ၊ နိဂမ၊ နဂရတို့၏ အထူးကား။ ဈေးနှင့် တံတိုင်း နှစ်ပါးမရှိသောအရပ်သည် ဂါမမည်၏။ ဈေးသာ ရှိ၍ တံတိုင်းမရှိသောအရပ်သည် နိဂမမည်၏။ တံတိုင်းနှင့် ဈေးနှစ်ပါးစုံသောအရပ်သည် နဂရမည်ဟူ၍ ကစ္စည်း ကာသစ်၌ဆိုသည်။ ။ ဇနပဒနှင့်ရဋ္ဌ အထူးကား၊ တဦးသော မင်းတို့၏တိုင်းနိုင်ငံ၌ တခုသောဇနပုဒ်သည် ဇနပဒမည်၏။ အလုံးစုံသောတိုင်းနိုင်ငံသည် ရဋ္ဌမည်၏ဟု ပါရာဇိကဏ်အဋ္ဌကထာ၌ ဆိုသည်။

## ၆၅။ မြို့၏အင်္ဂါခုနစ်ပါးသရုပ်

မြို့၏အင်္ဂါခုနစ်ပါးတည်း။ ခုနစ်ပါးဟူသည် ကား (၁)ပြည့်ရှင်မင်းလည်းတပါး။ (၂)ဆုံးဖြတ်စီရင်နိုင် သော အမတ်လည်းတပါး။ (၃)ပြည်ထောင်ချင်း၊

အဆွေခင်ပွန်း မင်းလည်းတပါး။ (၄)ရတနာဆယ်ပါး၊ စပါးမျိုးခုနစ်ပါးတို့ဖြင့်ပြည့်သော ကျီကျတိုက်ဘဏ္ဍာလည်း တပါး။ (၅) ခဲယဉ်းသော မြို့,ပြ,ကျုံး,မြောင်း, ပစ္စင်, တံခါး, ရင်တားလည်းတပါး။ ၆။ တိုင်းနိုင်ငံလည်း တပါး။ ၇။ ရဲမက်ဗိုလ်ပါလည်းတပါး ဤခုနစ်ပါးတို့ကို အဘိဓာန်၊ ရာဇနီတိတို့၌ဆိုသည်။

(၆၆) တနည်း၊ မြို့၏အင်္ဂါခုနစ်ပါးဟူသည်မှာ (၁) ကောင်းစွာစိုက်သော၊ မတုန်မလှုပ်သော တံခါးတိုင်လည်း တပါး။ (၂)နက်သော၊ ကျယ်သောကျုံးလည်း တပါး၊ (၃)ကျယ်သော သူရဲပြေးရှိသည်လည်း တပါး။ (၄)များစွာသော လက်နက်လည်းတပါး။ (၅)များစွာသော ရဲမက်ဗိုလ်ပါရှိသည်လည်းတပါး။ (၆) ပညာရှိလိမ္မာသော တံခါးစောင့်လည်းတပါး။ (၇) မြင့်သော မြို့ရိုးတံတိုင်းရှိသည်လည်းတပါး။ ဤခုနစ်ပါးတည်းဟူ၍ သတ္တနိပါတ် အင်္ဂုတ္တရ ပါဠိတော်၌လာသည်။

## ၆၇။ မင်းတို့ ပြကတော့ခုနစ်ပါးသရုပ်

မင်းတို့ပြကတေ့ ခုနစ်ပါးတည်း။ ခုနစ်ပါးဟူသော်ကား၊ (၁)မင်းလည်းတပါး၊ (၂)အရှင်၏အလိုကိုလိုက်တတ်သော အမတ်လည်းတပါး။ (၃) သူတော်ကောင်းရှိသော ဇနပုဒ်လည်းတပါး။ (၄) ခဲခက်သော ကျုံး၊ ခိုင်ခံ့သော မြို့လည်းတပါး။ (၅)အပြစ်နှင့်လျော်စွာ ဒဏ်ပေးခြင်းလည်းတပါး။ (၆)မကုန်နိုင်အောင် ပြည့်စုံသော ကျီကျဘဏ္ဍာတိုက်လည်း တပါး။ (၇)စစ်မက်ရှိသောအခါ အဘော်ရသော အဆွေခင်ပွန်းမင်းလည်း တပါး။ ဤခုနစ်ပါးတည်းဟူ၍ ရာဇနီတိ၌လာသည်။

## ၆၈။ မြို့၏အစာလေးပါးသရုပ်

မြို့၏အစာလေးပါးဟူသည်တည်း။ လေးပါးဟူသည် ကား(၁)များစွာသော မြက် ထင်း ရေ ရှိသည်လည်း တပါး။ (၂)များစွာသော သလေး မုယော အစရှိသော စပါးမျိုးရှိသည်လည်းတပါး။ (၃)များစွာသော နှမ်း ပဲမျိုးရှိသည်လည်း တပါး။ (၄)များစွာသော ထောပတ်၊ ဆီဦး၊ ဆီ၊ ပျား၊ တင်လဲ၊ ဆားတည်းဟူသော ဆေးရှိသည်လည်း တပါး။ (ဤလေးပါးတည်းဟူ၍ သတ္တနိပါတ်၊ အင်္ဂုတ္တရပါဠိတော်၌လာသည်။)

## ၆၉။ စစ်အင်္ဂါလေးပါးသရုပ်

စစ်အင်္ဂါလေးပါးတည်း။ လေးပါးဟူသည်ကား (၁)ဆင်လည်းတပါး၊ (၂)မြင်းလည်းတပါး၊ (၃)ရထားလည်း တပါး၊ (၄)ခြေသည်လည်း တပါး၊ ဤလေးပါးတည်းဟူ၍ အဘိဓာန်၌ဆိုသည်။

## ၇၀။ မင်းမြောက်တန်ဆာငါးပါးသရုပ်

မင်းမြောက်တန်ဆာ ငါးပါးတည်း။ ငါးပါးဟူသည်ကား (၁)သားမြီးယပ်လည်းတပါး၊ (၂)သင်းကျပ်လည်း တပါး။ (၃)သံလျက်လည်းတပါး။ (၄) ထီးဖြူလည်း တပါး။ (၅) ရတနာရွှေခြေနင်းလည်း တပါး။ ဤငါးပါးတည်းဟူ၍ အဘိဓာန် စသည်၌လာသည်။

## ၇၁။ တူရိယာမျိုးငါးပါးသရုပ်

တူရိယာမျိုး ငါးပါးတည်း။ ငါးပါးဟူသည်ကား (၁)အိုးစည်၊ စည်ပုတ်အစရှိသော တဖက်ဖိတ်စည်လည်း တပါး။ (၂)မုရိုးစည်အစရှိသော နှစ်ဖက်ဖိတ်စည်လည်း တပါး။ (၃)ထက်စည်အစရှိသော၊ အလုံးစုံကြက်သော စည်လည်းတပါး။ (၄) မောင်းကြေးနင်း ခွက်ခွင်းအစရှိသော တခဲနက်စည်လည်းတပါး။ (၅)နှဲ၊ ပြွေ၊ ခရုသင်း အစရှိသော အခေါင်းရှိသော စည်လည်းတပါး။ ဤငါးပါးတည်းဟူ၍ အဘိဓာန်၌ လာသည်။

### ၅၂။ မင်းတို့အားငါးပါးသရုပ်

မင်းတို့အားငါးပါးတည်း။ ငါးပါးဟူသည်ကား (၁) လက်ရုံးအားလည်း တပါး။ (၂) ရွှေ ငွေ အစရှိသော စည်းစိမ်အားလည်းတပါး။ (၃) မှူးမတ်ဗိုလ်ပါအားလည်း တပါး။ (၄)အလွန်မြတ်သော မင်းမျိုးလည်း တပါး။ (၅)ပညာအားလည်း တပါး။ ဤငါးပါးတည်းဟူ၍ စတ္တာလီသနိပါတ်၊ တေသကုဏဇာတ်၌လာသည်။

### ၅၃။ မင်းတို့ကျင့်ရာသော တရားရှစ်ပါး သရုပ်

မင်းတို့ကျင့်ရာသော တရားရှစ်ပါးတည်း။ ရှစ်ပါးဟူသည်ကား (၁)မယ်တော်၊ ခမည်းတော်တို့၌ ကောင်းစွာကျင့်ရာသည်လည်း တပါး။ (၂)သားတော်၊ သမီးတော်၊ မိဘုရား၊ မောင်းမမိဿံတို့၌ ကျင့်ရာသည် လည်း တပါး။ (၃)ဆွေတော်မျိုးတော်၊ မှူးတော် မတ်တော်တို့၌ ကျင့်ရာသည်လည်းတပါး။ (၄) ဆင်၊ မြင်း၊ ရဲမက်၊ ဗိုလ်ပါတို့၌ ကျင့်ရာသည်လည်းတပါး။ (၅)တိုင်းနိုင်ငံဇနပုဒ်တို့၌ ကျင့်ရာသည်လည်းတပါး။ (၆)ပြည်တိုင်းကားတို့၌၎င်း၊ ဇနပုဒ်တို့၌၎င်း ကျင့်ရာသည် လည်းတပါး။ (၇) ရဟန်းပုဏ္ဏားတို့၌ ကျင့်ရာသည်လည်း တပါး။ (၈)သားငှက်တို့၌ ကျင့်ရာသည်လည်းတပါး။ ဤရှစ်ပါးတည်းဟူ၍ သုဝဏ္ဏသာမဇာတ်၌လာသည်။

### ၅၄။ မင်းတို့ကျင့်ရာသော တရားဆယ်ပါး သရုပ်

မင်းတို့ကျင့်ရာသော တရားဆယ်ပါးတည်း။ ဆယ်ပါးဟူသည်ကား (၁) အလှူပေးခြင်းတပါး။ (၂)ငါးပါးသီလ၊ ဆယ်ပါးသောသီလတို့ကို ဆောက်တည် ခြင်းတပါး။ (၃) ပေးကမ်းစွန့်ကြဲခြင်းလည်းတပါး။ (၄)ဖြောင့်မတ်ခြင်းလည်း တပါး။ (၅)နူးညံ့ခြင်းလည်း တပါး။ (၆) အဋ္ဌင်္ဂသီလကို ဆောက်တည်ခြင်းလည်း တပါး။ (၇)အမျက် မထွက်ခြင်းလည်း တပါး။ (၈) ပြည်သူတို့ကို မညှင်းဆဲခြင်းလည်းတပါး။ (၉) သည်းခံ ခြင်းလည်း တပါး။ (၁၀) ပြည်သူတို့နှင့် မဆန့်ကျင်ခြင်း လည်း တပါး။ ဤဆယ်ပါးတည်းဟူ၍ အသီတိနိ ပါတ်၊ မဟာဟံသဇာတ်၌လာသည်။

### ၅၅။ စကြဝတေးမင်းတို့ ကျင့်ရာသော ဝတ္တရား တဆဲ့နှစ်ပါးသရုပ်

စကြဝတေးမင်းတို့ ကျင့်ရာသော ဝတ္တရား တဆဲ့နှစ်ပါးတည်း။ တဆဲ့နှစ်ပါးဟူသည်ကား။ (၁) အတွင်းတော်သား ဗိုလ်ပါတို့၌ ကျင့်ရာသည်လည်း တပါး။ (၂)ဘိသိက်ခံသောမင်းတို့၌ ကျင့်ရာသည်လည်း တပါး။ (၃)ဘိသိက်မခံသောမင်းတို့၌ ကျင့်ရာသည် လည်းတပါး။ (၄)ပုဏ္ဏားတို့၌ ကျင့်ရာသည်လည်း တပါး။ (၅)သူကြွယ်တို့၌ ကျင့်ရာသည်လည်းတပါး။ (၆) နိဂုံးဇနပုဒ်သူတို့၌ ကျင့်ရာသည်လည်း တပါး။ (၇) ပုထုဇဉ်ရဟန်း၊ အရိယာရဟန်းတို့၌ ကျင့်ရာသည် လည်းတပါး။ (၈) သားသမင်မျိုးတို့၌ ကျင့်ရာသည် လည်း တပါး။ (၉) ငှက်မျိုးတို့၌ ကျင့်ရာသည်လည်း တပါး။ (၁၀) မတရားသောအမှုအကျင့်ကို ပယ်သည် လည်း တပါး။ (၁၁) ဥစ္စာရင်းနီးပေးကမ်းသည်လည်း တပါး။ (၁၂)ရဟန်းပုဏ္ဏားတို့သို့ကပ်၍ ပြဿနာမေး သည်လည်း တပါး။ ဤတဆဲ့နှစ်ပါးတည်းဟူ၍ ပါထေယျပါဠိတော် စက္ကဝတ္တိသုတ်၌လာသည်။

### ၅၆။ မင်းတို့၏ နာယကဂုဏ် ခြောက်ပါးသရုပ်

မင်းတို့၏ နာယကဂုဏ် ခြောက်ပါးတည်း။ ခြောက်ပါးဟူသော်ကား (၁)မြေကြီးကဲ့သို့ သည်းခံခြင်း၊ ခမာလည်း တပါး။ (၂)တည်ဥ္စသုံးကြိမ် နိုးကြားခြင်း၊ ဇာဂရိယလည်း တပါး။ (၃) ခြသေ့်မင်းနှင့်အတူ ထကြွ လုံ့လရှိခြင်း၊ ဥဋ္ဌာနလည်းတပါး။ (၄)ဝေဘန်ခွဲခြမ်း ပေးကမ်းခြင်း၊ သံဝိဘာဂလည်းတပါး။ (၅) သနားချစ်ခင်၊ ကြင်နာစုံမက်ခြင်း၊ ဒယာလည်းတပါး။ (၆) အမှား

အပယ်င်း မရှိရအောင် ပညာရှိတို့ကို ဆွေးနွေးမေးမြန်းခြင်း၊ လက္ခဏာလည်း တပါး။ ဤခြောက်ပါးတည်းဟူ၍ လောကနီတိတို့၌လာသည်။

## ၇၇။ မင်းတို့၏ကျင့်ရာသော ရာဇဂုဏ် ခြောက်ပါး သရုပ်

မင်းတို့ကျင့်ရာသော ရာဇဂုဏ်ခြောက်ပါး တည်း။ ခြောက်ပါးဟူသည်ကား သန္ဓိ၊ ဝိဂ္ဂဟ၊ ယာန၊ အာသန၊ ဒွေဓ၊ အာသယဟူ၍ ခြောက်ပါးတည်း။ ထိုခြောက်ပါးတို့တွင် (၁)သန္ဓိဟူသည် ကျေးဇူးပြုခြင်း ဆောင်ခြင်း လက္ခဏာရှိ၏။ ထိုသန္ဓိသည် ဥစ္စာဘဏ္ဍာကို ပေး၍ ကျေးဇူးပြုခြင်း၊ ကောသပဒါန။ ဒဏ်ပေး၍ ကျေးဇူးပြုခြင်း၊ ဒဏ္ဍပဒါန။ လယ်ယာ မိုးမြေကိုပေး၍ ကျေးဇူးပြုခြင်း၊ ဘူမိပဒါနအားဖြင့် သုံးပါးအပြားရှိ၏။ (၂) ဝိဂ္ဂဟဟူသည်ကား ပယ်ခြင်းလက္ခဏာရှိ၏။ ထိုဝိဂ္ဂဟဟူသည် ထင်ရှားစွာ စစ်ထိုးခြင်း၊ ပကာသယုဒ္ဓ။ စဉ်းလဲလျှို့ဝှက်၍ စစ်ထိုးခြင်း၊ ကူဋယုဒ္ဓ။ တိတ်တဆိတ် စစ်ထိုးခြင်း။ တုဏှိယုဒ္ဓအားဖြင့် သုံးပါးအပြားရှိ၏။ (၃) ယာနဟူသည်ကား စစ်ထွက်ခြင်းတည်း။ ထိုယာနသည် နှိမ်နင်းလို၍ စစ်ထွက်ခြင်း၊ ဝိဂ္ဂယှယာန။ မိမိအစွမ်းအား ကို ယုံကြည်၍စစ်ထွက်ခြင်း၊ သဒ္ဓါယ ယာန။ အလိုတူ၊ တိုင်းစပ်မင်းတို့နှင့်ပေါင်း၍ စစ်ထွက်ခြင်း၊ သမ္ဘူယယာန။ အရပ်တပါးသို့ စစ်ထွက်ဟန်ပြ၍ အရပ်တပါးသို့ စစ်ထွက်ခြင်း၊ ပသင်္ဂယာန။ အချိန်အခါ စသည်ကို စုံစမ်း ဆင်ခြင်၍ စစ်ထွက်ခြင်း၊ ဥပေက္ခယယာနအားဖြင့် ငါးပါး အပြားရှိ၏။ (၄) အာသနဟူသည်ကား ခဲယဉ်းကုန်သော မြို့ရိုး၊ ကျုံး၊ မြောင်း စသည်ကို ထပ်မံပြုပြင်၍ အဖြီးအခိုင် နေခြင်း၊ ဝိဂ္ဂယှာသန။ မိမိအားကို ယုံကြည်သဖြင့် အဖြီးအခိုင်နေခြင်း၊ သဒ္ဓါယာသန။ အလိုတူတိုင်း နီးစပ်ချင်း မင်းတို့နှင့်လက်နက်ဗိုလ်ပါ ထောက်ပံ့ရေနှောပေါင်းဖက် ၍ အဖြီးအခိုင်နေခြင်း၊ သမ္ဘူယာသန။ အရပ်တပါး၌ နေဟန်ပြ၍ အရပ်တပါး၌ အဖြီးအခိုင်နေခြင်း၊ ပသင်္ဂါသန။ အချိန်အခါ စသည်ကိုစုံစမ်းဆင်ခြင်၍ အဖြီး အခိုင်နေခြင်း၊ ဥပေက္ခယာသနအားဖြင့် ငါးပါးအပြားရှိ၏။ (၅) ဒွေဓဟူသည်ကား သူတပါးတို့ စစ်ကိုကွဲပြားအောင် ပြုပြင်ခြင်းတည်း။ (၆) အာသယဟူသည်ကား ရန်သူမင်း အား ဥစ္စာစသည်ပေးသဖြင့် ငြိမ်ဝပ်စွာနေခြင်းတည်း။ ဤသို့ ခြောက်ပါးတည်းဟူ၍ ရာဇသေဝက ကျမ်း၌ လာသည်။

## ၇၈။ တနည်း ရာဇဂုဏ်တရား ရှစ်ပါးသရုပ်

မင်းတို့ကျင့်ရာသော ရာဇဂုဏ်တရား ရှစ်ပါး တည်း။ ရှစ်ပါးဟူသည်ကား (၁) သိကြားမင်းသည် သတ္တဝါတို့အား နှိမ်ခြင်း၊ ချီးမြှောက်ခြင်းကိုပြုသကဲ့သို့ ပြည်သူလူအပေါင်းတို့အားနှိမ်ခြင်း၊ ချီးမြှောက်ခြင်းကို ပြုရာသည်လည်း တပါး။ (၂)နေမင်းသည် ရှစ်လ တိုင်တိုင် မိမိအရောင်ဖြင့် ရေကိုခန်းခြောက်စေသကဲ့သို့ တိုင်းနိုင်ငံတို့၌ အခွန်အတုတ်ကို ဖြည်းဖြည်းခံယူရာသည် လည်း တပါး။ (၃)လေသည် သတ္တဝါတို့၏ ကိုယ်တွင်း သို့ဝင်၍သွားသကဲ့သို့ သူလျှိုဖြင့် သူတပါးအကြောင်းကို သိအောင်ပြုရာသည်လည်း တပါး။ (၄) ယမမင်းသည် ချစ်သသူ၊ မုန်းသသူမရွေး ကံအလျောက် သေစေသကဲ့သို့ ချစ်သသူ၊ မုန်းသသူမဟုတ်၊ အပြစ်နှင့်လျော်စွာ ဒဏ်ပေး သည်လည်း တပါး။ (၅)သမုဒ္ဒရာသည် တောင့်တခြင်း မရှိမူ၍ မြစ်ငယ်တို့စီးဝင်လာရာဖြစ်သကဲ့သို့၊ ဥစ္စာ စည်းစိမ်ကို မတောင့်တသည်လည်းတပါး။ (၆) လပြည့်ဝန်းကို မြင်သောသူတို့သည် နှစ်သက်ကုန်သကဲ့ သို့ ခပ်သိမ်းသောသူတို့သည် မင်း၏မျက်နှာကိုမြင်အောင် ပြုရာသည်လည်းတပါး။ (၇)မြေကြီးသည် ကောင်းမ ကောင်း သူတို့ကိုအညီအမျှရွက်ဆောင်သကဲ့သို့ တိုင်းကား ပြည်ရွာနေပုဒ်တို့ကို ရွက်ဆောင်ရာသည်လည်း တပါး။ (၈)မိုးနတ်သားသည် မိုးလေးလပတ်လုံး ရွာစေသကဲ့သို့

သူရဲသူခက်တို့အား မျိုးရိက္ခာဖြင့် နှစ်သက်စေရာသည်လည်း တပါး။ ဤရှစ်ပါးတည်းဟူ၍ရာဇနီတိဌ် လာသည်။

## ၇၉။ အပရိဟာနိယတရား ခုနစ်ပါးသရုပ်

တိုင်းနိုင်ငံကို စည်ပင်စေတတ်သော အပရိဟာနိယ တရားခုနစ်ပါးတည်း။ ခုနစ်ပါးဟူသည်ကား (၁)အကြိမ်များစွာ မပြတ်စည်းဝေးခြင်းလည်းတပါး။ (၂) အညီအညွတ်ထခြင်း၊ ပြုအပ်သောကိစ္စကို အညီအညွတ်ပြုခြင်းလည်းတပါး။ (၃) ရှေးမင်းတို့ မပညတ်သည်ကို မပညတ်၊ ပညတ်ပြီးသည်ကိုလည်း မဖျက်၊ ပညတ်တိုင်း ကျင့်သည်လည်း တပါး။ (၄) ကြီးသူတို့ကို အရိုအသေပူဇော်၍ ကြီးသူတို့စကားကို နာခံယူသည်လည်းတပါး။ (၅) အမျိုးသမီးငယ်တို့ကို အနိုင်အထက် မသိမ်းယူသည်လည်း တပါး။ (၆) ပြည်တွင်းပြည်ပ စောင့်သော နတ်တို့အား ဗလိနတ်စာ ပေးမြဲတိုင်းပေးသည်လည်း တပါး။ (၇) ရဟန်းပုဏ္ဏားတို့ကို တရားနှင့်အညီ စောင့်ရှောက်လုံခြုံစေသည်လည်းတပါး။ ဤခုနစ်ပါးတည်းဟူ၍ သတ္တနိပါတ် အင်္ဂုတ္တရပါဠိတော်၌လာသည်။

## ၈၀။ မင်းတို့ သင်္ဂဟတရား လေးပါးသရုပ်

မင်းတို့ သင်္ဂဟတရားလေးပါးတည်း။ လေးပါးဟူသည်ကား။ (၁)အခွန်အတုတ်ကို ဆယ်ဖို့တဖို့ခံခြင်းလည်း တပါး။ ။ (၂)သူရဲသူခက်တို့အား ခြောက်လတကြိမ်ရိက္ခာပေးခြင်းလည်း တပါး။ ။ (၃)ဆင်းရဲသားတို့အား အရင်းဥစ္စာပေး၍ သုံးနှစ်လည်မှ အရင်းအတိုင်းသာ ယူခြင်းလည်းတပါး။ (၄)အဘ ဦးရီး အစရှိသဖြင့် ချစ်ဖွယ်သောစကားကိုဆိုခြင်းလည်းတပါး။ ဤလေးပါးတည်းဟူ၍ အဋ္ဌနိပါတ် အင်္ဂုတ္တရပါဠိတော်၌လာသည်။ တနည်း သင်္ဂဟတရားလေးပါးကား။ (၁)ပေးကမ်းခြင်းလည်းတပါး (၂)ချစ်ဖွယ်သောစကားကိုဆိုခြင်းလည်းတပါး။ (၃) အကျိုးစီးပွားကိုကျင့်ခြင်းလည်း တပါး။ (၄) ကိုယ်နှင့်အတူပြုခြင်းလည်းတပါး။ ဤလေးပါးတည်းဟူ၍ စတုက္ကနိပါတ် အင်္ဂုတ္တရပါဠိတော်၌လာသည်။

## ၈၁။ အမတ်ကောင်းတို့ အင်္ဂါရှစ်ပါးသရုပ်

အမတ်ကောင်းတို့၏ အင်္ဂါရှစ်ပါးတည်း။ ရှစ်ပါးဟူသည်ကား။ (၁) အကြားအမြင်များသည်လည်း တပါး။ (၂) သိတင်းသီလရှိသည်လည်းတပါး။ (၃) ရဲရင့်သည်လည်း တပါး။ (၄) ဝီရိယလုံ့လရှိသည်လည်း တပါး။ (၅) အမှုကိုပြီးအောင်ပြုတတ်သည်လည်း တပါး။ (၆) စွမ်းပကား ခွန်အားရှိသည်လည်းတပါး။ (၇) သူ့ဥစ္စာကိုလိုချင်ခြင်း မရှိသည်လည်းတပါး။ (၈) ချစ်ဖွယ်သော အရောင်အဆင်းရှိသည်လည်းတပါး။ ဤရှစ်ပါးတည်းဟူ၍ ရာဇနီတိ၌လာသည်။

## ၈၂။ စစ်သူကြီးအင်္ဂါကိုးပါး သရုပ်

စစ်သူကြီးအင်္ဂါကိုးပါးတည်း။ ကိုးပါးဟူသည်ကား။ (၁) တဖက်ရန်သူကိုနှိမ်နင်းနိုင်သော ပညာရှိသည်လည်း တပါး။ (၂) အောင်ရာမြေကို သိတတ်သည်လည်း တပါး။ (၃) အရေးမသာ၍ ပျက်သောအခါ စစ်သည်သူရဲတို့ကို မစွန့်သည်လည်းတပါး။ (၄)ဆင်းရဲဖော်ချမ်းသာဖက်မျှသည်လည်း တပါး။ (၅) စွမ်းပကားခွန်အားကြီးသည်လည်း တပါး။ (၆) စင်ကြယ်သန့်ပြန့်သော အကျင့်ရှိသည်လည်း တပါး။ (၇) သေနင်္ဂဗျူဟာ ကျမ်းကိုတတ်သည်လည်း တပါး။ (၈) စစ်သည်ရဲမက်တို့ကို မပင်ပန်းအောင် စီရင်တတ်သည်လည်း တပါး။ (၉) လုံ့လရှိခြင်း၊ ရဲရင့်ခြင်းဂုဏ်နှင့် ပြည့်စုံသည်လည်း တပါး။ ဤကိုးပါးတည်းဟူ၍ ရာဇနီတိ၌လာသည်။

## ၈၃။ တမန်အင်္ဂါရှစ်ပါးသရုပ်

တမန်အင်္ဂါရှစ်ပါးတည်း။ ရှစ်ပါးဟူသည်ကား။ (၁) ကြားလွယ်သည်လည်း တပါး။ (၂) သူတပါးကို

ကြားလွယ်အောင်ဆိုတတ်သည်လည်းတပါး။ (၃) အားထုတ်၍ မှတ်တတ်သည်လည်း တပါး။ (၄) အမှတ်မြဲသည်လည်းတပါး။ (၅) အရိပ်အခြည်ကို သိတတ်သည်လည်းတပါး။ (၆) သူတပါးကို သိစေတတ်သည်လည်းတပါး။ (၇)စီးပွားရှိသည်မရှိသည်၌ လိမ္မာသည်လည်းတပါး။ (၈) ငြင်းခုံခိုက်ရန် မပြုတတ်သည်လည်း တပါး။ ဤရှစ်ပါးတည်းဟူ၍ အဋ္ဌနိပါတ်အင်္ဂုတ္တရပါဠိတော်၊ စူဠဝါပါဠိတော်တို့၌လာသည်။

## ၈၄။ သံတော်ခံအင်္ဂါခြောက်ပါးသရုပ်

သံတော်ခံ အင်္ဂါခြောက်ပါးတည်း။ ခြောက်ပါးဟူသည်ကား။ (၁) ပညာရှိသည်လည်းတပါး။ (၂) စကားတတ်သည်လည်း တပါး။ (၃) ရဲရင့်သည်လည်းတပါး။ (၄) သူ့စိတ်ကို သိတတ်သည်လည်းတပါး။ (၅)ယဉ်ကျေးသည်လည်း တပါး။ (၆)ဆိုတိုင်းကိုပြန်နိုင်သည်လည်း တပါး။ ဤခြောက်ပါးတည်းဟူ၍ ရာဇနီတိ၌လာသည်။

## ၈၅။ ကျွန်ကောင်းလက္ခဏာ ခြောက်ပါးသရုပ်

ကျွန်ကောင်းလက္ခဏာ ခြောက်ပါးတည်း။ ခြောက်ပါးဟူသည်ကား။ (၁) အရှင်ကို မကောင်းမှုမှ မြစ်တတ်သည်လည်း တပါး။ (၂) အစီးအပွားရှိသည်၌ ယှဉ်စေတတ်သည်လည်း တပါး။ (၃) အရှင်၏လျှို့ဝှက်အပ်သောအရာကို လျှို့ဝှက်တတ်သည်လည်း တပါး။ (၄) အရှင် ကျေးဇူးသတင်းရှိသည်ကို ပြုတတ်သည်လည်း တပါး။ (၅) အမှုအရေးဘေးရန်ရှိသောအခါ အရှင်ကိုမစွန့်သည်လည်း တပါး။ (၆)ပေးအပ်သောအခါ၌ အရှင်အားကိုပေးတတ်သည်လည်း တပါး။ ဤခြောက်ပါးတည်းဟူ၍ ရာဇနီတိ၌လာသည်။

## ၈၆။ အလိုရှိအပ်သော သူလေးယောက်သရုပ်

အလိုရှိအပ်သောသူ လေးယောက်တည်း။ လေးယောက်ဟူသည်လား။ (၁) စစ်မြေပြင်အရပ်၌ ရဲရင့်သောသူကို အလိုရှိအပ်သည်လည်းတပါး။ (၂) အရေးအခွင့်ရှိ၍ တိုင်ပင်ခြင်းတို့၌ သိမ်မွေ့သောစကားရှိသော သူကိုအလိုရှိအပ်သည်လည်း တပါး။ (၃) ထမင်းအဖျော်စားသောအခါ ချစ်သောသူကို အလိုရှိအပ်သည်လည်း တပါး။ (၄) ခဲခက်သောအကြောင်းဖြစ်သောအခါ ပညာရှိသော သူကိုအလိုရှိအပ်သည်လည်း တပါး။ ဤလေးပါးတည်းဟူ၍ ဇာနိပါတ်၊ တစသာရ ဇာတ်၌လာသည်။

## ၈၇။ ရန်အောင်ရာသည့် အကြောင်းငါးပါးသရုပ်

ရန်အောင်ရာသည် ငါးပါးတည်း။ ငါးပါးဟူသည်ကား။ (၁) မန္တရားမန္တန်ရွတ်ခြင်းလည်း တပါး။ (၂)ပညာရှိတို့နှင့် တိုင်ပင်ခြင်းလည်းတပါး။ (၃) ချစ်ဖွယ်သော စကားကိုဆိုခြင်းလည်းတပါး။ (၄)တံစိုးလက်ဆောင်ပေးခြင်းလည်း တပါး။ (၅)အမျိုးအနွယ်ဆက်ခြင်းလည်းတပါး။ ဤငါးပါးတည်းဟူ၍ ပဥ္စကနိပါတ်၊ တစသာရဇာတ်၌လာသည်။

## ၈၈။ ပြည်ရွာစည်ပင်ရာသော အကြောင်းလေးပါးသရုပ်

ပြည်ရွာစည်ပင်ရာသော အကြောင်းလေးပါးတည်း။ လေးပါးဟူသည်ကား။ (၁) လယ်လုပ်သောသူများသည်လည်း တပါး။ (၂) ကုန်သွယ်သောသူများသည် တပါး။ (၃) သီတင်းသီလရှိသောအမတ်များသည်လည်း တပါး။ (၄) များသောအကြားအမြင် သီလရှိသော ရဟန်းများသည်လည်း တပါး။ ။ ဤလေးပါးတည်းဟူ၍ ရာဇနီတိ၌ဆိုသည်။

## ၈၉။ တင့်တယ်ခြင်း ခုနစ်ပါးသရုပ်

တင့်တယ်ခြင်းခုနစ်ပါးတည်း၊ ခုနစ်ပါးဟူသည်ကား။ (၁) အရှင်မင်းကြေရာစ်တို့၏ တင့်တယ်ခြင်းကား

ပေးကမ်းစွန့်ကြဲခြင်း။ (၂) စာမရှိမည်သော သားတို့၏ တင့်တယ်ခြင်းကား မြီးဆံ။ (၃) ကေသရာဇာခြင်္သေ့မင်းတို့၏ တင့်တယ်ခြင်းကား ရဲရင့်ခြင်း။ (၄) ဂဠုန်မင်းတို့၏ တင့်တယ်ခြင်းကား စွမ်းပကား။ (၅) ပညာရှိတို့၏ တင့်တယ်ခြင်းကား ပွဲသဘင်၌ အမေးပုစ္ဆာကို ဖြေခြင်း။ (၆) သူရဲကောင်းတို့၏ တင့်တယ်ခြင်းကား စစ်မြေပြင် အရပ်၌ တန့်ရပ်နေခြင်း။ (၇) ရသေ့ရဟန်းတို့၏ တင့်တယ်ခြင်းကား မှန်သောစကားကိုဆိုခြင်းဟူ၍ ရာဇဝင်ကြီး၌လာသည်။ ။

## ၉၀။ ထီးဖြူငါးပါး၊ စည်သုံးပါး၊ စည်မျိုး တဆဲ့နှစ်ပါး၊ ကြေးသံဆယ်ပါး၊ တံပိုးမျိုးရှစ်ပါး၊ အငြိမ့်တီးမျိုးခြောက်ပါးသရုပ်

ထီးဖြူငါးပါးဟူသည်ကား (၁) ကြငှန်းထီး။ (၂) ဥရှုထီး။ (၃) တမွတ်ထီး။ (၄) ကနက္ကဒန်ထီး။ (၅) သမုတိထီးဟူ၍ ငါးပါးတည်း။

စည်သုံးပါးဟူသည်ကား-(၁)ကျည်းပြည်က ဖြစ်သော ဝင်စည်။ (၂) ဓိန္နိပြည်ကဖြစ်သော စည်ဝန်း။ (၃)မြန်မာပြည်တွင်ဖြစ်သော စည်ပြော။ ဤသုံးပါးတည်း။

စည်မျိုး တဆဲ့နှစ်ပါးဟူသည်ကား-(၁) မြောက်စည်။ (၂)သံလွင်။ (၃)စည်ပျော။ (၄)စည်ကြီး။ (၅)ဒုန်မင်း။ (၆)စည်ဝန်း။ (၇)စည်သေး။ (၈)စည်ပုတ်။ (၉)စည်ပန်းတောင်။ (၁၀)ပတ်သာ။ (၁၁)တဖက်စည်။ (၁၂)စည်အိုင့်။ ဤတဆဲ့နှစ်ပါးတည်း။

ကြေးသံဆယ်ပါးဟူသည်ကား (၁)စည်းစုတ်။ (၂)ခွက်ခွင်း။ (၃)ကြေးနင်း။ (၄)မောင်း။ (၅)ခေါင်းလောင်း။ (၆)ကြေးစည်။ (၇)နရည်းဇရော။ (၈)ဆည်းလည်း။ (၉)ကြေးပတ်။ (၁၀)အိုးစည်။ ဤဆယ်ပါးတည်း။

တံပိုးမျိုး ရှစ်ပါးဟူသည်ကား- (၁)ဒုလောင်း၊ (၂)ခရာကောက်။ (၃)ခရာမြွှာ။ (၄)လက်တံရှည်။ (၅)နှဲ။ (၆)ပလွေ။ (၇)ခရုသင်း။ (၈)ဖက်လိပ်။ ဤရှစ်ပါးတည်း။

အငြိမ့်တီးမျိုး ခြောက်ပါးဟူသည်ကား (၁)စောင်း။ (၂)ညင်း။ (၃)မိကျောင်း။ (၄)အောင်းကလေး။ (၅)ပတ္တလား။ (၆)တရော။ ဤခြောက်ပါးတည်း။ ဤထီးဖြူစသည်တို့၏သရုပ်ကို ရာဇဝင်ကြီးတို့၌လာသည်။

(၉၁) တနည်း ထီးဖြူတို့၏အကြောင်းမှာ မင်းမြောက်တန်ဆာငါးပါးတွင် အတွင်းဝင်သော ထီးဖြူသည်။ (၁)ထီးရွက်ကိုးဆင့်၊ ထီးရိုးဆယ်တောင်ရှိသော နဝဒဏ္ဍာထီး။ (၂)ထီးရွက်အမှတ်မရှိ၊ ထီးရိုးခြောက်တောင်ရှိသော မနော်ဟာရီထီး။ (၃)ထီးရွက်အ မှတ်မရှိ၊ ထီးရိုးငါးတောင်ရှိ အတပတ္တထီး။ (၄)ထီးရွက်အမှတ်မရှိ၊ ထီးရိုးလေးတောင်ရှိသော ဝိဃေတြထီး-အားဖြင့် လေးပါးရှိ၏။ ထိုလေးပါးတို့တွင် ရှေ့သုံးစင်းတို့ကား ရာဇပလ္လင်မှာ ဆောင်သောထီးတို့တည်း။ စတုတ္ထထီးကား သွားရာဆောင်သောထီးတည်းဟူ၍ ရာဇာဘိသေကကျမ်း၌လာသည်။ ၎င်းထီးကို စီရင်လိုသည်ရှိသော် ထီးရိုးကို၎င်း၊ ထီးချက်ကို၎င်း၊ ထီးလက်ကို၎င်း၊ ထီးကြိုးကို၎င်း၊ ထီးရွက်ကို၎င်း၊ ထီးကလန့်ကို၎င်း၊ အထွတ်မြူတာကို၎င်း စီရင်အပ်၏။ ထီးထွင်၌ ၄က်မြတ်နား၌ကား ဟင်္သာ ၄က်ရုပ်ကို၎င်း၊ နွားမြီးဆွဲ ၄က်ရုပ်ကို၎င်း၊ ကျေး၄က်ရုပ်ကို၎င်း၊ မင်းတို့၏ချမ်းသာကို ဆောင်တတ်သောကြောင့် ဖန်ဆင်းစီရင်အပ်၏။ ထီးရိုးကိုကား ရွှေဖြင့်အလုံးစုံ မွမ်းမံအပ်သည်ရှိသော် ထူးမြတ်ကောင်းမွန်လှစွာ၏။ ထီးခရိုင် စသည်တို့၌ဖွဲ့သော ကြိုးကိုကား ခြည်ကိုပင် သုံးလွန်းတင်၊ ခြောက်လွန်းတင် ကျစ်အပ်၏။ ထီးချက် ပမာဏကိုကား နှစ်ဆယ့်ရှစ်သစ် အလွန်ရှိသော၊ တရာသော လက်သစ်ပမာဏအထူးကို ပြုပျင်စီရင်အပ်၏။ ၎င်းတရာနှင့် နှစ်ဆဲ့ရှစ်သစ်ထီးသည် အချင်းငါးတောင် တမိုက်ဖြစ်ရကား တဖက်နှင့်တဖက်သည် နှစ်တောင် တထွာနှင့် လေးသစ်ဖြစ်၏။ ဤသည်ကား နဝဒဏ္ဍာထီး၌ အောက်ဆင့်ကိုသာဆိုသည်။ သင့်တင့်အောင် အထက်

ရှစ်ဆင့်ကို စီရင်အပ်၏။ ကြွင်းသော ထီးသုံးစင်း၌ကား တဆင့်သာ ဤအတိုင်းအရှည်ကို စီရင်အပ်၏။ နဝဒဏ္ဍထီးမှာ ပြာသာဒ်ကဲ့သို့ အဆင့်တက်၏။ ရွှေညောင်ရွက် တရာ့ရှစ်ခုတို့ဖြင့် ဖန်ဆင်းစီမံအပ်၏။ ထက်ဝန်းကျင်မှာ ဆွဲအပ်၏။ မြ၊ ပတ္တမြား၊ သန္တာစသော ပန်းပွါးတို့ကို ထိုရွှေညောင်ရွက်၏အကြား၌ ဆွဲထားစီခြည်လှည့်ရာ၏။ ဤအတိုင်း အရှည်ကို နဝဒဏ္ဍထီးမှာယူလေ။ ကြွင်းသော ထီးသုံးစင်းမှာ ရွှေ၊ ညောင်ရွက်အရေအတွက်ပမာဏကို ရာဇဘိသေက ကျမ်းများမှာမဆို။ ထိုကြောင့် လျောက်ပတ်အောင် လုပ်ဆောင်ရာသည်။ ။ လောကဗျူဟာကျမ်း၌ကား ကနက္ကဒန်နှစ်စင်း၊ တမွတ်နှစ်စင်း၊ ယင်းထီးလေးစင်းဟူ၍သာလာသည်။ ကမ္ဗုထီး၊ စန္ဒထီး၊ ပဒုမထီး၊ သမုဒ္ဒဇာထီးဟူ၍ လက်ယာလေးစင်း။ ကနက္ကဒန်ထီး၊ သူရိယထီး၊ ဝိသုကမ္မထီး၊ သမုက္ခထီးဟူ၍ လက်ဝဲ လေးစင်းအားဖြင့် ပေါင်းရှစ်စင်းဟူ၍ ဒီသာဓေယျစာတမ်း များမှာလာသည်။ ရှေး၌ပြဆိုအပ်သော ထီးငါးစင်းတို့တွင် မင်းစံတော်မူသော သလွန်တော်ထက်ဖွင့်လျက် အမြဲစိုက်ထားသောထီးကို ကြငှန်းထီးဟူ၍ဆိုသည်။ ရတနာခုနစ်ပါးဖြင့် စီခြည်ရာသည်။ တနှစ်တကြိမ် သဘင်ခံရာတွင် ဖွင့်၍ဆောင်းသော ထီးကို ဥဂ္ဂထီးဟူ၍ ဆိုသည်။ နဝရတ်ကိုးပါးဖြင့် စီခြည်ရာသည်။ ထွက်ဝင်မပြတ် ဆောင်းသောထီးကို တမွတ်ထီးဟူ၍ ဆိုသည်။ ရွှေရိုး ရွှေထွင့်ဖြင့် ပြုရာသည်။ တတိုင်းတပြည်မှ သံကြီး တမန်ကြီးတို့ ရောက်လတ်သော် ဆောင်းအပ်သော ထီးကို ကနက္ကဒန်ထီးဖြူဟူ၍ဆိုသည်။ အရိုးအထွင့်၌ ရတနာကိုးပါးဖြင့် စီခြည်ရာသည်။ ဆင်ယာဉ်၊ မြင်းယာဉ် တို့၌ ဆောင်းသောထီးကို သမုတိထီးဟူ၍ ဆိုသည်။ အရိုးအထွင့်၌ ရွှေဖြင့်စီခြည်ရာသည်ဟူ၍ ဧညဝတီ အရေးတော်ပုံ၌ ဆိုသည်။

## ၉၂။ အလိုရှိအပ်သောသူ လေးယောက်သရုပ်

အလိုရှိအပ်သောသူ လေးယောက်တည်း။ လေးယောက်ဟူသည်ကား (၁) စစ်မြေပြင်အရပ်၌ သူရဲကောင်းအဖြစ်၌ တည်နိုင်သောသူ။ (၂) သူကောင်းအဖြစ် ချီးပင့်တော်မူရာ၌ နှလုံးအနေကျသောသူ။ (၃) အရှင်ကိုချစ်သောသူ။ (၄) အရှင်၏ အစီးအပွားတော်ကို လိုသောသူ။ ဤသူလေးယောက်တည်း။

## ၉၃။ ပြုစုအပ်သောသူ တဆဲ့လေးယောက် သရုပ်

ပြုစုအပ်သောသူ တဆဲ့လေးယောက်တည်း။ လေးယောက်ဟူသည်ကား။ (၁)အရှင်မင်းကိုစောင့်ရှောက်သောသူ။ (၂) အရှင်မင်းကို ချစ်ကြင်နာသောသူ။ (၃)စီးပွားရှိမှဲကို မြင်တတ်သောသူ၊ (၄) အရှင်တွင်အမှုရှိသောအခါ စွန့်ဘော်ရသောသူ။ (၅) အရှင်မင်းက စွန့်ဆိုလျှင် စွန့်ပေသောသူ။ (၆) ရန်ကိုအောင်ဖန်များသောသူ။ (၇) အမျိုးရှိသောသူ။ (၈) မြို့ပြကို စည်ပင်အောင် ပြုပေသောသူ။ (၉) အရှင်မင်းကေရာဇ် မေ့တော်မူသောအခါ လှုံ့ဆော်ပေးသောသူ။ (၁၀) အရှင်မင်းတွင် အမှုရှိတော်မူသောအခါ တည်ကြည်ခိုင်ခံ့သောသူ။ (၁၁) သူတပါး မစီရင်နိုင်သည်ကို ဟုတ်မှန်အောင် စီရင်နိုင်သောသူ။ (၁၂)သူတပါးမရောက်နိုင်သောခရီးကို ရောက်နိုင်ပေသောသူ။ (၁၃)အမှုတော်ကို မရိုးမဖယ် ထမ်းပေသောသူ။ (၁၄)သားတော် အစဉ်မြေးတော်အဆက် မဖောက်မပြန် အရှင်မှတ်သောသူ။ ဤတဆဲ့လေးယောက်တည်း။

## ၉၄။ မပစ်မပယ်အပ်သော သူသုံးယောက်သရုပ်

မပစ်မပယ်အပ်သော သူသုံးယောက်တည်း။ သုံးယောက်ဟူသည်ကား (၁) အရှင်မင်းကေရာဇ်၏ အသက်ကို ကယ်သောသူ။ (၂) ဆင်းရဲတော်မူသောအခါ မစပေသောသူ။ (၃) မင်းအဖြစ်ကိုပေးဝေသောသူ။ ဤသုံးယောက်တည်း။ ။

## ၉၅။ တိုင်းပြည်စည်ပင်သာယာသော အကြောင်း

တိုင်းပြည်စည်ပင်သာယာသောအကြောင်း ဆယ်ပါးတည်း။ ဆယ်ပါးဟူသည်ကား (၁) နေလပြိုဟ်

သွားမှန်သည်။ (၂) မိုးမှန်စွာရွာသည်။ (၃) မြေဩဇာရှိ၍ အသီးအနှံကောင်းသည်။ (၄)သစ်၊ ကျား စသော အန္တရာယ်မရှိသည်။ (၅)မှုဒိမ်းဒဏ္ဍငြိမ်းသည်။ (၆) စစ်မက် မရှိသည်။ (၇)အချင်းချင်း မညှဉ်းဆဲသည်။ (၈) တရား ဖြောင့်သည်။ (၉) ရတနာသုံးပါးကို ရိုသေသည်။ (၁၀) ရဟန်းတို့ သာသနာတော်ကိုစောင့်သည်။ ဤဆယ်ပါး တည်း။

## ၉၆။ နိုင်ငံကျယ်အံ့သောအကြောင်း ရှစ်ပါးသရုပ်

နိုင်ငံကျယ်အံ့သော အကြောင်းရှစ်ပါးတည်း၊ ရှစ်ပါးဟူသည်ကား (၁)စစ်၏ခေါင်းမည်သော စစ်သူကြီး ရှိသည်။ (၂)စစ်၏မျက်စိမည်သော ဟူးရားတတ်ရှိသည်။ (၃) စစ်၏နှားမည်သော လိမ္မာသောသူလျှိုရှိသည်။ (၄) စစ်၏အားမည်သော မိုလ်ပါရဲမက်များသည်။ (၅) စစ်၏ခံတွင်းမည်သော လိမ္မာသော တမန်ရှိသည်။ (၆) စစ်၏အစွယ်မည်သော အမတ်သူရဲကောင်းရှိသည်။ (၇) စစ်၏အခြေမည်သော ခြေသည်သူရဲကောင်း ရှိသည်။ (၈) စစ်၏အင်္ဂါမည်သော ဆင်ကောင်း၊ မြင်းကောင်း၊ လက်နက်ကိရိယာရှိသည်။ ဤရှစ်ပါး တည်း။

## ၉၇။ စစ်ဖြစ်ရာသောအကြောင်း တဆဲ့သုံးပါး သရုပ်

စစ်ဖြစ်ရာသောအကြောင်း တဆဲ့သုံးပါးတည်း။ တဆဲ့သုံးပါးဟူသည်ကား (၁)နိုင်ငံ အပိုင်းအခြားကြောင့် စစ်ဖြစ်သည်။ (၂) ဥစ္စာကိုလိုသောကြောင့် စစ်ဖြစ်သည်။ (၃) ဆင်ကောင်း၊ မြင်းကောင်းကို လိုသောကြောင့် စစ်ဖြစ်သည်။ (၄) သမီးကညာကို လိုသောကြောင့်စစ် ဖြစ်သည်။ (၅) ကုန်းတိုက်ဥပါယ်ကြောင့် စစ်ဖြစ်သည်။ (၆) သစ္စာဖောက်ပြန်သောကြောင့် စစ်ဖြစ်သည်။ (၇) စေပါသော ရာဇသံစကားကို အနိမ့်အကျမသိသောကြောင့် စစ်ဖြစ်သည်။ (၈) အဆွေအမျိုးကို ဖျက်သောကြောင့် စစ်ဖြစ်သည်။ (၉) အကြင်မင်းတို့သည် မိမိမြို့ကို မစောင့် မရှောက်ခြင်းကြောင့် စစ်ဖြစ်သည်။ (၁၀) သူရဲသူခက် မရှိခြင်းကြောင့် စစ်ဖြစ် သည်။ (၁၁) ကုန်သည်တို့ကြောင့် စစ်ဖြစ်သည်။ (၁၂) ရန်ငြိုးဖွဲ့သောကြောင့် စစ်ဖြစ်သည်။ (၁၃) အမျက်ကြီး သောကြောင့် စစ်ဖြစ်သည်။ ဤတဆဲ့သုံးပါးတည်း။

## ၉၈။ စုံစမ်း၍ သိရာသောအကြောင်း ခုနစ်ပါး သရုပ်

စုံစမ်း၍ သိရာသောအကြောင်း ခုနစ်ပါးတည်း။ ခုနစ်ပါးဟူသော်ကား .... (၁)တို့ကသူလျှိုလွှတ်သဖြင့် သိရာသည်။ (၂) သူကလွှတ်သည်ကိုတို့က ကင်းစောင့် သဖြင့် သိရာသည်။ (၃)တို့က ကုန်ပြုသွားသဖြင့် သိရာသည်။ (၄) သူကကုန်ပြုလာသော ကုန်သည်တို့ကို ပေးကမ်းဖြားယောင်း၍ သိရာသည်။ (၅)တို့က တမန် စေသဖြင့် သိရာသည်။ (၆)သူ့အရပ်မှလာသောသူတို့အား ဥပါယ် တမည်ဖြင့်စုံစမ်း၍ သိရာသည်။ (၇) သူ့တမန်ကို ပေးကမ်းစုံစမ်းသဖြင့် သိရာသည်။ ဤခုနစ်ပါးတည်း။

## ၉၉။ စစ်အောင်ရာသောအကြောင်း တဆဲ့ နှစ်ပါးသရုပ်

စစ်အောင်ရာသောအကြောင်း တဆဲ့နှစ်ပါး တည်း။ တဆဲ့နှစ်ပါးဟူသည်ကား(၁) စစ်စီရင်ရာ၌ လိမ္မာသောကြောင့် စစ်အောင်ရာသည်။ (၂) မင်းနှင့်အမတ် ညီညွတ်သောကြောင့် စစ်အောင်ရာသည်။ (၃) ပေးကမ်း ခြင်း၌ အမျက်မရှိသောကြောင့် စစ်အောင်ရာသည်။ (၄) စစ်သူကြီးခန့်ထားစီရင်တိုင်း သူရဲသူခက်တို့၌တည်သော ကြောင့် စစ်အောင်ရာသည်။ (၅) သူရဲကောင်းများသဖြင့် စစ်အောင်ရာသည်။ (၆) ယတြာမန္တန်ပြုသဖြင့် စစ်အောင် ရာသည်။ (၇) ဓာတာစန်းလက်ကောင်းသဖြင့် စစ်အောင်ရာသည်။ (၈) မျိုးစေ့၊ ရိက္ခာ၊ ရေ၊ ဆန် မြက်များသဖြင့် စစ်အောင်ရာသည်။ (၉) မင်းစသော

ပြည်သူတို့အနာကင်းသဖြင့် စစ်အောင်ရာသည်။ (၁၀) သူလျှိုကိုစေ၍ သူပြည် ရန်ဘေးအန္တရာယ်ကင်းသဖြင့် စစ်အောင်ရာသည်။ (၁၁)ပြည်စောင့်နတ်ကို မပြတ် ပူဇော်သကာဖြင့် စစ်အောင်ရာသည်။ (၁၂) ဆင်ကောင်း မြင်းကောင်းများသဖြင့် စစ်အောင်ရာသည်။ ဤတဆဲ့နှစ်ပါးတည်း။

## ၁၀၀။ စစ်ရှုံးရာသောအကြောင်း ဆယ်ပါးသရုပ်

စစ်ရှုံးရာသောအကြောင်း ဆယ်ပါးတည်း။ ဆယ်ပါးဟူသည်ကား (၁) မင်း၊ အမတ် စသည်တို့ ယစ်ဝသောကြောင့် စစ်ရှုံးရာသည်။ (၂) ပြည်သူ အနာအဖျားများသောကြောင့် စစ်ရှုံးရာသည်။ (၃) စစ်သည်သူရဲနှလုံးပြော့ ညံ့သောကြောင့် စစ်ရှုံးရာသည်။ (၄) မင်းမရဲသောကြောင့် စစ်ရှုံးရာသည်။ (၅) မကောင်းသောအခါနက္ခတ်ကို ယူဉ်သောကြောင့် စစ်ရှုံးရာသည်။ (၆) သူကယတြာမန္တန် အင်းအိုင်စီရင်သောကြောင့် စစ်ရှုံးရာသည်။ (၇) ဆင်မြင်း မကောင်းသောကြောင့် စစ်ရှုံးရာသည်။ (၈) မင်းနှင့်အမတ် မညီညွတ်သောကြောင့် စစ်ရှုံးရာသည်။ (၉) သူရဲကောင်းမရှိသောကြောင့် စစ်ရှုံးရာသည်။ (၁၀) ငတ်မွတ်ရှားပါးသောကြောင့် စစ်ရှုံးရာသည်။ ဤဆယ်ပါးတည်း။

## ၁၀၁။ မှန်ကင်းကဲ့သို့ ကျင့်ရာသော သူသုံးယောက်သရုပ်

မှန်ကင်းကဲ့သို့ ကျင့်ရာသောသူ သုံးယောက်တည်း။ သုံးယောက်ဟူသည်ကား (၁) အမျိုးမြတ်သောသူလည်းတယောက်။ (၂) ပညာရှိသောသူလည်း တယောက်။ (၃) အရွယ်ကြီးသောသူလည်း တယောက်။ ဤသုံးယောက်တည်း။ (မှန်ကင်းသည် ရှိသေထင်ရှားစွာဖြစ်သကဲ့သို့ ဤသုံးယောက်သောသူတို့သည် ရှိသေကောင်းမွန်စွာကျင့်ရာသည်။)

## ၁၀၂။ ဇမ္ဗူရစ်ရွှေစင်ကဲ့သို့ ကျင့်ရာသောသူ ခြောက်ယောက်သရုပ်

ဇမ္ဗူရစ်ရွှေစင်ကဲ့သို့ ကျင့်ရာသောသူ ခြောက်ယောက်တည်း။ ခြောက်ယောက်ဟူသည်ကား (၁) အမျိုးမြတ်သောသူလည်း တယောက်။ (၂)သီလစောင့်သောယောက်ျားလည်းတယောက်။ (၃) သီလစောင့်သောမိန်းမလည်းတယောက်။ (၄) ရဟန်းလည်းတယောက်။ (၅) ရသေ့လည်းတယောက်။ (၆) ပုဏ္ဏားလည်းတယောက်၊ ဤခြောက်ယောက်တည်း။ (ဇမ္ဗူရစ်ရွှေစင်သည် ရွှံ့ညွန်၌ ပစ်သော်လည်း မြူမကပ်သကဲ့သို့ ဤခြောက်ယောက်သော သူတို့သည် ဆင်းရဲသော်လည်း အမျိုးအမည်ကို မစွန့်ရာ။)

## ၁၀၃။ ခြင်္သေ့ကဲ့သို့ ကျင့်ရာသောသူ နှစ်ယောက်သရုပ်

ခြင်္သေ့ကဲ့သို့ ကျင့်ရာသောသူ နှစ်ယောက်တည်း။ နှစ်ယောက်ဟူသည်ကား (၁) ပြည်ကြီးအရှင်မင်းလည်းတယောက်။ (၂) တရားသူကြီးလည်း တယောက်။ ဤနှစ်ယောက်တည်း။ (ခြင်္သေ့မင်းသည် မကြောက်မရွံ့သတ္တဝါအကြီးအငယ်ကို ဖမ်းယူဘိသကဲ့သို့ ဤသူနှစ်ပါးတို့ ကျင့်ရာသည်)။

## ၁၀၄။ အာသာဝတီနတ်ပန်းကဲ့သို့ ကျင့်ရာသောသူ တယောက်သရုပ်

အာသာဝတီနတ်ပန်းကဲ့သို့ ကျင့်ရာသော သူတယောက်တည်း။ တယောက်ဟူသည်ကား။ အရှင်ကေရာဇ်မင်း၏မိဘုရားသည် အနှစ်တရာမှပွင့်သောအာသာဝတီနတ်ပန်းကို အနှစ်တရာကတောင့်တ၍ နတ်တို့စောင့်သကဲ့သို့ အကျင့်သီလတို့ဖြင့် ကောင်းစွာကျင့်ရာသည်။ (အလိုရှိအပ်သောသူ လေးယောက်မှစ၍ အာသာဝတီနတ်ပန်းကဲ့သို့ကျင့် ရာသောသူတို့၏ သရုပ်အရေအတွက်ကို အဋ္ဌလိမအမည်ရှိသောမင်း။ အန္တသာမိ

အမည်ရှိသော ပုရောဟိတ်တို့ကို ရှေးဘဝက အဆွေခင်ပွန်း ဖြစ်ဘူးသော သီရိပါပပသျှာအမည်ရှိသောနတ် ယောပြသော သေနင်္ဂျုပ်ဟာကျမ်း၌လာသည်။)

(ခြင်္သေ့မင်းကဲ့သို့ ကျင့်ရာသော သူနှစ်ယောက် တွင် မင်းတပါးကိုသာ ရာဇနီတိကျမ်း၌လာသည်။ တရားသူကြီး မပါလေ)။

ဤသည်ကား အလိုရှိအပ်သောသူလေးယောက် အစ အာသာဝတီနတ်ပန်းကဲ့သို့ကျင့်ရာသော သူတ ယောက်အဆုံးရှိသော ကျင့်ဝတ်တို့ကိုဆိုရာအကြောင်း တည်း။

ဤတွင် ရွှေကား ရှေးဦးအစပဏာမအကြောင်း အရာ ကမ္ဘာပျက်ခြင်း၊ ကမ္ဘာတည်ခြင်း၊ ဖြပ္ပာစုတေ၍ လူပြည်၌ ဖြစ်လာခြင်း၊ နေလ နက္ခတ်မြင့်မိုရ်သတ္တရဘန် တို့ ဖြစ်ပေါ်လာခြင်း၊ မြေဆီသြဇာကွယ်ပျောက်၍ သလေးထမင်းကို သုံးစားရာ မိန်းမ ယောကျ်ား ဖြစ်ပွား ခြင်း၊ အချင်းချင်း မေထုန်သံဝါသပေါင်းဖက်ခြင်း၊ အိမ်ရာဆောက်၍နေခြင်း၊ သမ္မတမင်းတင်မြှောက်ခြင်း၊ အမျိုးလေးပါး၊ ရှစ်ပါး၊ တရာ့တပါးများစွာဖြစ်ပွားခြင်း၊ သမ္မတမင်းတယောက်မက တကမ္ဘာတွင် ခြောက်ဆဲ့ လေးယောက်တင်မြှောက်ခြင်း၊ ယခုအန္တရကပ်တဆဲ့ တကပ်ရှိခြင်း၊ အန္တရကပ်အလိုက် လဝန်းနေဝန်း၌ အရုပ် တံဆိပ်ထင်ခြင်း၊ ဆယ်ဆက်သော သမ္မတမင်းတို့ လက်ထက် မြို့ရွာခရိုင် စည်ပင်ခြင်း၊ တဆဲ့ တကပ် မြောက်အန္တရကပ်ယူသင့်ဟန်ကို ကျမ်းဂန်အများလာခြင်း၊ ပါထေယျ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာတို့အလာ မဟာသမ္မတ မင်းကို ပထမအန္တရကပ်ဦး သမ္မတမင်း ယူသင့်ခြင်း၊ သီလက္ခန်အဋ္ဌကထာလာ၊ မဟာသမ္မတမင်းကို တဆဲ့တကပ်မြောက် အန္တရကပ်ဦး သမ္မတမင်းယူခြင်းခြင်း။ တဆဲ့တကပ်မြောက် အန္တရကပ်ဦး မဟာသမ္မတမင်း၏ သားတော်၊ မြေးတော်တို့ ဆင်းသက်၍ ဥက္ကာကရာဇ်မင်း တိုင်အောင်ဖြစ်ခြင်း၊ ဥက္ကာကရာဇ် သုံးဆက်မြောက်တွင် နောက်ဆုံးဥက္ကာကရာဇ်မင်းသည် ကုသဝတီပြည်၌နေခြင်း၊ ၎င်းမင်း၏ သားတော် ဥက္ကာမုခစသည်တို့ ကုသဝတီ ပြည်မှ ထွက်ခြင်း၊ ကပိလဝတ်ပြည် တည်ထောင်၍ မောင်နှမတို့ ပေါင်းဖက်နေထိုင်ကြရာ သာကိဝင်အမျိုးဟု ဖြစ်ခြင်း၊ ဥက္ကာမုခမင်းမှစ၍ သိဒ္ဓတ္ထမင်းသားတိုင်အောင် သုံးသိန်းသုံးသောင်း လေးထောင် ငါ့ရာ့ခြောက်ကျိပ် ကိုးယောက်မက ဖြစ်ပွားခြင်း၊ သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်တော်မူ၍ ပရိနိဗ္ဗာန်စံယူတော်မူခြင်း၊ ဓာတ်တော် များကို ဝေဖန်ခြင်း၊ ဇမ္ဗူဒီပါကျွန်း တည်ထွန်းခြင်းပမာဏ၊ မဇ္ဈိမဒေသအတွင်း ခုနစ်ပြည်ထောင် မင်းအစသော ဋ္ဌသခရိုင်၊ နိုင်ငံထီးဆောင်းမင်းအပေါင်းတို့ ကျင့်ကောင်း ကျင့်အပ် မှူးမတ်တို့ ကျင့်ဆောင်ရာ အဖြာဖြာတို့ကို ကျမ်းလာပုံပြင် ရာဇဝင်တို့နှင့် ဆင်ခြင်စာနာ၍ ရမ္မာဝတီရမ်းပြည့်မြို့၊ တောင်ကျောင်း ဆရာတော် "ဦးစန္ဒမာလာ"ဟူ၍ အမည်ရှိသော ပုဂ္ဂိုလ်သူမြတ် သည် လျှောက်ပတ်စီရင်တန်ဆာဆင်၍ ပြုပျင်ရေးသား အပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ ပထမတွဲသည် ပြီးစီးခြင်းသို့ရောက်ပြီ။

**(ပု–ဒိ–အာ နှင့် ပြည့်စုံရပါလို၏။)**

**ရခိုင်ရာဇဝင်သစ်ကျမ်း ပထမတွဲ**

**ဤတွင်ရွှေ ပြီးပြီ။**



# ရခိုင်ရာဇဝင်သစ်ကျမ်း

## ဒုတိယတွဲ

### နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဤသို့ပြဆိုအပ်ပြီးသော ပထမတွဲဖြင့် ဝိဝဋ္ဋဌာယီကပ်ဦး မဟာသမ္မတမင်းနောက် တဆဲ့တကပ် မြောက်အန္တရကပ်ဦး မဟာသမ္မတမင်းမှစ၍ အသင်္ခေ့နှ ခတ္တိယနွယ်စစ်ဖြစ်တော်မူသော ဂေါတမမြတ်စွာဘုရားတိုင် သုံးသိန်းသုံးသောင်းလေးထောင်ငါးရာ့ခြောက်ကျိပ်ကိုးယောက်မျှမက ဖြစ်ပွားကြကုန်သောမင်းတို့၏ အစဉ်အဆက် ကျေးလက်မြို့ရွာ၊ ကျင့်ရာတရား စသည်တို့ကို ရေးသားပြဆိုပြီး၍ ယခုရေးသားပြဆိုလတ္တံ့သော ဤဒုတိယတွဲဖြင့် ဗိမ္ဗိသာရမင်းအစ ဓမ္မာသောကမင်းအဆုံးရှိသော သုံးကျိပ်သောမဇ္ဈိမဒေသမင်းတို့၏ အစဉ်အဆက်ဖြစ်ပျက်သော အခြင်းအရာတို့ကို ကျမ်းလာရာဇဝင်၊ ပုံပြင်စကားတို့ဖြင့် ထောက်ထားစာနာ၍ သေချာရေးသားပြလိုက်ပေအံ့။

### ၁၀၇။ ဗိမ္ဗိသာရမင်း၏အကြောင်း

သက္ကတိုင်း၊ ကပိလဝတ်ပြည်ကြီးကို အစိုးရတော်မူသော သုဒ္ဓေါဒနမင်းကြီးနှင့် မဂဓတိုင်း၊ ရာဇဂြိုဟ်ပြည်ကြီးကို အစိုးရတော်မူသော ဘာဂိနိယမင်းကြီးသည် မဟာမိတ် အဆွေခင်ပွန်းဖြစ်ကြသတည်း။ သုဒ္ဓေါဒနမင်းကြီး သားတော်ဘုရားလောင်း သိဒ္ဓတ္ထမင်းနှင့်ဘာဂိနိယမင်းကြီးသားတော် ဗိမ္ဗိသာရမင်းသည်လည်း မဟာမိတ်အဆွေခင်ပွန်းဖြစ်ကြသတည်း။ ဗိမ္ဗိသာရမင်းကားသက်တော်တဆဲ့ငါးနှစ်ရှိလျှင် မင်းဖြစ်တော်မူ၏။ မင်းဖြစ်၍ တစ်ဆဲ့ခြောက်နှစ်မြောက်၊ ဘုရားရှင်ကိုဖူးမြင်ရ၍နာရဒကဿပဇာတ်ကို ဟောတော်မူသောအဆုံး၌ တသိန်းတသောင်းသော ပရိသတ်နှင့်တကွသောတာပန်ဖြစ်သတည်း။ ဘုရားဖြစ်တော်မမူမီ တဆဲ့ငါးနှစ်၊ ဘုရားဖြစ်ပြီးနောက် သုံးဆဲ့ခုနစ်နှစ်၊ ပေါင်းမင်းစည်းစိမ် ငါးဆဲ့နှစ်နှစ်၊ သက်တော်ခြောက်ဆဲ့ ခုနစ်နှစ်၊ သက္ကရာဇ် တရာ့လေးဆယ်တွင် သားတော်အဇာတသတ်လုပ်ကြံ၍ အနိစ္စရောက်တော်မူသည်။

### ၁၀၈။ အဇာတသတ်မင်း၏အကြောင်း

အဇာတသတ်မင်း ရာဇဘိသေကခံ၍ ရှစ်နှစ်ရှိသောအခါ မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုတော်မူသည်။ ယင်းသည် သက္ကရာဇ်တရာ့လေးဆဲ့ ရှစ်ခုတွင်

အဇာတသတ်မင်းကိုအမှီပြု၍ အရှင်မဟာကဿပ အမှူးရှိသော ရဟန္တာငါးရာတို့ ပထမသင်္ဂါယနာတင်တော်မူသည်။ တင်တော်မူကြောင်းမှာ သက္ကရာဇ်တရာ့ လေးဆဲ့ရှစ်ခု၊ နယုန်လဆန်းငါးရက်၊ ဓာတ်တော်ဝေဖန်သော တနင်္လာနေ့၌ အရှင်မဟာကဿပသည် သင်္ဂါယနာတင်အံ့သောငှာ ရဟန္တာငါးရာတို့ကို ရွေးကောက်တော်မူပြီး၍ ရာဇဂြိုဟ်ပြည်သို့ ဝါဆိုမီ တညီတညွတ်တည်းလာရောက်ကြစေ။ ဝါမကပ်မီအကြား၌ အလိုရှိရာသွား၍ ဆောင်ရွက်ဖွယ်ကိစ္စကြီးငယ်ရှိလျှင် ပြီးအောင်ဆောင်ရွက်ကြလေဟု ဩဝါဒပေးတော်မူပြီးသော် အလိုရှိရာသွားကြကုန်၍ ဝါဆိုခါနီးလတ်သော် ရာဇဂြိုဟ်ပြည်သို့အရောက်ညီကြလျှင် ပထမသင်္ဂါယနာ တင်အံ့သောအကြောင်းကို အဇာတသတ်မင်းအား ကြားပေ၏။ အဇာတသတ်မင်းလည်း စီရင်ခင်း စီရင်ဖွယ်တို့ကို အပြီးရောက်အောင် စီရင်တော်မူ၍ သက္ကရာဇ် တရာ့လေးဆဲ့ရှစ်ခု၊ ဝါခေါင်လပြည့်ကျော်၊ ငါးရက်နေ့၊ ရာဇဂြိုဟ်ပြည်၏ အရှေ့တောင်ဘက်အရပ်၊ ဝေဘာရ အမည်ရှိသောတောင် အရှေ့နံပါး၊ စရည်းပင်ရောက်ရာ လိုဏ်ဂူဝ၌ အဇာတသတ်မင်းကို အမှီပြု၍ အရှင်မဟာကဿပအမှူးရှိသော ရဟန္တာငါးရာတို့သည် ခုနစ်လပတ်လုံး ပထမသင်္ဂါယနာ တင်တော်မူသည်။ ထိုအခါ အရှင်မဟာကဿပအား အဇာတသတ်မင်းသည် ဤသို့လျှောက်၏။ ဘုရားရှင် သာသနာတော်သည် အနှစ်ငါးထောင်တည်ရစ်မည်ဟု ဗျာဒိတ်တော်ရှိသည်။ သာသနာတော်နှင့်သက္ကရာဇ် သည်မညီ။ သက္ကရာဇ်တရာ့လေးဆဲ့ရှစ်ခုကိုချေ၍ တခုကြွင်းထားတော်မူမှ သာသနာတော်နှင့် သက္ကရာဇ် ညီမည်ဟု နားတော်လျှောက်လျှင် သက္ကရာဇ်တရာ့လေးဆဲ့ ရှစ်ခုကို အရှင်မဟာကဿပချေတော်မူ၍ တခုကြွင်း ထားတော်မူသည်။ အဇာတသတ်မင်းသည် ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူသည့်နောက် မင်းစည်းစိမ်ကို နှစ်ဆဲ့ လေးနှစ် စိုးစံတော်မူသည်။ နိဗ္ဗာန်မပြုမီ ရှစ်နှစ်၊ နိဗ္ဗာန် ပြုတော်မူသည့်နောက် နှစ်ဆယ့်လေးနှစ်၊ နှစ်ရပ်ပေါင်း စည်းစိမ်သုံးဆဲ့နှစ်နှစ်။ သာသနာတော် သက္ကရာဇ်နှစ်ဆဲ့ လေးခုတွင် သားတော် ဥဒယဘဒ္ဒ ခမည်းတော်ကိုလုပ်ကြံ၍ မင်းပြုလေသည်။ အဇာတသတ်မင်းသည် မဂ်ဖိုလ် ရထိုက်သောသူဖြစ်လျက် အဆွေခင်ပွန်းယုတ်ဖြစ်သော ဒေဝဒတ်နှင့်ပေါင်းဖော်၍ မပြစ်မှားအပ်သော ခမည်းတော် ကိုပြစ်မှားချေသောကြောင့် ကာလရှည်စွာ အဝီစိငရဲ၌ ခံရကောင်းလျက် ဘုရားရှင်ကို လွန်စွာသဒ္ဓါမြတ်နိုး ကိုးကွယ်၍ ခမည်းတော်အားပြစ်မှားမိသောအပြစ်ကို ကန်တော့သောကြောင့် လောဟကုမ္ဘိငရဲ၌ အနှစ် ခြောက်သောင်းခံ၍လွတ်လျှင် ဝိဇိတဝိသေသမည်သော ပစ္စေကဗုဒ္ဓါဖြစ်လတ္တံ့သတည်း။ (အနန္တရိယ ကံငါးပါး တွင် သံဃဘေဒကကံတပါးသာလျှင် အာယုကပ်ပတ်လုံး အဝီစိငရဲ၌ခံရကြောင်းကိုပြသည်။ ကြွင်းသောကံလေးပါး တို့ကား အာယုကပ်ပတ်လုံး ငရဲ၌ခံရသည်မဟုတ်ဟု အင်္ဂုတ္တရအဋ္ဌကထာ၊ ဝိဘင်း အဋ္ဌကထာတို့၌လာသည်။ ဤကား စကားချပ်။)

## ၁၀၇။ ဥဒယဘဒ္ဒမင်း။ အနုရုဒ္ဓါမင်း။ မုဏ္ဍမင်း။ နာဂဒါသမင်းတို့၏ အကြောင်း

ဥဒယဘဒ္ဒမင်းသည် စည်းစိမ်တဆဲ့ ခြောက်နှစ်၊ သာသနာသက္ကရာဇ် လေးဆယ်ရှိသောအခါ သားတော် အနုရုဒ္ဓါခမည်းတော်ကိုလုပ်ကြံ၍ မင်းပြုလေ၏။ အနုရုဒ္ဓါကို သားတော်မုဏ္ဍလုပ်ကြံ၍ မင်းပြုလေ သည်။ မင်းနှစ်ပါး စည်းစိမ်ရှစ်နှစ်၊ သာသနာသက္ကရာဇ် လေးဆဲ့ရှစ်နှစ်ရှိသောအခါ သားတော် နာဂဒါသသည် ခမည်းတော်မုဏ္ဍကိုလုပ်ကြံ၍ မင်းပြုလေသည်။ နာဂ ဒါသမင်းစည်းစိမ် နှစ်ဆဲ့လေးနှစ်၊ သာသနာသက္ကရာဇ် ခုနစ်ဆဲ့နှစ်နှစ်ရှိသောအခါ ဤအဇာတသတ်မင်း၏ အနွယ်သည် အဖသတ်မင်း၏အနွယ်တည်းဟု ပြည်သူ အပေါင်းတို့သည် နာဂဒါသမင်းကိုပယ်၍ ဝေသာလီမင်း အနွယ် သုသုနာဂအမတ်သားကို မင်းမြှောက်ကြလေ သတည်း။ (ဤမင်း လေးဆက်တွင် ဥဒယဘခြောသော

ဠသ၊ အနုရုဒ္ဓေါစမုဋ္ဌောစအင္ဂ၊ နာဂဒါသောစတုဝီသတိ ဟူ၍ ပါရာဇိကဏ်အဋ္ဌကထာ၌ အနုရုဒ္ဓါနှင့် မုဏ္ဍာနှစ်ပါး ပေါင်း၍ ရှစ်နှစ်ဆိုသည်ကို စွယ်စုံကျော်ထင် ပထမတွဲ၌ တပါးကို ရှစ်နှစ်စီယူလေသည်။ မဟာဝင်ဝတ္ထု၊ သမန္တစက္ခုဒီပနီပထမတွဲ၊ မှန်နန်းရာဇဝင်တို့၌ လေးနှစ်စီ သာဆိုလေသည်။ ယင်းသို့ လေးနှစ်စီယူမှ အရှင်မဟိန္ဒ သီဟိုဠ်သို့ရောက်သော သက္ကရာဇ် နှစ်ရှသုံးဆဲ့ ခြောက်နှစ် ဟုဆိုသော အဋ္ဌကထာစကားနှင့် ညီမည်။ ဤကား စကားချပ်)

## ၁၀၈။ သုသုနာဂမင်း၏အကြောင်း

ဝေသာလီပြည်၌ လိစ္ဆဝီမင်းတို့သည် စည်းဝေး၍ ငါတို့ပြည်သည် မြို့၏အင်္ဂါ ခုနစ်ပါး၊ မြို့၏အစာလေးပါး အစရှိသော ပြည်၏လက္ခဏာနှင့်ပြည့်စုံလျက် ပြည်ရွာ တိတ်ဆိတ်၍ရှိသည်။ အဘယ်အကြောင်းဖြင့် ပြည်ရွာ အုတ်အုတ်ကျက်ကျက်သောင်းသည်းစွာရှိအံ့နည်းဟု တိုင်ပင်ကြသော် ပြည့်တန်ဆာမ မရှိသောကြောင့် တိတ်ဆိတ်သည်ဟုကြံ၍ မိမိတို့အမျိုးတွင် သတိုးသမီး တယောက်ကို ပြည့်တန်ဆာမအရာ၌ထားလေ၏။ ထိုပြည့်တန်ဆာမကို လိစ္ဆဝီမင်းတယောက်သည် မိမိအိမ်၌ ခုနစ်ရက်နေစေ၍ သံဝါသဖြစ်ရာတွင် ပဋိသန္ဓေပါလာ၏။ အခါစေ၍ဖွားလတ်သော် သားတစ်ကိုဖွားလေ၏။ ထိုသားတစ်ကို အိုးတွင်ထည့်ပြီးလျှင် ကောင်းစွာပိတ်ဆို့၍ မြို့ပြင်တံမြက်ချေးသွန်ရာအရပ်၌ ပစ်လေသတည်း။ မြို့စောင့်နဂါးကြီးသည် အိုးကိုခွေပတ်၍ ပါးပျဉ်းမိုးလျက် စောင့်နေသည်ကို ပြည်သူတို့ အုတ်အုတ်ကျက်ကျက် ကြည့်ကြလျှင် သုသုဟူသောအသံကိုပြု၍ နဂါး ကွယ်ပျောက်လေ၏။ ထိုအရပ်သို့ရောက်လာသောသူတို့ အိုးကိုဖွင့်လျှင် ဘုန်းပညာလက္ခဏာနှင့်ပြည့်စုံသော သတို့သားကိုမြင်၍ ကြင်နာကြကုန်၏။ ထိုသူငယ်ကို အမတ်သားတယောက်ယူ၍ မွေးမြူလေသော် အမည် မှည့်အံ့သောနေ့၌ သုသုဟူသောအသံကိုပြုသော နဂါးမင်း စောင့်သောကြောင့် သုသုနာဂဟူ၍မှည့်၏။ ကြီးသော အရွယ်သို့ရောက်လျှင် အကျင့်သီလနှင့်ပြည့်စုံသည်ဖြစ်၍ သူတော်ကောင်းဟု သမုတ်ကြသတည်း။

သုသုနာဂအမတ်သား ရာဇဂြိုဟ်ပြည်သို့ ရောက်ခြင်းအကြောင်းမှာ အဇာတသတ်မင်းသည် ဝေသာလီပြည်ကိုလုပ်ကြံ၍ ရမည် မရမည်ကိုသိလိုသော ကြောင့် ဝဿကာရပုဏ္ဏားကို မြတ်စွာဘုရားအား လျှောက်ကြားစေ၍ မြတ်စွာဘုရားသည် ဝေသာလီမင်း တို့အား အပရိဟာနိယတရားကို ညီညွတ်ကြသမျှကာလ ပတ်လုံး အပျက်အစီးမရှိ ကြီးပွားခြင်းသာဖြစ်ရာသည်ဟု အရှင်အာနန္ဒာအား ဟောတော်မူသည်ကို မှတ်သား၍ မင်းအားလျှောက်လေသော် အဇာတသတ်မင်းသည် အသို့ကြံရမည်နည်းဟု ဝဿကာရပုဏ္ဏားကိုမေး၏။ ပုဏ္ဏားသည် အရှင်မင်းကြီး၊ အကျွန်ုပ်ကို ပြည်မှ နှင်ထုတ်ဟန်ပြုတော်မူပါ။ ရှေးဦးစွာ အကျွန်ုပ်သွား၍ ဝေသာလီမင်းတို့ညီညွတ်ခြင်းကိုဖျက်ပါမည်၊ ညီညွတ်ခြင်း ပျက်၍ အကျွန်ုပ်ကစေလျှောက်သောအခါမှ အရှင်မင်းကြီး ချီလာ၍ ဝေသာလီပြည်ကိုသိမ်းယူတော်မူပါဟု လျှောက် ၏။ အဇာတသတ်မင်းလည်း ဝဿကာရပုဏ္ဏားကို ပြည်မှနှင်ထုတ်ဟန်ပြု ဝေသာလီပြည်သို့သွားလေစေ၏။ ဝဿကာရပုဏ္ဏား ဝေသာလီပြည်သို့ရောက်လျှင် သုံးနှစ် တိုင်တိုင်နေလျက် မင်းတို့၏ညီညွတ်ခြင်းကိုဖျက်၍ ပျက်လျှင် အဇာတသတ်မင်းကို ချီလာတော်မူပါဟု လျှောက်၏။ အဇာတသတ်မင်းလည်း များစွာသော စစ်သည်ဗိုလ်ပါနှင့်ချီလာ၍ မပိတ်သောတံခါးဖြင့် ဝင်လာ ပြီးသော် ဝေသာလီပြည်ကို ဖျက်ဆီးသိမ်းယူ၏။ ထိုသို့ သိမ်းယူရာတွင် သုသုနာဂအမတ်သားသည် ရာဇဂြိုဟ် ပြည်သို့ရောက်လေ၍ ပြည်သူအပေါင်းတို့ နာဂဒါသမင်း ကိုပယ်ပြီးလျှင် ထိုသုသုနာဂမင်းသားကို မင်းမြှောက်ကြ ကုန်သတည်း။

မဟာဝင်ဝတ္ထု၌ကား။ ။ ထိုသူငယ်ကို လိစ္ဆဝီမင်း တို့ မွေးမြူကြောင်း၊ ၎င်းသူငယ် ခုနစ်နှစ်အရွယ်ခန့်ရှိသော

အခါ၊ အဇာတသတ်မင်းသည်စစ်ချီ၍ လုပ်ကြံသဖြင့် ဝေသာလီပြည်အလုံးကိုရ၍ အလိုရှိသမျှသော လူသူဘဏ္ဍာကို ရာဇဂြိုဟ်ပြည်သို့ဆောင်ယူသည့်အခါ သုသုနာဂကို ရာဇဂြိုဟ်ပြည် အမတ်စစ်သူကြီးယူ၍ သားအဖြစ်ဖြင့် မွေးမြူ၏။ အရွယ်ရောက်သောအခါ အလွန်လိမ္မာ၏။ ပညာသတ္တိလည်းရှိ၏။ ကောင်းသော အကျင့်သီလနှင့်လည်းပြည့်စုံ၏။ အဖစစ်သူကြီး ကံကုန်လေလျှင် အဖ၏အရာဖြစ်သော စစ်သူကြီးအဖြစ်သို့ ရောက်၏။ ထိုစစ်သူကြီးသည် ဘုန်းပညာ သဒ္ဓါ သီလနှင့် ပြည့်စုံရကား ပြည်သူပြည်သားတို့ အလွန်ကြည်ညိုသည် ဖြစ်၍ အဖသတ်မင်းယုတ်ဖြစ်သော နာဂဒါသကို ဖျောက်၍ သုသုနာဂစစ်သူကြီးကို မင်းမြှောက်လေကြောင်းနှင့် ဆိုသည်။

ထိုသုသုနာဂမင်းသည် မင်းဖြစ်တော်မူလျှင် ရာဇဂြိုဟ်ပြည်မှ ရွှေ့ပြောင်းတော်မူလျက် ပါဋလိပုတ်ပြည်၌ နေတော်မူသည်။ ဤအရာတွင် မဟာဝင်ဝတ္ထု၊ မှန်နန်းရာဇဝင် ဒုတိယတွဲ၊ ၈၅ နံပါတ်တို့၌ ဝေသာလီပြည်မှာ နေကြောင်း၊ သားတော်ဖြစ်သူ ကာဠာသောကမင်းတို့လည်း ဝေသာလီပြည်မှာပင်နေကြကြောင်းနှင့် ဆိုကြလေသည်။ ယင်းသို့ဆိုကြခြင်းသည် ဒုတိယသင်္ဂါယနာကို ဝေသာလီပြည် ကာဠာသောကမင်းကိုအမှီပြု၍ တင်တော်မူသည်ဟူသော စကားကိုထောက်၍ ဆိုကြလေသောအရာသာဖြစ်မည်ထင်သည်။ ဝေသာလီပြည်ပျက်စီး၍ ရာဇဂြိုဟ်ပြည်သို့ရောက်လျက် ရာဇဂြိုဟ်ပြည်၌သာ သုသုနာဂမင်းဖြစ်တော်မူသည်။ ရာဇဂြိုဟ်ပြည်မှ ပါဋလိပုတ်ပြည်သို့ ဆက်လက်၍ တတိယသင်္ဂါယနာတင်သည် တိုင်အောင် မင်းစဉ်မင်းဆက်တို့ကို ပါရာဇိကဏ် အဋ္ဌကထာ၌...

ပရိနိဗ္ဗုတေ စ သမ္ဗုဒ္ဓေ အဇာတသတ္တု စတုဝီသတိ ဝဿာနိ ရဇ္ဇံကာရေသိ။ ဥဒယဘဒြော သောဠသ။ အနုရုဒ္ဓေါစ မုဏ္ဍောစ အဋ္ဌ။ နာဂဒါသကော စတုဂီသတိ။ သုသုနာဂေါအဋ္ဌာရသ။ တဿေဝပုတ္တော ကာဠာ သောကော အဋ္ဌဝီသတိ။ ကာဠာသောကဿ ပုတ္တာ ဒသဘာတုက ရာဇာနော ဒွေဝီသတိဝဿာနိ ရဇ္ဇံကာရေသုံ။ တေသံ ပစ္ဆတော နဝနန္ဒာ ဒွေဝီသတိမေဝ။ စန္ဒဂုတ္တော စတုဝီသတိ။ ဗိန္ဒုသာရော အဋ္ဌဝီသတိ။ တဿာ ဝသာနေ အသောကော ရဇ္ဇံပါမုဏိ။ ဟူ၍ ၄၇ နံပါတ်၌ဆိုသည်။ စ၊ သီဟိုဠ်မင်းဆက် နှစ်အရေအတွက်မှတပါး ဇမ္ဗူဒိပ်မင်းဆက် နှစ်အရေအတွက်ကို ဆက်၍ဆိုလိုက်အံ့။ သမ္ဗုဒ္ဓေ၊ မြတ်စွာဘုရားသည်။ ပရိနိဗ္ဗုတေ၊ ပရိနိဗ္ဗာန် စံယူတော်မူပြီးသည်ရှိသော်။ အဇာတသတ္တု၊ အဇာတသတ်မင်းသည်။ စတုဝီသတိဝဿာနိ၊ နှစ်ဆဲ့လေးနှစ်ပတ်လုံး။ ရဇ္ဇံ၊ မင်းအဖြစ်ကို။ ကာရေသိ၊ ပြုတော်မူ၏။ ဥဒယဘဒြော၊ သားတော်ဥဒယဘဒ္ဒသည်။ သောဠသ၊ တဆဲ့ခြောက်နှစ်တို့ပတ်လုံး။ ရဇ္ဇံ၊ မင်း၏အဖြစ်ကို။ ကာရေသိ၊ ပြုတော်မူ၏။ အနုရုဒ္ဓေါစ၊ သားတော်အနုရုဒ္ဓါသည်၎င်း။ မုဏ္ဍောစ၊ ၎င်းသားတော် မုဏ္ဍာသည်၎င်း။ အဋ္ဌ၊ ရှစ်နှစ်တို့ပတ်လုံး။ ဝါ၊ တယောက်လျှင် လေးနှစ်စီအားဖြင့် ရှစ်နှစ်တို့ပတ်လုံး။ ကာရေသိ၊ မင်းပြုတော်မူ၏။ နာဂဒါသကော၊ နာဂဒါသသည်။ စတုဝီသတိ၊ နှစ်ဆဲ့လေးနှစ်တို့ပတ်လုံး။ ကာရေသိ၊ မင်းပြုတော်မူ၏။ တဿေဝ၊ ထိုသုသုနာဂမင်း၏ သာလျှင်။ ပုတ္တော၊ သားတော်ဖြစ်သော။ ကာဠာသောကော၊ ကာဠာသောကသည်။ အဋ္ဌဝီသတိ၊ နှစ်ဆဲ့ရှစ်နှစ်တို့ပတ်လုံး။ ကာရေသိ၊ မင်းပြုတော်မူ၏။ ကာဠာသောကဿ၊ ကာဠာသောကမင်း၏။ ပုတ္တာ၊ သားတော်ဖြစ်ကုန်သော။ ဒသဘာတုက ရာဇာနော၊ တကျိပ်ကုန်သော ညီနောင်ဖြစ်ကုန်သော ဘဒ္ဒသေန စသောမင်းတို့သည်။ ဒွေဝီသတိဝဿာနိ၊ နှစ်ဆယ့်နှစ်နှစ်တို့ပတ်လုံး။ ရဇ္ဇံ၊ မင်း၏အဖြစ်ကို။ ကာရေသုံ၊ ပြုတော်မူကြကုန်၏။ တေသံ၊ မင်းညီနောင် တကျိပ်တို့၏ ပစ္ဆတော၊ နောက်မှ။ နဝနန္ဒာ၊ ကိုးယောက်ကုန်သောနန္ဒမင်းတို့သည်။ ဒွေဝီသတိမေဝ၊ နှစ်ဆဲ့နှစ်နှစ်တို့ ပတ်လုံးလျှင်။ ကာရေသုံ၊ မင်းပြုတော်မူကြကုန်၏။

စန္ဒဂုတ္တော၊ စန္ဒဂုတ်သည်။ စတုဝီသတိ၊ နှစ်ဆဲ့လေးနှစ်တို့ ပတ်လုံး။ ကာရေသိ၊ မင်းပြုတော်မူ၏။ ဗိန္ဒုသာရော၊ ဗိန္ဒုသာရမင်းသည်။ တဿ၊ ထိုဗိန္ဒုသာရမင်း၏။ အဝသာနေ၊ အဆုံး၌။ အသောကော၊ သီရိဓမ္မာသောကမင်းသည်။ ရဇ္ဇံ၊ မင်းအဖြစ်သို့။ ပါပုဏိ၊ ရောက်တော်မူ၏။ ဤကားအနက်။

ဤသို့ရာဇဝြိုဟ်ပြည်မှ ပါဋလိပုတ်ပြည်သို့ ဆက်၍ စိုးစံသောမင်းတို့၏ နှစ်အရေအတွက်ကိုဆိုသည်။ ဝေသာလီပြည်ကိုကြားချပ်၍ မပြဆိုလေ။ ဒုတိယသင်္ဂါယနာတင်ရခြင်းအကြောင်းမှာ ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းများတို့ အဓမ္မဝတ္ထုဆယ်ပါးကိုပြု၍ နေကြကြောင်း၊ ထိုရဟန်းတို့အား သုသုနာဂမင်း၏သား ကာဠာသောကမင်းသည် အပင်းအသင်းဖြစ်ကြောင်းမျှကိုသာ။ ။ တေသံ သုသုနာဂ ပုတ္တော ကာဠာသောကော နာမရာဇာပက္ခော အဟောသိ။ဟူ၍ ပါရာဇိကဏ် အဋ္ဌကထာ ၂၁ နံပါတ်၌ဆိုသည်။ တေသံ၊ ထိုဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းများတို့၏။ သုသုနာဂပုတ္တော၊ သုသုနာဂ မင်းကြီးသားတော်ဖြစ်သော။ ကာဠာသောကောနာမ၊ ကာဠာသောကအမည်ရှိသော။ ရာဇာ၊ မင်းသည်။ ပက္ခော၊ အပင်းအသင်းသည်။ အဟောသိ၊ ဖြစ်၏။ ဤသို့အနက်ပေး။ ဤသို့ ဝဇ္ဇီတိုင်းသား ရဟန်းများတို့၏ အပင်းအသင်းဖြစ်သည်ဟူသောစကားကို ထောက်၍ သုသုနာဂမင်း၊ ကာဠာသောကမင်းတို့ကို ဝေသာလီပြည်၌နေကြောင်းနှင့် ဆိုဟန်ရှိသည်။ အပင်းအသင်း အားပေးအားမြှောက်ပြုရာ၌ ဝေသာလီပြည်၌ နေမှသာပြုနိုင်သည်မဟုတ်။ ပါဋလိပုတ်ပြည်မှနေ၍ အပင်းအသင်း အားပေးအားမြှောက်ပြုလျှင်လည်း တောင်နှင့် မြောက် နှစ်ပြည်ကြားတွင် ဂင်္ဂါမြစ်တခုသာ ခြားသောကြောင့်ပြုနိုင်သည်ဟုယူသင့်သည်။ ယင်းသို့ ယူသင့်ကြောင်းမှာ မှန်နန်းရာဇဝင် တတိယတွဲ၊ ၂၃၈-နံပါတ်တွင် မဇ္ဈိမဒေသပါဋလိပုတ်ပြည်ကို အစိုးရသော သုသုနာဂမင်းဟူ၍ ဆိုပြန်သည်ဖြစ်၍ငင်း။ သာသနာလင်္ကာရကျမ်း ၇-နံပါတ်တွင် ဝဇ္ဇီတိုင်းသား ရဟန်းများတို့သည် အကောက်ကြံ၍ မဟာဝုန်ကျောင်း၌ ဂန္ဓကုဋိတိုက်တော်ကို ငါတို့စောင့်နေပါသည်ကို ရဟန်းအများလုယူမည်လာသည်ဟု ပါဋလိပုတ်ပြည်၊ ကာဠာသောကမင်းအား ကုန်းချောစားလေ၏။ ကာဠာသောကမင်းသည် ထိုရဟန်းများကို မလာရအောင် ဆီးတားချေဟု အမတ်တို့ကိုစေမှာဘိ၏။ အမတ်တို့ကား နတ်တို့ အာနုဘော်ဖြင့် သင်္ဂါယနာတင်မည်လာသော မထေရ်များနှင့် လမ်းလွဲလေသတည်း။ ထိုညဥ့်၌ပင် ကာဠာသောကမင်းအား လောဟကုမ္ဘီငရဲအိုး၌ကျသော အဖြစ်ကို မြင်လေ၏။ ထိုမင်း၏နှမတော် နန္ဒာမည်သော ရဟန္တာမလည်း ကောင်းကင်ခရီးဖြင့်လာပြီးသော် ဓမ္မဝါဒီမထေရ်များကိုပြစ်မှား၍ အဓမ္မဝါဒီရဟန်းများတို့ အပင်းအသင်းပြုလျှင် အပြစ်ကြီးကြောင်းကိုပြလျက် သာသနာတော်ကို ချီးမြှင့်ထောက်ပင့်အောင် ဆုံးမ၏။ ကာဠာသောကမင်းလည်း ထိတ်လန့်ခြင်းရှိသဖြင့် ဝေသာလီပြည်သို့လာ၍ အရှင်မဟာယသစသော မထေရ်တို့အားကန်တော့ပြီးလျှင် အပင်းအသင်း အစောင့်အရှောက်ပြု၏။ အရှင်မဟာယသစသော ရဟန္တာကြီးခုနစ်ရာတို့လည်း ကာဠာသောကမင်းကို အမှီပြု၍ ဝေသာလီပြည်၊ ဝါလိကာရုံကျောင်း၌ ဝဇ္ဇီတိုင်းသား ရဟန်းများကို ပြသကျင့်ဆောင်သော အဓမ္မဝတ္ထုဆယ်ပါးကို ပယ်ဖျောက်လျက် ရှစ်လပတ်လုံး ဒုတိယသင်္ဂါယနာတင်တော်မူကုန်၏ဟုဆိုလေသည်။ ဤသည် စကားများကိုထောက်၍ သုသုနာဂ၊ ကာဠာသောကမင်းတို့၏ နေရာပြည်ကို ပါဋလိပြည်ဟု ယူသင့်ကြောင်းနှင့်ဆိုလိုက်သည်။ (ဤကား စကားချပ်)။

ငင်းသုသုနာဂမင်းကြီးသည် ပါဋလိပုတ်ပြည်၌ တဆယ့်ရှစ်နှစ်စိုးစံတော်မူပြီးလျှင် သာသနာတော် သက္ကရာဇ် ကိုးဆယ်ပြည့်ရောက်သောအခါ အနိစ္စသဘော ရွှေလျောပြောင်းသွား၍သားတော် ကာဠာသောကမင်းသည် မင်းဖြစ်တော်မူ၏။

## ၁၀၉။ ကာဠာသောကမင်းအကြောင်း

ကာဠာသောကမင်း နန်းစံဆယ်နှစ်၊ သာသနာတော် သက္ကရာဇ်အနှစ်တရာရှိသောအခါ ဝေသာလီပြည်၌ ကာဠာသောကမင်းကို အထောက်အပင့်ပြု၍ အရှင်မဟာယသမထေရ်အမှူးရှိသော ရဟန္တာမြတ်ခုနစ်ရာတို့သည် ဒုတိယသင်္ဂါယနာတင်တော်မူကုန်၏။ သင်္ဂါယနာတင်တော်မူသည့်နောက်လည်း ကာဠာသောကမင်းသည် တဆဲ့ရှစ်နှစ်နန်းစံတော်မူ၏။ နှစ်စုပေါင်း မင်းစည်းစိမ်နှစ်ဆဲ့ရှစ်နှစ်၊ သာသနာတော် သက္ကရာဇ်တရာ့တဆဲ့ရှစ်နှစ်သို့ရောက်သောအခါ ကာဠာသောကမင်း အနိစ္စရောက်တော်မူ၍ ထိုမင်း၏သားတော် ဘဒ္ဒသေနအစရှိသော ညီတော်၊ နောင်တော်တကျိပ်တို့သည် နှစ်ဆဲ့နှစ်နှစ်ပင် မင်းပြုတော်မူကြကုန်၏။

**(၁၁၀) ဘဒ္ဒသေနမင်းမှစ၍ ပဉ္စမကမင်းတိုင်အောင် တကျိပ်သောမင်းတို့၏ အစဉ်အဆက်။**

။ တကျိပ်သောမင်းတို့၏အမည်ကား ဘဒ္ဒသေနမင်း၊ ကောရဏ္ဍဝဏ္ဏမင်း၊ မင်္ဂုရမင်း၊ သဗ္ဗဇဟမင်း၊ ဇာလိကမင်း၊ ဥပဂမင်း၊ သဉ္စယမင်း၊ ကောရဗျမင်း၊ နန္ဒိဝဍ္ဎမင်း၊ ပဉ္စမကမင်း၊ ဤတကျိပ်တို့တည်း။ ထိုတကျိပ်သောမင်းတို့တွင်အဆုံးစွန်ဖြစ်သော ပဉ္စမကမင်းသည် မင်းပြု၍ သာသနာတော်သက္ကရာဇ် တရာ့လေးဆယ် ရောက်သောအခါ ခိုးမှူးနန္ဒာသည် ပဉ္စမကမင်းကိုသတ်၍ ဥဂ္ဂါသေနဟူသောအမည်ဖြင့် မင်းပြုတော်မူ၏။

## ၁၁၁။ ဥဂ္ဂါသေနမည်သော ခိုးမှူးနန္ဒာ၏ အကြောင်း

ကာဠာသောကမင်း၏သားတော်တို့၏ တိုင်းစွန်ဇနပုဒ်ဝယ် ယောကျ်ားတဦးသည် ငါးရာသောအပေါင်းအဖော်တို့နှင့်တကွ ခိုးသူကြီးပြု၍ ရွာစွန်ဇနပုဒ်တို့ကို တိုက်ဖျက်၍ ထိုရွာသားတို့ကိုပင် ဥစ္စာကိုဆောင်စေ၍ မလယအရပ်သို့ပို့စေပြီးမှ လူတို့ကိုလွှတ်လိုက်၏။ တနေ့သောအခါ ဖမိလွန်လေ၍ ဆင်းရဲစွာနေရသော စွမ်းပကားအင်အားနှင့်ပြည့်စုံသော နန္ဒာအမည်ရှိသော သူတဦးကို ဖမ်း၍ ဥစ္စာထမ်းဆောင်စေပြီးသော် မလယအရပ်သို့ ခေါ်ကုန်၏။ ထိုလုလင်လည်း ခိုးသားတို့၏ အကျင့်အမူအရာ အသက်မွေးကိုမြင်လျှင် သင်တို့အတူ ငါလည်း လိုက်၍ တိုက်ဖျက်ကာ အသက်မွေးအံ့ဟုဆို၍လိုက်လေ၏။ တရံသောအခါ ခိုးမှူးကြီးသည် ဇနပုဒ်တခုကို တိုက်ဖျက်ရာတွင် လက်နက်ထိ၍ သေလေသဖြင့် ကြွင်းသော ခိုးသားတို့သည် ငါတို့အား ကိုးကွယ်ရာမရှိပြီ။ ဤ မလယရွာ၌နေခြင်းငှာ မတတ်နိုင်ဟုဆို၍ ငိုကြွေးကြကုန်၏။ ထိုအခါ နန္ဒာက သင်တို့၏ခိုးမှူးသာလျှင် ကြီးကြီးငယ်ငယ်သောအမှုကို စီရင်နိုင်သလော၊ ငါလည်း သင်တို့၏ခိုးမှူးကဲ့သို့ စီရင်နိုင်လတ္တံ့ဟုဆိုလျှင် ခိုးသားငယ်တို့လည်း အားရဝမ်းသာဖြစ်၍ ထိုနန္ဒာကိုခိုးမှူးအရာ၌ထားကြလေ၏။ ခိုးမှူးအရာ၌တည်သော ထိုနန္ဒာသည် လုပ်ရည်ကြံရည် လက်ရုံးရည်အားနှင့်ပြည့်စုံသည်ဖြစ်၍ ခိုးမှူးနန္ဒာဟု ထင်ရှားစွာဖြစ်၏။ ထိုသူ့အောက်လည်း ညီရှစ်ယောက်နှင့်တကွ အဆွေအမျိုးအပေါင်းအဖော်တို့ကိုခေါ်၍ အပေါင်းအဖော်ပြုစေ၏။ တရံသောအခါ အညီအညွှတ်စည်းဝေး၍ တိုင်ပင်ကြကုန်၏။ ရပ်စွန်ပြည်နား၌နေသော သူတို့ကို လုယက်ဖျက်ဆီးသော အမှုသည်ကား ရဲစွမ်းသော သူရဲကောင်းတို့၏ အမှုမဟုတ်၊ ပြည်ကြီး မြို့ကြီးကို ကြိုးကုတ်လုပ်ကြံ၍ တိုက်နိုင်သော အမှုသည်သာလျှင် သူရဲကောင်းတို့၏အမှုဖြစ်သည်ဟူ၍ တိုင်ပင်ကြပြီးသော် သည်အရေးသည် သင့်လှ၏။ ညီညွတ်ကြကြစေဟုဆို၍ အလုံးအရင်းများအောင် ဆည်းပူးစုရုံး၍ တိုင်းငယ်ပြည်ငယ်တို့ကိုသိမ်းယူပြီးမှ ဥဂ္ဂါသေနဟူသောအမည်ကိုခံ၍ မင်းပြု၏။ ထိုမင်းသည် မကြာမီကံကုန်လေလျှင် ညီတော်ရှစ်ယောက်တို့သည် ဥဂ္ဂါသေနမင်းမရှိလျှင် အစဉ်အတိုင်းမင်းပြုကြကုန်၏။ (မဟာဝင်ဝတ္ထု၌ သုသုနာဂမင်း၊ ကာဠာသောကမင်းတို့ကို ဝေသာလီပြည်မှာဆိုသည်။ ဘဒ္ဒသေနမင်းတို့ကို ပါဋလိပုတ်ပြည်မှာဟု ဆိုသည်။ ရှေ့နောက်စကားကို စဉ်းစားဆင်ခြင်၍ ယူလေ)။

## ၁၁၂။ မင်းပြုသော ညီနောင်ကိုးယောက်တို့၏ အမည်

ဥဂ္ဂါသေနအစရှိသော ညီနောင်ကိုးယောက်တို့ မင်းပြုကြသည်ကား နှစ်ဆဲ့နှစ်နှစ်တိုင်အောင် ဖြစ်သတည်း။ ထိုကိုးယောက်တို့၏ အမည်ကား ဥဂ္ဂါသေနနန္ဒမင်း၊ ပဏ္ဍုကနန္ဒမင်း၊ ပဏ္ဍုဂတိ နန္ဒမင်း၊ ဘူတပါလနန္ဒမင်း၊ ရဋ္ဌပါလနန္ဒမင်း၊ ဂေါဝိသာဏိက နန္ဒမင်း၊ သမိဒ္ဓိကနန္ဒမင်း၊ ကောသိယ နန္ဒမင်း၊ ဓနနန္ဒမင်း။ ဤမင်း ကိုးယောက်တည်း။ ။

## ၁၁၃။ ဓနနန္ဒမင်း၏အကြောင်း

ထိုကိုးယောက်သောမင်းတို့တွင် အဆုံးစွန်သော ဓန နန္ဒမင်းကားဝန်တိုစွာ၏။ ဥစ္စာကိုသာ ဆည်းပူး၏။ ကုဋေရှစ်ဆယ်ဥစ္စာရှိလျှင် သူတပါးမရသာအောင် ဂင်္ဂါမြစ်ကိုဆည်၍ ဥစ္စာကိုမြှုပ်ထားပြီးလျှင် ရေမဝင် ရအောင် ကြေးရည်၊ သလွဲရည်တို့ဖြင့်ပိတ်ဆို့စေ၍ ခဲယဉ်းစွာပြုပြီးမှ ရေကိုစီးမြဲစီးစေပြန်၏။ တဖန် မိမိ၏ အာဏာနှံ့ရာအရပ်၌ သားရေ၊ သားရိုး၊ ချိပ်၊ သစ်စေး စသည်တို့ဖြင့် ဥစ္စာကိုဆည်းပူးခြင်းကိုပြု၍ ရေးနည်းအတူ နှစ်ကြိမ် သုံးကြိမ် မြှုပ်ထားခြင်းကိုပြု၏။ ထိုဥစ္စာတို့ကို မြှုပ်ထားသောကြောင့် ဓနနန္ဒမင်းဟု တွင်သတည်း။ ထိုဓနနန္ဒမင်းကို စာဏက္ကပုဏ္ဏားသတ်စေ၍ သာသနာတော် သက္ကရာဇ် တရာ့ခြောက်ဆဲ့နှစ်ခုသို့ရောက်သောအခါ မောရိယမြို့ သာကီဝင်မင်းတို့၏အနွယ် စန္ဒဂုတ်မင်းသား ကို ပါဋလိပုတ်ပြည်၌ မင်းပြုစေ၏။

## ၁၁၄။ စာဏက္ကပုဏ္ဏား၏အကြောင်း

စာဏက္ကပုဏ္ဏားအကြောင်းမှာ။ ။ တက္ကသိုလ် ပြည်၌ စာဏက္ကမည်သော ပုဏ္ဏားသည် ဗေဒင်သုံးပုံကို လည်း တတ်၏။ ဆေးဝါးမန္တရားတို့ကိုလည်းတတ်၏။ အထူးထူးသော ပရိယာယ်ဝေဝုစ်တို့၌ငှင်း၊ ဥပါယ်တံမျဉ်၌ ငှင်း လိမ္မာ၏။ ဉာဏ်ပဋိဘာန်လည်း ထက်မြက်၏။ အထူးထူးသော ထုံးပုံနိဒါန်းတို့၌ ကျွမ်းကျင်လိမ္မာ၏။ ထီးဖြူဆောင်းထိုက်သော၊ ဘုန်းကျက်သရေရှိသော သူဟူ၍လည်း ထင်ရှား၏။ ဖခင် မရှိသည့်နောက် မိခင်ကိုလုပ်ကျွေးပေးသောသူဟူ၍လည်း လူအများ ကြည်ညို၏။ တရံသောအခါ မိခင် ပုဏ္ဏေးမသည် သား၏မင်းဖြစ်လတ္တံ့သော ကျော်စောခြင်းကို ကြားလေသော် လွမ်းစွာငိုကြွေး၏။ စာဏက္ကပုဏ္ဏားလည်း မိခင်၊ အဘယ်ကြောင့် ငိုသနည်းဟုမေး၏။ ချစ်သား၊ သင်ကားထီးဖြူဆောင်းထိုက်သော ဘုန်းကျက်သရေ ရှိ၏။ နောင်မင်းဖြစ်လတ္တံ့။ မင်းတို့မည်သည်ကား တစုံတယောက် သူ၌ချစ်မြတ်နိုးခြင်း ရှိတတ်၏။ ထိုအခါ ငါ့အား ချစ်မြတ်နိုးခြင်း ကင်းလတ္တံ့။ ထိုသို့ကင်းခဲ့လျှင် မိခင်သည် ကိုးကွယ်ရာမဲ့ဖြစ်လတ္တံ့ဟု အောက်မေ့၍ ငိုသည်ဟုပြော၏။ ပုဏ္ဏားကလည်း မိခင်၊ ငါ၌ မင်းဖြစ်ထိုက်သော ဘုန်းကျက်သရေသည် အဘယ်မှာ တည်သနည်းဟုမေး၏။ ချစ်သား၊ အစွယ်၌တည်သည်ဟု ဆိုသော် မိခင်ကိုလုပ်ကျွေးရခြင်းသည်သာလျှင် အကျိုး ရှိလှ၏ဟုဆို၍ အစွယ်ကိုချိုး၍ပစ်ပြီးလျှင် မိခင်ကို လုပ်ကျွေး၍နေ၏။ ဤဂုဏ်ကျေးဇူးကြောင့်လည်း လူ အလုံးသည် ချီးမွမ်း၏။ ထိုစာဏက္ကပုဏ္ဏားသည် သွားကျိုး ခြင်းကြောင့်သာမဟုတ်သေး။ ရှေးကပင် ကိုယ်သဏ္ဌာန်၏ မလှခြင်း၊ လက်ကောက်ခြင်းဟူသောအပြစ်တို့နှင့် ပြည့်စုံ ၏။ တနေ့သ၌ ထိုပုဏ္ဏားသည် ဥစ္စာရှာခြင်းငှာ လှည့်လည်သဖြင့် ပါဋလိပုတ်ပြည်သို့ ရောက်လေ၏။ ထိုအခါ၌ ကြုံကြိုက်သည်ကား ဓနနန္ဒမင်းသည် ဥစ္စာကို ဆည်းပူးမြှုပ်နှံပြီး၍ တဖန်အလှူပေးလိုသောအကြံ ဖြစ်ရကား ထိုနန်းတော်အတွင်း၌ အလှူတင်းကုပ်ကို ဆောက်လုပ်စေ၍ ပုဏ္ဏားတို့ကိုပင့်ခေါ်ပြီးလျှင် ပုဏ္ဏားကြီး တို့အား အသပြာတသိန်းထိုက်။ ပုဏ္ဏားလတ်တို့အား အသပြာတသောင်းထိုက်။ ပုဏ္ဏားငယ်တို့အား အသပြာ တထောင်ထိုက်သော အလှူဝတ္ထုတို့ကိုစီရင်၍ အလှူကြီး ပေး၏။ မှန်နန်းရာဇဝင်၌ ပုဏ္ဏားကြီးအား ကုဋေတရာ

တန်။ ပုဏ္ဏားငယ်အား အသပြာတသိန်း တန်လှူကြောင်းနှင့် မဟာဝင်ဋီကာကို ကိုး၍ဆိုလေသည်။ များလွန်သည် ထင်၍ မဟာဝင်ရာဇဝင်ကြီးတို့အဆိုအတိုင်း ရေးလိုက်သည်။ (ဤကား စကားချပ်)

ဓာနုက္ကပုဏ္ဏားသည် အလှူတင်းကုပ်သို့ဝင်၍ ပုဏ္ဏားကြီးတို့နေရာ၌နေ၏။ ဓနုနန္ဒမင်းသည် မင်္ဂလာဆင်တော်ကိုစီး၍ထွက်လာသဖြင့် ပုဏ္ဏားကြီးတို့၏ နေရာ၌နေသော ဓာနုက္ကပုဏ္ဏားကိုမြင်၏။ မြင်လျှင် မကြည်လင်သောစိတ်ရှိရကား ဤပုဏ္ဏားကို နှင်ထုတ်လေဟုဆို၏။ အလှူဝတ္တုကို စီရင်သောသူတို့သည် မနှင်အပ်သောအကြောင်းကို လျှောက်ပေ၏။ မင်းကြီးလည်း မကြိုက်သောအားဖြင့် နှင်ထုတ်လေဟုစေပြန်၏။ မင်းကြီးစေသော သူတို့သွားလေ၍ မင်း၏အာဏာဖြင့် ငါတို့လာရသည်။ အလှူတင်းကုပ်၌ မနေနှင့်ဟုမဆိုဝံ့၊ ပေးမည့်သူမနှစ်သက်မသဒ္ဓါလျက် အလှူဝတ္ထု၌ တက်မက်သောတဏှာကိုသာလျှင် အပြစ်တင်ကုန်၏။ ဓာနုက္ကပုဏ္ဏားလည်း မင်းချင်းတို့စကားကိုကြားလေလျှင် ငါ့အားရည်မှတ်၍ ဤသူတို့ဆိုလာချေသည်ဟု သိသဖြင့် ရှက်ရကား နေရာမှထ၍ ထွက်ခဲ့၏။ တံခါးဝသို့ရောက်လျှင် စလွယ်ကြိုးတို့ကို အပိုင်းအပိုင်းဖြတ်၍ ရေကရားကိုတံခါးတိုင်၌ရိုက်ခွဲ၍ မြေပြင်အလုံး၌ ဓနုနန္ဒမင်းအား အကျိုးမဲ့သာဖြစ်စေသောဟု ကျိန်ဆဲ၍ထွက်ခဲ့၏။ ထိုသို့ကျိန်ဆဲသောအကြောင်း မင်းကြီးကြားလေသော် မီအောင်ဖမ်းလေဟုစေတော်မူ၏။ ပုဏ္ဏားလည်း အဝတ်မဆီး၊ အချည်းနီးကျင့်သော အာဇီဝအသွင်ကိုယူ၍ ပြေးလျက်နန်းတော်အရံအတွင်း၌ စားဦးကာလ၊ စားပြီးကာလ ရေသွန်ရာအရပ်ဝယ် ပုန်းအောင်း၍နေလေ၏။ မင်းချင်းယောကျ်ားတို့လည်း ဓာနုက္ကပုဏ္ဏားကိုလိုက်၍ မမြင်ကုန်ရကား မတွေ့ကြောင်းနှင့်လျှောက်ကြကုန်၏။

ထိုအခါ ဓနုနန္ဒမင်း၌လည်း ပဗ္ဗတမည်သော သားတယောက်သာရှိသဖြင့် ထိုသားတော်ကို နန်းတွင်း၌ ရေကန်တူး၍ရေကန်၏အနီး အိမ်ငယ်ဖြင့်အခြားသို့မထွက်စေဘဲ ကျဉ်းကြပ်လုံချုံစွာထား၏။ ပုဏ္ဏားလည်း မင်းသားရှိရာသို့ အပြင်မှဥမင်တူး၍ဝင်ပြီးသော် သွေးဆောင်၍ခေါ်လေ၏။ ပဗ္ဗတမင်းသားလည်း ပုဏ္ဏားကို ယုံကြည်သဖြင့် သုံးစားရန်ရိက္ခာဘဏ္ဍာနှင့်တကွ ထွက်၍လိုက်လေ၏။ ပုဏ္ဏားလည်း မင်းသားနှင့်တကွ သွားလေပြီးသော် ဝိဇ္ဈာဋဝီတောကြီး၌နေ၍ မိမိတတ်သိလိမ္မာသော ပညာအစွမ်းဖြင့် တကျပ်တန်သော မိမိဥစ္စာကို ရှစ်သပြာတန်အောင် ပြု၍ ဖြည့်တင်းစရာ ဥစ္စာကံကျွေးတို့ကို ဆည်းပူးလေ၏။ မဟာဝင်၊ ရာဇဝင်ကြီးတို့၌ တကျပ်တန်ကို တထောင်တန်အောင်ပြု၍ဆည်းပူကြောင်းနှင့်ဆိုသည်။ များအံ့ထင်၍ မှန်နန်း ရာဇဝင်အတိုင်း ရေးလိုက်သည်။ (ဤကား စကားချပ်)။

ဥစ္စာကုဋေရှစ်ဆယ်မျှ အစုအပုံဖြစ်လေလျှင် ထိုဥစ္စာကိုမြုပ်ထားသိုမှီး၍ ပဗ္ဗတမင်းသားမှတပါး မင်းဖြစ်ထိုက်သော ဘုန်းကံနှင့်ပြည့်စုံသောသူကို ရှာလေသော် မောရိယမင်းမျိုးဖြစ်သော စန္ဒဂုတ်မည်သော မင်းသားကို တွေ့လေ၏။

## ၁၁၅။ စန္ဒဂုတ်မင်းသား၏အကြောင်း

မြတ်စွာဘုရား ထင်ရှားရှိတော်မူစဉ် ဝိဋူဍဘသည် သာကီဝင်မျိုးတို့ကိုဖျက်လေသောအခါ ဟိမဝန္တာ၏ အစပ်ဖြစ်သော တောအုပ်ကိုခိုသဖြင့် မြို့ရွာဖွဲ့၍ နေကြကုန်၏။ ထိုအရပ်သည် ဥဒေါင်းသံ၊ ကြိုးကြာသံတို့ဖြင့်နှလုံးမွေ့လျော်ဖွယ်ရှိရကား မောရိယမြို့ဟုတွင်၏။ ထိုမောရိယမြို့၌ မင်းပြုသော မင်း၏မိဘုရားကြီးသည် ကိုယ်ဝန်ရှိသောအခါ ပြည်နီးချင်းမင်းတပါးလာ၍ စစ်ပြုသဖြင့် မောရိယမင်းကိုသတ်၍ မင်းအဖြစ်ကိုယူ၏။ မိဘုရားကြီးသည် ကိုယ်ဝန်ကိုစောင့်လို၍ မောင်းမတို့နှင့်တကွ မထင်ရှားသောအသွင်ဖြင့် မြို့မှထွက်ခဲ့၍ ပါဋလိပုတ်ပြည်သို့လာခဲ့သော် မြို့အနီး ရွာကြီးတခု၌ သားကိုဖွားမြင်၏။ ပင်ပန်းဆင်းရဲသောအခိုက်ဖြစ်၍ သားကိုမမွေးမြူလိုရကား သူငယ်ကို အိုးသစ်၌ထည့်သွင်း၍

နွားနင်းစိမ့်သောဂှာ ခြံဝ၌ထား၏။ နတ်တို့စောင်မလေရကား စန္ဒမည်သော နွားလားဥသဘသည် တပါးနွားမထွက်မီထွက်လာ၍ ကောင်းစွာစောင့်နေ၏။ နွားထိန်းသောယောကျာ်းသည် သတိုးသားကိုမြင်လေလျှင် ချစ်ခင်စွာယူ၍မွေးမြူလေ၏။ စန္ဒနွားလားစောင့်သည်ကို အကြောင်းပြု၍ သူငယ်ကို စန္ဒဂုတ်ဟူ၍ ခေါ်ကြကုန်၏။ စန္ဒဂုတ်မင်းသားသည် နွားကျောင်းသားအရွယ်သို့ ရောက်လေသော် နွားထိန်း၏ အဆွေခင်ပွန်း မုဆိုးတယောက် မြင်လေ၍ ချစ်ခင်စုံမက်သောအားဖြင့် နွားထိန်းကို တောင်း၍ မွေးပြန်လေ၏။စန္ဒဂုတ်မင်းသားသည် နွားကျောင်းသားတို့နှင့် မင်းပြု၍ကစားခြင်းမည်သည်ကို ကစားလေသော် မိမိကား မင်းအဟန်ဆောင်၍ သူငယ်တော်များတို့ကို အိမ်ရှေ့မင်း၊ စစ်သူကြီး၊ တရား သူကြီး၊ အပါးတော်စေ သူငယ်တော်အဟန်ပြုစေ၍ ခိုးသူ တယောက်ကို ဆက်လာသောအဟန် ပြုစေပြီးသော် အပြစ်ရှိမှဲ့ကို မေးမြန်းစိစစ်စေ၍ လက်ခြေဖြတ်ကောင်းသော အပြစ်ကိုခံတန်၏ဟု တရားသူကြီးဆုံးဖြတ်သည့်အတိုင်း စန္ဒဂုတ်မင်းသားထံ လျှောက်လေသော် စန္ဒဂုတ်မင်းသားလည်း ခိုးသူလက်ကို ဖြတ်လေဟုစေ၏။ စေသူတို့က ဖြတ်စရာ ပုဆိန်မရှိဆိုသော် ဆိတ်ချိုအရိုး၌သစ်သား အသွားတပ်သော ပုဆိန်ဖြင့် စန္ဒဂုတ်မင်း၏အာဏာတော်ဆို၍ ဖြတ်ရလေ၏။ ထိုသူတို့ လက်ခြေပြတ်လေကုန်၏။ စန္ဒဂုတ်မင်းသား အာဏာဖြင့် လက်ခြေအတိုင်းရှိပြန်စေဟုဆိုလျှင် ရှေ့အတိုင်းဖြစ်ပြန်၏။ ထိုသို့သော အခြင်းအရာကို ဇာနက္ကပုဏ္ဏားမြင်လေသော် အံ့ဖွယ်သရဲဖြစ်ဘိ၏တကားဟု မုဆိုးအား အသပြာတထောင်ပေး၍ ဗေဒင်အတတ်သင်အံ့ဟု စန္ဒဂုတ်မင်းသားကိုယူလေ၏။ မိမိလက်သို့ရောက်ပြီးလျှင် အဖိုးတသိန်းတန်သော ရွှေနပေတန်ဆာလုပ်၍ တမုတ်ကြိုးနှင့်သီပြီးလျှင် မင်းသားလည််၌ ဆင်ဝတ်စေ၏။ ပဗ္ဗတမင်းသားကိုလည်း ထိုအတူဆင်ဝတ်စေ၏။ မင်းသားနှစ်ပါးတို့သည် ပုဏ္ဏားလက်၌ကြီးပြင်းလေသော် မင်းသားတို့မြင်သောအိပ်မက်ကို အသီးအသီး ဆရာပုဏ္ဏားအား ပြန်ကြားလေ၏။ ပုဏ္ဏားလည်းပြန်သော အိပ်မက်ကိုကြားသော် ပဗ္ဗတမင်းသားကား မင်းမဖြစ်ပေ၊ စန္ဒကုတ်မင်းသားကား ဇမ္ဗူဒီပါကျွန်း အိန္ဒိယအတွင်း၌ မင်းဖြစ်လတ္တံ့ဟု သိ၏၊ သိသော်လည်း မင်းသားတို့ကို မသိစေဘဲ ခပ်မဆိတ်နေလေ၏၊ တရံသောအခါ ပုဏ္ဏားတို့အား ဖိတ်မန်ရာမှ ယနာထမင်းကိုစားကြပြီးသော် တောအရပ်၌ ချုံပုတ်ပေါင်းတွင် အိပ်ကြလေ၏။ ဆရာပုဏ္ဏား ရှေးဦးစွာနိုး၍ ပဗ္ဗတမင်းသားကိုနှိုးပြီးလျှင် မင်းသားလက်တွင် သန်လျက်ကိုပေး၍ စန္ဒဂုတ်လည်တွင်ဆင်သော တန်ဆာကြိုးကို မဖြေမချွတ်ဘဲရအောင် ယူချေဟုစေ၏။ ပဗ္ဗတမင်းသား သွားလေသော် မဖြေမချွတ် မဖြတ်ဘဲမရသာဟု ပြန်လာ၏၊ အခါတပါး ထိုသို့ငှင်း ကြုံကြိုက်လတ်သော် စန္ဒဂုတ်မင်းသားကို ရှေးနည်းအတူစေပြန်၏။ စန္ဒဂုတ်မင်းသားလည်း သွား၍စုံစမ်းလေသော် ကြိုးကိုမဖြေ မချွတ်မဖြတ်ဘဲ မရသာဟု ပဗ္ဗတမင်းသားဦးခေါင်းကို ဖြတ်၍လည်တွင် ဝတ်ဆင်သောတန်ဆာကိုယူခဲ့၏။ ဆရာ ပုဏ္ဏားလည်း ထိုအကြောင်းကိုမြင်သော် ခပ်မဆိတ်နေ၏။ စန္ဒဂုတ်မင်းသား အရွယ်ရောက်လျှင် ဗေဒင်အတတ်ပညာ သင်၍ အတတ်လိမ္မာ အကြားအမြင်နှင့်ပြည့်စုံ၏။ လုပ်ရည်ကြံရည်ရှိလတ်သော် ကံကျွေးအလို့ငှာ မြှုပ်၍ထားသော ဥစ္စာရွှေငွေတို့ဖြင့် တံဆိုးရတနာဥစ္စာပေး၍ ရဲမက်ဗိုလ်ပါများစွာ အပေါင်းအစုဖြစ်လျှင် စန္ဒဂုတ်မင်းသားအား ရဲမက်ဗိုလ်ပါကိုအပ်နှင်း၏။ စန္ဒဂုတ်မင်းသားလည်း ဓနနန္ဒမင်းအား စစ်ပြုလေသော် အလယ်အစွန်၌နေသော ပြည်သူရွာသားတို့သည် အဆစ်အဆစ်ဆီးကြိုပိတ်ဆို့၍ တိုက်လေသောကြောင့် စန္ဒဂုတ်မင်းသားရဲမက်တို့သည် ပျက်လေ၏။ ထိုသို့ပျက်လေသောကြောင့် စနည်းတဘောင် နားထောင်ရလေ၏။ နားထောင်သောသူတို့သည် ရွာငယ်တခုသို့ဝင်၍ နားထောင်ကြလေသော် မုန့်သည်မိန်းမတယောက်သည် မုန့်ကျော်ကို သားအား

စားစေ၏။ သားငယ်လည်း အမိပေးသောမုန့်ကို အနားဝန်းကျင်ကစ၍မစား၊ အလယ်သား ညွှံရာကိုသာစား၍ အနားကိုပစ်ပြီးလျှင် အမိကို မုန့်တောင်းပြန်၏။ အမိလည်း သားမုန့်တောင်းပြန်လျှင် နင်မုန့်စားသည်ကား စန္ဒဂုတ်မင်းသား ပြည်ထဲရေးကိုလုပ်ကြံသည်နှင့် တူ၏တကားဟု ဆို၏။ သားသူငယ်လည်း အမိ၊ ငါကား မုန့်ဘယ်လိုစားသနည်း။ စန္ဒဂုတ်မင်းသားကား အဘယ်သို့ပြုသနည်းဟု မေး၏။ အမိလည်း နင်မုန့်ကို အစွန်အနားက မစားဦးဘဲ အလယ်သားကိုထွင်း၍စား၏။ စန္ဒဂုတ်မင်းသားလည်း မင်းဖြစ်လိုသည်ဖြစ်၍ ပြည်ထဲအရေးကို လုပ်ကြံသည်။ ပြည်စွန်ပြည်နားကစ၍ မသိမ်းမယူ၊ မင်းနေပြည် အလယ်သို့ဝင်၍ လုပ်ကြံချေသောကြောင့် မင်းအဖြစ်ကို မရဘဲပျက်ချေ၏။ ဤသို့ဖြစ်သောကြောင့် နင့်အမှုနှင့် စန္ဒဂုတ်မင်းသားအမှု တူကြသည်ဟုဆိုပေ၏။ ဤသို့ဆိုသော မုန့်သည်မစကားကိုနားခံသော သူလျှိုတို့ကြားလေသော် ကြားတိုင်းသောစကားကို စန္ဒဂုတ်မင်းသားအား ကြားပေ၏။ စန္ဒဂုတ်မင်းသားလည်း ကြားခဲ့သောစကားကို နည်းယူ၍ ရဲမက်ဗိုလ်ပါစုရုံးပြီးသော် အစွန်အနား ရွာကြီးရွာငယ်တို့ကို လက်နက်နိုင်ငံဖြစ်အောင်သိမ်းယူပြီးမှ ပါဋလိပုတ်ပြည်သို့သွား၍ ဓနနန္ဒမင်းကိုလုပ်ကြံပြီးလျှင် ပြည်ကို ယူလေ၏။ ဓာနက္ကပုဏ္ဏားသည် ရှေးဦးစွာ စလွယ်ကြိုးကို အပိုင်းအပိုင်းဖြတ်၍ ရေကရားကို ပုတ်ခွဲပြီးသော် မြေပြင် အလုံး၌ ဓနနန္ဒမင်း၏ စီးပွားမဲ့သာ ဖြစ်စေသောဟုကျိန်ဆဲလျက် ကြံခေါက်ရက်ကြံသောအကြံသည် အပြီးသို့ရောက်လေ၏။

ဓာနက္ကပုဏ္ဏားသည် စန္ဒဂုတ်မင်းသားကို ဘိသိက်မသွန်းဦးဘဲ ဓနနန္ဒမင်းသည် ခဲယဉ်းစွာ ဥစ္စာမြှုပ်ထားသောအရပ်ကို သိသောတံငါကြီးတယောက်အား ဥစ္စာကိုညွှန်ပြစေလို၍မင်းမြှောက်လေ၏။ တံငါကြီးလည်း အကြွင်းအကျန်မရှိအောင်ညွှန်ပြ၍ ဥစ္စာအပေါင်းကိုရပြီးမှ တံငါကြီးကိုသတ်၍ စန္ဒဂုတ်မင်းကြီးအား ဆေးထည့်သော် အန္တရာယ်မဖြစ်နိုင်အောင် စားသောက်သောအစာကို အဆိပ်နှင့်ရော၍ စီရင်ပြီးလျှင်စားစေ၏။ မင်းကြီးစားသည့် အစာကို မိဘုရားတို့နှင့်မစပ်စေဘဲ အသီးအခြားသာစားစေ၏။ စန္ဒဂုတ်မင်းကြီး မိဘုရားကား မောရိယပြည်က မင်းကြီးမယ်တော်နှင့်အတူ ပါဋလိပုတ်ပြည်သို့ ရောက်လာသော ဦးရီတော်အကြီးသမီးတည်း။ တရံသောအခါ ထိုမိဘုရားသည် ရင့်ပြီးသောကိုယ်ဝန်နှင့် ဓာနက္ကပုဏ္ဏား အဆိပ်ထည့်၍ စီရင်သောအစာကို မင်းကြီးစားရာဝယ် တလုတ်မျှ ခံတွင်းတွင်ထည့်မိသည်ကို ဓာနက္ကပုဏ္ဏား မြင်လျှင် လျင်စွာထွေးဘိဟုဆိုရုံမျှလည်း ကြာနိုးအံ့ထင်၍ မိဘုရားဦးခေါင်းကိုဖြတ်၍ ဝမ်းတွင်းသားကို အမေးနှင့် တကွ လျင်မြန်စွာထုတ်ယူပြီးသော် ဆိတ်မကြီး၏ ဝမ်းတွင်းသားကို ဖောက်၍ထည့်၏။ ဤသို့ ခုနစ်ရက် တလည်ထည့်၍ ဆိတ်မတို့၏ဝမ်း၌နေစေသဖြင့် ကိုယ်ဝန် ရင့်သည်ကို ပြုပြီးလျှင် အထိန်းတို့အားပေး၍ မွေးစေ၏။ အမည်မှည့်သောနေ့ မင်းသားကိုယ်၌ ဆိတ်မွေးထိရာ အပေါက်ရှိသည်ကို အကြောင်းပြု၍ ဗိန္ဒုသာရဟုမှည့်၏။

## ၁၁၆။ ဗိန္ဒုသာရမင်း၏အကြောင်း

ဗိန္ဒုသာရမင်းသားအရွယ်သို့ ရောက်သောအခါ စန္ဒဂုတ်မင်းကြီးလည်း နှစ်ဆယ့်လေးနှစ်မင်းပြု၍ အနိစ္စ ရောက်တော်မူ၏။ အနိစ္စရောက်တော်မူပြီးလျှင် စန္ဒဂုတ်မင်းကြီးကိုယ်၌ ဒေဝဂန္ဓမည်သောဘီလူးဝင်၍ အရှင်ကဲ့သို့ ဖြစ်စေလျက် မင်းပြု၏။ ထိုအကြောင်းကို စားသောက်သောအခါ စသည်တို့၌ ဖောက်ပြန်ခြင်းဖြစ်၍ ပုရောဟိတ် ပုဏ္ဏား စုံစမ်းသည်ရှိသော် ဘီလူးဝင်၍နေသောအားဖြင့် အရှင်ကဲ့သို့ဖြစ်သောအကြောင်းကိုသိလေ၍ ခမည်းတော် မရှိပြီ။ ဘီလူးသာ ခမည်းတော်အယောင်ဆောင်၍ မင်းမှုသည်ဟု ဗိန္ဒုသာရမင်းအား ကြားပေ၏။ မင်းသားလည်း အဟုတ်အဟတ်စုံစမ်း၍သိပြီးလျှင် ဘီလူးကိုသတ်အံ့သော ငှာ ဥပါယ်တမည်ကြံ၍ မင်းချင်းနှစ်ယောက်တို့ကို နှုတ်ထည့်လျက် ဒါးလက်နက်ကိုလုကြစေ၏။ သူတပါးတို့ ဖိထားမြစ်တားသော်လည်း မနိုင်ဟန်ပြု၍ ဗိန္ဒုသာရ

မင်းသားလည်း အကျွမ်းဝင်ယောင်မူ၍ ဘီလူးအနီး၌ ခစား၏။ ဘီလူးလည်း ငြင်းခုံသည့်အသံကိုကြားလျှင် သင်းတို့နှစ်ယောက်ကို ငြိမ်းအောင်ပြုဘိဟု မိန္ဒုသာရ မင်းသားကိုစေ၏။ မိန္ဒုသာရမင်းသားလည်း အကြိမ်ကြိမ် သွား၍ မဆီးတားနိုင်ကြောင်းကို ဘီလူးအား ကြားလေ၏။ ဘီလူးလည်း မနိုင်သော် ငါ့အထံသို့ခေါ်ခဲ့။ ချင်းတို့ကို ငြိမ်း အောင်ပြုအံ့ဟုဆို၏။ မိန္ဒုသာရမင်းသားလည်း ချင်းတို့မှာ လက်နက်နှင့်တကွဖြစ်သောကြောင့် အထံတော် သို့ မချဉ်းလာစေလိုဟုဆို၏။ ဘီလူးလည်း ချဉ်းလာစေ တော့၊ ငြိမ်းအောင်ဆိုအံ့ဟု ခွင့်ပေး၏။ ထိုသူနှစ်ယောက်တို့ ချဉ်းကပ်ရလေလျှင် မိန္ဒုသာရမင်းသားသည် လက်နက်ကို ဆက်ဟန်ပြု၍ အပါးတော်သို့ချဉ်းကပ်ပြီးလျှင် ဒါးနှင့် နှစ်ပိုင်းဖြတ်၍ ဘီလူးကိုသေစေ၏။ ထိုသို့သေစေပြီးမှ စည်းစိမ်နှစ်ဆဲ့လေးနှစ်၊ သာသနာတော်သက္ကရာဇ် တရာရှစ်ဆဲ့ခြောက်ခုနှစ်တွင် အနိစ္စရောက်တော်မူ၍ သားတော်မိန္ဒုသာရ အဘိသိက်ခံတော်မူသတည်း။

မိန္ဒုသာရမင်းကြီး မိဘုရားကြီးကား မောရိယ မင်း၏ အမျိုးပင်တည်း။ ထိုမင်းသမီးကို ဓမ္မာဟူသော အမည်နှင့် မိန္ဒုသာရမင်းကြီး မိဘုရားမြှောက်တော်မူ၏။ ဓမ္မာမိဘုရားသည် ပဋိသန္ဓေရှိလျှင် ခြေတဖက်ဖြင့် လ,ကို၊ ခြေတဖက်ဖြင့် နေကိုနင်းလျက် ကြယ်အပေါင်းတို့ကို စားလို၏။ ကောင်းကင်၌ တိမ်လွှာကိုစားလို၏။ မြေ၌ ကျစ်သော တီကိုစားလို၏။ မြေ၌ရောက်သောသစ်ပင်တို့ ကို စားလို၏။ ဤသို့ချင်ခြင်းဖြစ်၍ ထိုချင်ခြင်းကို မဖျောက်နိုင်။ တစုံတယောက်သောသူအားလည်း မပြောမဆိုဝံ့။ အဆင်းမလှဖျော့တော့ ကြုံလှီသော ကိုယ်ရှိ၏။ မိန္ဒုသာရမင်းကြီးသည် မိဘုရား၏ဖောက်ပြန် သောအခြင်းအရာကိုမြင်၍ အဘယ်ကြောင့် ဤသို့ ဖြစ်သနည်းဟုမေး၏။ မိဘုရားလည်း ချင်ခြင်းဖြစ်ပါသည် ဟု လျှောက်၏။ ထိုချင်ခြင်းကို ငါ့အား ကြားလောဟု ဆိုသော် အရှင်မင်းကြီး၊ အကျွန်ုပ်၏ ချင်ခြင်းကိုရခဲပါ၏။ တစုံတခုသောအကြောင်းဖြင့် မပြီးစေနိုင်သောကြောင့် မလျှောက်ဝံ့ပါဟု မိဘုရားဆို၏။ မင်းကြီးလည်း ငါကား အလုံးစုံသော စည်းစိမ်နှင့်ပြည့်စုံသော မင်းတည်း။ ငါ့အား အဘယ်ကို မပြီးစေနိုင်သည့်အရာရှိအံ့နည်း။ လွတ်လွတ် ပြောဟုဆိုလျှင် ဤသို့သော ချင်ခြင်းဖြစ်ပါသည်ဟု လျှောက်လေသော် အကြောင်း၌လိမ္မာသောကြောင့် ချင်ခြင်း မရသာချေဟုမဆိုမူ၍ မစိုးရိမ်လင့်၊ ရစေအံ့ဟု နှစ်သိမ့်စေ ပြီးမှ မိဘုရားအထံကသွားပြီးသော် အမတ်တို့ကို စည်းဝေး စေ၍ မိဘုရားချင်ခြင်းဖြစ်ကြောင်းကိုကြား၏။ အမတ်တို့ သည် မိဘုရားကြီး ချင်ခြင်းဖြစ်ရာ၌ အသို့ပြုပါအံ့နည်းဟု လျှောက်ကြားကုန်သော် ဤသို့သော အကြောင်းရှိ၏။ လ-ရုပ်၊ နေ-ရုပ်ခဲဖွယ်တို့ကိုစားစေအံ့ဟုဆို၏၊ အဘယ်သို့ စားစေအံ့နည်းဟုလျှောက်ကြပြန်သော် အိုးခင်းဖြင့် ကြီးစွာသောမုန့်ကိုကြော်စေပြီးလျှင် စင်ကြယ်သော မြေအပြင်၌ထား၍ ဤသည်ကား လ၊ ဤသည်ကား နေတည်း။ ဤလဝန်း၊ နေဝန်းတို့ကိုနင်းလျက် ကြယ်ကို စားလောဟု ဝန်းသောမုန့်တို့ကို စားစေအံ့။ တိမ်လွှာကို စားလောဟု တိမ်လွှာအခြင်းအရာဖြင့်လုပ်သော ခဲဖွယ်ကို စားစေအံ့။ ထိုသို့ပြုပြီးမှ မင်းရင်ပြင်ကို သုတ်သင်စေ၍ သဲမွှေ့ရာကြဲလျက် သဲအထက်၌ အပေါက်အပေါက်သော ဖျာကိုခင်း၍ ဖျာပေါက်မှထွက်သော တီသဏ္ဌာန်ရှိသော ခဲဖွယ်တို့ကိုငင်း၊ သစ်ညွန့်တို့ကိုငင်း၊ ရွှေခွက်၌ထည့်၍ မြေ၌ကျစ်သောတီကိုစားလော။ သစ်ညွန့်တို့ကို စားလော ဟူ၍ မိဘုရားကို စားစေအံ့ဟုဆို၏။ မင်းကြီးကိုယ်တိုင် အလုံးစုံကိုပြု၍ မိဘုရားကိုစားစေလျှင် မိဘုရား၏ ချင်ခြင်းငြိမ်းလေ၏။

တနေ့သ၌ မင်းကြီးသည် ပုဏ္ဏားတို့ကို ပူဇော် သက္ကာရပြု၍ မိဘုရား၏ ချင်ခြင်းဖြစ်သည့်အကျိုးကို မေး၏။ စရဏာဇိဝကအမည်ရှိသော မိဘုရားဆရာသည် မြတ်သောမင်းကြီး၊ မိဘုရားသည် အလုံးစုံအဂါကြီးငယ်နှင့် ပြည့်စုံသော သားတော်ကိုရလတ္တံ့ဟုဟောပေ၏။ မင်းကြီး လည်း ထိုသို့ဟောကာမျှဖြင့် နှစ်သက်ဝမ်းမြောက်တော် မူ၏။ ချင်ခြင်း ငြိမ်းရန်အကြောင်းကိုလည်း ဤဆရာ

အလိုဖြင့် ထပ်၍ပြုတော်မူစေ၏။ ထိုဆရာကား ရဟန္တာဖြစ်အံ့သောအကြောင်းနှင့် ပြည့်စုံသောသူတည်း။ ပညာလည်းရှိ၏။ ထိုဆရာသည် ကဿပမြတ်စွာဘုရားလက်ထက်တော်က မလိမ္မာသေးသော သူငယ်ဖြစ်၍ အဘိဓမ္မာကိုသင်သော ရဟန်းတို့အထံသို့ ရောက်လေသော် အာယတနတရားကိုရွတ်သော ရဟန်းတို့၏အထံ၌ တရားအာရုံကိုယူ၍ စုတေလျှင် နတ်ပြည်၌ ဖြစ်လေ၏။ ငါတို့ဘုရားသခင် နိဗ္ဗာန်ယူသည့်တိုင်အောင် နတ်ပြည်၌ စည်းစိမ်ကိုခံစား၍ ဘုရားသခင် နိဗ္ဗာန်ဝင်သည့်နောက် ပုဏ္ဏားမျိုး၌ဖြစ်လာ၏။ အရွယ်သို့ရောက်သောအခါ အာဇီဝကရဟန်းပြု၍ မိန္နသာရမင်း၏ မိဘုရားကြီးဆရာဖြစ်လေသတည်း။

ထိုစရဏာဇီဝကဆရာသည် မင်းနှင့်တကွသော ပရိသတ်တို့ထံမှ ထနဲ့ပြီးသည့်နောက် ချင်ခြင်း၏အကျိုးကို အကျယ်အားဖြင့်ဟောခြင်းငှာ မိဘုရားကြီးရှိရာသို့ သွားလေ၏။ မိဘုရားသည် မြတ်သောနေရာ၌နေစေ၍ အဘယ်ကြောင့် ကြွလာသနည်းဟုမေးသော် ရှေးကမင်းနှင့် တကွသော အမှူးအမတ်၊ ပရိသတ်များအလယ်၌ ဖြစ်၍ အကျဉ်းမျှသာ ဆိုခဲ့ပါသည်။ ယခု ထိုအကြောင်းကို အကျယ်ပြော ဟောလို၍လာပါသည်။ နားထောင်တော်မူပါလောဟုဆို၏။ မိဘုရားသားတော်သည် မင်းဖြစ်လတ္တံ့။ လ-နေကို နင်းလိုခြင်းသည် မင်းဖြစ်သောအခါ လ-နေသဖွယ်ဖြစ်သော ဇမ္ဗူဒိပ်တကျွန်းလုံး၌ ခပ်သိမ်းသော ထီးဆောင်းမင်းအပေါင်းတို့သည် သားတော်မင်း၏ခြေရင်း အလုပ်အကျွေးဖြစ်အံ့သော အကြောင်းနိမိတ်တည်း။ ကြယ်ကိုစားလိုခြင်းသည် တဘာသားချင်း နောင်တော်ညီတော်တို့ကို သတ်လတ္တံ့သော နိမိတ်တည်း။ တိမ်လွှာကို စားလိုခြင်းသည် ကိုးဆဲ့ခြောက်ပါးသော ပါသဏ္ဍာဒိဋ္ဌိအယူကို ဖျက်ဆီး၍ ဘုရားရှင်သာသနာတော်ကို ချီးမြှောက်လတ္တံ့သော နိမိတ်တည်း။ မြေ၌ကျစ်သော တီကိုစားလိုခြင်းသည် မြေကြီးအောက် တယူဇနာ အာဏာနှံ့လတ္တံ့သော နိမိတ်တည်း။ မြေ၌ရောက်သော သစ်ပင်တို့ကို စားလိုခြင်းသည် အထက်ကောင်းကင်၌ တယူဇနာအာဏာနှံ့လတ္တံ့သော နိမိတ်တည်း။ ဤသို့ဖြစ်လတ္တံ့သော အကျိုးကိုစွဲ၍ ဤချင်ခြင်းဖြစ်သည်ဟု မှတ်တော်မူလောဟုဆိုပေ၏။ မိဘုရားကြီးလည်း အလွန်နှစ်သက် ဝမ်းသာ၍ ဤသို့ဆိုတိုင်း အကျိုးပြီးသော် ဆရာကိုနေရာမှ ရွှေထမ်းစင်တို့ဖြင့် တင်ပါစိမ့်မည်ဟုဆို၍ ဆရာဟောပြောအပ်သော အကျိုးငါးပါးကို ရွှေပြား၌ရေးထားစေ၍ ထိုက်သောပူဇော်ဖွယ်တို့ဖြင့် ပူဇော်၍လွှတ်လိုက်လေ၏။

## ၁၁၇။ ဓမ္မာသောကမင်း၏အကြောင်း

ဓမ္မာမိဘုရားသည်လည်း ဖွားချိန်သင့်သောအခါ ကောင်းမြတ်သောလက္ခဏာနှင့် ပြည့်စုံသောသားတော်ကို ဖွားမြင်၍ အသောကမင်းသားဟုအမည်မှည့်၏။ မင်းသားသည် ထိုင်တတ်သောအရွယ်သို့ရောက်သောအခါ မင်းကြီးအထံသို့ ဆောင်ခဲ့လေ၍ မင်းရင်ခွင်ထက်၌ ကစားကာနေစေ၏။ လက်ယာရစ်ခရုသင်းကိုလည်း မင်းကြီးကိုင် လျက်နေသည်နှင့် မင်းသားသည် ကျင်ငယ်စွန့်လေသော် ခမည်းတော်မင်းသည် ကျင်ငယ်ကို ခရုသင်းဖြင့်ခံ၍ မင်းသား၏ထိပ်၌လောင်း၏။ ဓမ္မာမိဘုရားလည်းမြင်၍ အမျက်ထွက်ရကား မင်း၏လက်မှ သားကိုယူ၍ ထိုအကြောင်းကို ဆရာဖြစ်သော စရဏာဇီဝကအား ပြောဆို၏။ ထိုဆရာလည်း မိဘုရားမစိုးရိမ်လင့်။ သားတော်သည် ဘိသိက်သွန်းခြင်းဖြစ်လေပြီ။ ဇမ္ဗူဒိပ်ကျွန်းအပြင်၌ မြတ်သောမင်းဖြစ်လတ္တံ့ဟု ဟောပြီးမှ ငါဟောသည့်အတိုင်းမှန်မူ ငါရှိရာလာ၍ ပင့်လာစေဆိုပြီးသော် ပါဋလိပုတ်ပြည်မှသည် ယူဇနာတရာဝေးကွာသော အရပ်သို့သွား၍နေလေ၏။

ဓမ္မာသောကမင်းသားသည် အရွယ်သို့ရောက်လတ်သော် ခမည်းတော်က အိမ်ရှေ့အရာကိုပေး၍ အဝန္တိတိုင်း ဥဇ္ဇေနီပြည်ကြီးကို စားစေ၏။ တရံသောအခါ အမောင် စားရာမြို့သို့သွား၍နေလေဟု စေလိုက်၏။

မွှောသောကမင်းသားလည်း ယူဇနာတရာဝေးကွာသော ဥဇ္ဇေနီပြည်သို့သွားလေသော် ခရီးအကြား ယူဇနာငါးဆယ် ရှိသောအရပ်၌ ဝိဋူဗျူဘဘေးကြောင့် သာကီဝင်မင်းတို့ ပြေးပုန်း၍နေသော ဝေဒိသကမြို့သည်ရှိ၏။ ထိုမြို့၌ နေသော သာကီဝင်သူဌေးသမီးဖြစ်သော ဝေဒိသကဒေဝီ ကိုယူခဲ့၍ ဥဇ္ဇေနီပြည်ကြီး၌ မင်း၏စည်းစိမ်ကိုခံစား၍ နေလေ၏။ ဝေဒိသကဒေဝီကိုယူ၍ မကြာမြင့်မီ မဟိန္ဒမင်းသားကို ပဋိသန္ဓေယူလေ၏။ ထိုမင်းသားဖွား၍ ဘဝါးခြေဖြင့် သွားတတ်သော် သမီးတော် သင်္ဃမိတ္တာကို ဖွားမြင်ပြန်၏။ အခါတပါး၌ ခမည်းတော် ဗိန္ဒုသာရမင်း ကြီးသည် နာတော်မူကြောင်းကိုကြား၍ ဥဇ္ဇေနီပြည်မှ အလျင်ချီခဲ့ပြီးသော် ဝေဒိသကဒေဝီနှင့် သမီးတော် သားတော်တို့ကို ဝေဒိသကမြို့တွင်ထားခဲ့၍ မိမိချည်းသာ ပါဋလိပုတ်ပြည်သို့လာခဲ့၍ ခမည်းတော်အားလုပ်ကျွေး ပြုစု၏။ ဗိန္ဒုသာရမင်းကြီးလည်း စည်းစိမ်နှစ်ဆဲ့ ရှစ်နှစ်၊ သာသနာသက္ကရာဇ် ၂၁၄ နှစ်တွင် အနိစ္စရောက်တော်မူ ၏။ ခမည်းတော်မင်းကြီးအနိစ္စရောက်လေသော် ပြည် အလုံးကိုသိမ်းယူ၍ မင်းပြုတော်မူလေ၏။

## ၁၁၈။ နိဂြောဓ သာမဏေ၏အကြောင်း

ထိုအကြောင်းကို နောင်တော်သုမနမင်းသား ကြားလေသော် ကိုးကျိပ်ကိုးယောက်သော ညီတော်တို့နှင့် တကွ သမုဒ္ဒရာလှိုင်းထသကဲ့သို့ စစ်ကြီးစီရင်၍လာပြီး လျှင် ပါဋလိပုတ်ပြည်ကို ဝန်းရံလေ၏။ မွှောသောကမင်း လည်း မြို့တွင်းရဲမက်နှင့်တကွ ရုံးစည်း၍တိုက်လေလျှင် နောင်တော်ကိုးကျိပ်ကိုးယောက်ကိုရ၍ သတ်လေ၏။ နောင်တော် သုမနမင်း၏မိဘုရား သုမနဒေဝီသည် မင်းသား သေကြောင်းကိုကြားလေလျှင် ရင့်သောကိုယ်ဝန် နှင့်တကွ မထင်ရှားသောအသွင်ဖြင့်ပြေး၍ မနီးမဝေးသော ဒွန်းစဏ္ဍားတို့၏ရွာသို့သွားလေ၍ရောက်လျှင် ထိုရွာ၏အနီး ပညောင်ပင်ကြီး၌စောင့်သောနတ်သည် သုမနဒေဝီအား ဤသို့လာလောဟုခေါ်နှင့်ပေ၏။ မိဘုရားဆည်းကပ်လေ လျှင် တခုသောဇရပ်ကိုဖန်ဆင်း၍နေစေ၏။ သုမနဒေဝီ လည်း ဇရပ်သို့ရောက်သောနေ့ပင်လျှင် သတို့သားကို ဖွားမြင်၏။ ထိုသားအား ပညောင်စောင့်နတ် စောင်မ သည်ကိုအကြောင်းပြု၍ နိဂြောဓလုလင်ဟု သမုတ်ပေ၏။ ဒွန်းစဏ္ဍားအကြီးလည်း ထိုမိဘုရားကိုမြင်သည်မှစ၍ မိမိ၏ အရှင်သမီးကဲ့သို့မှတ်လျက် လုပ်ကျွေးပြုစုပေ၏။ နိဂြောဓသတို့သား ခုနစ်နှစ်အရွယ်သို့ရောက်သော် မဟာဝရုဏမည်သော ရဟန္တာသည် သူငယ်၏ရဟန္တာ ဖြစ်လတ္တံ့သော အကြောင်းကိုမြင်၍ သုမနဒေဝီအား တရားစကား ဟောကြားဆုံးမပြီးလျှင် သတို့သားကိုယူ၍ ရဟန်းပြုစေ၏။ နိဂြောဓလုလင်လည်း ဦးခေါင်းရိတ်စဉ်ပင် တစပဉ္စက ကမ္မဋ္ဌာန်းကို ဆရာရဟန်းသင်ကြားသဖြင့် သင်တုန်းဒါး၏အဆုံး၌ပင် ရဟန္တာအဖြစ်သို့ရောက်လေ၏။ သီရိဓမ္မာသောကမင်းကြီးကား မိမိနှင့်တမိ၊ တဘတည်း ဖြစ်သော ညီတော်တိဿကိုထား၍ တဘသားချင်း ဖြစ်သော နောင်တော် ကိုးကျိပ်ကိုးယောက်ကိုဖျောက်၍ လေးနှစ်တိုင်တိုင် ဘိသိက်မခံပဲ ပြည်ထဲရေးကိုသာ သုတ်သင်စီရင်လျက် သက္ကရာဇ်၂၁၈ခုနှစ် ရောက်သော အခါမှ ရာဇာဘိသေကကို ခံတော်မူ၏။ ညီတော်တိဿ ကုမာရကိုလည်း အိမ်ရှေ့ပေးတော်မူ၏။ ဝေဒိသကဒေဝီ လည်း မဟိန္ဒမင်းသားနှင့် သမီးတော် သင်္ဃမိတ္တာကို ပါဋလိပုတ်ပြည်သို့ ပို့စေ၏။ မိမိမူကား ဝေဒိသကမြို့၌ပင် နေလေ၏။ သီရိဓမ္မာသောကမင်းလည်း ရှေးကောင်းမှု၏ အာနုဘော်၊ ဘိသိက်၏ အာနုဘော်ကြောင့် ဇမ္ဗူဒီပါ ကျွန်းပေါ်၌ တယောက်တည်းသော မင်းအဖြစ်သို့ ရောက်တော်မူ၏။ အောက်မြေထဲကိုလည်း တယူဇနာ ထွင်း၍ ကောင်းကင်ကိုလည်း တယူဇနာတက်၍ အာဏာစက်တော်နှံ့၏။ နဝတတ်အိုင်မှ တနေ့ရှစ်ထမ်း သော ရေတို့ကို နတ်တို့သည် နေ့တိုင်းပို့ဆက်လာကုန်၏။ ထိုရေအိုး တဆဲ့ခြောက်လုံးတို့တွင် ရှစ်လုံးသော ရေအိုးတို့ကို သံဃာတော်တို့အား လှူတော်မူသည်။ နှစ်လုံးသော ရေအိုးကို ပိဋကတ်သုံးပုံ ဆောင်သော ရဟန်းတို့အား

လှူတော်မူသည်။ နှစ်လုံးသော ရေအိုးတို့ကို အသန္တိမိတ္တာ မိဘုရားကြီးအား ပေးတော်မူသည်။ နှစ်လုံးသောရေအိုး တို့ကို တသောင်းခြောက်ထောင်သော မောင်းမတို့အား ပေးတော်မူသည်။ နှစ်လုံးသောရေအိုးတို့ကို ကိုယ်တော် သုံးဆောင်တော်မူသည်။ ထိုမှတပါး ဟိမဝန္တာတောမှ နူးညံ့သိမ်မွေ့စွာသော အရသာနှင့်ပြည့်စုံသော နာဂလတာမည်သော ကွမ်းရိုးအနံ့ပူတို့ကိုငင်း၊ ဆေးဖြင့် ပြီးသော သျှိသျှားသီးတို့ကိုငင်း နတ်တို့ပို့ဆက်လာကုန်၏။ ထိုမှတပါး အနံ့အရသာနှင့်ပြည့်စုံသော သရက်သီးမှည့် တို့ကိုငင်း၊ ဆဒ္ဒန်အိုင်၏အနီး၌ဖြစ်သော ပဒေသာပင်မှ အဆင်းငါးပါးရှိသော ဝတ်စရာ၊ ရုံစရာအထည်တို့ကို ငင်း၊ လိမ်းကျံစရာ နံ့သာပျောင်း၊ နံ့သာမှုန့်တို့ကိုငင်း၊ ချည်ဖြင့်ယက်သော မြတ်လေးပွင့်ကဲ့သို့ နူးညံ့သိမ်မွေ့သော အပေါ်ရုံပုဆိုးတို့ကိုငင်း၊ နတ်တို့သည် ပို့ဆက်လာကုန်၏။ မြတ်သောသူတို့အား ထိုက်သောမျက်စဉ်းတို့ကိုငင်း နဂါးတို့သည် ပို့ဆက်လာကုန်၏။ ဆဒ္ဒန်အိုင်၏အနီး၌ ဖြစ်သော သလေးစပါးတို့ကိုလည်း ကျေးသား၊ ငှဲး၊ ခါ စသောငှက်တို့သည် ချီဆောင်၍ လှည်းကိုးထောင် တိုင်တိုင် ဆက်လာကုန်၏။

လှည်းကိုးထောင်ဟူသည်မှာ။ လေးဆုပ်= တကင်၊ လေးကင်=တကွမ်းစား၊ စ လယ်လည်းဟူ၏။ လေးကွမ်းစား=တပြည်၊ လေးပြည်=တစိတ်၊ လေးစိတ်=တတင်း၊ လေးတင်း=တတို့၊ တို့နှစ်ဆယ် သည်=တဝါဟ၊ ငင်း တဝါဟပင်=လှည်းတစီး တိုက်- ဟူ၍ သုတ္တနိပါတ်အဋ္ဌကထာတို့၌ဆိုသည်။ တင်းအားဖြင့် ရှစ်ဆယ်ရှိ၏။ ငင်းအတင်းရှစ်ဆယ်ကို-လှည်းနှစ်စီးတိုက်- ဟူ၍ သာရတ္ထဒီပနီဋီကာ၌ ဆိုလေသည်ဖြစ်၍ ဝါဟ- ကိုးထောင်တွင် တင်းပေါင်း ခုနစ်သိန်း နှစ်သောင်းဖြစ်၏။ မဟာဝင်ဝတ္ထုဋီကား လေးတင်းကို=တတို့၊ လေးတို့= တပုတ်၊ လေးပုတ်ကို=တကက်၊ လေးကက်ကို=တကျပ်၊ လေးကျပ်ကို=တကျီ၊ တင်းပေါင်းလေးဆယ် သည်=တဝါဟမည်၏ဟု ဂဏန်းကျမ်း၌ဆိုကြောင်း၊ ယခု သုံးစွဲသောတင်းဖြင့် ရေတွက်သော် လှည်းပေါင်းကိုးထောင် တွင် တင်းပေါင်း သုံးသောင်းခြောက်ထောင်ရှိကြောင်းနှင့် ဆိုလေသည်။

ထိုသို့ ကျေးငှက်တို့ဆောင်ခဲ့သော စပါးကို ညှင့်၌ ရှဉ့်၊ ကြွက်-စသောသတ္တဝါတို့သည် ဆန်အလုံး မပျက်စေဘဲ အခွံနွာ၍ပေးရကုန်၏။ ထိုဆန်ဖြင့် အရိယာသံဃာတော်တို့ကို ဆွမ်းကျွေးတော်မူ၏။ မင်းကြီး ကိုယ်တော်မှစ၍ မိဘုရားမောင်းမမိဿံ မှူးတော်၊ မတ်တော်တို့သည်လည်း ထိုသလေးဆန်ကိုသာသုံးဆောင် ကုန်၏။ ပျားကြီး၊ ပျားငယ်တို့သည်လည်း နီးရာ အရပ်မှာသာ စွဲလာကုန်၏။ တော၌နေသော ဝံ၊ မျောက် စသောသတ္တဝါတို့သည် ပန်းပဲဖိုသို့ဝင်၍ နေညဉ့်မပြတ် တူပေကိုင်၍ ခတ်ပုတ်ရကုန်၏။ ကရဝိတ်ငှက်တို့သည် လည်း နန်းတော်ဝန်းကျင်အနီးအပါး သာယာလှစွာသော အသံဖြင့် ကျူးရင့်မြည်လာကုန်၏။ ဓမ္မာသောကမင်းကြီး သည် ဘိသိက်ခံ၍သုံးနှစ်သာလျှင် သာသနာမှအပ ဖြစ်သောသူတို့သည် ဟောအပ်သော ပါသဏ္ဍာဒိဋ္ဌိ အယူရှိ သော သူတို့ကိုစုံစမ်းလျက်လှူ၏။ ဘိသိက်ခံ၍ လေးနှစ် မြောက်သောအခါ သာသနာ၌ကြည်ညိုတော်မူ၏။

## ၁၁၉။ စရဏာဇီဝက ဆရာ၏အကြောင်း

တရံရောအခါ ငါသည် ဗမ္ဗူဒိပ်တကျွန်း လုံးကို အစိုးရသော ကေရာဇ်မင်း၏စည်းစိမ်ကိုရတော်မူသည်။ ဤသို့ရလတ္တံ့သောအကြောင်းကို ပဋိသန္ဓေနေစဉ်ကပင် ဆိုဖူးသောသူရှိသလောဟု မယ်တော်မိဘုရားအား မေးတော်မူ၏။ မယ်တော်မိဘုရားလည်း ဆရာစရဏာဇီဝ က ဟောဖူးပါသည်ဟု ရှေးပေ၌ရေး၍ထားသော အခြင်းအရာကိုပြပေ၏။ မင်းကြီးမြင်လျှင် ထိုဆရာသည် အဘယ်အရပ်၌ နေသနည်းဟုမေး၏။ ဤအရပ်မှ ယူဇနာတရာဝေးကွာသောအရပ်၌ နေသည်ဟုဆိုသော် ဓမ္မာသောကမင်းသည် ဆရာအား ပူဇော်သက္ကာရပြုအံ့၊ ရွှေထမ်းစင်ဖြင့်ဆောင်ယူချေဟု စေတော်မူ၏။ စေသော

သူတို့ဆောင်ယူခဲ့ရာ ခရီးအကြား၌ အဿဂုတ္တ ရဟန္တာမထေရ်၏နေရာကိုမြင်လျှင် ထမ်းစင်မှသက်၍ ကျောင်းသို့ ဝင်လေသော် မထေရ်၏မေတ္တာအာနုဘော်ကြောင့် အချင်းချင်းအကျွမ်းဝင်၍ မေတ္တာသက်၍ အညီအညွတ်နေကုန်သော ခြင်္သေ့၊ ကျား၊ အောင်း၊ စိုင်၊ ဝက်၊ သမင်တို့ကိုမြင်လျှင် ဤသည်တို့ကား အဘယ်အမည်ရှိကုန်သနည်းဟု မေးလေ၏။ မထေရ်လည်း စရဏာဓိဝက၏ ရှေးအကြောင်းကောင်းမှုကိုမြင်၍ စရဏာဓိဝကအား မဂ်ဖိုလ်အကြောင်းဖြစ်စေဟု ကြံတော်မူ၍ ဤသူတို့သည် အာယတနမည်၏ဟု မိန့်တော်မူ၏။ ဤသူတို့သည် အဘယ်၌ သွားကုန်သနည်းဟု စရဏာဓိဝကက တဖန်မေးပြန်လျှင် အာယတန၌ သွားကုန်သည်ဟု မိန့်တော်မူ၏။ စရဏာဓိဝကလည်း ကဿပမြတ်စွာဘုရား လက်ထက်ရဟန်းတို့ထံ၌ အာယတနဟူသော တရားအာရုံကို ယူခဲ့ဖူးသောကြောင့် အာယတနဟူသောပုဒ်ကို ကြားနာလျှင် သာသနာတော်၌ ကြည်ညိုသဒ္ဓါ၍ အဿဂုတ္တ ရဟန္တာမထေရ်ထံ၌ ရဟန်းပြုပြီးသော် ဝိပဿနာကို ပွားစေ၍ ရဟန္တာအဖြစ်သို့ရောက်၍ အပူဇော်ခံ မလိုက်လို၍ ထိုအဿဂုတ္တရဟန္တာအထံ၌ပင်နေလေ၏။ ခမည်းတော် ဗိန္ဒုသာရမင်းသည် ပုဏ္ဏားတို့အားငင်း၊ ပုဏ္ဏားအမျိုးဖြစ်သော ပါသဏ္ဍအယူရှိသော ပဏ္ဍုရင်္ဂပရိဗိုဇ်အစရှိသော ခြောက်သောင်းသော သူတို့အားငင်း အမြဲထမင်းကျွေးတော်မူ၏။ ခမ္ဘာသောက မင်းကြီးလည်း ခမည်းတော်ကျွေးတော်မူသောအတိုင်း နန်းတော်အတွင်း၌ ကျွေးတော်မူ၏။ တနေ့သောအခါ ခြင်္သေ့ခံသော လေသာနန်းတံခါး၌ ရပ်တော်မူလျက် ငြိမ်သက်သော အကျင့်ကင်းသဖြင့် စားသောက်ကုန်သော မတည်မရပ်သောဣန္ဒြေ၊ မဆုံးမသော ဣရိယာပုထ် ရှိကုန်သော တိတ္ထိပရိဗိုဇ်ရဟန်းတို့ကို မြင်တော်မူလျှင် ဤသို့သောအလှူခံတို့အား မြတ်သော အလှူခံမဖြစ်ရာ။ စုံစမ်းဆင်ခြင်ရွေးချယ်တော်မူ၍ မြတ်သောအလှူခံတို့အား လှူရခြင်းသည်လျှင် သင့်မြတ်၏ဟု ကြံတော်မူမိလေ၏။ ကြံတော်မူပြီးသော် အမတ်တို့ကိုခေါ်၍ အချင်းတို့၊ မိမိ၏သူတော်ကောင်းဟု သမုတ်အပ်သော ရဟန်းပုဏ္ဏားတို့ကို နန်းတော်တွင်းသို့ သွင်းခဲ့ကုန်၊ အလှူပေးအံ့ဟု မိန့်တော်မူ၏။ အမတ်တို့လည်း မင်းကြီးစကားကိုဝန်ခံ၍ ပရိဗိုဇ်တက္ကတွန်းအစရှိသော သူတို့ကိုဆောင်ယူခဲ့၍ အရှင်မင်းကြီး၊ ဤသူတို့သည်ကား အကျွန်ုပ်တို့၏ရဟန်းတည်းဟု နားတော် လျှောက်ကုန်၏။ မင်းကြီးလည်း နန်းတော်တွင်း၌ ထိုသူတို့နေစရာ ယုတ်ယုတ်မြတ်မြတ်သော နေရာကိုခင်းစေ၍ လာစေကုန်ဟု မိန့်တော်မူ၏။ လာလာသမျှသော တိတ္ထိတို့ကိုလည်း မိမိအား လျောက်ပတ်သောနေရာ၌နေကြကုန်ဟု မိန့်တော်မူ၏။ ထိုတိတ္ထိတို့လည်း အချို့ကား ကြိမ်ဖြင့်ပြုသော အင်းပျဉ်၌နေကုန်၏။ အချို့ကား ပျဉ်ဖြင့်ပြုသော အခင်း၌နေကုန်၏။ ထိုသူတို့၏ ကိုယ်တွင်း၌ သီလအစရှိသော မြတ်သောကျေးဇူးမရှိဟုသိတော်မူ၍ တိတ္ထိတို့အား လျောက်ပတ်ရုံမျှသော ခဲဖွယ်စားဖွယ်တို့ကိုပေး၍ သွားလေစေ၏။

ဤသို့သောနည်းအားဖြင့် ကာလရှည်မြင့်လတ်သော် တနေ့သောနေ့၌ ယဉ်ကျေးသောစိတ်၊ လုံခြုံသောသတိ၊ ငြိမ်သက်သောဣန္ဒြေ၊ ကြည်ညိုစဖွယ်နှင့် ပြည့်စုံသော ဣရိယာပုထ်ရှိလျက်မင်းရင်ပြင်၌ ကြွသွားသော နိဂြောဓမည်သောသာမဏေကို မြင်တော်မူလေ၏။ ထိုသို့မြင်တော်မူသည်ရှိသော် ဤသို့ကြံတော်မူ၏။ ခပ်သိမ်းသော သူအပေါင်းတို့ကား တုန်လှုပ်သော သမင်သားငါးနှင့်အတူ ပျံ့လွင့်သည်ဖြစ်၍ မတည်ကြည်သော နှလုံးရှိကုန်၏။ ဤ ယခု နန်းရင်ပြင်၌ သွားသော သူငယ်ကား တည်ကြည်သောစိတ်လည်းရှိ၏။ တူရူကြည့်ခြင်း၊ စောင်းငဲ့၍ကြည့်ခြင်း၊ လက်ဆစ်ခြေဆစ်ကို ကွေးခြင်းဆန့်ခြင်းသည်လည်း အလွန်တင့်တယ် ကျစ်လျစ်စွာရှိ၏။ ဤသူငယ်၏ကိုယ်တွင်း၌ မချွတ်လျှင် ထူးမြတ်သောတရားရှိသည်ဖြစ်ရာ၏ဟု ကြံတော်မူ၏။

ထိုသာမဏေအားမြင်သောခဏ၌လျှင် ကြည်ညိုခြင်း၊ မြတ်နိုးခြင်းသည်ဖြစ်၏။ အဘယ်ကြောင့် ဖြစ်လေသနည်း ဟူမူကား ရှေးဘဝ၌ ကောင်းမှုပြုသောအခါ နိဗြောဓသာမဏေသည် မွေးသောကမင်း၏အစ်ကိုအကြီး ပျားကုန်သည် ဖြစ်ဘူးလေသောကြောင့်တည်း။ ထို့ကြောင့်လျှင်…

**ပုဗ္ဗေဝ၊ သန္နိဝါသေန၊ ပစ္စုပ္ပန္နဟိတေနဝါ။**

**ဧဝံ တံ ဇာယတေ ပေမံ၊ ဥပ္ပလံဝ ယထောဒကေ။**

။ဟူ၍ မိန့်တော်မူ၏။

ပုဗ္ဗေဝ၊ ရှေးဘဝ၌လျှင်။ သန္နိဝါသေနဝါ၊ အတူတကွနေကြဖူးသဖြင့်ရင်း။ ပစ္စုပ္ပန္နဟိတေ နဝါ၊ မျက်မှောက်သောဘဝ၌ အစီးအပွားကို ကျင့်သဖြင့်ရင်း။ ဧဝံ၊ ဤသို့သော အကြောင်းနှစ်ပါးကြောင့်။ တံပေမံ၊ ထိုချစ်ခြင်းသည်။ ဇာယတေ၊ ဖြစ်၏။ ကိမိဝ၊ အဘယ်ကဲ့သို့ ဟူမူကား။ ဥဒကေ၊ ရေ၌။ ဥပ္ပလံဝါ၊ ကြာဖြူကြာညိုသည်ရင်း။ အညံဝါ၊ တပါးသော ပဒုမာအစရှိသော ကြာသည်ရင်း။ ဇာယတေ ယထာ၊ ဖြစ်သကဲ့သို့တည်း။ ဤသို့ အနက်ပေး။

## ၁၂၀။ ညီအစ်ကိုဖြစ်ဘူးသောအကြောင်း

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ညီအစ်ကိုသုံးယောက်တို့သည် ပျားကုန်သည် ဖြစ်ကြကုန်၏။ ညီအငယ်သည် ပျားကိုရောင်း၏။ အစ်ကိုနှစ်ယောက်တို့သည် တောကပျားကိုဝယ်၍ဆောင်ကုန်၏။ ထိုအခါ ပစ္စေကဗုဒ္ဓါတပါးနာ၍ ပစ္စေကဗုဒ္ဓါတပါးဆေးအလို့ငှာ ပျားလှူခံကြွကြောင်းကိုသိလျှင် ဤအရပ်၌ ပျားကုန်သည်တို့နေ၏။ ထိုအရပ်သို့ကြွပါလေဟု လက်ကိုဖြန့်၍ပြလိုက်၏။ ပစ္စေကဗုဒ္ဓါလည်း ထိုအရပ်သို့သွားလေ၍ ရပ်သည်ကိုမြင်လျှင် ညီအငယ်ပျားကုန်သည်သည် နှစ်သက်ဝမ်းသာ အဘယ်အလို့ငှာ ကြွလာသနည်းဟု မေး၍ ပျားရည်အလိုရှိကြောင်းကိုသိလျှင် ပျားရည်ဖြင့် သပိတ်ကိုပြည့်စေ၍ လှူသည်ရှိသော် ပျားရည်လျှံတက်၍ သပိတ်အနားမှယိုစီးလျက် မြေ၌ကျသည်ကိုမြင်လျှင် ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍ ဤကောင်းမှုကြောင့် ဇမ္ဗူဒိပါကျွန်း၌ ကေရာဇ်မင်းဖြစ်ရပါလို၏။ အာဏာလည်း ကောင်းကင်၌တယူဇနာ၊ မြေ၌ တယူဇနာနှံ့ပါစေလို၏ဟု ဆုတောင်း၏။ ပစ္စေကဗုဒ္ဓါလည်း ပြည့်စုံစေသတည်းဟု အမိန့်တော်ရှိပြီးလျှင် ဂန္ဓမာဒနတောင်သို့ ကြွလေ၍ ပစ္စေကဗုဒ္ဓါအား ဆေးပြုတော်မူ၏။ ညီအငယ်လည်း ပျားလှူပြီးလျှင် အိမ်၌နေလျက် တောမှ ရောက်လာသော အစ်ကိုနှစ်ယောက်တို့ကိုမြင်လျှင် နောင်တော်တို့ စိတ်ကြည်ညိုပါစေကုန်။ ငါ့အဖို့၊ အစ်ကိုတို့အဖို့ ပျားကို ပစ္စေကဗုဒ္ဓါ၏သပိတ်ကိုပြည့်စေ၍ လှူလိုက်သည်ဟုဆို၏။ ထိုနှစ်ယောက်တို့တွင် အစ်ကိုအကြီး အမျက်ထွက်၍ ဒွန်းစဏ္ဍားတို့သည်လည်း သင်္ကန်းဝတ်ကုန်၏။ သင့်လက်က ပျားလှူခံ၍သွားသော သူသည် ဒွန်းစဏ္ဍားဖြစ်လိမ့်မည်ဟုဆို၏။ အလတ်ကား အမျက်ထွက်၍ သင့်ပစ္စေကဗုဒ္ဓါကို သမုဒ္ဒရာတဖက်သို့ ပစ်လိုက်ပါဘိဟု ဆို၏။ နောက်အခါ အစ်ကိုနှစ်ယောက်တို့သည် ညီအငယ်ပြောဆိုသော အလှူ၏အကျိုးနှင့် စပ်သော စကားကိုကြား၍ ဝမ်းမြောက်ကြကုန်၏။ ပျားကုန်သည် နေရာကိုပြသော အိုးထိန်းကျွန်မလည်း ပျားလှူသောသူ ဆုတောင်းသည်ကို ပစ္စေကဗုဒ္ဓါ အမိန့်တော်ရှိ၍ သိရလျှင် ပျားလှူသောသူ၏ မိဘုရားကြီးဖြစ်ပါလို၏ဟု ဆုတောင်း၏။ ထိုသူတို့တွင်ညီအငယ်သည် မွေးသောကမင်းဖြစ်၏။ အိုးထိန်းကျွန်မလည်း အဆင်းလှစွာသော အသန္ဓိမိတ္တာမည်သော မွေးသောကမင်း၏ မိဘုရားကြီးဖြစ်၏။ သမုဒ္ဒရာတဖက်သို့ ပို့လိုက်ပါဘိဟုဆိုသော အစ်ကိုအလတ်ကား သီဟိုဠ်ကျွန်း၌ ဘုန်းတန်ခိုးကြီးစွာသော ဒေဝါနံပိယတိဿမင်းဖြစ်၏။ အစ်ကိုအကြီးကား ဒွန်းစဏ္ဍားဟုဆိုသောကြောင့် ဒွန်းစဏ္ဍားရွာ၌ဖြစ်သော နိဗြောဓသာမဏေဖြစ်၏။ ဤသို့ပျားကုန်သည်ဖြစ်သောအခါ အစ်ကိုကြီးဖြစ်၍ အတူတကွ နေခဲ့ဖူးသောကြောင့် မင်းကြီးအား သာမဏေကိုမြင်လျှင် ချစ်ခင်မြတ်နိုးခြင်း ဖြစ်လေသတည်း။

မင်းကြီးသည် ကောင်းစွာချစ်မြတ်နိုးခြင်းရှိသည်ဖြစ်၍ ထိုသာမဏေကို ပင့်ချေကုန်ဟု အမတ်တို့ကို စေတော်မူ၏။ အမတ်တို့လည်း ပင့်လေကုန်၏။ မင်းကြီးလည်း ပင့်သောအမတ်တို့အား ကြာသည်ဟု တဖန်လျှင် အမတ်နှစ်ယောက် သုံးယောက်တို့ကိုထပ်၍ အကြိမ်ကြိမ် ပင့်စေ၏။ နိဂြောဓသာမဏေသည် အကြိမ်အဖန်များစွာ ပင့်လာသော်လည်း မလျင်တဆောမကြွလာပဲ ပကတိလာမြဲသာ လာတော်မူ၏။ မင်းကြီးလည်း နိဂြောဓသာမဏေ ရောက်တော်မူသော် လျောက်ပတ်သောနေရာ၌နေလောဟုမိန့်တော်မူ၏။ သာမဏေလည်း ထိုမှဤမှကြည့်လတ်သော် တပါးသော ရဟန်းကြီးမရှိဟု သိတော်မူ၍ ထီးဖြူဆောက်သော ရာဇပလ္လင်သို့ကပ်ပြီးသော် သပိတ်လှမ်းစိမ့်သောအခြင်းအရာကို မင်းကြီးအားပြပေ၏။ မင်းကြီးလည်း သာမဏေပလ္လင်အနီးသို့ကပ်သည်ကို မြင်လျှင် ယနေ့ပင် ဤသာမဏေသည် ငါ့နန်းတော်၏ အရှင်ဖြစ်လတ္တံ့သတည်းဟု ကြံတော်မူ၏။ သာမဏေလည်း မင်းကြီးအားသပိတ်ကိုပေးပြီးလျှင် ပလ္လင်သို့တက်၍နေလေ၏။ မင်းကြီးလည်း စားတော်အလို့ငှာစီရင်သော အလုံးစုံသောယာဂုခဲဖွယ် ဆွမ်းအထူးကိုကပ်စေ၏။ သာမဏေလည်းခံ၍ ဘုဉ်းပေးတော်မူ၏။ ဆွမ်းဘုန်းပေးတော်မူပြီးလျှင် မင်းကြီးသည် ချစ်သားတို့အား ဆရာဖြစ်သော မြတ်စွာဘုရားသည် ပေးအပ်သော အဆုံးအမကို သိကုန်၏လောဟုမေး၏။ သာမဏေလည်း မင်းကြီး၊ တစိတ်တဒေသမျှကိုသိ၏ဟု မိန့်တော်မူ၏။ မင်းကြီးလည်း ချစ်သားသိသောတရားကို ငါ့အား ဟောပါလောဟုဆို၏။ သာမဏေလည်း ကောင်းပြီဟုဝန်ခံ၍ မင်းကြီးအား လျောက်ပတ်သောဓမ္မပဒ၌ အပ္ပမာဒဝဂ်ကို ဟောပေ၏။ မင်းကြီးလည်း အပ္ပမာဒေါ အမတံ ပဒံ၊ ပမာဒေါ မစ္စုနောပဒံဟူ၍ ဤမျှဟောသည်ကို ကြားလေသော် အခါခပ်သိမ်းမမေ့မလျော့ဖြစ်၍ ကျင့်ရာသည်ဟု အကျွန်ုပ်သိပြီ၊ ဆုံးအောင်ဟောပါဆို၏။ (အချို့သော ဆရာတို့ကား အဘာသိဟူသောပုဒ်၌ ဟောအံ့ဟူသော အနက်ကိုယူ၍ အလုံးစုံသော အပ္ပမာဒဝဂ်ကိုဟောအံ့ဟူ၍ မှတ်လေသောကြောင့်သာ အဘာသိဟုဆိုသည်။ မင်းကြီး ဂါထာဝက်ကိုကြားလျှင် ချစ်သား ငါသိပြီ၊ ဆုံးစေတော့ ဟုဆိုသောကြောင့် ကြံသည်အတိုင်း အကုန်မဟောပြီ၊ နှစ်ပါဒသာဟောသည်ဟုဆိုကုန်၏။ ထိုစကားသည် မသင့်ဟု ဂဏ္ဌိပုဒ်သုံးပါးတို့၌ ဆို၏။ ဤကား အမှာ)

မင်းကြီးသည် ချစ်သားအား ရှစ်ဦးသော ဆွမ်းဝတ်တို့ကိုလှူပါ၏ဟု မိန့်တော်မူ၏။ သာမဏေလည်း မင်းကြီး၊ ဤရှစ်ဦးသောဆွမ်းဝတ်တို့ကို ငါသည် ဥပဇ္ဈာယ်အားလှူ၏ဟုမိန့်တော်မူ၏။ မင်းကြီးလည်း ချစ်သား၊ ဥပဇ္ဈာယ်ဟူသည်ကား အသို့သောသူနည်းဟု မေးတော်မူ၏။ သာမဏေလည်း အပြစ်ငယ် အပြစ်ကြီးကို ရှု၍ ဤအမှုကို သင်မကောင်းသဖြင့်ပြု၏။ ဤစကားကို မကောင်းသဖြင့်ဆို၏။ ဤသို့ အစရှိသည်ကိုဆို၍ အပြစ်တင်အောက်မေ့စေတတ်သောသူတည်းဟု မိန့်တော်မူ၏။ မင်းကြီးလည်း ချစ်သားအားလှူပြီးသည်မှ တပါးလည်း ရှစ်ဦးသောဆွမ်းဝတ်တို့ကို ချစ်သားအားလှူပါ၏ဟု မိန့်တော်မူပြန်၏။ သာမဏေလည်း မင်းကြီး၊ ထိုရှစ်ဦးသော ဆွမ်းဝတ်တို့ကို ဆရာအား ငါလှူ၏ဟုမိန့်တော်မူ၏။ မင်းကြီးလည်း ချစ်သား၊ ဆရာဟူသည်ကား အသို့သောသူနည်းဟု မေးတော်မူ၏။ သာမဏေလည်း မင်းကြီး၊ ဤသို့သင်သည် ဘုရားစကားတော်ကို ရွတ်အံ သရဇ္ဈာယ်အပ်၏။ ဤသို့ ရှေ့သို့တက်အပ်၏၊ ဤသို့ နောက်သို့ဆုတ်အပ်၏။ အစရှိသည်ဖြင့် အကျင့်ကို သင်ပေးသော သူသည် ဆရာမည်၏ဟုမိန့်တော်မူ၏။ မင်းကြီးလည်း၊ ချစ်သားအားလှူပြီးသည်မှတပါးလည်း ရှစ်ဦးသော ဆွမ်းဝတ်တို့ကို လှူပါ၏ဟု မိန့်တော်မူ၏၊ သာမဏေလည်း မင်းကြီး၊ ထိုဆွမ်းဝတ်တို့ကို ရဟန်းသံဃာတော်တို့အား ငါလှူ၏ဟု မိန့်တော်မူ၏။ ချစ်သား၊ ရဟန်းသံဃာဟူသည်ကား အသို့သောသူနည်းဟု မေးတော်မူ၏။ သာမဏေလည်း မင်းကြီး၊ ရဟန်းသံဃာဟူသည် ငါ့ဆရာ ဥပဇ္ဈာယ်တို့၏ငှင်း၊

ငါ၏ငှင်း၊ သာမဏေပြုခြင်း၊ ပဉ္စင်းခံခြင်း၏မှီရာဖြစ်သော ရဟန်းသံဃာတည်းဟု မိန့်တော်မူ၏။ မင်းကြီးလည်း အတိုင်းထက်အလွန် နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ ချစ်သားအားလှူပြီးသော ဆွမ်းဝတ်တို့မှ တပါးလည်း ရှစ်ဦးသော ဆွမ်းဝတ်တို့ကိုလည်း လှူပါ၏ဟု လျှောက်၏။ သာမဏေလည်း ကောင်းပြီဟုဝန်ခံ၍ ကြွတော်မူလေ၏။ မိုးသောက်သောနေ့၌ သုံးကျိပ်နှစ်ပါး သော ရဟန်းတို့ကိုပင့်၍ နန်းတော်၌ ဆွမ်းဘုဉ်းပေးတော် မူကြလေ၏။ မင်းကြီးလည်း ယနေ့ဆွမ်းဘုဉ်းပေးသော ရဟန်းတို့သည်ငှင်း၊ ဤရဟန်းတို့မှတပါး သုံးကျိပ်နှစ်ပါး သော ရဟန်းတို့သည်ငှင်း၊ ချစ်သားနှင့်အတူ နက်ဖြန် ဆွမ်းခံပါကုန်ဟု မိန့်တော်မူ၏။ ဤသို့သောနည်းဖြင့် ဆတက်ဆတက် နေ့တိုင်းပွားစေလျက် ခြောက်သောင်း သော ပုဏ္ဏားပရိဗိုဇ် အစရှိသည်တို့အား နန်းတော်တွင်း၌ အမြဲဆွမ်းလုပ်ကျွေးတော်မူ၏။ ထိုသို့ ဆွမ်းလုပ်ကျွေးခြင်း သည်လည်း နိဂြောဓသာမဏေ၌ဖြစ်သော ကြည်ညိုခြင်း ဖြင့် လုပ်ကျွေးတော်မူသတည်း။ နိဂြောဓသာမဏေလည်း ပရိသတ်နှင့်တကွသော မင်းကြီးကို သုံးပါးသောသရဏဂုံ၊ ငါးပါးသောသီလ၌ တည်စေ၍ ဘုရားသာသနာတော်၌ ပုထုဇဉ်၏အဖြစ် အားလျော်သော ကြည်ညိုခြင်းဖြင့် မတုန်မလှုပ်သောသဒ္ဓါခြင်းကို ပြု၍ တည်စေတော်မူ၏။ မင်းကြီးလည်း သံဃာတို့နေစိမ့်သောငှာ အသောကာ ရာမကျောင်းကိုဆောက်လုပ်စေ၍ ခြောက်သောင်းသော ရဟန်းတို့အား အမြဲဆွမ်းဝတ်ကို လှူဒါန်းတော်မူ၏။

## ၁၂၁။ ကာလနဂါးကို ခေါ်ခြင်းအကြောင်း

တနေ့သ၌ ဓမ္မာသောကမင်းကြီးသည် ရွှေခြေချင်းအဖွဲ့ကိုစေလွှတ်၍ ကကုသန်အစရှိသော ဘုရားလေးဆူတို့၏ ရအပ်သောအဆင်းတော်ကို ကိုယ်ထင်ဖူးတွေ့လိုက်ရသော ဝိဝဋ္ဋဌာယီ အသချေ်ယျ တကပ်ပတ်လုံး အသက်ရှည်သော ကာလနဂါးကို ဆောင်ယူစေလျက် ထီးဖြူအောက် မြတ်သောသူတို့အား ထိုက်သောပလ္လင်ထက်နေစေ၍များစွာသော အဆင်းအနံ့နှင့် ပြည့်စုံသောကြည်း ပန်း၊ ရေပန်း၊ ရွှေပန်းတို့ဖြင့်ပူဇော်၍ ခပ်သိမ်းသောတန်ဆာတို့ဖြင့် တန်ဆာဆင်သော တသောင်းခြောက်ထောင်သော မောင်းမတို့ကို ထက်ဝန်း ကျင် ရံစေပြီးသော် အဆုံးမရှိသောဉာဏ်နှင့် ပြည့်စုံ တော်မူသော သူတော်ကောင်းတရားတည်းဟူသော မြတ်သောစကြာရတနာကို လည်စေတတ်သော ဘုရားရှင်၏ အဆင်းသဏ္ဌာန်တော်ကို ဤမျက်စိတို့အား ထင်ရှားရှေး၍ ပြုဘိလောဟု မိန့်တော်မူ၏။

ကာလနဂါးကို ဆောင်ယူစေသည်ဟူရာ၌ ကာလနဂါးမင်းသည် ဂင်္ဂါမြစ်၌ချအပ်သော ရွှေခြေချင်း သွားလေ၍ မိမိခြေ၌ကျသောအမှတ်ဖြင့် ရောက်လာရ သတည်း။ ဓမ္မာသောကမင်း၏အာဏာစက်သည် အောက်တယူဇနာထက် အလွန်မနှံ့ရကား ကာလနဂါး ဗိမာန်သည် တယူဇနာ အပိုင်းအခြားအောက်၌တည်လျက် အာဃယ်ကြောင့် မင်းကြီးအာဏာဖြင့် ကာလနဂါးမင်း လာရသနည်းဟူမူကား။ ကာလနဂါးဗိမာန်သည် တယူဇနာအပိုင်း အခြားအောက်၌တည်သော်လည်း မင်းကြီးအာဏာနှံ့ရာအရပ်နှင့် တစပ်တည်းဖြစ်သော ကြောင့် မင်းကြီး အာဏာကို လိုက်နာရသတည်း။ ဥပမာသော်ကား ပြည်အပိုင်းအခြားတို့၏ အကြား၌ နေသော သူတို့သည် ထိုထိုမင်းတို့ နှိပ်စက်သည်ရှိသော် ထိုထိုမင်းတို့၏အာဏာသို့ လိုက်ရသကဲ့သို့တည်းဟု သာရတ္ထဒီပနီဋီကာ၌ ဆိုသည်။ ရာဇဝင်ကြီးမှာ ရွှေခြေချင်းကို မဟာသမုဒ္ဒရာသို့ ချလိုက်ကြောင်း၊ ကာလနဂါးမင်း၏ နေရာဗိမာန်သည် မြေအောက် တယူဇနာအတွင်း၌ဖြစ်၍ လာရကြောင်း၊ ၎င်း ကာလနဂါးမင်း၏ အသက်လည်း မဟာကပ်ပတ်လုံး နေရသကဲ့သို့ဆိုကြောင်းများသည် သာရတ္ထဒီပနီဋီကာနှင့် မညီလေ။ (ဤကား စကားချပ်)။ ကာလနဂါးမင်းသည် ဘုရားသခင်အသွင်တော်ကို ဘန်ဆင်းပေး၏။ မင်းကြီး လည်း ကာလနဂါးမင်းသည် ဘန်ဆင်းအပ်သော ရှစ်ဆယ်

သော လက္ခဏာငယ်တို့ဖြင့် တန်ဆာဆင်လျက် သုံးဆဲ့နှစ်ပါးသောယောကျ်ားမြတ်တို့၏ လက္ခဏာတော်ကြီးတို့ဖြင့် တင့်တယ်ခြင်းရှိသည်၏အဖြစ်ကြောင့် နေရောင်သင့်သဖြင့် ပွင့်သော ကြာပဒုမာ၊ ကြာညို၊ ကြာပုဏ္ဍရိတ်တို့ဖြင့် တန်ဆာဆင်အပ်သော ရေအပြင်၊ ကြယ်အပေါင်းတို့၏ ရောင်ခြည်ကွန်ရက်ဖြန့်သဖြင့် ပြိုးပြိုးပြက်ပြက် တင့်တယ်စွာ တောက်ပသော ကောင်းကင်အပြင်ကဲ့သို့ အညို, အရွှေ, အနီ-အစရှိသော ဆန်းကြယ်သော ရောင်ခြည်တို့ဖြင့် မေးရစ်လျက် တလံမျှ လောက်သော ရောင်ခြည်တော်အဝန်းဖြင့် တင့်တယ်သော ဆည်းဆာရောင်၊ သက်တင်ရေးလျှပ်စစ်နွယ်တို့ဖြင့် ခြံရံအပ်သော ရွှေတောင်ထွဋ်ကဲ့သို့ အထူးထူးသော တပ်စွန်းခြင်း အညစ်အကြေးကင်းသော ဦးခေါင်းတော်မှ ထွက်လတ်၍ ထိပ်တော်၏အထက်၌ အစုထင်သော ကေတုမာလာရောင်ဖြင့် တောက်ပသော နှစ်သက်စဖွယ်သော ဦးခေါင်းတော်၏ တင့်တယ်ခြင်းရှိသော ဗြဟ္မာ၊ နတ်၊ လူ၊ နဂါး၊ ဘီလူးအပေါင်းတို့၏ မျက်စိအရသာ၏ တည်ရာဖြစ်သော ဘုရားသခင်အဆင်းတော်ကိုမြင်လျှင် နှစ်သက်ဝမ်းမြောက်ခြင်းရှိ၍ ခုနစ်ရက်ပတ်လုံး စားတော်မခေါ်ဘဲ ရပ်တိုင်းသာလျှင် မပျံ့မလွင့် တည်ကြည်သော စိတ်ရှိသည်ဖြစ်၍ ကြည်ညိုသဖြင့် ချမ်းမြေ့သော မျက်စိတို့ဖြင့် အခြားမဲ့မပြတ် ဘုရားသခင်အဆင်းတော်ကိုသာ ကြည့်လျက် မျက်စိဖြင့်ပူဇော်ခြင်းမည်သည်ကို ပြုတော်မူ၏။

## ၁၂။ မောဂ္ဂလိပုတ္တတိဿမထေရ်၏အကြောင်း

မောဂ္ဂလိပုတ္တတိဿမထေရ်အကြောင်းကို ဆိုလိုက်ပေဦးအံ့။ ဒုတိယသင်္ဂါယနာ တင်ကုန်ပြီးသော် ရဟန္တာမထေရ်မြတ်တို့သည် နှောင်သောအခါ သာသနာတော်၌ ဤသို့သောဘေးရန်ဖြစ်လတ္တံ့လောဟု ကြည့်တော်မူကြလျှင် ဤသို့သောအကြောင်းကို မြင်လေကုန်၏။ ဤနှစ်မှအထက်၌ တရာ့တဆဲ့ရှစ်နှစ် ရောက်သော အခါ ပါဋလိပုတ်ပြည်၌ ဓမ္မာသောကအမည်ရှိသောမင်း အဘိသိက်ခံ၍ ဇမ္ဗူဒိပ်ကျွန်းအလုံး၌ မင်းပြုလတ္တံ့၊ ထိုဓမ္မာသောကမင်းသည် ဘုရားရှင်သာသနာတော်၌ ကြည်ညို၍ ကြီးစွာသော ပူဇော်သက္ကာကိုပြုလတ္တံ့၊ တိတ္ထိတို့သည် လာဘ်ပူဇော်သက္ကာကိုတောင့်တကုန်လျက် သာသနာတော်၌ ကြီးစွာသောဘေးရန်ဖြစ်လတ္တံ့ဟု မြင်တော်မူလေကုန်၏။ ထိုသို့ ဘေးရန်ဖြစ်ခဲ့သော် ငါတို့၏မျက်မှောက်၌ ဖြစ်ကုန်အံ့လောဟုကြည့်ပြန်သော် အလုံးစုံသောရဟန်းတို့သည် မျက်မှောက်မဖြစ်လတ္တံ့သည်ကိုသိ၍ အဘယ်သူသည် ဤဘေးရန်ကို ငြိမ်းစေနိုင်လတ္တံ့နည်းဟု လူ့ပြည် နတ်ပြည်အလုံးကို ကြည့်လတ်သော် တစုံတယောက်သောသူကိုမမြင်၍ ဗြဟ္မာ့ပြည်၌ စုတေခါနီး အထက်ဗြဟ္မာ့ပြည်၌ဖြစ်မည့်အကြောင်း ဈာန်ရှိသော တိဿဗြဟ္မာကြီးကို မြင်လေကုန်၏။ မြင်လေလျှင် ငါတို့သည် ထိုတိဿဗြဟ္မာကြီး၏ လူ့ပြည်၌ဖြစ်ခြင်းငှာ အားထုတ်ခြင်းကိုပြုကုန်သည်ဖြစ်အံ့။ ထိုဗြဟ္မာကြီးသည် မောဂ္ဂလိပုဏ္ဏေးမဝမ်း၌ ပဋိသန္ဓေနေလတ္တံ့။ ရဟန်းပြု၍ ဘုရားစကားတော်အလုံးကိုသင်ပြီးလျှင် ပဋိသမ္ဘိဒါတို့နှင့်ပြည့်စုံ၍ တိတ္ထိတို့ကို နှိမ်နင်းလျက် အဓိကရဏ်းကိုဆုံးဖြတ်၍ သာသနာတော်ကို ချီးမြှောက်လတ္တံ့ဟုကြံကုန်၏။ ကြံပြီးသော် ထိုရဟန္တာအရှင်မြတ်တို့သည် ဗြဟ္မာ့ပြည်သို့ ချဉ်းသွားလေ၍ တိဿဗြဟ္မာကြီးကို ဤနှစ်မှအထက်၌ တရာ့တဆဲ့ရှစ်နှစ်ရောက်သောအခါ သာသနာတော်၌ ဘေးရန်ကြီးစွာ ဖြစ်လတ္တံ့။ ငါတို့သည် အလုံးစုံသော လူ့ပြည်နတ်ပြည်ကိုကြည့်ကုန်သော် သာသနာတော်ကို ချီးမြှောက်နိုင်မည့်သူကိုမမြင်၍ ဗြဟ္မာ့ပြည်ကို စုံစမ်းကုန်သည်ရှိသော် သင်ဗြဟ္မာကိုမြင်ကုန်၏။ သူတော်ကောင်းဖြစ်သော ဗြဟ္မာကြီး၊ ငါတို့တောင်းပန်ကုန်၏။ လူ့ပြည်၌ ဖြစ်၍ ဘုရားသခင် သာသနာတော်ကို ချီးမြှောက်ခြင်းငှာ ဝန်ခံခြင်းကိုပေးပါဟု ဆိုကုန်၏။ ဤသို့ ရဟန္တာအရှင်တို့ ဆိုကုန်သော ဗြဟ္မာကြီးလည်း၊ ငါကား သာသနာတော်၌ ဘေးရန်ကို သုတ်သင်၍ သာသနာတော်ကို ချီးမြှောက်ခြင်း

ဗှာ စွမ်းနိုင်သည်ဖြစ်လတ္တံ့ဟု အလွန်ရွှင်လန်း ဝမ်းမြောက်သော စိတ်ရှိသည်ဖြစ်၍ ဝန်ခံခြင်းကိုပေးလေ၏။ ရဟန္တာအရှင်မြတ်တို့လည်း ဗြဟ္မာ့ပြည်၌ ပြုခင်းပြုဖွယ်ပြီးလျှင် လူ့ပြည်သို့ ပြန်လာကုန်၏။ ထိုအခါ၌ သိဂ္ဂဝမထေရ်၊ စဏ္ဍဝဇ္ဇိတမထေရ် ဤနှစ်ပါးတို့သည် ရဟန်းငယ်သာ ဖြစ်ကုန်၏။ ပိဋကတ်သုံးပုံကိုဆောင်ကုန်၏။ ပဋိသမ္ဘိဒါသို့ ရောက်သော ရဟန်းဖြစ်ကုန်၏။ ထိုမထေရ်နှစ်ပါးတို့သည် ဒုတိယသင်္ဂါယနာတင်သော အဓိကရုဏ်းသို့ မရောက်လာကြကုန်။ ရဟန္တာမထေရ်ကြီးတို့သည် သင်တို့နှစ်ပါးကား ငါတို့၏အဓိကရုဏ်း၌ အပေါင်းအဘော် မဖြစ်ကြကုန်။ ထိုသို့ မဖြစ်သောကြောင့် သင်တို့နှစ်ပါးအား ဤဒဏ်အမှု ဖြစ်စေ။ တိဿမည်သောဗြဟ္မာသည် မောဂ္ဂလိပုဏ္ဏေးမ၏အိမ်၌ ပဋိသန္ဓေနေလတ္တံ့။ သင်တို့နှစ်ယောက်တွင် တယောက်ကား ထိုသူကိုရဟန်းပြု။ တယောက်ကား ဘုရားစကားတော်ကိုသင်ဟုဆို၍ အလုံးစုံသော ရဟန္တာအရှင်မြတ်တို့သည် အသက်အတိုင်းတည်တော်မူပြီး၍ ပရိနိဗ္ဗာန်ပြုလေကုန်၏။

တိဿဗြဟ္မာလည်း ဗြဟ္မာ့ပြည်မှစုတေ၍ မောဂ္ဂလိပုဏ္ဏေးမဝမ်း၌ ပဋိသန္ဓေယူလေ၏။ သိဂ္ဂဝမထေရ်လည်း တိဿဗြဟ္မာ ပဋိသန္ဓေနေသည်မှစ၍ ခုနစ်နှစ်ပတ်လုံး ပုဏ္ဏားအိမ်ကိုဆွမ်းခံဝင်တော်မူ၏။ တနေ့မျှလည်း တမှုတ်သောယာဂု၊ တဟင်းချိုသော ဆွမ်းမရ။ ခုနစ်နှစ်လွန်သဖြင့်ကား တနေ့သ၌ ကန်တော့ပါ၏ဟူသော စကားကိုရလေ၏။ ထိုနေ့၌လည်း ပုဏ္ဏားသည် ပြင်မှတစုံတခု ပြုဖွယ်ကိစ္စကိုပြု၍ လာလတ်သော် ခရီးရင်ဆိုင်မထေရ်ကိုမြင်၍ ရှင်ရဟန်း၊ ငါတို့အိမ်သို့ သွားချေသလောဟုဆို၏။ သွားချေ၏ပုဏ္ဏား-ဟုဆိုသော် တစုံတခုကိုရခဲ့ပါသလောဟုမေး၏။ ရခဲ့၏ဟုဆိုသော် ထိုပုဏ္ဏားသည် အိမ်သို့ရောက်လျှင် ပုဏ္ဏေးမအား တစုံတခုကို ရဟန်းအားလှူလိုက်ကြသလောဟုမေး၏။ တစုံတခုကိုမျှ မလှူလိုက်ဟုဆိုသော် ပုဏ္ဏားသည် မိုးသောက်သောနေ့ ထိုရဟန်းကို မုသာဝါဒဖြင့် နှိမ်အံ့ဟူ၍ အိမ်တံခါး၌နေလင့်၏။ မထေရ်လည်း မိုးသောက်သောနေ့ ပုဏ္ဏားအိမ်တံခါးသို့ရောက်လာ၏။ ပုဏ္ဏားလည်း မထေရ်ကိုမြင်လျှင် ယမန်နေ့ ရှင်ရဟန်းတို့သည် ငါတို့အိမ်၌ တစုံတခုမရပဲကိုလျက် ရသည်ဟုဆို၏။ ရှင်ရဟန်းတို့အား မုသားဆိုခြင်းသည် အပ်သလောဟုဆို၏။ မထေရ်လည်း ပုဏ္ဏား ငါတို့သည် သင့်အိမ်၌ ခုနစ်နှစ်ပတ်လုံး ကန်တော့စကားမျှကိုလည်း မရမူ၍ ယမန်နေ့က ကန်တော့စကားမျှကိုလည်း ရပေကုန်၏။ ထိုသို့ အစေ့အစပ်ရသည်ကိုစွဲ၍ ရပေသည်ဟုဆိုကုန်၏။ ပုဏ္ဏားလည်း ဤရဟန်းတို့ကား အစေ့အစပ်မျှရသည်ကိုမျှလည်း ရ၏ဟု ချီးမွမ်းကုန်၏။ တစုံတခု ခဲဖွယ်ဘောဇဉ်ကို ရလေသော် အဘယ်ကြောင့် မချီးမွမ်းကုန်အံ့နည်းဟု ကြည်ညို၍ မိမိ၏အကျိုးငှာ ပြီးစေအပ်သော ထမင်းမှတဟင်းချိုမျှသောဆွမ်း၊ ထိုဆွမ်းအား လျောက်ပတ်သော ဟင်းလျာကိုလှူစေ၍ ဤဆွမ်းကို အခါခပ်သိမ်း ရှင်ရဟန်းတို့သည် ရလတ္တံ့ဟုဆို၏။ ပုဏ္ဏားလည်း

မိုးသောက်သောနေ့မှစ၍ ကပ်လာသော မထေရ်၏ ငြိမ်သက်ခြင်းကိုမြင်လျှင် အလွန်ကြည်ညို မိမိအိမ်၌ အမြဲဆွမ်းဘုဉ်းပေးစိမ့်သောငှာ မထေရ်ကိုတောင်းပန်၏။ မထေရ်လည်း သည်းခံတော်မူ၏။ နေ့တိုင်းနေ့တိုင်း ဆွမ်းစားကိစ္စပြု၍သွားသော် အတန်ငယ် ဘုရားစကားတော် ကိုပြော၍ သွား၏၊ ဗြဟ္မာ့ပြည်မှ ဖြစ်လာသော လုင်ငယ်လည်းချမ်းသာသဖြင့် အစဉ်အတိုင်း ကြီး၍ တဆဲ့ခြောက်နှစ် မြောက်လျှင် ဗေဒင်သုံးပုံတို့၏ အပြီးသို့ရောက်၏။ ဗြဟ္မာ့ပြည်မှလာသော စင်ကြယ်သော သူငယ်၏ နေရာအိပ်ရာ၌ တစုံတယောက်မျှ မနေမအိပ်ရ။ လုလင်ငယ် ဆရာ့အိမ်သို့သွားသောအခါ ထိုလုလင်ငယ်၏ ညောင်စောင်းအင်ပျဉ်ကို ပုဆိုးဖြူဖြင့် ရစ်၍သာ ထားခဲ့၏။ မထေရ်လည်း လုလင်ငယ်ကို ရဟန်းပြုချိန်တန်ပြီ၊ ဤအိမ်သို့ ငါလာသည်လည်း ကြာမြင့်ပြီ။ တစုံတခု လုလင်ငယ်နှင့်စကားပြောခြင်း မဖြစ်ရသေး။ ယခု ဤအကြောင်းဖြင့် နေရာကိုမှီ၍

စကားပြော ပြောခြင်းဖြစ်လတ္တံ့ဟုကြံတော်မူ၍ အိမ်သို့ ရောက်လျှင် ပုဏ္ဏားအိမ်၌ လုလင်ငယ်နေရာမှ တပါး တစုံတခုသောနေရာကို မမြင်အောင် စီရင်တော်မူ၏။ ပုဏ္ဏားအိမ်သားတို့သည် မထေရ်လာသည်ကိုမြင်၍ လုလင်ငယ်နေရာမှတပါး တစုံတခုသော နေရာကို မမြင်လျှင် လုလင်ငယ်နေရာကိုခင်း၍ မထေရ်အားပေးလေ၏။ မထေရ်လည်း နေရာ၌နေတော်မူ၏။ လုလင်ငယ်လည်း ထိုခဏပင် ဆရာ့အိမ်မှလာ၍ မိမိနေရာ၌နေလင့်သော မထေရ်ကိုမြင်လေသော် အမျက်ထွက်သည်ဖြစ်၍ ဘယ်သူ ငါ့နေရာကို ရဟန်းဖို့ခင်းပေးသနည်းဟု ဆိုလေ၏။ မထေရ်လည်း ဆွမ်းစားပြီး၍ လုလင်ငယ်၏ပြင်းထန်သော အမျက်ငြိမ်းသောအခါ လုလင်ငယ်၊ တစုံတခု ဗေဒင်တတ်သလောဟု မေး၏။ လုလင်လည်း ရှင်ရဟန်း၊ ငါဗေဒင်ကိုမတတ်သော် ငါမှတပါး အဘယ်သူတတ်အံ့နည်းဟုဆို၍ ရှင်ရဟန်းတို့ကား ဗေဒင်တတ်သလောဟု ဆို၏။ သိဂ္ဂဝမထေရ်လည်း လုလင်မေးတော့ မေးလျှင် သိရလတ္တံ့ဟုဆို၏။ ထိုသို့ဆိုသောအခါ လုလင်သည် ဗေဒင်သုံးပုံ၌ မိမိလည်းမမြင်၊ ဆရာလည်း မမြင်နိုင်သော ခဲခက်ရာအဆစ်အဖုတို့၌ မထေရ်ကိုမေးလေ၏။ မထေရ်သည် ပြကတေ့အားဖြင့်ပင် ဗေဒင်သုံးပုံတို့၏ အပြီးသို့ ရောက်၏။ ယခုကား ပဋိသမ္ဘိဒါလေးပါးသို့ရောက်ပြီ။ ထို့ကြောင့် လုလင်မေးသောပြဿနာတို့ကို ဖြေခြင်း၌ ခဲယဉ်းသည်မရှိ။ မေးသောခဏ၌သာလျှင် ပြဿနာတို့ကို ဖြေပြီး၍ လုလင်၊ ငါ့ကို အကြိမ်များစွာမေးလေပြီ။ သင့်ကိုလည်း ယခုတခုသော ပြဿနာကို ငါမေးအံ့၊ ဖြေလတ္တံ့လောဟုဆို၏။ ရှင်ရဟန်းမေးကာသာမူ ဖြေအံ့ဟုဆိုလျှင် မထေရ်လည်း စိတ္တယမိုက်၌။ ။ ယဿစိတ္တံ ဥပ္ပဇ္ဇတိနနိရုဇ္ဈတိ၊ တဿစိတ္တံ နိရုဇ္ဈိဿတိ နဥပ္ပဇ္ဇိဿတိ။ ယဿဝါပန စိတ္တံ နိရုဇ္ဈိဿတိ နဥပ္ပဇ္ဇိဿတိ။ တဿစိတ္တံ ဥပ္ပဇ္ဇတိ နနိရုဇ္ဈတိ။ ဟူ၍ စုတိစိတ်နှင့် ပြည့်စုံသော ရဟန္တာ၏စုတိစိတ်၏ ဥပါဒက္ခဏကိုရည်၍ ဤပြဿနာကို မေးတော်မူ၏။ ယဿ၊ အကြင်ပုဂ္ဂိုလ်၏။ စိတ္တံ၊ စုတိစိတ်သည်။ ဥပ္ပဇ္ဇတိ၊ ဖြစ်ဆဲ။ နနိရုဇ္ဈတိ၊ ချုပ်ဆဲမဟုတ်။ တဿ၊ ထိုပုဂ္ဂိုလ်၏။ စိတ္တံ၊ စုတိစိတ်သည်။ နနိရုဇ္ဈိဿတိ၊ ချုပ်လတ္တံ့။ နဥပ္ပဇ္ဇိဿတိ၊ မဖြစ်လတ္တံ့လော။ ယဿဝါ ပန၊ အကြင်ပုဂ္ဂိုလ်၏ကား။ စိတ္တံ၊ စုတိစိတ်သည်။ နိရုဇ္ဈိဿတိ၊ ချုပ်လတ္တံ့။ နဥပ္ပဇ္ဇိဿတိ၊ မဖြစ်လတ္တံ့။ တဿ၊ ထိုပုဂ္ဂိုလ်၏။ စိတ္တံ၊ စုတိစိတ်သည်။ ဥပ္ပဇ္ဇတိ၊ ဖြစ်ဆဲ။ နနိရုဇ္ဈတိ၊ ချုပ်ဆဲမဟုတ်လော။ ဤသို့ အနက်ပေး။

လုလင်လည်း အထက်ပုဒ်နှင့်အောက်ပုဒ်၊ အောက်ပုဒ်နှင့် အထက်ပုဒ်ကိုဆောင်ခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ ရှင်ရဟန်း၊ ဤဗေဒင်ကား အဘယ်ဗေဒင်နည်းဟုဆို၏။ ဘုရားဗေဒင်မည်၏ဟုဆိုသော် ငါတို့အားလည်း ဤဗေဒင်ကိုပေးနိုင်ပါအံ့လောဟုဆို၏။ ငါတို့ကဲ့သို့ ရဟန်းပြုသောသူအား ပေးနိုင်၏ဟုဆိုသော် ထိုလုလင်သည် မိဘတို့ကိုကပ်လေ၍ ဤရဟန်းသည် ဘုရားဗေဒင်မည်သည်ကိုတတ်၏။ ရဟန်းမပြုသောသူအားလည်း မပေးလို။ ငါသည် ထိုရဟန်းအထံ၌ ရဟန်းပြု၍ ဗေဒင်သင်ပါအံ့ဟုဆို၏။ လုလင်မိဘတို့သည် ရဟန်းပြု၍ ငါတို့သား ဗေဒင်ကိုသင်ပါစေ။ သင်၍ပြီးလျှင် လာလတ္တံ့ဟု မှတ်ကုန်၍ ချစ်သား၊ သင်ပါတော့ဟု ခွင့်ပြုလေကုန်၏။ မထေရ်လည်း လုလင်ငယ်ကိုရဟန်းပြု၍ ဒွတ္တိံသာကာရ ကမ္မဋ္ဌာန်းကို ရှေးဦးစွာပေးတော်မူ၏။ သာမဏေလည်း ဒွတ္တိံသာကာရ ကမ္မဋ္ဌာန်းကိုစီးဖြန်းသော် မကြာမြင့်မီ သောတာပန်ဖြစ်လေ၏။ မထေရ်လည်း သာမဏေကား သောတာပန်ဖြစ်ပြီ။ သာသနာတော်မှ ပြန်ခြင်းငှာ မထိုက်ပြီ။ သာမဏေအား ကမ္မဋ္ဌာန်းကို ပွားစေ၍ပြောငြားအံ့၊ ရဟန္တာအဖြစ်သို့ရောက်၍ ဘုရားစကားတော်ကို သင်ခြင်းငှာ အားမထုတ်သည် ဖြစ်ရာ၏။ သာမဏေကို စဏ္ဍဝဇ္ဇိတ မထေရ်အထံသို့ သွား၍ ဘုရားစကားတော်ကို သင်ချေဟု ဆို၏။ ဆရာအား ပြုအပ်သော အလုံးစုံအခြင်းအရာဝတ်တို့ကို ကြားပြီးလျှင်စေလွှတ်လိုက်၏။ သာမဏေလည်း ဆရာကို

ရှိနိုးပြီးသော် စဏ္ဍာဝဇ္ဇီတမထေရ်လည်း သာမဏေကို စုံစမ်းပြီးလျှင် သာမဏေရောက်လာသည်မှ ရှစ်ရက်မြောက်သောနေ့ကစ၍ ဘုရားစကားတော်ကို သင်စေ၍ ပုဏ္ဏားသားငယ် တိဿသည် သာမဏေသာဖြစ်သေးလျက် ဝိနည်းပိဋကတ်မှတပါး အလုံးစုံသော ဘုရားစကားတော်ကို အဋ္ဌကထာနှင့်တကွ သင်၏။ ပဉ္စင်းဖြစ်သောအခါကား တဝါမရမီပင် ပိဋကတ်သုံးပုံကို ဆောင်၏။ ဆရာဥပဇ္ဈာယ်တို့သည် မောဂ္ဂလိ ပုတ္တတိဿမထေရ်၏နှလုံး၌ အလုံးစုံသော ဘုရားစကားတော်ကို တည်စေ၍ အသက်အတိုင်း တည်တော်မူကုန်ပြီးလျှင် ပရိနိဗ္ဗာန်ပြုလေကုန်၏။ မောဂ္ဂလိပုတ္တတိဿမထေရ်လည်း နောင်အခါ ကမ္မဋ္ဌာန်းကို ပွားစေ၍ ရဟန္တာဖြစ်ပြီးသော် များစွာသော ရဟန်းတို့ အား သုတ်, အဘိဓမ္မာ, ဝိနည်းကို သင်စေတော်မူကုန် ၏။ (ဤမောဂ္ဂလိပုတ္တတိဿမထေရ်အကြောင်းကို နောက်၌ဆိုရလတ္တံ့ဖြစ်၍ ယခုရေးပြလိုက်သည်)။

## ၁၂၃။ တိဿမည်သော အိမ်ရှေ့မင်း၏ ယုံမှားခြင်းကို ပယ်ဖျောက်၍သာသနာတော်၌ ရဟန်းပြုကြောင်း

ဓမ္မာသောကမင်းကြီး အဘိသိက်ခံတော်မူ၍ လေးနှစ်မြောက်သောအခါ တိဿအမည်မရှိသော ညီတော်အိမ်ရှေ့မင်းသည် တနေ့သ၌ တောကစားသွားလေသော် တော၌ မြူးထူးသော သမင်အပေါင်းကိုမြင်၍ ဤသို့ကြံ၏။ မြက် သစ်ရွက်ကိုစားကုန်သော သမင်တို့လျက်လည်း မြူးထူးကုန်၏။ ရဟန်းတို့သော်ကား မင်းကြီးအိမ်တော်၌ ကောင်းမြတ် နူးညံ့သိမ်မွေ့သော ဘောဇဉ်အရသာတို့ကို ဘုဉ်းပေးကုန်လျက်၊ နူးညံ့သိမ်မွေ့ကောင်းမွန်သော အခင်းအိပ်ရာ၌ အိပ်ကုန်လျက် အဘယ်သို့လျှင် မြူးထူးခြင်းကိုမပြုပဲ ရှိရာအံ့နည်းဟု ကြံ၏။ ထိုအိမ်ရှေ့မင်းသည် တောကစားရာမှ ပြန်လတ်သော် တော၌အကြံဖြစ်သည့် အတိုင်း နောင်တော်မင်းကြီးအားလျှောက်ပေ၏။ မင်းကြီးလည်း အိမ်ရှေ့မင်းကား အရာမဟုတ်သည်၌ အကြံဖြစ်ဘိ၏။ အိမ်ရှေ့မင်းကိုအကြောင်းဖြင့် သိစေအံ့ဟုကြံတော်မူ၍ တစုံတခုသောအကြောင်းဖြင့် အမျက်တော်ရှိသကဲ့သို့ ပြု၍ အိမ်ရှေ့မင်း၊ ပြည်ကိုခုနစ်ရက် မင်းပြုလော့။ ခုနစ်ရက်လွန်သော် သင့်ကိုငါသတ်အံ့ဟု သေဘေးဖြင့်ခြိမ်း၍ ထိုအကြောင်းကိုသိစေ၏။ အိမ်ရှေ့မင်းလည်း ခုနစ်ရက်လွန်လျှင် နောင်တော် ငါ့ကိုသတ်လတ္တံ့ဟု အလိုအတိုင်း ရေမချိုး မစားမသောက်၊ အလွန်ခေါင်းပါးညစ်ညူးသော ကိုယ်ရှိ၏။ ထိုအခါ မင်းကြီးသည် အိမ်ရှေ့မင်းကို သင်ကား အဘယ်ကြောင့် ခေါင်းပါးညစ်ညူးသော ကိုယ်ရှိသနည်းဟု မေးတော်မူ၏။ အရှင်မင်းကြီး၊ သေဘေးကိုကြောက်သောကြောင့် ဤသို့ဖြစ်သည်ဟုလျှောက်သော် ဟယ် အိမ်ရှေ့မင်း၊ သင်သည် ခုနစ်ရက်ဖြင့် ပိုင်းခြားအပ်သောဘေးကိုမြင်ကာမျှဖြင့် မမြူးထူးသေးတုံ၏ရှင့်။ ရဟန်းတော်အရှင်တို့ကား ထွက်သက် ဝင်သက်နှင့်စပ်သော သေခြင်းတရားကို နေ့ညဥ့်ရှုကုန်လျက် အဘယ်မှာလျှင် မြူးထူးကုန်အံ့နည်းဟု မိန့်တော်မူ၏။ ညီတော်အိမ်ရှေ့မင်းသည် ထိုနေ့မှစ၍ သာသနာတော်၌ ကြည်ညိုလေ၏။ အိမ်ရှေ့မင်းသည် တဖန်လည်း တနေ့သ၌ သမင်တောသို့သွား၍တော၌လှည့်ပတ်သော် ဆင်ပြောင်ကြီးတစီးသည် အင်ကြင်းခက်ကိုယူ၍ ယပ်ခပ်လျက်နေသော၊ ယောနကတိုင်းမှလာ၍ ပါဋလိပုတ်ပြည်၌ ရဟန်းပြုသော၊ မဟာဓမ္မရက္ခိတထေရ်ကိုမြင်လေသော် ဝမ်းမြောက်ဝမ်းသာ ငါလည်း ဤမထေရ်ကဲ့သို့ အဘယ်သောအခါ ရဟန်းပြုပါရအံ့နည်းဟုကြံ၏။ မဟာဓမ္မရက္ခိတမထေရ်သည်လည်း အိမ်ရှေ့မင်းမြင်စဉ်လျှင် ကောင်းကင်သို့ ပျံတက်လေ၍ အသောကာရာမ အရပ်၏အနီး လေးထောင့်ကန် ရေအပြင်၌ရပ်လျက် ကောင်းကင်၌ ခါးပန်းကိုတန်းပြု၍ ထိုခါးပန်းတန်း၌ ဝတ်ရုံသောသင်္ကန်းကိုဆွဲလျက် ရေချိုးတော်မူ၏။ အိမ်ရှေ့မင်းသည် မဟာဓမ္မ ရက္ခိတထေရ်၏ တန်ခိုး

အာနုဘော်ကိုမြင်လျှင် အလွန် ကြည်ညိုသည်ဖြစ်၍ ယနေ့ပင် ရဟန်းပြုအံ့ဟုကြံလျက် တောမှပြန်ခဲ့၍ အကျွန်ုပ်ရဟန်းပြုပါအံ့ဟု မင်းကြီးအား လျှောက်လေ၏။ မင်းကြီးသည် မြတ်နိုးသော နှလုံးတော်ရှိသည်ဖြစ်၍ အထူးထူးသော တောင်းပန်ခြင်းတို့ဖြင့် တောင်းပန်သော်လည်း မတတ်နိုင်လျှင် အသောကာရာမသို့ သွားသောခရီးကို တန်ဆာဆင်စေလျက် အိမ်ရှေ့မင်းကို ပွဲသဘင်ပြုစေ၍ တန်ဆာဆင်သောစစ်သည်ဖြင့်ခြံရံလျက် ကျောင်းသို့ဆောင်လေ၏။ အိမ်ရှေ့မင်းလည်း အခြံအရံ တထောင်နှင့်တကွ ဆိတ်ငြိမ်သောကျောင်းသို့သွား၍ မဟာဓမ္မရက္ခိတမထေရ်အထံ၌ ရဟန်းပြုလေ၏။ အိမ်ရှေ့မင်းအခြံအရံ တထောင်နှင့်တကွ ရဟန်းပြုလေသည်ဟုကြားလျှင် လိုက်၍ရဟန်းပြုလေသော သူတို့ကား အရေအတွက် အတိုင်းအရှည် မရှိလျှင် များသတည်း။ ထိုအခါ ဓမ္မာသောကမင်းကြီး၏ သမီးတော် သင်္ဃမိတ္တာ မင်းသမီး၏ခင်ပွန်း အဂ္ဂိဗြဟ္မာအမည်ရှိသော မင်းသားသည် ရှိ၏၊ သင်္ဃမိတ္တာ မင်းသမီးသည် ထိုမင်းသားနှင့် အိမ်သင့်၍ သုမနမင်းသားကို မျက်နှာမြင်၏။ ထိုမင်းသားသည်လည်း အိမ်ရှေ့မင်း ရဟန်းပြုသည်ဟုကြားလျှင် မင်းကြီးအထံသွား၍ အကျွန်ုပ်လည်း ရဟန်းပြုပါအံ့ဟု တောင်းပန်လေ၏။ မင်းကြီးလည်း ချစ်သားအလိုရှိသော် ရဟန်းပြုလေတော့ဟု ခွင့်ပြုတော်မူလျှင် အဂ္ဂိဗြဟ္မာမင်းသားလည်း အိမ်ရှေ့မင်းနှင့် တနေ့တည်း ရဟန်းပြုလေ၏။

### ၁၂၄။ ဓမ္မာသောကမင်းကြီးသည် ဇမ္ဗူဒိပ်ကျွန်းတွင် ရှစ်သောင်းလေးထောင်သောမြို့တို့၌ ရှစ်သောင်းလေးထောင်သော ကျောင်းစေတီတို့ကို ဆောက်လုပ်ကြောင်း

တနေ့သ၌ ဓမ္မာသောကမင်းကြီးသည် အသောကာရာမကျောင်းတော်၌ ကြီးစွာသောအလှူပေး၍ ခြောက်သောင်းသော ရဟန်းသံဃာတို့၏အလယ်၌ နေတော်မူလျက် သံဃာတော်ကို လေးပါးသောပစ္စည်းတို့ဖြင့် ဘိတ်တော်မူပြီးလျှင် အရှင်ဘုရားတို့၊ မြတ်စွာဘုရား ဟောတော်မူသော တရားတော်သည်ကား အဘယ်မျှလောက် ရှိသနည်းဟု မေးလျှောက်၏။ ရဟန်းတို့လည်း မြတ်သောမင်းကြီး၊ အင်္ဂါအားဖြင့် ကိုးပါး၊ ဓမ္မခန္ဓာအားဖြင့် ရှစ်သောင်းလေးထောင်ရှိ၏ဟု မိန့်တော်မူကုန်၏။ ဓမ္မာသောက မင်းကြီးသည် တရားတော်၌ ကြည်ညိုသည်ဖြစ်၍ တပါးတပါးသော ဓမ္မခန္ဓာကို တဆောင်တဆောင်သော ကျောင်းဖြင့် ပူဇော်အံ့ဟုကြံတော်မူ၍ တနေ့ချင်းလျှင် ကိုးဆယ့်ခြောက်ကုဋေသော ဥစ္စာကိုထုတ်စေ၍ အချင်းတို့၊ တခုတခုသောမြို့၌ တကျောင်းတကျောင်းစီဆောက်၍ ရှစ်သောင်းလေထောင်သောမြို့တို့၌ ရှစ်သောင်းလေးထောင်သောကျောင်းတို့ကို ဆောက်လေကုန်ဟု အမတ်တို့ကိုစေတော်မူ၏။ မင်းကြီးကိုယ်တိုင်လည်း အသောကာရာမကျောင်းတော်၌ ပြုပျင်စီမံအပ်သောအမှုကိစ္စကိုစီမံတော်မူ၏။ ဓမ္မာသောကမင်းသည် အရှင်ဘုရားတို့၊ အကျွန်ုပ်သည် ရှစ်သောင်းလေးထောင်သော ကျောင်းတို့ကို ဆောက်စေအပ်ကုန်၏။ ဓာတ်တော်တို့ကို အဘယ်မှာ ရအံ့နည်းဟု ရဟန်းသံဃာတို့ကိုမေးလျှောက်၏။ ရဟန်းတို့သည် မြတ်သောမင်းကြီး၊ ဓာတ်တော်ကိုထားသည်ဟု ကြားဘူးကုန်၏။ (ဤအရာ၌ထားသည်ဟူ၍ မထင်ဟုဆိုကုန်၏။ မှန်နန်းရာဇဝင်၌ အသောကာရာမကျောင်းကို ရှစ်သောင်းလေးထောင်သော ကျောင်းစေတီတို့နှင့်အတူ မင်းကြီးကိုယ်တိုင် စီမံဆောက်လုပ်ကြောင်းနှင့်ဆိုသည်။ ပါရာဇိကဏ် အဋ္ဌကထာ၌ အသောကာရာမကျောင်းကိုဆောက်ပြီးမှ ရှစ်သောင်းလေးထောင်သော ကျောင်းစေတီတို့ကို ဆောက်လုပ်ကြောင်းဆိုသည်နှင့် မညီလေ)။

## ၁၂၅။ အဇာတသတ်မင်း ဓာတ်တော်ထားသည့် အကြောင်း

အဇာတသတ်မင်း ဓာတ်တော်ထားသည့် အကြောင်းကိုဆိုပေဦးအံ့။ ဒေါဏပုဏ္ဏားဝေသော ဓာတ်တော်တို့ကို ထိုထိုမင်းတို့သည် မိမိတို့နေရာမြို့သို့ ပင့်ဆောင်၍ စေတီတည်တည်း တည်ကြကုန်ပြီးသော် အရှင်မဟာကဿပမထေရ်သည် ဓာတ်တော်တို့၏မိစ္ဆာဒိဋ္ဌိကြောင့် ဖြစ်လတ္တံ့သော အန္တရာယ်ကိုမြင်တော်မူ၍ အဇာတသတ်မင်းကို မြတ်သောမင်းကြီး တခုသော ဓာတ်တော်ထားရာကိုပြုလောဟုမိန့်တော်မူ၏။ အရှင်ဘုရား၊ ဓာတ်တော်ထားရာကို ပြုပါအံ့၊ ထိုထိုမင်းတို့ ပင့်ဆောင်၍ ထားလေသောဓာတ်တော်တို့ကိုအဘယ်သို့ ပင့်ဆောင်ရပါအံ့နည်းဟု လျှောက်၏။ မြတ်သောမင်းကြီး ဓာတ်တော်ကို ငါပင့်ဆောင်အံ့ဟုမိန့်တော်မူ၏။ အဇာတသတ်မင်းလည်း ဓာတ်တော်ကိုပင့်ဆောင်ပါကုန်။ ဓာတ်တော်ထားရာကို အကျွန်ုပ်ပြုပါအံ့ဟုလျှောက်၏။ အရှင်မဟာကဿပမထေရ်လည်း ရာမရွာ၌ ဓာတ်တော်နှစ်ပြည်တို့ကို နဂါးတို့သည် စောင့်ရှောက်၍ အန္တရာယ်မရှိ။ နောင်သောအခါ သီဟိုဠ်ကျွန်း မဟာစေတီ၌ ဌပနာလတ္တံ့ဖြစ်သောကြောင့် ထိုရွာမရွာ၌ ဓာတ်တော်နှစ်ပြည်တို့ကို မဆောင်မူ၍ အကြွင်းခုနှစ်မြို့တို့မှ ထိုထိုမင်းတို့အား ပူဇော်ခံရုံသာထား၍ ဓာတ်တော်တဆုံလေးပြည်တို့ကို ပင့်ဆောင်ပြီးလျှင် ရာဇဂြိုဟ်ပြည်၏ အရှေ့တောင်ထောင့်၌ ရပ်၍ ဤအရပ်၌ ကျောက်ဖျာကွယ်စေသတည်း။ မြေ ကောင်းစွာ ပွင့်စေသတည်း။ ရေမထွက်စေသတည်းဟု မိဋ္ဌာန်တော်မူ၏။ အဇာတသတ်မင်းလည်း ထိုအရပ်ကို တူးစေ၍ တူးရာက ထုတ်သောမြေဖြင့် အုဋ်လုပ်စေ၍ ရှစ်ကျိပ်သော မဟာသာဝကတို့၏ စေတီတို့ကိုတည်စေ၏။ ဤအရပ်၌ မင်းကြီးအဘယ်အမှုကိုပြုသနည်းဟု မေးသောသူတို့အားလည်း မဟာသာဝကတို့၏စေတီတို့ကို တည်စေသည်ဟု ပြောဆိုကုန်၏။ တစုံတယောက်သောသူသည် ဓာတ်တော်ထားသည်ကို မသိ။ တူးသော မြေအရပ် အတောင်ရှစ်ဆယ် နက်သော် အောက်က သံခင်းစေ၍ ထိုသံခင်း၌ ထူပါရုံစေတီ အိမ်အတိုင်းအရှည်ရှိသော ကြေးနီကျောင်းဆောက်စေ၍ ရွှေအဆင်းရှိသော စန္ဒကူးစေတီရှစ်ဆူတို့ကိုလုပ်စေပြီးမှ မြတ်စွာဘုရား ဓာတ်တော်တို့ကို ရွှေအဆင်းရှိသော စန္ဒကူးကြုတ်၌သွင်း၍ ထိုကြုတ်ကိုလည်း တပါးသော ရွှေအဆင်းရှိသော စန္ဒကူးကြုတ်၌၊ ထိုကြုတ်ကိုလည်း တပါးသော ရွှေအဆင်းရှိသော စန္ဒကူးကြုတ်၌ ဤသို့ရွှေအဆင်းရှိသော စန္ဒကူးကြုတ် ရှစ်လုံးတို့ကို ရွှေအဆင်းရှိသော စန္ဒကူး စေတီရှစ်ဆူတို့၌၊ ရွှေအဆင်းရှိသော စန္ဒကူးနီစေတီရှစ်ဆူတို့၌၊ စန္ဒကူးနီ ကြုတ်ရှစ်လုံးတို့၌။ စန္ဒကူးနီကြုတ်ရှစ်လုံးတို့ကို စန္ဒကူးနီစေတီရှစ်ဆူတို့၌၊ စန္ဒကူးနီစေတီရှစ်ဆူတို့ကို ဆင်စွယ်ကြုတ် ရှစ်လုံးတို့၌၊ ဆင်စွယ်ကြုတ်ရှစ်လုံးတို့ကို ဆင်စွယ်စေတီ ရှစ်ဆူတို့၌၊ ဆင်စွယ် စေတီရှစ်ဆူတို့ကို အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော ကြုတ်ရှစ်လုံးတို့၌၊ အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော ကြုတ်ရှစ်လုံးတို့ကို အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော စေတီရှစ်ဆူတို့၌၊ အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော စေတီရှစ်ဆူတို့ကို ရွှေကြုတ်ရှစ်လုံးတို့၌ ရွှေကြုတ်ရှစ်လုံးတို့ကို ရွှေစေတီရှစ်ဆူတို့၌၊ ရွှေစေတီရှစ်ဆူတို့ကို ငွေကြုတ်ရှစ်လုံးတို့၌၊ ငွေကြုတ်ရှစ်လုံးတို့ကို ငွေစေတီရှစ်ဆူတို့၌၊ ငွေစေတီရှစ်ဆူတို့ကို ပတ္တမြားနီ ပတ္တမြားပြောက်မှ တပါးသော ပတ္တမြားကြုတ်ရှစ်လုံးတို့၌၊ ပတ္တမြားနီ ပတ္တမြားပြောက်မှတပါးသော ပတ္တမြားကြုတ်ရှစ်လုံးတို့ကို ပတ္တမြားနီ ပတ္တမြားပြောက်မှတပါးသော ပတ္တမြားစေတီ ရှစ်ဆူတို့၌ ပတ္တမြားနီ ပတ္တမြားပြောက်မှ တပါးသော စေတီရှစ်ဆူတို့ကို ပတ္တမြားနီကြုတ်ရှစ်လုံးတို့၌ ပတ္တမြားနီ ကြုတ်ရှစ်လုံးတို့ကို ပတ္တမြားနီစေတီရှစ်ဆူတို့၌၊ ပတ္တမြားနီ စေတီရှစ်ဆူတို့ကို ပတ္တမြားပြောက်ကြုတ်ရှစ်လုံးတို့၌၊ ပတ္တမြားပြောက်ကြုတ်ရှစ်လုံးတို့ကို ပတ္တမြားပြောက်စေတီ ရှစ်ဆူတို့၌၊ ပတ္တမြားပြောက်စေတီရှစ်ဆူတို့ကို ဖန်ကြုတ်ရှစ်လုံးတို့၌ ဖန်ကြုတ်ရှစ်လုံးတို့ကို

ဖန်စေတီရစ်ဆူတို့၌သွင်း၍ အလုံးစုံတို့၏ အထက်ဖြစ်သော ဖန်စေတီသည် သီဟိုဠ် ကျွန်းထူပါရုံစေတီတော် အတိုင်း အရှည်ရှိ၏။ ၎င်းထူပါရုံစေတီသည် ငါတို့ရှမ်းပြည့်ကျွန်း၊ နားမွေးတော်ဓာတ်၊ ကျိန်းဝပ်တော်မူရာ စေတီတော် ပမာဏခန့်ရှိ၏။ ထိုဖန်စေတီထက်၌ အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော ကျောင်းကိုဆောက်စေ၍ အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော ကျောင်းအထက်၌ ရွှေဖြင့်ပြီးသောကျောင်းကို ဆောက်စေ၏။ ရွှေကျောင်း၏ အထက်၌ ငွေဖြင့်ပြီးသော ကျောင်းကိုဆောက်စေ၏။ ငွေကျောင်း၏အထက်၌ ကြေးနီဖြင့် ပြီးသောကျောင်းကို ဆောက်စေ၏။ ထိုကြေးနီကျောင်း၌ အလုံးစုံသော ရတနာတို့ဖြင့်ပြီးသော သဲကိုကြဲလျက် များစွာသော ကြည်းပန်း ရေပန်းအထောင်တို့ကို ဖရိုဖရဲဖြန့်ကြဲ၍ ငါးရှဉ်ငါးဆယ်သော ဓာတ်တော်၊ ရစ်ကျိုပ်သော မထေရ်၊ သုဒ္ဓေါဒနမင်းကြီး၊ မဟာမာယာ မိဘုရား၊ ဖွားဘက်တော် ခုနစ်ယောက်၊ ဤအလုံးစုံတို့ကို ရွှေစင်အတိ ချည်းပြုစေ၏။ ရွှေကြာသွတ်အိုး ငါးရာ၊ ငွေကြာသွတ်အိုး ငါးရာတို့ကို ထားစေ၏။ ရွှေတံခွန် ငါးရာ၊ ငွေတံခွန် ငါးရာတို့ကို စိုက်ဆောက်စေ၏။ ရွှေဆီမီးခွက် ငါးရာ၊ ငွေဆီမီးခွက် ငါးရာတို့ကို လုပ်စေ၍ဆီနံ့သာ ပြည့်စေပြီးသော် ဘွဲ့ဖြူပုဆိုးမီးစာတို့ကို ညှိထွန်းလျက်ထားစေ၏။ ထိုအခါ အရှင်မဟာကဿပ မထေရ်သည် ပန်းမညှိုးစေသတည်း။ နံ့သာအနံ့မပြယ်စေသတည်း။ ဆီမီးမငြိမ်းစေသတည်းဟု မိဋ္ဌာန်တော်မူ၍ နောင်သောအခါ ပိယဒါသအမည်ရှိသော မင်းသားသည် ထီးဖြူဆောက်၍ အသောကမင်းတရား ဖြစ်လတ္တံ့။ ထိုအသောကမင်းတရားသည် ဤဓာတ်တော် တို့ကို ပျံ့နှံ့စေလတ္တံ့ဟူ၍ ရွှေစင်၌အက္ခရာရေး၍ ထားစေ၏။ အဇာတသတ်မင်းသည် ကိုယ်၌ဆင်သော တန်ဆာတို့ဖြင့် ပူဇော်ပြီးသော် အတွင်းကစ၍ တံခါးကို ပိတ်လျက် ထွက်ခဲ့ပြီးလျှင် ကြေးနီကျောင်းတံခါးကို ပိတ်ပြီးမှ တံခါးငင်သောကြိုး၌ သံကောက်မင်းတုမ်းကို ဖွဲ့၍ ထိုအရပ်၌ ကြီးစွာသောပတ္တမြားတုံးကိုထား၍ နောင်သောအခါ မင်းဆင်းရဲသည် ဤပတ္တမြားတုံးကိုယူ၍ ဓာတ်တော်တို့အား ပူဇော်စေသတည်းဟု အက္ခရာရေး၍ ထားစေ၏။ သိကြားမင်းလည်း ဝိသကြုံနတ်သားကိုခေါ်၍ အဇာတသတ်မင်း ဓာတ်တော်ထားရာ၌ အစောင့်အရှောက် ထားချေဟု စေလိုက်လေ၏။ ဝိသကြုံနတ်သားလည်း လာလတ်၍ ဓာတ်တော်ထားရာတိုက်ခန်း၌ သစ်သားရုပ် တို့ကို သန်လျက်စွဲကိုင်လျက် လေနှင့်တူသော လျင်ခြင်းဖြင့် ပတ်ပတ်ဝန်းဝန်းလည်သော ယန္တရားကိုတပ်ပြီးသော် တခုသောအခန်း သံမယ်နဖြင့်ဖွဲ့၍ ကြောက်မက်ဖွယ် အမြင်သဏ္ဌာန်ရှိသော အချင်းချင်းခတ်သော သားရဲရုပ် ယန္တရားစက်ကိုတပ်၍ နတ်ပြည်ကိုသွားလေ၏။ အဇာ တသတ်မင်းလည်း ထက်ဝန်းကျင်မှ အုဋ္ဌကျောင်း အသွင်ဖြင့် ကျောက်အရံပြုပြီးလျှင် ကျောက်ဖျာပိတ်၍ ညီညွတ်စွာမြေဖို့ပြီးမှ အထက်၌ ကျောက်စေတီတည်စေ ၏။ ဤသို့ သူတပါးမသိစေရ လုံချုံစွာထားလေသော ကြောင့် ဓာတ်တော်ထားရာကို မသိကြလေသတည်း။

## ၁၂၆။ သီရိဓမ္မာသောကမင်းသည် ဓာတ်တော်များ ကို တူးဖော်၍ ပင့်ဆောင်ကြောင်း

ဓမ္မာသောကမင်းကြီးသည် ရာဇဂြိုဟ်ပြည်၌ စေတီကို ဖောက်စေ၍ ဓာတ်တော်ကို မမြင်သော် ရှေးအတိုင်းစေတီကိုပြုစေပြီးမှ ရဟာန်းယောကျ်ား၊ ရဟာန်း မိန်းမ၊ သီတင်းသည်ယောကျ်ား၊ သီတင်းသည်မိန်းမ ဤပရိသတ်လေးပါးကိုယူ၍ ဝေသာလီပြည်သို့ သွားလေ၏။ ဝေသာလီပြည်၌လည်း ဓာတ်တော်ကို မရလျှင် ကပိလဝတ်ပြည်သို့သွားလေ၏။ ကပိလဝတ် ပြည်၌လည်း ဓာတ်တော်ကိုမရလျှင် ရာမရွာသို့ သွားလေ၏။ ရာမရွာ၌ နဂါးစောင့်သောကြောင့် စေတီကို မဖောက်နိုင်။ စေတီ၌ကျသော ပေါက်တူးသည် အပိုင်း အပိုင်းကျိုး၏။ ဤသို့ဖြစ်၍ ရာမရွာ၌ ဓာတ်တော်ကို မရလျှင် အလ္လကပ္ပပြည်သို့သွားလေ၏။ အလ္လကပ္ပပြည်၊ ဝေဋ္ဌဒီပပြည်၊ ပါဝါပြည်၊ ကုသိနာရုံပြည် ဤအလုံးစုံ

သော ပြည်တို့၌ စေတီကိုဖောက်၍ ဓာတ်တော်ကို မရလျှင် ရှေးအတိုင်းပြုစေပြီးမှ ရာဇဂြိုဟ်ပြည်သို့ ပြန်လေ၏။ ပရိတ်သတ်လေးပါးတို့ကို စည်းဝေးစေပြီးလျှင် တစုံတယောက်သောသူ ဓာတ်တော်ထားရာအရပ်ကို ကြားဘူး၏လောဟုမေးတော်မူ၏။ ထိုပရိတ်သတ်၌ အသက်တရာ့နှစ်ဆယ်ရှိသော မထေရ်တပါးသည် ဓာတ်တော်ထားရာကိုကား မသိပေ။ ငါ၏အဘိုးမထေရ်သည် ငါ့ကို ခုနစ်နှစ်အရွယ်ရှိသောအခါ ပန်းပုံတောင်းကိုင်ယူစေ၍ သာမဏေ၊ ဤမည်သောခြုံတွင်း၌ ကျောက်စေတီသို့ သွားကုန်အံ့ဟုခေါ်၍ ထိုအရပ်သို့သွားပြီးသော် ပန်းပူဇော်၍ သာမဏေ၊ ဤအရပ်ကား မှတ်ကောင်းသောအရပ်တည်းဟု ဆိုဘူး၏။ မြတ်သောမင်းကြီး၊ ဤမျှကိုသာ ငါသိသည် ဟုဆိုလေသော် ဓမ္မာသောကမင်းကြီးလည်း ဓာတ်တော်ထားရာကား ထိုအရပ်ပင်တည်းဟုဆိုပြီးလျှင် ထိုအရပ်၌ တောခြုံတို့ကိုသုတ်သင်စေ၍ ကျောက်စေတီ မြေမှုန့်တို့ကို ပယ်သော် အင်္ဂတေမြေကိုမြင်လေ၏။ အင်္ဂတေအုဋ်တို့ကိုပယ်၍ ပရိဝုဏ်သို့သက်လေသော် ရတနာခုနစ်ပါးဖြင့်ပြီးသော သန်လျက်စွဲကိုင်လျက် တချာချာလည်သော သစ်သားရုပ်တို့ကိုမြင်လေ၏။ ဓမ္မာသောကမင်းသည် နတ်ကျွန်၊ နတ်ဝင်တို့ကိုခေါ်၍ ပသစေသော်လည်း အစ အဆုံးကိုမမြင်လျှင် နတ်တို့ကို ရှိခိုး၍ ငါသည် ဤဓာတ်တော်ကို ရှစ်သောင်းလေးထောင်သော ကျောင်းတို့၌ ဌပနာ၍ပူဇော်အံ့။ ငါ့အားနတ်တို့သည် အန္တရာယ်ကိုမပြုပါကုန်လင့်ဟုဆို၏။ ထိုအကြောင်းကို သိကြား နတ်မင်းမြင်လေ၍ ဝိသကြုံနတ်သားကိုခေါ်ပြီးလျှင် အချင်းဝိသကြုံနတ်သား၊ ဓာတ်တော်တို့ကိုပင့်ဆောင် အံ့ဟူ၍ ဓမ္မာသောကမင်းသည် ဓာတ်တော်ထားသော ပရိဝုဏ်သို့သက်၏။ သင်သွား၍ သစ်သားရုပ်တို့ကို ပယ်ရှားချေဟုဆို၏။ ဝိသကြုံနတ်သားလည်း ဥဿျှောင်ငါးခုထုံးသော သူငယ်အသွင်ဖြင့် သွားလေ၍ မင်း၏ရှေ့မှ လေးကိုစွဲလျက် အရှင်မင်းကြီး၊ သစ်ရုပ်ကိုပယ်အံ့ဟု ဆို၏။ ချစ်သား၊ ပယ်လောဟု မင်းကြီးဆိုလေသော် မြားကိုယူ၍ အစမယ်နှဉ်ပစ်၏။ အလုံးစုံသောအရုပ်တို့သည် ဖရိုဖရဲဖြစ်လေကုန်၏။ ဓမ္မာသောကမင်းကြီးသည် တံခါးရွက်ငင်ရာကြိုး၌ဖွဲ့သော သံကောက်မင်းတုမ်းကိုယူလေ၍ ထိုအရပ်၌ ပတ္တမြားတုံးကိုမြင်လျှင် နောင်သောအခါ မင်းဆင်းရဲသည် ဤပတ္တမြားကိုယူ၍ ဓာတ်တော်တို့အား ပူဇော်စေသတည်းဟူသော အက္ခရာတို့ကိုမြင်၍ မသက်သာ။ ငါကဲ့သို့သော မင်းကိုစဉ်လျက် မင်းဆင်းရဲ မဆိုသင့်ဟု ဆိုပြီးလျှင် အတွင်းတံခါးကိုဖွင့်၍ ကျောင်းအတွင်းသို့ ဝင်လေသော် နှစ်ရာ့တဆဲ့ရှစ်နှစ်ထက်က ထွန်းလျက်ထားခဲ့သော ဆီမီးတိုင်သည် ထွန်းတိုင်း တောက်ကုန်၏။ ကြာညိုပွင့်တို့သည်လည်း ထိုခဏ၌ ဆောင်၍တင်သကဲ့သို့ ဖြစ်ကုန်၏။ ပန်းခင်းသည်လည်း ထိုခဏခင်းသကဲ့သို့ ဖြစ်၏။ နံ့သာတို့သည်လည်း ထိုခဏ၌ကြိတ်၍ ထားသကဲ့သို့ ဖြစ်ကုန်၏။ ဓမ္မာသောကမင်းသည် ရွှေပေကိုယူ၍ နောင်သောအခါ ပိယဒါသ အမည်ရှိသော မင်းသည် ထီးဖြူဆောက်၍ အသောကမင်းတရား ဖြစ်လတ္တံ့။ ထိုအသောကမင်းတရားသည် ဤဓာတ်တော်တို့ကိုပျံ့နှံ့စေလတ္တံ့ဟုဖတ်၍ အချင်းတို့၊ အရှင်မဟာကဿပမထေရ်သည် ငါ့ကိုမြင် လေစွတကားဟုဆိုလျက် လက်ပမ်းပေါက်ခတ်၏။ ဓမ္မာသောကမင်းလည်း ထိုအရပ်၌ပူဇော်ရုံသာ ဓာတ်တော်ကိုထား၍ ကြွင်းသောဓာတ်တော်တို့ကိုယူပြီးလျှင် ဓာတ်တော်ကျောင်းကို ပိတ်မြဲပိတ်၍ အလုံးစုံကို ရှေးအတိုင်းပြုစေပြီးသော် အထက်၌ ကျောက်စေတီကိုတည်စေ၍ ရှစ်သောင်းလေးထောင်သောကျောင်းတို့၌ စေတီရှစ်သောင်းလေးထောင်တည်၍ ဌပနာလေ၏။ သံဃာတော်တို့သည်လည်း တန်ခိုးအာနုဘော်ကြီးစွာသော ဣန္ဒဂုတ္တအမည်ရှိသော ရဟန္တာအရှင်မြတ်ကို ရှစ်သောင်းလေးထောင်သော ကျောင်းစေတီတို့ကိုလုပ်ဆောင်၍ ပြီးလွယ်အောင် အစောင်အမပေးပေ၏။ (ဤဓာတ်တော်တူးဖော်ခန်း စကားရပ်သည် သုတ်မဟာဝါအဋ္ဌကထာ၌လာသည်။ မဟာဝင်

ဝတ္ထုဥ္တြိကား ခေတ်တော်ထားရာကို ရဟန်းမတယောက်ပြ ကြောင်းနှင့်ဆိုသည်။ သုတ်မဟာဝါ အဋ္ဌကထာနှင့် မညီလေ)။

## ၁၂၇။ ရွှစ်သောင်းလေးထောင်သော ကျောင်း၊ စေတီ ဆောက်လုပ်ပြီးသည့်အကြောင်း

ဣန္ဒဂုတ္တမထေရ်လည်း မပြီးသမျှအမှုကို မိမိ တန်ခိုးအာနုဘော်ဖြင့် စောင်မ၍ပြီးစေ၏။ ဤသို့ ပြီးစေသော်လည်း သုံးနှစ်တိုင်မှ ကျောင်းတော်ဆောက်၍ အပြီးသို့ရောက်လေသတည်း။ ရှစ်သောင်းလေးထောင် သော မြို့တို့မှကျောင်းဆောက်၍ပြီးကြောင်းကို ကမ္ပည်း ဆက်စာ တနေ့တည်းရောက်လာကုန်၏။ အမတ်တို့သည် အရှင်မင်းကြီး၊ စေတီတော်ဖြင့် တန်ဆာဆင်အပ်သော ရှစ်သောင်းလေးထောင်သော ကျောင်းတို့သည် ပြီးကုန်ပြီ ဟု မင်းကြီးအားလျှောက်လေကုန်၏။ ရှစ်သောင်း လေးထောင်သောကျောင်းတို့၌ လ,ကို ရာဟုဖမ်းသည့် နေ့ကစ၍ ကျောင်းဆောက်သောအမှုကို အားထုတ်သည်။ နောက်သုံးနှစ်လွန်၍ လ,ကိုရာဟုဖမ်းသောနေ့ပင် ကျောင်းတို့ကိုပြီးစေသည်။ ထို့ကြောင့် တနေ့တည်း ကမ္ပည်းဆက်စာရောက်သည်ဟု သာရတ္ထဒီပနီဋီကာ၌ ဆိုသည်။ (မဟာဝင်ဝတ္ထု၊ ရာဇဝင်ကြီးတို့၌ ခြောက်လ တွင်ပြီးကြောင်းနှင့်ဆိုသည်။ ထိုစကားသည် *တီဟိသံ ဝစ္ဆရေဟိ ဝိဟာရကမ္မံနိဋ္ဌာပေသိ။ ဟူသော ပါရာဇိကဏ် အဋ္ဌာကထာနှင့်မညီလေ။ အဇာတသတ်မင်း ဓာတ်တော် ကို ဌပနာသွင်းသောအခါ မွှာသောက မင်းကြီးတူးဖော် ပင့်ဆောင်သောအခါတို့၌လည်း ရောမတိုင်းကလာ၍ ယန္တရားရုပ်ကိုစီရင်ကြောင်း။ ထိုသူ၏သား မြေးတို့ ဖျက်ရကြောင်းတို့နှင့် မဟာဝင်ဝတ္ထု၊ ရာဇဝင်ကြီးတို့၌ ဆိုသည်။ ထိုစကားရပ်လည်း ရှေး၌ပြဆိုအပ်သော သုတ်မဟာဝါ အဋ္ဌကထာနှင့်မညီလေ။ ဤကား အမှာ စကားချပ်)။ ။

## ၁၂၈။ ဓမ္မာသောကမင်းကြီးသည် ကျောင်းအနုမောဒနာပြုပြီးလျှင် သားတော်၊ သမီးတော်တို့ကို ရဟန်းပြုစေ၍ သာသနာ တော် အမွေခံကြောင်း

ကျောင်း,စေတီ,ဆောက်လုပ်ပြီးသော် ဓမ္မာသော ကမင်းသည် ဤနေ့မှခုနစ်ရက် လွန်သဖြင့် ကျောင်းပူဇော် ခြင်းကိုဖြစ်စေလတ္တံ့။ အလုံးစုံသော ပြည်သူပြည်သားတို့ သည် ရှစ်ပါးသောအင်္ဂါရှိသော သီလကိုဆောက်တည်၍ ကျောင်းပူဇော်ခြင်းကိုပြုကြကုန်ဟု ပြည်အလုံးကိုစည်လည် စေ၏။ ခုနစ်ရက်လွန်လျှင် ခပ်သိမ်းသော အဝတ်တန်ဆာ တို့ဖြင့် တန်ဆာဆင်အပ်သော အသိန်းမကသော စစ်အင်္ဂါ လေးပါးခြံရံလျက် နတ်ပြည်၌သိကြားမင်း၏နေရာ ဖြစ်သော တာဝတိံသာနတ်ပြည်ထက် ကဲလွန်စွာတင့်တယ် သော အသရေရှိသကဲ့သို့ပြုလိုသည်ဖြစ်၍ အားထုတ်ခြင်း ရှိသော လူအပေါင်းသည် ကောင်းစွာတန်ဆာဆင်အပ် သော ပါဋလိပုတ်ပြည်တော်ကို လက်ယာရစ်လှည့်ပြီးမှ အသောကာရာမကျောင်းတော်သို့သွားတော်မူ၍ ရဟန်း သံဃာတို့၏အလယ်၌ နေတော်မူ၏။ ထိုခဏ၌ စည်းဝေး ကုန်သော ရဟန်းယောကျ်ားတို့သည် အကုဋေရှစ်ဆယ် လျှင် ဖြစ်ကုန်သတည်း။ ရဟန်းမိန်းမတို့ကား ကိုးသန်း ခြောက်သိန်းလျှင် ဖြစ်ကုန်သတည်း။ ထိုရဟန်း သံဃာ အပေါင်းတို့တွင် ရဟန္တာတို့ကား တသိန်းအရေအတွက် ရှိကုန်သတည်း။ ထိုရဟန္တာတို့အား ဤသို့သော အကြံသည်ဖြစ်၏။ မင်းကြီးသည် မိမိပြုသောကောင်းမှု အလုံးစုံကိုမြင်ရသည်ရှိသော် ဘုရားသခင်သာသနာတော်၌ အတိုင်းထက် အလွန်ကြည်ညိုရာ၏ဟုကြံ၍ အထောင်မက များလှစွာသော ဩကာသလောက၏ ဟင်းလင်းရှိသည် အဖြစ်ကိုပြုသော တန်းခိုးပြာဋိဟာဖြစ်သော လောက ဝိဝရဏမည်သော တန်းခိုးပြာဋိဟာကို ပြုတော်မူကြကုန် ၏။ ဓမ္မာသောကမင်းကြီးလည်း အသောကာရာမ ကျောင်းတော်၌ ရပ်တော်မူလျက် အရပ်လေးမျက်နှာတို့ကို ကြည့်လေသော် ထက်ဝန်းကျင်မှ မဟာသမုဒ္ဒရာ အပိုင်း

အခြားရှိသော ဇမ္ဗူဒီပါကျွန်းအလုံးကို မြင်တော်မူလေ၏။ ကြီးမြတ်လှစွာသော ကျောင်းပူဇော်ခြင်းဖြင့် တင့်တယ်သောစေတီဖြင့် တန်ဆာဆင်အပ်သော ရှစ်သောင်းလေးထောင်သော ကျောင်းတော်တို့ကိုလည်း မြင်တော်မူလေ၏။ ဓမ္မာသောကမင်းကြီးသည် ထိုသို့သော တင့်တယ်ခြင်းအသရေကို မြင်တော်မူလေသော် ကြီးစွာသော နှစ်သက်ဝမ်းမြောက်ခြင်းနှင့် ပြည့်စုံသည်ဖြစ်၍ ငါမှတပါး တစုံတယောက်သောသူအား ဤသို့သဘောရှိသော နှစ်သက်ဝမ်းမြောက်ခြင်း ရှိသည်ဖြစ်ဘူးသည်ရှိပါအံ့လောဟုကြံလျက် အရှင်ဘုရားတို့၊ လူ, နတ်, ဗြဟ္မာ, သတ္တဝါအပေါင်းတို့၏ ကိုးကွယ်ရာဖြစ်တော်မူသော အစိန္တေယျဘုရားရှင် သာသနာတော်၌ အဘယ်သူသည် ကြီးစွာသောစွန့်ကြဲခြင်းကို စွန့်ဘူးလေသနည်း။ အဘယ်သူ၏စွန့်ကြဲခြင်းကို မြတ်၏ဟုဆိုကုန်သနည်းဟူ၍ လျှောက်၏။ ရဟန်း,သံဃာတို့သည် မောဂ္ဂလိပုတ္တတိဿမထေရ်၏တန်ခိုး အာနုဘော်ကြီးသည်၏အဖြစ်ကြောင့် အထက်၌ ဆိုဖွယ်စကားကိုလည်း ထိုမဟာထေရ် ဆိုလတ္တံ့ဟု အောက်မေ့ကုန်သည်ဖြစ်၍ မင်းကြီး၏အမေးကို မောဂ္ဂလိပုတ္တတိဿမထေရ်ကို ဖြေစေ၏။ မောဂ္ဂလိပုတ္တတိဿမထေရ်လည်း မြတ်သောမင်းကြီး ဘုရားသခင်၏ ထင်ရှားရှိတော်မူသောအခါ၌သော်လည်း သာသနာတော်၌ ပစ္စည်းလေးပါး ဒါယကာမည်သည်ကား သင်မင်းကြီးနှင့်တူသူမရှိ။ မင်းကြီး၏ စွန့်ကြဲခြင်းသည် ကြီးမြတ်၏ဟု မိန့်တော်မူ၏။ ထိုမထေရ်စကားကို ကြားတော်မူလျှင် အလွန်နှစ်သက် ဝမ်းမြောက်ခြင်းဖြင့် တွေ့သော ကိုယ်ရှိသည်ဖြစ်၍၊ ငါနှင့်တူသော ပစ္စည်းဒါယကာမရှိ။ ငါ၏စွန့်ကြဲခြင်းသည် ကြီးမြတ်၏။ ငါသည် အလှူဝတ္တုဖြင့် သာသနာတော်ကိုချီးမြှင့်ရ၏။ ဤသို့ဖြစ်သောငါသည် သာသနာတော်၏ အမွေခံဖြစ်ပါအံ့လောဟုကြံတော်မူ၏။ ကြံပြီးသော် အရှင်ဘုရားတို့၊ အကျွန်ုပ်သည် သာသနာတော်၏ အမွေခံဖြစ်ပါအံ့လောဟု မေးလျှောက်၏။ မောဂ္ဂလိပုတ္တတိဿမထေရ်သည် မင်းကြီး၏စကားကိုကြားလျှင် မဟိန္ဒမင်းသား၏ ရဟန်းလျာဖြစ်အံ့သောအကြောင်းကိုမြင်တော်မူ၍ မဟိန္ဒမင်းသား ရဟန်းဖြစ်ငြားအံ့၊ သာသနာတော်၏အလွန်ကြီးပွားခြင်းဖြစ်လတ္တံ့ဟုကြံတော်မူ၍ မင်းကြီးကို ဤသို့မိန့်တော်မူ၏။ မြတ်သောမင်းကြီး ဤသို့ပစ္စည်းပေးလှူကာမျှဖြင့် သာသနာတော်၏အမွေခံ မဖြစ်သေး။ ပစ္စည်းဒါယကာ အလုပ်အကျွေးဟူ၍သာ ခေါ်ဝေါ်အပ်၏။ မြေမှသည်ဗြဟ္မာပြည်သို့တိုင်အောင် ပစ္စည်းကိုပုံစု၍လှူငြားသော်လည်း သာသနာတော်၌ အမွေခံဟူသော ခေါ်ဝေါ်ခြင်းသို့ မရောက်သေးဟု မိန့်တော်မူ၏။ အရှင်ဘုရား ပစ္စည်းပေးလှူ၍ အမွေခံမဖြစ်လျှင် အဘယ်သို့သော ကောင်းမှုကိုပြု၍ သာသနာတော်အမွေခံဖြစ်ပါအံ့နည်းဟု လျှောက်၏။ မြတ်သောမင်းကြီး မိမိရင်၌ဖြစ်သောသားသမီးကို ရဟန်းပြုစေသောသူကို သာသနာ့အမွေခံဟုဆိုအပ်၏ဟူ၍ မိန့်တော်မူ၏။ ဤသို့မိန့်တော်မူသော် ဓမ္မာသောကမင်းကြီးသည် ငါ့အားဤသို့သော စွန့်ကြဲခြင်းကိုပြု၍လည်း သာသနာတော်၏အမွေခံအဖြစ်သို့ မရောက်ချေဟု သာသနာတော်၌ အမွေခံအဖြစ်ကို တောင့်တလျက် ထိုမှဤမှကြည့်တော်မူလေ၏ မင်းကြီးအနီး၌နေသော မဟိန္ဒမင်းသားကိုမြင်၍ ဤသို့ကြံတော်မူ၏။ ညီတော်တိဿ အိမ်ရှေ့မင်း ရဟန်းပြုလျှင် မဟိန္ဒမင်းကို အိမ်ရှေ့ပေးတော်မူလိုသောစိတ်ရှိ၏။ ထိုသို့ပင် စိတ်ရှိတော်မူသော်လည်း အိမ်ရှေ့မင်းအဖြစ်ထက် ရဟန်းအဖြစ်သာလျှင် မြတ်စွာ၏ဟုအကြံရှိ၍ ချစ်သား၊ ရဟန်းပြုခြင်းငှာ တတ်နိုင်ပါအံ့လောဟု မဟိန္ဒမင်းသားကိုမေးတော်မူ၏။ မဟိန္ဒမင်းသားလည်း အိမ်ရှေ့မင်းရဟန်းပြုလေသည်မှစ၍ ရဟန်းအဖြစ်ကို တောင့်တလျက်နေသည်ဖြစ်သောကြောင့် ခမည်းတော်စကားကိုကြားလျှင် အလွန်နှစ်သက်ဝမ်းသာသည်ဖြစ်၍ အရှင်မင်းကြီး အကျွန်ုပ်ရဟန်းပြုပါအံ့။ အကျွန်ုပ်ကို ရဟန်းပြုတော်မူ၍ သာသနာ့အမွေကိုခံတော်မူပါဟု လျှောက်ပေ၏။ ထိုအခါ သမီးတော်သင်္ဃမိတ္တာမင်းသမီးလည်း အပါးတော်တွင်ရှိ၏။ မင်းကြီးလည်း သမီးတော်ကိုမြင်လျှင်

သမီးတော်ကို ချစ်ခင်သော်လည်း ရဟန်းပြုနိုင်အံ့လောဟု မေးတော်မူ၏။ သင်္ဃမိတ္တာမင်းသမီးလည်း ရဟန်းပြုပါအံ့ဟု လျှောက်ပေ၏။ မင်းကြီးလည်း သားတော်သမီးတော်တို့လျှောက်သောစကားကိုကြားတော်မူလျှင် ရွှင်သောနှလုံးရှိတော်မူသည်ဖြစ်၍ အရှင်ဘုရားတို့၊ ဤသားတော်သမီးတော်တို့ကိုရဟန်းပြု၍ အကျွန်ုပ်ကို သာသနာတော်အမွေခံပြုတော်မူပါကုန်ဟု ရဟန်းသံဃာတော်တို့ကို လျှောက်၏။ ရဟန်းသံဃာတော်တို့သည် မင်းကြီးစကားကိုဝန်ခံ၍ မဟိန္ဒမင်းသားကို မောဂ္ဂလိပုတ္တတိဿ မထေရ် ဥပဇ္ဈာယ်ပြု၍ မဟာဒေဝထေရ်သာမဏေပြုစေ၏။ မဇ္ဈန္တိကမထေရ်ကား မဟိန္ဒမင်းသား အသက်နှစ်ဆယ်ပြည့်ပြီးဖြစ်သောကြောင့် ကမ္မဝါစာ ဆရာပြု၍ ပဉ္စင်းခံစေ၏။ မဟိန္ဒမင်းသားလည်း ပဉ္စင်းခံသော သိမ်အပြင်၌ပင်လျှင် ပဋိသမ္ဘိဒါ လေးပါးနှင့်တကွ ရဟန္တာဖြစ်လေ၏။ သင်္ဃမိတ္တာ မင်းသမီး၏လည်း သရဏဂုံပေးသော ရဟန်းမိန်းမသည် အာယုပါလီထေရီမည်၏။ ဥပဇ္ဈာယ် ရဟန်းမိန်းမကား ဓမ္မပါလီထေရီမည်၏။ ထိုအခါ သင်္ဃမိတ္တာမင်းသမီးသည် အသက်တဆဲ့ရှစ်နှစ်ရှိ၏။ ထိုသင်္ဃမိတ္တာမင်းသမီးကို ရဟန်းပြုသော သိမ်အပြင်၌ပင်လျှင် သိက္ခာသမုတိကိုပေး၍ ပါဏာတိပါတာဝေရမဏီ အစ ဝိကာလဘောဇနာ ဝေရမဏီ အဆုံးရှိသော ခြောက်ပါးသောသိက္ခာပုဒ်တို့၌ ဆောက်တည်စေသောအားဖြင့် သိက္ခမာန်အဖြစ်၌တည်စေ၏။ (သိက္ခမာန် ကျင့်စေကုန်သည်ဟု ဆိုလိုသည်။ သာမဏေမိန်းမသည် အသက်ခြောက်ဆယ်ရှိသော်လည်း ပါဏာတိပါတမှ ကြဉ်ခြင်း၊ အဒိန္နာဒါနမှကြဉ်ခြင်း၊ အဗြဟ္မစရိယမှ ကြဉ်ခြင်း၊ မုသာဝါဒမှကြဉ်ခြင်း၊ သုရာမေရယမှကြဉ်ခြင်း၊ ဝိကာလဘောဇနမှကြဉ်ခြင်း၊ ဤခြောက်ပါးသော သိက္ခာပုဒ်တို့၌ နှစ်နှစ်ပတ်လုံး၊ မကျင့်သော သိက္ခာရှိသော သာမဏေမိန်းမကို ရဟန်းမပြုအပ်ဟု ဝိနည်းပညတ်တော်ရှိသောကြောင့် သိက္ခမာန်ကျင့်ရလေသတည်း။ ဤသည်ကား သာရတ္ထဒီပနီ စသောဋီကာတို့အဓိပ္ပါယ်။ ။ မဟာဝင်ဝတ္ထု၊ ရာဇဝင်ကြီးတို့၌ကား သင်္ဃမိတ္တာမင်းသမီးတဆဲ့ ရှစ်နှစ်သာ ရှိသည်ဖြစ်၍ ပဉ္စင်းမခံဘဲ သာမဏေမသာပြုသည်ဟု ဆိုလေသည်။ သာရတ္ထဒီပနီဋီကာတို့နှင့် မညီလေ။ ဤသည်ကား အမှာစကားချပ်)။

မဟိန္ဒမင်းသားနှင့် သင်္ဃမိတ္တာမင်းသမီးတို့ ရဟန်းသာမဏေ မပြုကြသောအခါ မင်းကြီးအဘိသိက်ခံ၍ ခြောက်နှစ်၊ သာသနာတော်သက္ကရာဇ် နှစ်ရာနှစ်ဆဲ့လေးခုဖြစ်သတည်း။ မဟိန္ဒထေရ်သည်လည်း ပဉ္စင်းခံသောအခါမှစ၍ မိမိဥပဇ္ဈာယ်အထံ၌သာ သုတ်၊ အဘိဓမ္မာ၊ ဝိနည်းတရားကို သင်လေသော သုံးနှစ်အတွင်း၌သာလျှင် သင်္ဂါယနာ နှစ်တန်တင်သော ပိဋကတ်သုံးပုံဖြင့် ရေတွက်အပ်သော အဋ္ဌကထာနှင့်တကွ အလုံးစုံသော ထေရဝါဒကိုသင်၍ မိမိ၏ ဥပဇ္ဈာယ်ဖြစ်သောမောဂ္ဂလိပုတ္တတိဿထေရ်၏တပည့်၊ တထောင်သော ရဟန်းတို့တွင် အကြီးအမှူးဖြစ်တော်မူလေ၏။ ထိုအခါ ဓမ္မာသောကမင်းကြီးသည် အဘိသိက်ခံ၍ ကိုးနှစ်ရှိတော်မူ၏။

## ၁၂၉။ ကောန္တပုတ္တတိဿမထေရ် သုမိတ္တမထေရ်တို့ အကြောင်း

ဓမ္မာသောကမင်းကြီးသည် အဘိသိက်ခံ၍ ရှစ်နှစ်ရှိသောအခါ၌လျှင် ကောန္တပုတ္တတိဿမထေရ်သည် လေနာရှိ၍ ဆေးကုအံ့သောငှာ ထိုအရှင်၏ညီတော် သုမိတ္တမထေရ်သည် ဆွမ်းခံဝတ်ဖြင့် ရပ်ခံသော်လည်း တလက်ဆွမ်းမျှသော ထောပတ်ကိုမရ၍ အားကြီးသော လေနာကြောင့် အသက်ကုန်တော်မူသဖြင့် ကောင်းကင်၌ ထက်ဝယ်နေ၍ ပရိနိဗ္ဗာန်ပြုတော်မူလေ၏။

ကောန္တပုတ္တတိဿမထေရ်နှင့်ညီ သုမိတ္တတို့ အကြောင်းကား ဤသို့တည်း။ ရှေးသရောအခါ ပါဋလိပုတ်ပြည်၌ မုဆိုးတယောက်သည်တောသို့ ကိန္နရာမနှင့် သံဝါသဖြစ်၍ သားနှစ်ယောက်ဖွားမြင်၏။ အစ်ကို အကြီးသည် တိဿမည်၏။ ညီအငယ်ကား သုမိတ္တ

မည်၏။ ထိုသူနှစ်ယောက်ကို မွှာသောကမင်းကြီးယူ၍ မွေးတော်မူ၏။ အရှယ်သို့ရောက်လတ်သော် မဟာဝရဏာ အမည်ရှိသော မထေရ်မြတ်အထံ၌ ရဟန်းပြု၍ နှစ်ပါးလုံး ပင် အဘိဓာဉ်ခြောက်ပါးနှင့်တကွ ရဟန္တာဖြစ်လေ ကုန်၏။ (အချို့ဆရာတို့ကား ဤသို့ဆိုကုန်၏။ ကဋ္ဌဝါဟန မင်း၏ အနွယ်၌ဖြစ်သော မင်းသမီးတပါးသည် ကောန္တ မည်၏။ ဂဋ္ဌနိုင်ငံကိုရပ်ယန္တရားဆင်၍ ကောင်းကင်၌ သွားသော ထိုမင်းသမီးကို မုဆိုးတယောက်ဆောင်ယူ၍ ထိုမင်းသမီးနှင့် သံဝါသပြုလေ၏။ မင်းသမီးသည် သားနှစ်ယောက်ဖွား၏။ အစ်ကိုအကြီးသည် အမည်ဖြင့် ကောန္တပုတ္တမည်၏ဟုဆိုကုန်၏။ ထိုအခါ အစ်ကိုအကြီး ကောန္တပုတ္တတိဿမထေရ်အား လေနာနှိပ်စက်သည်ကို ညီတော် သုမိတ္တမထေရ်မြင်၍ အရှင်ဘုရား၊ ဤအနာ၌ အဘယ်ကိုရခြင်းငှာသင့်သနည်းဟုမေး၏။ နောင်တော် မထေရ်လည်း တလက်ဆွမ်းမျှသော ထောပတ်ကိုရခြင်း ငှာ သင့်၏ဟုဆို၍ မင်းအိမ်သို့သွား၍ သူနာဆေးပစ္စည်းကို လည်း မခံလင့်။ နေလွဲမှလည်း ထောပတ်ခံမသွားလင့်။ ဆွမ်းခံချိန်အခါ၌ ဆွမ်းခံသွားသဖြင့် ရနိုင်သည်ဖြစ်အံ့။ ဤသို့သွား၍ ထောပတ်ကိုဆောင်ချေစေဟုဆို၏။ ညီတော် မထေရ်သည်လည်း အစ်ကိုဆိုတိုင်း ဆွမ်းခံဝတ်ဖြင့် သွားလေသော် တလက် ဆွမ်းမျှသော ထောပတ်ကိုမရ။ ထိုလေအနာသည်ကား အားကြီးစွာ၏။ ထောပတ်အိုးတရာ ဖြင့်သော်လည်း ငြိမ်းစေခြင်းငှာ မတတ်နိုင်ရာတည်း။ နောင်တော် မထေရ်သည် ထိုလေအနာအားကြီးသဖြင့် နိဗ္ဗာန်ယူတော်မူ၏။ မဟာဝင်၊ ဒီပဝင်ကျမ်းတို့၌ ကင်းမြီးကောက်ထိုးသောအနာကို ကုအံ့သောငှာ တလက် ဆွမ်းမျှသော ထောပတ်ကိုမရ၍ နိဗ္ဗာန်ယူတော်မူသည်ဟု ဆိုသည်။ ။ (ဤသည်ကား အမှာစကားချပ်)

## ၁၃၀။ မွှာသောကမင်းကြီးသည် ထောပတ်စသော ကန်လေးကန်တို့နှင့် ငါးသိန်းသော အသပြာတို့ကို နေ့စဉ်လှူကြောင်း

မွှာသောကမင်းကြီးသည် ကောန္တပုတ္တတိဿ မထေရ် ပရိနိဗ္ဗာန်ပြုကြောင်းကိုကြားလေသော် မထေရ်၏ ဓာတ်တော်အား ပူဇော်ခြင်းကိုပြုပြီးလျှင် ငါသို့သော မင်းကေရာဇ်ရှိလျက် တလက်ဆွမ်းမျှသော ထောပတ်ကို မရ၍ ပရိနိဗ္ဗာန်ပြုရလေသည်ဟု မြို့တံခါးလေးမျက်နှာ တို့၌ ရေကန်လေးခုတူးစေ၍ တခုသောကန်ကို ထောပတ်၊ တခုသောကန်ကိုပျား၊ တခုသောကန်ကို တင်လဲ၊ တခုသောကန်ကို သကာဖြင့်ပြည့်စေလျက် ဆေးအလို့ငှာ လှူတော်မူ၏။ ထိုအခါ ပါဋ္ဌလိပုတ်ပြည်၏ တံခါး လေးမျက်နှာတို့၌ လေးသိန်း၊ တရားဆုံးဖြတ်ရာ သဘင်၌ တသိန်း၊ ဤသို့နေ့တိုင်း နေ့တိုင်း ငါးသိန်းသော ဥစ္စာ တို့သည် မင်းကြီးအားဖြစ်ကုန်၏။ တံခါးလေးမျက်နှာ တို့၌ရသော လေးသိန်းသောဥစ္စာဟူသည် တံခါးထွက်ဝင်၌ ကောက်ရသောအခွန်ဟု ဆိုလိုသည်။ တရားဆုံးဖြတ်ရာ၌ တသိန်းသည်ကား တမြို့လုံးမှ ကွမ်းဘိုးရသော အခွန်ဟု ဆိုလိုသည်။ ထိုငါးသိန်းသော ဥစ္စာမှမင်းကြီးသည် နိဂြောဓမထေရ်အား နေ့တိုင်းနေ့တိုင်း တသိန်းသောဥစ္စာကို လှူတော်မူ၏။ ဘုရားသခင် စေတီတော်၌ ပန်းနံ့သာ အစရှိသည်တို့ဖြင့် ပူဇော်ခြင်းငှာ တသိန်းသော ဥစ္စာကို လှူတော်မူ၏။ တရားတော်အား တသိန်းသောဥစ္စာကို လှူတော်မူ၏။ ထိုဥစ္စာကို၊ တရားတော်ကိုဆောင်ရွက်ကုန် သော ဗဟုဿုတရဟန်းတို့အား ပစ္စည်းလေးပါးအလို့ငှာ ဆောင်တော်မူ၏၊ သံဃာတော်အား တသိန်းသော ဥစ္စာကို လှူတော်မူ၏၊ တံခါးလေးမျက်နှာတို့၌ ဆေးအလို့ငှာ တသိန်းသော ဥစ္စာကိုလှူတော်မူ၏။ ဤသို့လျှင် သာသနာတော်၌ ကြီးစွာသော ပူဇော်သက္ကာရဖြစ်၏။ အဘယ်သို့ နိဂြောဓမထေရ်အား တသိန်းသောဥစ္စာကို လှူလေသနည်းဟူမူကား မင်းကြီးသည် တနေ့ သုံးကြိမ် ဝတ်လဲဆင်တော်မူသော် မထေရ်အား သင်္ကန်းပို့ပြီ

လောဟုမေး၍ ပို့ပါပြီကြားမှ ဝတ်လဲတော်ဆင်၏။ နိဂြောဓမထေရ်လည်း တနေ့သုံးကြိမ် သင်္ကန်းသုံးထည်ကို လဲလှယ်၍ဝတ်တော်မူ၏။ နိဂြောဓမထေရ်အား သင်္ကန်းသုံးထည်ကို ဆင်ကျောက်ကုန်း၌တင်၍ နံ့သာတတ်တင်းငါးရာ၊ ပန်းတံတင်းငါးရာတို့နှင့်တကွ နံနက်စောစော ကပ်လာကုန်၏။ နေ့အခါ ညအခါတို့၌လည်း ထိုအတူ ကပ်လာကုန်၏။ နိဂြောဓမထေရ်လည်း သင်္ကန်းကို အထုပ်အပိုးပြု၍မထား။ ရောက်လာသော သီတင်းသုံးဖော်တို့အား ပေးတော်မူ၏။ ထိုအခါ ဇမ္ဗူဒိပ်ကျွန်း၌ ရဟန်းသံဃာတော်တို့အား နိဂြောဓမထေရ်၏ သင်္ကန်းသာ များသတည်း။ ဤသို့လျှင် နိဂြောဓမထေရ်အား နေ့တိုင်း နေ့တိုင်း တသိန်းသော ဥစ္စာကိုလှူတော်မူ၏။

## ၁၃၁။ မောဂ္ဂလိပုတ္တတိဿမထေရ်သည် သာသနာတော်၌ဖြစ်သော ဘေးရန်ကို ပယ်ဖျောက်၍ သာသနာတော်ကို ချီးမြှင့်ကြောင်း

တိတ္ထိတို့သည် လာဘ်ပူဇော်သက္ကာယုတ်ကုန်၍ စားရုံဝတ်ရုံကိုမျှ မရလေကုန်သော် လာဘ်ပူဇော်သက္ကာကို တောင့်တကုန်လျက် သာသနာတော်၌ ရဟန်းပြု၍ မိမိ၏ တိတ္ထိအယူတို့ကို ဤသည်ကား သုတ်၊ အဘိဓမ္မာ၊ ဝိနည်း-တည်းဟု ပြလေကုန်၏။ ရဟန်းအဖြစ်ကို မရကုန်လျှင် အလိုလိုပင် ဦးပြည်းရဟန်းပြုလျက် သင်္ကန်းဝတ်၍ ကျောင်း၌ဥပုသ်ပဝါရဏာ သံဃကံပြုရာသို့ ဝင်လေကုန်၏။ ရဟန်းတို့လည်း တိတ္ထိတို့နှင့်အတူတကွ ဥပုသ်မပြုကြကုန်။ ထိုအခါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် ယခုအဓိကရဏ်းဖြစ်ပြီ။ ထိုအဓိကရဏ်းသည် မကြာမြင့်မီ ပွားလတ္တံ့၊ ဤရဟန်းတို့ ဘောင်၌နေသဖြင့် အဓိကရဏ်းကို မငြိမ်းစေနိုင်ရာဟုကြံတော်မူ၍ မဟိန္ဒမထေရ်အား ဂိုဏ်းသံဃာကို အပ်နှင်းပြီးသော် အဟောဂင်္ဂါမည်သော တောင်သို့ ကြွတော်မူလေ၏။ တိတ္ထိတို့သည်လည်း ရဟန်းသံဃာသည် ဟုတ်မှန်သော ဝတ္ထုဖြင့် စောဒနာခြင်း၊ ဉာတ်ကမ္မဝါစာ ပြည့်စုံခြင်းတို့ဖြင့် နှိမ်နင်းပါကုန်သော်လည်း တိတ္ထိတို့သည် သုတ်၊ အဘိဓမ္မာ၊ ဝိနည်းအားလျော်သော အကျင့်၌ မတည်ကုန်သည်ဖြစ်၍ များစွာသော သာသနာတော်၏ ဘေးရန်အညစ်အကြေးဆူးငြောင့်ကို ဖြစ်စေ၏။ အချို့သောသူတို့သည် မီးပူဇော်ကုန်၏။ အချို့သောသူတို့သည် အရပ်လေးမျက်နှာတို့၌ မီးပုံ၍ အလယ်၌ တည်လျက် နေပူကိုခံကုန်၏။ အချို့သောသူတို့သည် နေထွက်သောအခါမှစ၍ နေကိုကြည့်ကုန်လျက် ဝင်သည်တိုင်အောင် နေသို့ရှေးရှုလည်ကုန်၏။ အချို့သောသူတို့ကား သုတ်၊ အဘိဓမ္မာ၊ ဝိနည်းကိုဖျက်ကုန်အံ့ဟု အားထုတ်ကုန်၏။ ထိုအခါ ရဟန်းသံဃာတို့သည် တိတ္ထိတို့နှင့်အတူတကွ ဥပုသ်ပဝါရဏာမပြုကြကုန်၍ အသောကာရာမကျောင်းတော်၌ ခုနစ်နှစ်တိုင်တိုင် ဥပုသ်ပြတ်လေ၏။

ထိုအကြောင်းကို ဓမ္မာသောကမင်းကြီးအား ကြားလျှောက်လေသော် မင်းကြီးသည် အမတ်တယောက်ကို ကျောင်းတော်သို့သွား၍ အဓိကရဏ်းကို ငြိမ်းအောင်စီရင်၍ ရဟန်းသံဃာတို့ကို ဥပုသ်ပြုစေကုန်ဟု မိန့်တော်မူ၏။ ထိုအမတ်သည် ငြိမ်းစေရမည့်အကြောင်းကို မင်းကြီးအားပြန်၍ မလျှောက်ဝံ့သောကြောင့် တပါးသောအမတ်ကိုမေးလေ၏။ မင်းကြီးသည် ငါ့ကို ကျောင်းသို့သွား၍ အဓိကရဏ်းကို ငြိမ်းအောင်စီရင်၍ ရဟန်းသံဃာတို့ကို ဥပုသ်ပြုစေဟု မိန့်တော်မူ၏။ အသို့လျှင် အဓိကရဏ်းကို ငြိမ်းအောင်ပြုရအံ့နည်းဟု မေး၏။ ထိုအမတ်သည် ဤသို့ဆို၏။ ဥပမာကား ပစ္စန္တရာကို ငြိမ်းစေလိုသော် ခိုးသူတို့ကိုသတ်ရကုန်၏။ ထိုကဲ့သို့ရှင်း၊ ဥပုသ်မပြုသော ရဟန်းတို့ကို မင်းကြီး သတ်စေလိုသည်ဖြစ်မည် ထင်သည်ဟု ဆိုဘိ၏။ မင်းကြီးစေသောအမတ်သည်လည်း ထိုသို့ဆိုသောစကားကို ဟုတ်သည်ဟု နှလုံးသွင်း၍ ကျောင်းသို့သွားလေပြီးသော် ရဟန်းသံဃာတို့ကို စည်းဝေးစေ၍ ဥပုသ်ပြုစေဟု

အကျွန်ုပ်ကို မင်းကြီးစေတော်မူသည်။ ယခု ဥပုသ်ပြုကြကုန်ဟုဆို၏။ ရဟန်းသံဃာတို့လည်း ငါတို့တတ္ထိများနှင့်တကွ ဥပုသ်မပြုကုန်ဟု မိန့်တော်မူကုန်၏။ အမတ်သည် ထိုစကားကိုကြားလျှင် သီတင်းကြီးမှစ၍ အစဉ်အတိုင်း ဦးခေါင်းကို သန်လျက်ဖြင့်ဖြတ်လျှင်းဘိ၏။ တိဿမထေရ်သည် ဤသို့ အမတ်သတ်လေသည်ကိုမြင်သော် မင်းကြီးသည် မထေရ်တို့ကို သတ်စိမ့်သောငှာ မစေရာ။ ဤအမတ်၌သာ ချွတ်ယွင်းခြင်းဖြစ်ရာသည်ဟု အကြံတော်ရှိ၍ မိမိတန်းခိုးဖြင့် အမတ်နှင့်နီးသောနေရာ၌ နေတော်မူလေ၏။ အမတ်လည်း တိဿမထေရ်ကိုမြင်လျှင် မင်းကြီးညီတော်ဖြစ်ပေသည်ဟု သတ်အံ့သောငှာ မဝံ့သောကြောင့် ပြန်၍ မင်းကြီးအားလျှောက်လေ၏။ အရှင်မင်းကြီး၊ ဥပုသ်ပြုခြင်းငှာ အလိုမရှိကုန်သော ရဟန်းတို့ကို သတ်လေပြီ။ အရှင့်ညီတော် တိဿမထေရ်၏အစဉ်သည် ရောက်၏။ အဘယ်သို့လျှင် ပြုရပါအံ့နည်းဟုလျှောက်၏။ မင်းကြီးလည်း အမတ်စကားကိုကြားလျှင် တုန်လှုပ်သောနှလုံးရှိသည်ဖြစ်၍ ဟယ် အမတ်၊ သင့်အားရဟန်းသံဃာတို့ကိုသတ်ချေဟု မစေဘဲလျက် အဘယ်ကြောင့်သတ်လေဘိသနည်းဟု ပူပန်သောစိတ်ရှိသည်ဖြစ်၍ ကျောင်းသို့ သွားတော်မူ၍ သံဃာထေရ်ဖြစ်ကုန်သော ရဟန်းတို့ကို မေးလျှောက်၏။ အရှင်ဘုရားတို့၊ ဤအမတ်သည် အကျွန်ုပ်ကသတ်ချေဟု မစေပဲလျက် ဤသို့သော အမှုကို ပြုဘိ၏။ ထိုသို့ပြုသောအမှုသည် အဘယ်သူအား အကုသိုလ်ဖြစ်ရာသနည်းဟု လျှောက်လေသော် အချို့သောမထေရ်တို့သည် ဤအမတ်ကားအသင်မင်းကြီးစကားကြောင့်သတ်၏။ ထိုအကုသိုလ်သည် အသင်မင်းကြီးအားဖြစ်၏ဟုဆိုကုန်၏။ အချို့သော မထေရ်တို့သည် မင်းကြီးနှင့် အမတ်နှစ်ယောက်တို့အားပင် အကုသိုလ်ဖြစ်၏ဟု ဆိုကုန်၏။ အချို့သောမထေရ်တို့ကား အမတ်သည် ကျောင်းသို့သွား၍ ရဟန်းတို့ကိုသတ်စေသတည်းဟု မင်းကြီးစိတ်တော်ရှိသလောဟုမေး၍ ထိုသို့သောစိတ်မရှိ။ ကုသိုလ်ကိုအလိုရှိ၍ အညီအညွတ် ရဟန်းသံဃာ ဥပုသ်ပြုပါစေသတည်းဟု စေလွှတ်သည်ဆိုလျှင် ကုသိုလ်ကို အလိုရှိအံ့၊ မင်းကြီးအား အကုသိုလ်မဖြစ်။ အမတ်အားသာ အကုသိုလ်ဖြစ်သည်ဟု ဆိုကြကုန်၏။ မင်းကြီးသည် ထိုသို့ မထေရ်တို့ဆိုကြသောစကားကို ကြားတော်မူသော် ယုံမှားသင်္ကာရှိသည်ဖြစ်၍ အရှင်ဘုရားတို့၊ အကျွန်ုပ်၏ ယုံမှားသင်္ကာကိုဖျောက်၍ သာသနာတော်ကို ချီးမြှောက်အံ့သောငှာ စွမ်းနိုင်သော ရဟန်းရှိပါသလောဟု မေးလျှောက်လေသော် မြတ်သော မင်းကြီး၊ မောဂ္ဂလိပုတ္တတိဿ အမည်ရှိသောမထေရ်သည် ရှိ၏။ ထိုမထေရ်သည် အသင်မင်းကြီး၏ ယုံမှားသင်္ကာကို ဖျောက်၍ သာသနာတော်ကို ချီးမြှောက်အံ့သောငှာ စွမ်းနိုင်၏ဟုဆိုတော်မူ၏။ မင်းကြီးလည်း ထိုနေ့ပင်လျှင် မထေရ်ကိုခေါ်၍ လာကြကုန်ဟု ရဟန်းတထောင်တထောင်စီ အခြံအရံရှိသော ဓမ္မကထိက ရဟန်းလေးပါး၊ ယောကျ်ားတထောင် တထောင်စီ အခြံအရံရှိသော အမတ်လေးယောက်တို့ကို စေတော်မူ၏။ ထိုဓမ္မကထိက မထေရ်နှင့်အမတ်တို့သည်လည်း သွားလေ၍ မင်းကြီးခေါ်သည်ဟုဆိုကုန်၏။ မောဂ္ဂလိ ပုတ္တတိဿ မထေရ်လည်း မကြွပဲနေတော်မူလေ၏။ ထိုသို့ ကြွတော်မမူလာသော် မင်းကြီးလည်း ရှေးနည်းအတူမှာတော်မူ၍ တထောင်တထောင်စီ အခြံအရံရှိသော ဓမ္မကထိက ရဟန်းရှစ်ပါးနှင့် အမတ်ရှစ်ယောက်တို့ကို စေတော်မူပြန်၏။ စေသူတို့ ရှေးအတူဆိုကုန်လျှင် အရှင်မောဂ္ဂလိပုတ္တတိဿမထေရ်လည်း မကြွပဲနေတော်မူလေ၏။ မထေရ်ကိုခေါ်၍လာကြကုန်ဟု မင်းကြီးဆိုသော်လည်း သာသနာတော်ကို ချီးမြှောက်အံ့သောငှာ စွမ်းနိုင်၏ ဆိုသောကြောင့် လာခြင်းငှာအပ်၏။ ထိုသို့ အပ်သော်လည်း နှစ်ကြိမ်နှစ်ခေါက်တိုင်ခေါ်စေ၍မှ မထေရ်သည် မကြွလာဟု ခပ်သိမ်းသောအရပ်တို့၌ ချီးမွမ်းခြင်းဖြစ်၏။ ချီးမွမ်းအပ်သောသူ၏လည်း အထက်၌ပြုလတ္တံ့သော ကိစ္စသည် ပြီးမြောက်ရသောကြောင့် မလျှောက်ပတ်သော စကားကို အမြွက်ပြုသဖြင့် ကြွတော် မမူပဲနေလေ

သတည်း။ မင်းကြီးလည်း အရှင်ဘုရားတို့ အကျွန်ုပ်သည် နှစ်ခေါက်တိုင်အောင်ခေါ်စေလျက် မောဂ္ဂလိပုတ္တတိဿမထေရ်သည် အဘယ်ကြောင့် မကြွပဲနေလေသနည်းဟု မထေရ်တို့ကိုလျှောက်၏။ မင်းကြီးကခေါ်စေသည်ဟုဆိုသောကြောင့် မကြွလာသတည်း။ သာသနာတော် နှစ်မွန်းခဲ့၏။ သာသနာတော်ကို ချီးမြှောက်ခြင်းငှာ အကျွန်ုပ်တို့၏ အပေါင်းအဖော်ပြုတော်မူပါဟု လျှောက်လေလျှင် မထေရ်ကြွလတ္တံ့ဟု ဆိုတော်မူကုန်၏။ ထိုနောက်မှ မင်းကြီးသည် မထေရ်တို့ အမိန့်ရှိတိုင်းမှာ၍ တထောင် တထောင်စီ အခြံအရံရှိသော ဓမ္မကထိကထေရ် တကျိပ်ခြောက်ပါး၊ အမတ်တကျိပ် ခြောက်ယောက်တို့ကိုစေတော်မူ၏။ အရှင်ဘုရားတို့၊ မောဂ္ဂလိပုတ္တတိဿမထေရ်သည် အရွယ်ကြီးပြီးလော၊ ငယ်သေးသလောဟူ၍လည်း ရဟန်းတို့ကိုမေးတော်မူ၏။ အရွယ်ကြီးတော်မူပြီးဆိုသော်လည်း ပေါင်းချုပ်ထမ်းစင်များကို စီးပါအံ့လောဟုမေးတော်မူ၏။ မြတ်သောမင်းကြီး၊ မစီးလတ္တံ့ဟုဆိုကုန်သော် မောဂ္ဂလိပုတ္တတိဿမထေရ်သည် အဘယ်အရပ်၌ နေလေသနည်းဟုမေးတော်မူ၏။ ဂင်္ဂါ၏အညာ၌ နေသည်ဟုဆိုကုန်သော် မင်းကြီးလည်း အရှင်တို့၊ လှေဖောင်၌မထေရ်ကိုစီးစေလျက် ကမ်းနားနှစ်ဖက်၌ အစောင့်အရှောက် လုံခြုံစွာထား၍ ပင့်ခဲ့ကုန်ဟု မိန့်တော်မူ၏။ ရဟန်း၊ အမတ်တို့လည်း သွားလေကုန်၏။ မောဂ္ဂလိပုတ္တတိဿမထေရ်လည်း ငါကားသာသနာတော်ကို ချီးမြှောက်အံ့ဟု ငါရဟန်းပြု၏။ ယခုထိုအခါ ရောက်ပြီဟူ၍ စမ္မခဏ်ကိုကိုင်ကာ ထတော်မူ၏။ မင်းကြီးလည်း မထေရ်မရောက်ခင်ညဉ့်၌ ကိုယ်လုံးဖြူသော ဆင်ကြီးသည်လာလတ်၍ မင်းကြီးကို ဦးခေါင်းမှစ၍ သုံးသပ်လျက် လက်ယာလက်တော်၌ကိုင်သည်ဟု အိပ်မက်မြင်တော်မူ၏။ မိုးသောက်သောအခါ အိပ်မက်ဖတ်တတ်သောသူတို့အား အိပ်မက်ကို ပြန်တော်မူလေသော် ပညာရှိတို့သည်။ အာဂုံ၊ မကောင်းမှုကို။ နကရောတိ၊ မပြုတတ်။ ဣတိ၊ ထိုသို့ မပြုတတ်သောကြောင့်။ နာဂေါ၊ နာဂမည်၏ဟုဆိုသောကြောင့် ဤအရာ၌ ရဟန်းသည် နာဂမည်၏ဟု အမှတ်ရှိကုန်၍ အရှင်မင်းကြီး၊ ရဟန္တာတပါးသည် အရှင်မင်းကြီး၏ လက်ယာလက်တော်၌ ကိုင်လတ္တံ့ဟုလျှောက်၏။ ထိုအခါ အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်ရောက်ပြီး ကြားတော်မူလျှင် မင်းကြီးသည် မြစ်နားသို့ကြွတော်မူ၍ ခရီးဦး ကြိုဆိုလေသော် ပုဆစ်ရွှေမျှသောရေ၌ မထေရ်ကိုတွေလေ၍ လှေမှ သက်သော မထေရ်အား လက်ကိုကမ်းတော်မူ၏။ မောဂ္ဂလိပုတ္တတိဿမထေရ်လည်း မင်းကြီး၏ လက်ယာလက်ကို ကိုင်တော်မူ၏။ ထိုသို့ကိုင်တော်မူလေသည်ကို သန်လျက်စွဲသော သက်တော်စောင့်တို့ မြင်လေသော် မောဂ္ဂလိပုတ္တတိဿမထေရ်၏ ဦးခေါင်းကိုဖြတ်အံ့ဟု သန်လျက်ကို အိမ်မှချွတ်၍ ခုတ်မည်မိုးသည်ကို ရေအရိပ်တွင် မင်းကြီးမြင်၍ အချင်းတို့၊ ရှေး၌လည်း ရဟန်းသံဃာတို့အား ပြစ်မှားမိသောကြောင့် နှလုံးမသာရှိရပြီ၊ ယခုလည်း အရှင်မြတ်အား ပြစ်မှားခြင်းကို မပြုကုန်လင့်ဟု မိန့်တော်မူ၏။ မောဂ္ဂလိပုတ္တသ မထေရ်လည်း အတင့်အတယ်ပြုလို၍ မင်းကြီးလက်ကိုကိုင်သည်မဟုတ်၊ မင်းကြီးသည် ပြဿနာမေးအံ့သောငှာ ပင့်ခေါ်စေသောကြောင့် ဤမင်းသည် တပည့်တည်းဟုနှလုံးပြု၍ မင်းကြီးလက်ကိုကိုင်တော်မူလေသတည်း။ မင်းကြီးသည် မောဂ္ဂလိပုတ္တတိဿမထေရ်ကို ဥယျာဉ်သို့ ပင့်ဆောင်လေ၍ အစောင့်အရှောက်လုံခြုံစွာထားပြီးလျှင် မင်းကြီးကိုယ်တော်တိုင် မောဂ္ဂလိပုတ္တတိဿမထေရ်အား ခြေဆေးခြင်း၊ ဆီးလိမ်းကျံခြင်းကိုပြုပြီးမှ အနီး၌နေ၍မထေရ်အား ငါ၏ယုံမှားခြင်းကိုဖျောက်၍ သာသနာတော်ကို ချီးမြှောက်နိုင်ပါအံ့လောဟု စုံစမ်းခြင်းငှာ အရှင်ဘုရား၊ အကျွန်ုပ်သည် တခုသောတန်းခိုးပြာဋိဟာကို ကြည့်ဖို့လိုပါသည်ဟု လျှောက်၏။ မင်းကြီး၊ အဘယ်တန်းခိုးပြာဋိဟာကို ကြည့်လိုသနည်းဟုမေးသော် မြေလှုပ်သော တန်းခိုးပြာဋိဟာကို ကြည့်လိုပါသည်ဟု လျှောက်၏။ အလုံးစုံသော မြေလှုပ်ခြင်းကိုကြည့်လိုသလော၊

တစိတ်သော မြေလှုပ်ခြင်းကို ကြည့်လိုသလောဟု မေးသော် နှစ်ပါးသောမြေလှုပ်ခြင်းတို့တွင် အဘယ် မြေလှုပ်ခြင်းသည် ခဲယဥ်းသနည်းဟုမေး၏။ မင်းကြီး ရေပြည့်သောခွက်တခု၌ အလုံးစုံသောရေကို လှုပ်စေခြင်း သည် ခဲယဥ်းသလော၊ ထက်ဝက်သောရေကို လှုပ်စေခြင်း သည် ခဲယဥ်းသလောဟုမေးသော် ထက်ဝက်သောရေကို လှုပ်စေခြင်းသည် ခဲယဥ်းပါသည်ဟုလျှောက်၏။ မင်းကြီး၊ ဤအတူလျှင် တစိတ်သောမြေကို လှုပ်စေခြင်းသည် ခဲယဥ်း၏ဟု မိန့်တော်မူ၏။ အရှင်ဘုရား၊ ထိုသို့ခဲယဥ်း သော တစိတ်သောမြေလှုပ်ခြင်းကို ကြည့်လိုပါသည်ဟု လျှောက်၏။ မင်းကြီး ထိုသို့ကြည့်တော်မူလိုသော် ထက်ဝန်းကျင် တယူဇနာအရပ်တွင် အရှေ့မျက်နှာအရပ်၌ လှည်းဘီးတဘက်ဖြင့် အပိုင်းအခြားကို နင်းလျက် ရထားကိုထားလော။ တောင်အရပ်မျက်နှာ၌ ခြေနှစ်ဖက် တို့ဖြင့် အပိုင်းအခြား အတွင်းကိုနင်းလျက် မြင်းကို ရပ်စေလော။ အနောက်မျက်နှာအရပ်၌ ခြေတဘက်ဖြင့် အပိုင်းအခြားကို နင်းလျက် ယောကျ်ားကို ရပ်စေလော။ မြောက်အရပ်မျက်နှာ၌ ထက်ဝက်သော အဖို့ဖြင့် အပိုင်းအခြားအတွင်းသို့သွင်း၍ ရေခွက်တခုကို တည်စေလောဟုဆို၏။ မင်းကြီးလည်း မထေရ်ဆိုတိုင်း ပြုစေ၏။ မောဂ္ဂလိပုတ္တတိဿမထေရ်လည်း စတုတ္ထဈာန် ကို ဝင်စား၍ ဈာန်မှထတော်မူပြီးသော် တယူဇနာပမာဏ ရှိသော မြေလှုပ်ခြင်းကို မိဋ္ဌာန်တော်မူ၏။ အရှေ့မျက်နှာ၌ ရထား အပိုင်းအခြားအတွင်းမှာ တည်သောလှည်းဘီးသာ လှုပ်၏။ ပြင်၌တည်သော လှည်းဘီးမလှုပ်။ ဤအတူ တောင်အရပ်မျက်နှာ၊ အနောက်မျက်နှာတို့၌ မြင်းနှင့် ယောကျ်ားတို့၏လည်း အပိုင်းအခြား၌ တည်သောခြေ ထက်ဝက် ထက်ဝက်သော ကိုယ်သာလှုပ်၏။ ပြင်၌တည် သော ခြေထက်ထက်ဝက်ထက်ဝက်သော ကိုယ်သည် မလှုပ်။ မြောက်အရပ် မျက်နှာ၌ရေခွက်၏လည်း အပိုင်း အခြားအတွင်း၌ တည်သော၊ ထက်ဝက်အဖို့ဖြစ်သော ရေ သည်လှုပ်၏။ ကြွင်းသော ထက်ဝက်အဖို့၌ဖြစ်သောရေ

သည်ကား မလှုပ်သလျှင်သာတည်း။ နဂါးရုပ်၊ ဂဠုန်ရုပ် အစရှိသည် ဘန်ဆင်းခြင်း၊ ဝိကုဗ္ဗနိဒ္ဓိကိုသာ မြတ်စွာဘုရား ပယ်တော်မူသည်။ အဓိဋ္ဌာနိဒ္ဓိကို မြစ်တော်မမူသော ကြောင့် မောဂ္ဂလိပုတ္တတိဿမထေရ်လည်းတန်ခိုးပြာဋိဟာ ကို မင်းကြီးအားပြတော်မူသတည်း။

မင်းကြီးလည်း ထိုသို့သော တန်ခိုးပြာဋိဟာကို မြင်လေသော် မထေရ်သည် သာသနာတော်ကို ချီးမြှောက် အံ့သောငှာ တတ်နိုင်လတ္တံ့ဟုသိ၍ မိမိယုံမှားခြင်းကို မေးလျှောက်၏။ အရှင်ဘုရား၊ အကျွန်ုပ်အမတ် တယောက်ကို ကျောင်းတော်သို့သွား၍ အဓိကရဏ်းကို ငြိမ်းစေ၍ ဥပုသ်ပြုစေဟုစေလိုက်မိ၏။ ထိုအမတ်သည် ကျောင်း သို့သွားလေ၍ ရဟန်းတို့ကိုသတ်ဘိ၏။ ထိုအကုသိုလ်သည် အဘယ်သူအားဖြစ်သနည်းဟုမေး လျှောက်၏။ မင်းကြီး၊ ဤအမတ်သည် ကျောင်းသို့သွား ၍ ရဟန်းတို့ကိုသတ်စေသတည်းဟု မင်းကြီးစိတ်ရှိတော်မူ သလောဟု မေးတော်မူသော် အရှင်ဘုရား၊ သတ်စေလို သော စိတ်မရှိပါဟုလျှောက်၏။ မင်းကြီးသတ်စေလိုသော စိတ်မရှိအံ့၊ မင်းကြီးအား အကုသိုလ်မဖြစ်ဟု မိန့်တော်မူ၍။ စေတနာ ဟံ ဘိက္ခဝေ ကမ္မံဝဒါမိ၊ စေတယိတွာ ကမ္မံ ကရောတိ ကာယေန ဝါစာယ မနသာ။ ။ ဟူသော ဤသုတ်ပါဠိကိုဆောင်တော်မူ၏။ ။ ဘိက္ခဝေ၊ ရဟန်းတို့။ အဟံ၊ ငါဘုရားသည်။ စေတနံ၊ စေတနာကို။ ကမ္မံ၊ ကံဟူ၍။ ဝဒါမိ၊ ဟောတော်မူ၏။ စေတယိတွာ၊ စေတနာရှိ၍။ ကာယေန၊ ကိုယ်ဖြင့်၎င်း။ ဝါစာယ၊ နှုတ်ဖြင့်၎င်း။ မနသာ၊ စိတ်ဖြင့်၎င်း။ ကမ္မံ၊ ကုသိုလ်- အကုသိုလ်ကံကို။ ကရောတိ၊ ပြု၏။ ဟူသော ဤပါဠိဖြင့် စေတနာနှင့်ကင်း၍ ကုသိုလ် အကုသိုလ် မဖြစ်ကြောင်းကို မင်းကြီးအားသိစေတော်မူ၏။ စေတနာမရှိလျှင် အကုသိုလ်မဖြစ်သောအကြောင်းကို ပြခြင်းငှာ ဤ ခါငှက်ဇာတ်ကိုလည်း ဆောင်၍ပြတော်မူ၏။

မင်းကြီး၊ လွန်လေပြီးသောအခါ ပစ္စန္တရွာတခု၌ ငှက်မုဆိုးတယောက်သည် ခါတိန်ညင်ကို ကောင်းစွာ

သင်စေ၍ ချိုင့်ဖြင့်မွေး၏။ ထိုငှက်မုဆိုးသည် ခါတိန်ညင်ကို တောသို့ဆောင်လေ၍ ထိုခါအသံဖြင့်လာလာသမျှ ခါတို့ကို ဖမ်းလေ၏။ ခါသည်လည်း ငါ့ကိုအမှီပြု၍ များစွာသော ဆွေမျိုးတို့သည် ပျက်စီးပေကုန်၏။ ထိုဆွေမျိုးတို့ သေလေသောမကောင်းမှုသည် ငါ့အား ဖြစ်ရာ၏ဟုအသံမပြုပဲ တိတ်တိတ်နေ၏။ ငှက်မုဆိုးသည် ခါအသံမပြုပဲ တိတ်တိတ်နေသည်ကိုသိလျှင် ဝါးခြမ်းစိတ်ဖြင့် ခါ၏ဦးခေါင်းကို ရိုက်ခတ်၏။ ရိုက်ခတ်လျှင် နာသောကြောင့် ခါလည်းတွန်မြည်ရ၏။ ဤသို့လျှင် ငှက်မုဆိုးသည် ထိုခါကိုမှီ၍ ခါတို့ကိုဖမ်းယူလျက် အသက်မွေး၏။ ထိုအခါတိန်ညင်ခါသည် ဤခါအပေါင်းတို့ကို မုဆိုးသတ်လေစေဟု ငါ့အားစေတနာမရှိ။ ငါ့ကိုစွဲ၍ မုဆိုးပြုသောမကောင်းမှုသည်ကား ငါသို့ရောက်ချေ၏။ ငါမတွန် မမြည်သော် ဤခါတို့သည် မလာရ။ တွန်မြည်သော်သာ လာကုန်၏။ လာလာသမျှသောခါတို့ကိုလည်း မုဆိုးဖမ်းယူ၍သတ်လေ၏။ ဤသို့သတ်ရာ၌ ငါ့အား အကုသိုလ်ရှိမည်လော၊ မရှိလောဟုကြံ၏။ ထိုခါသည် အကြံဖြစ်သောနေ့မှစ၍ အဘယ်သူလျှင် ငါ၏ယုံမှားခြင်းကို ဖျောက်နိုင်ပါအံ့နည်းဟု ပညာရှိသောသူကို စုံစမ်းလျက်သွား၏။ တနေ့သောအခါ ငှက်မုဆိုးသည် များစွာသောခါတို့ကိုဖမ်းယူ၍ ခြင်းတောင်းပြည့်ရပြီးသော် ရဟန်းပြု၍ အဘိညာဉ် သမာပတ်ကိုဖြစ်စေလျက် တော၌နေသောဘုရားလောင်း ရသေ့ကျောင်းသို့ ရေသောက်အံ့သောငှာသွား၍ ခါထည့်သောခြိုင့်ကို ဘုရားလောင်းအနီး၌ချထား၍ ရေသောက်ပြီးလျှင် သဲပြင်၌ အိပ်ပျော်လေ၏။ ခါလည်း မုဆိုးအိပ်ပျော်သည်ကိုသိလျှင် ငါ၏ယုံမှားခြင်းကို ဤရသေ့အားမေးအံ့၊ သိသော်ဖြေလတ္တံ့ဟု ခြိုင့်၌နေလျက်သာလျှင် -

**ဉာတကော နော နိသိန္နောတိ၊ ဗဟု အာဂစ္ဆတိ ဇနော။**
**ပဋိစ္စ ကမ္မံ ဖုသတိ၊ တသ္မိံ မေ သင်္ကတေ မနော။**

ဟူသော ဂါထာဖြင့်မေးလျှောက်၏။ ဘန္တေ၊ အရှင်ဘုရား။ နော၊ ငါတို့၏။ ဉာတကော၊ အဆွေအမျိုးသည်။ နိသိန္နောတိ၊ နေ၏ဟု။ ဗဟု၊ များစွာသော။ ဇနော၊ ခါသည်။ အာဂစ္ဆတိ၊ လာ၏။ ပဋိစ္စ၊ အကျွန်ုပ်ကိုစွဲ၍။ ကမ္မံ၊ ပါဏာ တိပါတကံသို့။ လုဒ္ဒကော၊ မုဆိုးသည်။ ဖုသတိ၊ ရောက်၏။ တသ္မိံ၊ ထိုမကောင်းမှုသို့ရောက်ရာ၌။ မေ၊ အကျွန်ုပ်၏။ မနော၊ စိတ်သည်။ သင်္ကတေ၊ အပြစ်သင့်အံ့လောဟု ယုံမှား၏။ ဤသို့မေးလျှောက်သော် ရှင်ရသေ့လည်း···

**န ပဋိစ္စ ကမ္မံ ဖုသတိ၊ မနော စေနုပ္ပဒုသတိ။**
**အပ္ပေါဿုက္ကဿ ဘဒြဿ၊ န ပါပ မုပလိမ္ပတိ။**

ဟူသော ဂါထာဖြင့် ဖြေတော်မူသည်။ ပက္ခိ၊ ခါငှက်။ မနော၊ စိတ်သည်။ စေနုပ္ပ ဒုဿတိ၊ အကယ်၍ မပြစ်မှားအံ့။ ပဋိစ္စ၊ သင့်ကိုစွဲ၍။ ကမ္မံ၊ မုဆိုးပြုသော ပါဏာတိပါတ ကံသည်။ နဖုသတိ၊ သင်သို့မရောက်။ အပ္ပေါဿုက္ကဿ၊ လုံ့လမပြုသော။ ဘဒြဿ၊ ကောင်းသည်ဖြစ်သောသင့်အား။ ပါပံ၊ မကောင်းမှုသည်။ နဥပလိမ္ပတိ၊ မလိမ်းကျံ။

ဤသို့စိတ်မရှိသော် မုဆိုးသည် သင့်ကိုမှီ၍ ပြုငြားသော်လည်း ထိုမကောင်းမှုသည် သင်သို့မရောက်။ မကောင်းမှုကိုပြုခြင်း၌ လုံ့လမပြု၊ စင်ကြယ်သော စိတ်ရှိသော သင့်အား ပါဏာတိပါတ စေတနာမရှိခြင်းကြောင့် ထိုမကောင်းမှုသည် သင့်၏စိတ်ကို မကပ်ငြိ၊ မလိမ်းကျံဟု မိန့်တော်မူကြောင်းနှင့် စတုက္ကနိပါတ်၊ ပုစိမန္ဒဝဂ်၊ တိတ္တိရဇာတ်ကိုဆောင်တော်မူ၏။ ခါတိန်ညင်သည် ရာဟုလာအလောင်း။ ရသေ့သည် ဘုရားအလောင်း။ ။ (ဤတိတ္တိရဇာတ် ပါဠိကိုဆောင်ရာ မဟာဝင်ဝတ္ထု၌။ သစေတော နတ္ထိ စိတ္တံ၊ နတ္ထိ ပါပံ။ စသည်ဖြင့် ရသေ့ဖြေကြောင်းနှင့် ဆိုလေသည်။ ။ စတုက္ကနိပါတ်၊ ပါရာဇိကဏ် အဋ္ဌကထာတို့နှင့်မညီလေ။ ဤကား အမှာစကားချပ်)။

ဤသို့လျှင် မောဂ္ဂလိပုတ္တတိဿမထေရ်သည် မင်းကြီးကိုသိစေပြီးသော် ထိုဥယျာဉ်၌သာလျှင် ခုနစ်ရက်ပတ်လုံးနေလျက် မင်းကြီးအား ဘုရားသခင် အယူတော်

ကို သင်စေ၏။ မင်းကြီးလည်း ခုနစ်ရက်မြောက်သောနေ့ အသောကာ ရာမကျောင်း၌ ရဟန်းသံဃာကို စည်းဝေး စေပြီးလျှင် မင်းကြီးကိုယ်၊ မောဂ္ဂလိပုတ္တ တိဿမထေရ် ကိုယ်၊ တင်းထိမ်ရံစေ၍ တင်းထိမ်တွင်း၌နေတော်မူလျက် အယူတူရဟန်းတို့ကို တပေါင်းတစုတည်းပြုစေ၍ တစုသော ရဟန်းကိုခေါ်စေပြီးလျှင် မြတ်စွာဘုရား အဘယ်အယူရှိသနည်းဟု မေးတော်မူ၏။ တိတ္ထိရဟန်း တို့တွင် အချို့သောရဟန်းတို့ကား ဘုရားသခင်သည် မြဲ၏ဟူသော အယူရှိတော်မူ၏ဟု ဆိုကုန်၏။ အချို့သော ရဟန်းတို့ကား ဘုရားသခင်သည် အချို့သောသတ္တဝါ သခ်ါရသာမြဲ၏ဟူသော အယူရှိ၏။ အချို့သောရဟန်း တို့ကား မြတ်စွာဘုရားသည် အကြောင်းကင်း၍ဖြစ်၏- ဟူသောအယူရှိ၏။ အချို့သောရဟန်းတို့ကား ဘုရားသခင် သည် သညာရှိ၏-ဟူသော အယူရှိ၏။ အချို့သော ရဟန်းတို့ကား၊ ဘုရားသခင်သည် သညာမရှိ-ဟူသော အယူရှိ၏၊ အချို့သော ရဟန်းတို့ကား ဘုရားသခင်သည် သညာရှိသည် မရှိသည်လည်း မဟုတ်သော အယူရှိ၏။ အချို့သော ရဟန်းတို့ကား၊ ဘုရားသခင်သည်၊ သေလျှင် မြတ်၏ဟူသော အယူရှိ၏။ အချို့သောရဟန်းတို့ကား ဘုရားသခင်သည် မျက်မှောက်သော ကိုယ်၏အဖြစ်၌ နိဗ္ဗာန်ရှိ၏ဟူသော အယူရှိ၏ဟု ဆိုကုန်၏။ မင်းကြီးသည် ရှေးဦးစွာကလျှင် ဘုရားသခင်အယူတော်ကို သင်ပြီး ဖြစ်သောကြောင့် ဤသူတို့သည် ရဟန်းမဟုတ်၊ တိတ္ထိတို့တည်းဟုသိ၍ ထိုသူတို့ကို လူပြုစေ၏။ လူပြုရ သော ရဟန်းတို့ကား ခြောက်သောင်း အတိုင်းအရှည် ရှိကုန်၏။ ထိုသို့ပြုစေပြီး တစုသောရဟန်းတို့ကိုခေါ်စေ၍ ဘုရားသခင် အဘယ်အယူရှိသနည်းဟု မေးတော်မူ၏။ မြတ်သောမင်းကြီး၊ ခွဲခြမ်းစိတ်ဖြာ၍ ယူတတ်သော ဝိဘဇ္ဇဝါဒီ-အယူရှိတော်မူ၏ဟု ဆိုကုန်သော် မင်းကြီးသည် မောဂ္ဂလိပုတ္တတိဿမထေရ်ကို အရှင်ဘုရား၊ ဘုရားသခင် သည် ခွဲခြမ်းစိတ်ဖြာ၍ယူတတ်သော ဝိဘဇ္ဇဝါဒီ အယူ ရှိတော်မူသလောဟု မေးလျှောက်၏၊ မောဂ္ဂလိပုတ္တတိဿ မထေရ်သည်လည်း မြတ်သောမင်းကြီး၊ မြတ်စွာဘုရား သခင်သည် ခွဲခြမ်းစိတ်ဖြာ၍ ယူတတ်သော ဝိဘဇ္ဇဝါဒီ အယူရှိ၏ဟု မိန့်တော်မူ၏။ ထိုအခါ မွှာသောကမင်းကြီး သည် အရှင်ဘုရားတို့၊ သာသနာတော်စင်ကြယ်ပါပြီ။ ရဟန်းသံဃာတော်သည် ဥပုသ်ပြုတော်မူပါလောဟု အစောင့်အရှောက်ထား၍ မြို့သို့ဝင်တော်မူလေ၏။ သံဃာတော်သည်လည်း အညီအညွတ် စည်းဝေး၍ ဥပုသ် ပြုလေ၏၊ ထိုအစည်းအဝေး၌ ရဟန်းအပေါင်းကား ခြောက်သိန်းဖြစ်သတည်း။ ထိုအစည်းအဝေး၌ မောဂ္ဂလိ ပုတ္တတိဿထေရ်သည် သူတပါးအယူကို နှိမ်နင်းလျက် ကထာဝတ္ထုကျမ်းကို ဟောတော်မူ၏။

ထိုနောက် သီရိဓမ္မာသောကမင်းကြီး အဘိသိက် မခံမီ လေးနှစ်။ အဘိသိက်ခံပြီးနောက် တဆဲ့ခြောက် နှစ်။ နှစ်စုပေါင်းစည်းစိမ်နှစ်ဆယ်။ သာသနာတော် သက္ကရာဇ် နှစ်ရာ့သုံးဆဲ့လေးနှစ်ရောက်သောအခါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်သည် ခြောက်သိန်း သော ရဟန်းတို့တွင် ပိဋကတ်သုံးပုံကိုဆောင်ကုန်သော ပဋိသမ္ဘိဒါပတ္တ၊ တေဝိဇ္ဇကဖြစ်ကုန်သော တထောင်သော ရဟန္တာတို့ကို ရွေးကောက်တော်မူ၍ တတိယသင်္ဂါယနာ တင်တော်မူ၏။ သင်္ဂါယနာတင်ပြီးသည့်အဆုံး၌ မြေကြီး သည်းစွာ အကြိမ်ကြိမ်လှုပ်လေ၏။ ဤတတိယသင်္ဂါယနာ တင်ခြင်းသည်ကား နှစ်ရာ့သုံးဆဲ့လေးခု၊ တပို့တွဲလပြည့် နေ့မှသည် နှစ်ရာ့သုံးဆဲ့ငါးခု၊ တန်ဆောင်မုန်းလပြည့် တိုင်မှ ပြီးသဖြင့် ကိုးလတိုင်တိုင်ကြာလေ၏။

(မှန်နန်းရာဇဝင်၌ ပြာသိုလပြည့်နေ့မှစ၍ တင်သည်။ ဝါကျွတ်လပြည့်နေ့တိုင် ရောက်မှပြီးသည်ဟု ဆို၏။ အရှင် မဟိန္ဒဆိုင်းငံ့နေသည်ကိုလည်း ရှစ်လဟု ဆိုသည်။ ပါရာဇိကဏ် အဋ္ဌကထာ၌။ ဉာတကေ ဩလောကေန္တော ဆမာသေ အတိက္ကာမေသိ။ ဉာတကေ၊ ဆွေမျိုးတို့ကို။ ဩလောကေန္တော၊ ကြည့်ရှု နေထိုင်တော်မူလျက်။ ဆမာသေ။ ခြောက်လတို့ကို။ အတိက္ကာမေသိ၊ လွန်စေတော်မူ၏။ ဟူ၍ ဒက္ခိဏာဂိရိနေ

ပုဒ်၌ ခြောက်လတရပ်။ အထာပရံ ကေမာသံ တတ္ထေဝဝါသံ ကပ္ပေသိ။ မာသာ တိက္က မေနစ ဓေဋ္ဌမူလ မာသပုဏ္ဏမာယံ ဥပေါသထဒိဝသေ သန္နိပတိတွာ သဗ္ဗေပိကာလော နုခေါ အမှာကံ တမ္ဗပဏ္ဏိဒီပံ ဂမနာယ၊ ဥဒါဟု နောတိ မန္တယိံသု။ အထာပရံ၊ ထိုမှတပါး လည်း၊ ကေမာသံ၊ တလပတ်လုံး။ တတ္ထေဝ၊ ထိုဝေဒိသဂိရိမြို့၌ ပင်လျှင်။ ဝါသံ၊ နေထိုင်ခြင်းကို။ ကပ္ပေသိ၊ ပြုတော်မူ၏။ မာသာတိက္ကမေနစ၊ တလလွန်သဖြင့်လျှင်။ ဓေဋ္ဌမူလ မာသပုဏ္ဏမာယံ၊ ရှေးဦးစွာ နယုန်လပြည့်ဖြစ်သော။ ဥပေါသထဒိဝသေ၊ ဥပုသ်နေ့၌။ သန္နိပတိကွာ၊ စည်းဝေး တိုင်ပင်ကုန်သည်ဖြစ်၍။ သဗ္ဗေပိ၊ အလုံးစုံသောမထေရ်တို့ သည်လည်း။ အမှာကံ၊ ငါတို့၏။ တမ္ဗပဏ္ဏိဒီပံ၊ သီဟိုဠ် ကျွန်းသို့။ ဂမနာယ၊ သွားအံ့သောငှာ။ ကာလောနုခေါ၊ အခါတန်ပြီလော။ ဥဒါဟု၊ ထိုသို့မဟုတ်မူကား။ နော၊ အခါမတန်သေးလော။ ဣတိ၊ ဤသို့။ မန္တယိံသု၊ တိုင်ပင်ကြကုန်၏ဟူ၍ ဒေဝိသဂိရိမြို့၌ တလ-တရပ်။ ပေါင်းခုနစ်လနေတော်မူပြီးမှ နယုန်လပြည့်နေ့ သီဟိုဠ်ကျွန်း သို့ ကြွတော်မူကြောင်းကိုဆိုသည်နှင့် မညီလေ။ မဟာဝင် ဝတ္ထု၊ ဖိနတ္ထုပကာသနီကျမ်းတို့၌ နှစ်ရာ့သုံးဆဲ့ငါးခုနှစ်အကျ နယုန်လမှစ၍ သင်္ဂါယနာတင်ကြောင်း။ ကိုးလမြောက် တပို့တွဲလတွင်ပြီးဆုံးကြောင်းနှင့်ဆိုသည်။ တပို့တွဲလမှ ပြီးခဲ့လျှင် အရှင်မဟိန္ဒမထေရ် ငါးလသာဆိုင်းငံ့ရာ ရောက်သောကြောင့် အဋ္ဌကထာ၌ ခုနစ်လဆိုင်းငံ့သည် ဆိုသောအချက်နှင့် မညီလေ။ ရာဇဝင်ကြီး၌ သက္ကရာဇ် နှစ်ရာ့သုံးဆဲ့ခြောက်ခုတွင် တတိယသင်္ဂါယနာတင်ကြောင်း နှင့်ဆိုသည်။ ထိုစကားသည် သီရိဓမ္မာသောကမင်းကြီး အဘိသိက်ခံပြီးနောက် တဆဲ့ခုနစ်နှစ်တွင် တတိယ သင်္ဂါယနာတင်ပြီး၍ တဆဲ့ရှစ်နှစ်မြောက်တွင် အရှင်မဟိန္ဒထေရ်သီဟိုဠ် ကျွန်းသို့ရောက်သည်ဟုဆိုသော မဟာဝင်ကျမ်း။ ။ သက္ကရာဇ် နှစ်ရာ့သုံးဆဲ့ခြောက်ခုတွင် အရှင်မဟိန္ဒထေရ် နယုန်လပြည့်နေ့ သီဟိုဠ်ကျွန်းသို့ ကြွတော်မူသည်ဟုဆိုသော ပါရာဇိကဏ် အဋ္ဌကထာတို့နှင့် မညီလေ။ သက္ကရာဇ်နှစ်ရာ့သုံးဆဲ့လေးခုတွင် တပို့တွဲ လပြည့်မှစ၍ တတိယသင်္ဂါယနာတင်သည်။ သက္ကရာဇ် နှစ်ရာ့သုံးဆဲ့ငါးခုနှစ် တန်ဆောင်မုန်းလပြည့်နေ့မှ ပြီးဆုံးသည်။ ပြီးဆုံးပြီးနောက် ကိုးတိုင်းကိုးဌာနသို့ သာသနာပြုစေလွှတ်ရာ မဇ္ဈန္တိကမထေရ် ကသ္မီရဂန္ဓာရတိုင်း သို့ ကြွရောက်တော်မူသောအခါ ကောက်စပါးမှည့်ချိန် ဖြစ်ကြောင်းကို။ တေန ခေါပန သမယေန ကသ္မီရဂန္ဓာရရဋ္ဌေ။ သဿပါက သမယေ။ ။ တေနခေါပန သမယေန ထိုသို့ မဇ္ဈန္တိကထေရ် သာသနာပြုကြွတော်မူသောအခါ၌။ ကသ္မီရဂန္ဓာရရဋ္ဌေ၊ ကသ္မီရဂန္ဓာရမည်သော ပန်ဂျပ်နိုင်ငံ အနောက်မြောက်ပိုင်း ကသ္မီရဂန္ဓာရတက္ကသိုလ်ပြည်၌။ သဿပါကသမယေ၊ စပါးကောက်မှည့်သောအခါ၌။ ဟူ၍ ဆိုအပ်သော ပါရာဇိကဏ်အဋ္ဌကထာ။ ။ သာသနာ သက္ကရာဇ် နှစ်ရာသုံးဆဲ့ငါးခု၊ တန်ဆောင်မုန်းလ၊ ကိုးတိုင်းကိုးဌာနသို့ သာသနာပြုစေလွှတ်ကြောင်းနှင့် ဆိုသော သာသနာလင်္ကာရကျမ်းကိုထောက်၍သိလေ။ ဤတတိယသင်္ဂါ ယနာမတင်မီ သီရိဓမ္မာသောက မင်းကြီး သည် ကျောင်းရှစ်သောင်းလေးထောင်၊ စေတီရှစ်သောင်း လေးထောင်တို့ကို သာဓုအနုမောဒနာခေါ်သောအခါ မာရ်နတ် မဖျက်ဆီးနိုင်အောင် အရှင်ဥပဂုတ်ထေရ် တန်ခိုး အမျိုးမျိုးတို့ဖြင့် တားမြစ်စောင့်ရှောက်ကြောင်းတို့ကို အကျယ်တဝင့် မဟာဝင်ဝတ္ထု၊ ရာဇဝင်ကြီးတို့၌ဆိုသည်။ ထိုစကားရပ်များသည် ကျမ်းကြီးကျမ်းခိုင်တို့မှလာသော စကားမဟုတ်သောကြောင့် ပညာရှိတို့ မယုံကြည်အပ်ဟူ၍ ပယ်ရှားလေသော မှန်နန်းရာဇဝင်စကားသည် မှတ်သား နာယူထိုက်သော စကားဖြစ်သည်ထင်သောကြောင့် ဤရခိုင်ရာဇဝင်သစ်၌ရေးသွင်း၍ မထည့်လိုက်ပြီ။ (ဤကား အမှာစကားချပ်)

## ၁၃၂။ ပစ္စန္တဇနပုဒ်ဖြစ်သော ကိုးတိုင်းကိုးဌာနသို့ သာသနာပြုစေလွှတ်တော်မူကြောင်း

အရှင်မောဂ္ဂလိပုတ္တတိဿမထေရ်သည်ကား တတိယသင်္ဂါယနာတင်ခြင်းကိစ္စကို ဆောင်ရွက်တော်မူပြီး၍ နောင်သောအခါ အဘယ်အရပ်၌ သာသနာတော်တည်လတ္တံ့နည်းဟု ကြည့်ရှုဆင်ခြင်တော်မူသည်ရှိသော် ပစ္စန္တဇနပုဒ်တို့၌ တည်လတ္တံ့ဟု မြင်တော်မူ၍ ပစ္စန္တဇနပုဒ်ဖြစ်သော ကိုးတိုင်းကိုးဌာနတို့၌ သာသနာတော် တည်ထွန်းစေခြင်းငှာ မဇ္ဈန္တိကထေရ်ကို ကသ္မီရဂန္ဓာရတိုင်း တက္ကသိုလ်ပြည်သို့ စေလွှတ်တော်မူသည်။ (အကျယ်ကိုသိလိုမူ ငါတို့ရေးသားအကပ်သော ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၁၀ နံပါတ်တို့၌ယူလေ)။

မဟာရေဝတထေရ်ကို မဟိံသကတိုင်း မဒရပ်မြောက်ပိုင်း တဝန်းလုံးသို့စေလွှတ်တော်မူသည်။ (ဤမဟိံသကတိုင်းဟူသည် ရာဇဖြိုဟ်ပြည်မှတောင်ဘက်၊ မဒရပ် ပြည်မြောက် အန္ဓကဝိန္ဓ၊ ဩရိယာန၊ ဘင်္ဂလား၊ စစ်တကောင်း၊ ပင်းဝါ စသော ဇနပုဒ် တဝန်းလုံးကိုဆိုသည်။ အကျယ်ကိုသိလိုမူ ငါတို့ရေးသားအပ်သော ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၅၆ နံပါတ်တို့၌ယူလေ)။ ။

ရက္ခိတမထေရ်ကို ဝနဝါသီတိုင်း မဒရပ်အနောက်ဘက် တံဗိုရနယ်သို့ စေလွှတ်တော်မူသည်။ (အကျယ်ကိုသိလိုမူ ငါတို့ရေးသားအပ်သော ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၆၀ နံပါတ်တို့၌ယူလေ)။

ယောနကဓမ္မမထေရ်ကို အပရန္တတိုင်း၊ ဖရိဒပြည်သို့ စေလွှတ်တော်မူသည်။ (ဤအပရန္တတိုင်းဟူသည်ကို မှန်နန်းရာဇဝင် စသည်တို့၌ စကုမြို့၊ လယ်ကိုင်းမြို့များဖြစ်ကြောင်းနှင့် ဆွဲငင်ရေးသားလေသည်။ ယင်းသို့ရေးသားသော်လည်း အပရန္တတိုင်းဟူသည် မဇ္ဈိမဒေသ အနောက်ဘက်၊ အနောက်ကျွန်းသူတို့နေရာ ယခုအခါ ဖရိဒပြည်များကိုသာယူလေ။ အကျယ်ကိုသိလိုမူ ငါတို့ရေးသားအပ်သော ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၃၄ နံပါတ်တို့၌ယူလေ)။

မဟာဓမ္မရက္ခိတမထေရ်ကို မဟာရဋ္ဌတိုင်း၊ ဣန္ဒိယပြည်၏ အနောက်တောင်ထောင့်အရပ်၊ ပဋ္ဌဝတီမြို့၊ ဒေဩဂိရိမြို့များသို့ စေလွှတ်တော်မူသည်။ (ဤမဟာရဋ္ဌတိုင်းဟူသည် အိန္ဒိယပြည်၏အနောက်တောင်ထောင့်အရပ်၊ ပဋ္ဌဝတီမြို့၊ ဒေဩဂိရိမြို့များကိုယူလေ။ အကျယ်ကိုသိလိုမူ ငါတို့စီရင်အပ်သော ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၄၈ နံပါတ်တို့၌ယူလေ)။

မဟာရက္ခိတမထေရ်ကို သာမညယောနကတိုင်း၊ ဣန္ဒိယပြည်၏ အနောက်တောင်၊ မဟာရဋ္ဌတိုင်းအနီး ရောရုကပြည်များသို့ စေလွှတ်တော်မူသည်။ (ဤသာမည ယောနကတိုင်းဟူသည်ကိုလည်း မှန်နန်းရာဇဝင် စသည်တို့၌ သံလွင်မြစ် အရှေ့အနောက်၊ ယွန်းပန်းသေးတို့နေရာ လကွန်းမြို့များကိုဆွဲငင်၍ ရေးသားကြလေသည်။ ယင်းသို့ ရေးသားသော်လည်း အိန္ဒိယပြည်၏ အနောက်တောင်၊ မဟာရဋ္ဌတိုင်း အရှေ့တောင်အနီး ရောရုကပြည်များကို သာယူလေ၊ အကျယ်ကိုသိလိုမူ ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံ ကျမ်း ၂၁၇ နံပါတ်၊ ၂၄၁ နံပါတ်တို့၌ယူလေ)။

မဇ္ဈိမမထေရ်ကို ဣန္ဒိယပြည်၏ အနောက်မြောက်ထောင့်၊ ဟိမဝန္တာတောင်၌တည်သော စိန့်တိုင်း ငါးရပ်သို့စေလွှတ်တော်မူသည်။ (အကျယ်ကိုသိလိုမူ ဇမ္ဗူဒီမ ဣန္ဒိယနယ်ပုံကျမ်း ၂၂၆ နံပါတ်တို့၌ ယူလေ)။

သောဏ–ဥတ္တရမထေရ်တို့ကို သုဝဏ္ဏဘုမ္မိတိုင်း၊ အိန္ဒိယပြည်၏ အနောက်တောင်ထောင့်၊ ယခုအခါ ဘုံဘိုင်ကျွန်းသို့စေလွှတ်တော်မူသည်။ (ဤသုဝဏ္ဏဘုမ္မိတိုင်းဟူသည်ကို မှန်နန်းရာဇဝင်တို့၌ သထုံပြည်ဖြစ်ကြောင်းနှင့် ဆွဲငင်၍ ရေးသားထားကြလေသည်။ ယင်းသို့ ရေးသားသော်လည်း သုရဋ္ဌတိုင်း၊ သုဝဏ္ဏဘုမ္မိတိုင်းဟူသည်ကို ဣန္ဒိယပြည်၏အနောက်တောင်ထောင့်အရပ်၊ ဘုံဘိုင်ကျွန်းကိုသာယူလေ။ အကျယ်ကိုသိလိုမူ ဇမ္ဗူဒီပ ဣန္ဒိယနယ်ပုံကျမ်း ၂၅၄ နံပါတ်တို့၌ယူလေ)။

သီရိဓမ္မာသောကမင်းကြီးသားတော် မဟိန္ဒ ထေရ်ကို ဣဋ္ဋိယ၊ ဥတ္တိယ၊ သမ္ဗလ၊ ဘဒ္ဒသေန ဤမထေရ်လေးပါးတို့နှင့်တကွ သီဟိုဠ်ကျွန်းသို့ စေလွှတ်တော်မူသည်။ စေလွှတ်တော်မူအပ်သော မထေရ်တို့သည် လည်း ပစ္စန္တဇနပုဒ်အရပ်တို့၌ ငါးပါးအစရှိသော ဂိုဏ်းသံဃာသည် ရဟန်းပြုခြင်း၊ ဥပသမ္ပဒကံကို ဆောင်ရွက်ခြင်းငှာသင့်ပြီဟု သိတော်မူကြသဖြင့် နောက်ပါရဟန်းလေးပါးခေါ်၍ ကြွတော်မူကြကုန်၏။

ထိုကိုးတိုင်း ကိုးဌာနအရပ်တို့တွင် ကသ္မီရဂန္ဓာရ တိုင်း၊ တက္ကသိုလ်ပြည်၌ အရဝါဠအိုင်တွင်နေသော အရဝါဠနဂါးမင်းသည် ကောက်စပါးမှည့်ချိန်အခါ၌ ရှောက်စွာ မိုးကြီးကိုရွာစေ၍ ကောက်ပင်အပေါင်းကို မဟာသမုဒ္ဒရာသို့ မျောစေလျက် ဖျက်ဆီးတတ်ဘိရကား ကသ္မီရဂန္ဓာရတိုင်း တက္ကသိုလ်ပြည်သူတို့သည် အရဝါဠ နဂါးမင်းအား ကောက်ပင်ကို မဖျက်ဆီးစေခြင်းငှာ နှစ်စဉ်မပြတ် ပူဇော်ကြကုန်၏။ မဇ္ဈန္တိကမထေရ်သည် လည်း ကောက်စပါးမှည့်ချိန် ပြည်သူတို့သည် နဂါးမင်း အား ပူဇော်မည့်နေ့၌ ကသ္မီရဂန္ဓာရတိုင်း၊ တက္ကသိုလ်ပြည် သို့ ကောင်းကင်ခရီးဖြင့်ကြွတော်မူ၍ အရဝါဠအိုင် ရေအပြင်၌ သွားခြင်း၊ ရပ်ခြင်း၊ ထိုင်ခြင်း၊ လျောင်းခြင်းဟု ဆိုအပ်သော အထူးထူးသော ဣရိယာပုထ်ဖြင့်နေသည်ကို နဂါးလုလင်တို့မြင်၍ ဖန်ရည်စွန်းသော အဝတ်ကို ဝတ်သော ဦးပြည်းတယောက်သည် အကျွန်ုပ်တို့ ရေအိုင် ကို ဖျက်ဆီးလာ၏ဟု နဂါးမင်းအားလျှောက်ကြားကြ ကုန်၏။ နဂါးမင်းလည်း ထိုခဏ၌ ဗိမာန်မှထွက်ခဲ့၍ မဇ္ဈန္တိကထေရ်ကိုမြင်လေလျှင် ပြင်းစွာအမျက်ထွက်သည် ဖြစ်၍ သစ်ပင်ကြီးပြတ်ခြင်း၊ တောင်ထွတ်ပြိုကျခြင်းကို ဖြစ်စေလျက် ကောင်းကင်အလုံးကွဲဘိသကဲ့သို့ မိုးသည်းစွာ ရွာစေခြင်းဟုဆိုအပ်သော ကြောက်မက်ဖွယ်သော အခြင်း အရာတို့ကို ဖန်ဆင်း၍ နဂါးလုလင်အပေါင်းတို့နှင့်တကွ အခိုးအလျှံလွှတ်ခြင်း၊ လက်နက်မိုး ရွာစေခြင်းတို့ကိုပြု၍ ရန်းရင်းကြမ်းကြုတ်စွာသောစကားဖြင့် မထေရ်ကို ခြိမ်းခြောက်လျက် ဤရဟန်းကိုဖမ်းကြသတ်ကြ နှင်ထုတ် ကြလောဟု နဂါးအပေါင်းတို့အား အာဏာထားလျက် လွှမ်းမိုးဖိစီး၍လာ၏။ မဇ္ဈန္တိကထေရ်ကား ထိုအလုံးစုံကို တန်ခိုးဖြင့် ပယ်တော်မူ၍ နဂါးမင်းကို ဤသို့မိန့်တော်မူ၏။ အရဝါဠနဂါးမင်း၊ သင်တယောက်တည်းကိုထားဘိဦး၊ နတ်, ဗြဟ္မာနှင့်တကွသော လူအပေါင်းလာ၍ ခြောက်လှန့် စေကာမူ ငါ့အားကြောက်ထိတ်လန့်ခြင်းကို ဖြစ်စေနိုင်မည့် သူမရှိရာ။ သမုဒ္ဒရာလေးစင်း၊ မြင်းမိုရ်သတ္တရာဇာနှင့် တကွ နှစ်သိန်းလေးသောင်းအထုရှိသော မြေကိုကြွချီ၍ ငါ့အပေါ်၌ချနိုင်စေကာမူ ငါ့အား ကြောက်ထိတ်လန့်ခြင်း မရှိရာ။ စင်စစ်သော်ကား သင်နဂါးမင်း၏ ဆင်းရဲပင်ပန်း ခြင်းမျှသာဖြစ်မည်ဟု မိန့်တော်မူသည်ရှိသော် အရဝါဠ နဂါမင်းသည် မိမိတန်ခိုးအာနုဘော် မထင်ရှားဘဲပြုသမျှ လုံ့လသည် အချည်းနှီးသာဖြစ်လေရကား များစွာသော ဆင်းရဲပူပန်ခြင်းဖြစ်လေ၏။ ထိုအခါ မဇ္ဈန္တိကထေရ်သည် လျော်ကပတ်သော တရားကိုပြတော်မူ၍ နှစ်သက် ဝမ်းမြောက်ခြင်းကိုဖြစ်စေပြီးမှ ရှစ်သောင်းလေးထောင်သော နဂါးလုလင်တို့နှင့်တကွ အရဝါဠနဂါးမင်းကို သရဏဂုံ သီလ၌တည်စေတော်မူ၏။ ထိုမှတပါးသော ဟိမဝန္တာ၌ နေသော ဘီလူး၊ ဂန္ဓဗ္ဗနတ်၊ ကုမ္ဘဏ်တို့သည်လည်း သရဏဂုံသီလ၌ တည်လေကုန်၏။ ပဉ္စကအမည်ရှိသော ဘီလူးမင်းသည် မယားဖြစ်သော ဘီလူးမ၊ ငါးရာသော သားတို့နှင့်တကွ သောတာပတ္တိဖိုလ်၌တည်လေ၏။ ထိုနောက်မှ မဇ္ဈန္တိကထေရ်သည် နဂါး,ဘီလူး, ရက္ခိုက် တို့ကိုခေါ်တော်မူ၍ ရှေးအခါ၌ကဲ့သို့ အမျက်ဒေါသကို မဖြစ်ကြစေကုန်လင့်။ သတ္တဝါတို့သည် ကိုယ်၏ချမ်းသာ ခြင်းကို အလိုရှိကြကုန်မြဲတည်း။ ထိုကြောင့် လူတို့ လုပ်ဆောင်သော ကောက်စပါးသီးနှံကိုလည်း မဖျက်ဆီး ကြကုန်လင့်။ လူအပေါင်းတို့သည် ချမ်းသာကြသော ဖြစ်စေသတည်းဟု မေတ္တာကိုသာ ပွားများကြစေကုန် လောဟု ဆုံးမတော်မူ၏။ နဂါး, ဘီလူး, ရက္ခိုက်တို့လည်း ဝန်ခံ၍ ဆုံးမတိုင်းကျင့်ကြကုန်၏။

ထိုအခါ အရဝါဠနဂါးမင်းလည်း ရတနာ ခုနစ်ပါးဖြင့်ပြီးသော ပလ္လင်ကိုဆောင်ယူစေ၍ မထေရ်အား ခင်းပေး၍ ပလ္လင်၌ထိုင်နေတော်မူသော မထေရ်ကို ယပ်ခတ်၍နေစဉ် ကသ္မီရဂန္ဓာရတိုင်း တက္ကသိုလ်ပြည်သူတို့ သည် နဂါးမင်းအားပူဇော်ခြင်းငှာ လာကြကုန်၍ မထေရ် ကိုမြင်လေလျှင် ဤသူကား ငါတို့နဂါးမင်းထက်ပင် အလွန်တန်ခိုးကြီးပေစွတကားဟု မထေရ်ကိုရှိခိုး၍ နေကြ ကုန်၏။ မဇ္ဈန္တိကထေရ်လည်း ထိုကသ္မီရဂန္ဓာရတိုင်း တက္ကသိုလ်ပြည်သူတို့အား အာသိဝိသောပမသုတ်ကို ဟောတော်မူ၏။ ဒေသနာတော်အဆုံး၌ ရှစ်သောင်းလေး ထောင်သောသူတို့သည် သောတာပတ္တိဖိုလ်၌ တည်လေ ကုန်၏။ တထောင်သောယောကျ်ားတို့လည်း ရဟန်း ပြုကြကုန်၏။ ထိုအခါမှစ၍ ကသ္မီရဂန္ဓာရတိုင်း တက္ကသိုလ် ပြည် ပက်သျှုပါမြို့၌ သင်္ကန်းရောင်တောက်ပရာဖြင့် သာသနာတော် တည်ထွန်းတော်မူလေသတည်း။

မဟာရေဝတထေရ်သည်လည်း မဟိံသကတိုင်း သို့ ကြွတော်မူ၍ ထိုတိုင်းသူတို့အား ဒေဝဒူတသုတ်ကို ဟောတော်မူပေ၏။ သုတ္တန်ဒေသနာတော်အဆုံး၌ လေးသောင်းသောယောကျ်ားတို့သည်လည်း မထေရ်တို့ ထံ၌ ရဟန်းပြုကြကုန်၏။ ဤမဟိံသကတိုင်း၊ အန္ဓကဝိန္ဓ တိုင်းသူ လူမျိုးတို့ကို အင်ကျင်လူမျိုးတို့ဟူ၍ ဆရာတို့ ဆိုကြကြောင်းနှင့် မှန်နန်းရာဇဝင်၌ဆိုသည်။ (ယင်းသို့ ဆိုအပ်သော်လည်း အင်ကျင်၊ အင်ကျယ်လူမျိုးသည် သျှမ်းမျိုးသုံးဆယ်တွင်ပါဝင်သူဖြစ်၍ငင်း။ မဟိံသက၊ အန္ဓကဝိန္ဓ၊ ဩရိယာန၊ ဘင်္ဂလား၊ စစ်တကောင်း၊ ပင်းဝါ စသောပြည်သူများသည် မန္တရာဇ်၊ ကျေးကုလား၊ ဘင်္ဂလီ၊ ပသီ၊ မုဆလမ်၊ ရခိုင်စသော လူမျိုးတို့နေထိုင်ရာပြည်ဖြစ်၍ ငင်း မန္တရာဇ်၊ ကျေးကုလား၊ ဘင်္ဂလီ၊ ပသီ၊ မုဆလမ်၊ ရခိုင် စသော လူမျိုးတို့ဟူ၍သာယူရမည်။)

ရက္ခိတ မထေရ်သည်ကား ဝနဝါသီတိုင်းသို့ ကြွတော်မူ၍ ကောင်းကင်၌တည်လျက် အနမတဂ္ဂသုတ္တန် ဒေသနာတော်ဖြင့် ဝနဝါသီတိုင်းသူတို့၏ စိတ်ကိုကြည် လင်စေတော်မူ၏။ သုတ္တန်ဒေသနာတော်အဆုံး၌ ခြောက်သောင်းသောသူတို့သည် သောတာပန်အဖြစ်သို့ ရောက်လေကုန်၏။ ခုနစ်သောင်းမျှလောက်သော ယောကျ်ားတို့သည် ရဟန်းပြုကြကုန်၏။ ဝနဝါသီတိုင်းသူ တို့သည် သာသနာတော်၌ ကြည်ညိုခြင်းဖြစ်သဖြင့် ငါးရာသောကျောင်းကို ဆောက်လှူကြကုန်၏။

ယောနကဓမ္မရက္ခိတ မထေရ်မူကား အပရန္တ တိုင်းသို့ကြွတော်မူ၍ အဂ္ဂိခန္ဓူပမသုတ်ကို ဟောတော်မူပေ ၏။ သုတ္တန်ဒေသနာတော်အဆုံး၌ ခုနစ်သောင်းမျှလောက် သောသူတို့သည် လောကုတ္တရာ အမြိုက်အရသာကို သောက်ရလေကုန်၏။ တထောင်မျှသောမင်းသားတို့ သည်ငင်း၊ ခြောက်ထောင်မကသော မိန်းမတို့သည်ငင်း ရဟန်းပြုကြကုန်၏။

မဟာဓမ္မရက္ခိတမထေရ်သည်ကား မဟာရဋ္ဌ တိုင်းသို့ကြွတော်မူ၍ မဟာနာရဒ ကဿပဇာတ်ဒေသနာ ဖြင့် မဟာရဋ္ဌတိုင်းသူတို့ကိုကြည်လင်စေ၍ ရှစ်သောင်း လေးထောင်သောသူတို့ကို မဂ်ဖိုလ်၌တည်စေတော်မူ၏။ တသောင်းသုံးထောင်မျှလောက်သော ယောကျ်ားတို့ သည် ရဟန်းပြုကြကုန်၏။

မဟာရက္ခိတမထေရ်သည်လည်း သာမည ယောနကတိုင်းသို့ကြွတော်မူ၍ ကာဠာရာမသုတ္တန် ဒေသနာတော်ဖြင့် သာမညယောနက တိုင်းသူအပေါင်းကို ကြည်လင်စေ၍ တသိန်းခုနစ်သောင်းသော ယောနက တိုင်းသားတို့အား မဂ်ဖိုလ်တည်းဟူသော တန်ဆာအထူးကို ပေးတော်မူ၏။ တသောင်းမျှသောသူတို့သည်လည်း မဟာရက္ခိတထေရ်အထံ၌ ရဟန်းပြုတော်မူကြကုန်၏။ ဤသို့လျှင် မဟာရက္ခိတမထေရ်သည် သာမညယောနက တိုင်း၌ သာသနာတော်ကိုတည်စေတော်မူသတည်း။ ။ (ဤအရာ၌ ယောနကတိုင်းသည် ကာဠယောနကတိုင်း၊ သာမညယောနကတိုင်းဟူ၍ နှစ်တိုင်းရှိသင့်လေရာ ကာဠယောနကတိုင်းသည် မဇ္ဈိမဒေသအတွင်းဖြစ်၍ ဤ၌ သာမညယောနကတိုင်းဖြစ်သင့်ကြောင်းနှင့် ဆိုလိုက်သည်။

အကျယ်သိလိုမူ ဓမ္မပဒပဏ္ဏာသနယ်ပုံကျမ်း ၂၁၇ နံပါတ်၌ယူလေ)။

မဇ္ဈိမထေရ်မူကား ကဿပဂေါတ္တထေရ်၊ နာဋကဒေဝထေရ်၊ ဒုန္ဒုဘိယထေရ်၊ မဟာရေဝတထေရ်တို့နှင့်တကွ ဟိမဝန္တတောင်၌တည်သော စိန့်တိုင်းငါးရပ်သို့ ကြွတော်မူ၍ ဓမ္မစက္ကပဝတ္တနသုတ္တန်ဒေသနာတော်ဖြင့် ထိုအရပ်သားတို့ကို ကြည်လင်စေ၍ ကုဋေရှစ်ဆယ်မျှ လောက်ကုန်သော သူတို့ကို မဂ်ဖိုလ်တည်းဟူသော တရားရတနာအထူးကိုရစေတော်မူ၏။ ဤသို့လျှင် မဇ္ဈိမထေရ်အမှူးရှိသော ငါးပါးသောမထေရ်တို့သည် ဟိမဝန္တာတောင်၌ဖြစ်သော စိန့်တိုင်း ငါးပြည်ထောင်သားတို့၏ ကြည်ညိုခြင်းကိုဖြစ်စေကုန်၍ တပါးတပါးသော မထေရ်၏အထံ၌ တသိန်းတသိန်းမျှ လောက်သောသူတို့သည် ရဟန်းပြုကြလေကုန်၏။ (ဤစိန့်တိုင်းဟူသည်ကိုလည်း သောဠသ ကမ္ဘာ့မြေပုံကျမ်း၌ ကမ္ဘောဇတိုင်း မြောက်ဘက် ဗန်းမော်၊ ကောင်းတုံ အရပ်ကိုခေါ်သည်ဟူ၍၎င်း၊ ဟိမဝန္တဒေသ ဘာဂ၊ ဟိမဝန္တာတောအရပ် ရှူးတိုင်းသို့ဟူ၍၎င်း၊ ထင်ရှား ရေးသားမှာထားပြဆိုလေသည်။ ယင်းသို့ပြဆိုအပ်သော်လည်း ထိုစကားကို မှတ်သားခြင်း မပြုထိုက်ပေရာ။ ပါရာဇိကဏ် အဋ္ဌကထာနှင့်ဋီကာ အရပ်ရပ်တို့ ဖွင့်ပြအပ်သည့်အတိုင်း ဟိမဝန္တာတောင်အတွင်း စိန့်တိုင်း ငါးရပ်ကိုသာယူရမည်။ အကျယ်ကိုသိလိုမူ ဓမ္မပဒပဏ္ဏာသနယ်ပုံကျမ်း ၂၂၅ နံပါတ်တို့၌ယူလေ။)

သောဏထေရ်သည်လည်း ဥတ္တရထေရ်နှင့်တကွ သုဝဏ္ဏတိုင်း၊ သုဝဏ္ဏဘုမ္မိပြည်၊ ဘုံဘိုင်ကျွန်းအရပ်သို့ ကြွတော်မူ၏။ ထိုသုဝဏ္ဏဘုမ္မိပြည်၊ ဘုံဘိုင်ကျွန်း၌ ရက္ခိုက်မတယောက်သည် သမုဒ္ဒရာမှထွက်၍ မင်းအိမ်၌ သူငယ်ဖွားတိုင်း ဖွားတိုင်း စားလေသတည်း။ ထိုမထေရ်တို့ ကြွသည့်နေ့၌လည်း မင်းအိမ်၌ သူငယ်ဖွားနိုက်ကြုံကြိုက်လေ၍ လူတို့သည် မထေရ်ကိုမြင်လျှင် ရက္ခိုက်တို့၏ အဘော်မှတ်၍လက်နက်စွဲ၍လာကြကုန်၏။ သောဏမထေရ်သည် ထိုသူတို့ကို အဘယ်ကြောင့်လက်နက်စွဲ၍လာကြကုန်သနည်းဟုမေးတော်မူ၏။ မင်းအိမ်၌ သားဖွားတိုင်း ဖွားတိုင်းသောသူငယ်တို့ကို စားကုန်သော ရက္ခိုက်တို့၏အဘော်မှတ်၍ လာကုန်သည်ဟုဆိုလျှင် ငါတို့ကား ရက္ခိုက်တို့၏အဘော်မဟုတ်၊ ရဟန်းတို့တည်း။ သူ့အသက်ကိုသတ်ခြင်း၊ သူ့ဥစ္စာကို ခိုးယူခြင်း၊ ယုတ်မာသော ကာမဂုဏ် အကျင့်ကိုကျင့်ခြင်း၊ မဟုတ်မမှန်သောစကားကို ပြောဆိုခြင်း၊ သေအရက်ကို သောက်ခြင်းမှ ကြဉ်ရှောင်ကုန်၏။ နေအရုဏ်တက်သည်မှ မွန်းတည့် တိုင်ရုံကာလအတွင်းသာ စားလေ့ရှိကုန်၏ဟု အမိန့်ရှိပြီးမှ ငြိမ်သက်စွာနေကြကုန်၏။ ထိုသို့ငြိမ်သက်စွာ နေကြကုန်စဉ်တွင် ရက္ခိုက်မသည် အခြံအရံနှင့်တကွ သမုဒ္ဒရာမှထွက်၍ မင်းအိမ်၌ဖွားသော သူငယ်ကိုစားအံ့ဟု လာလတ်သည်ကိုမြင်ကြ၍ အရှင်ဘုရားတို့၊ ရက္ခိုက်မလာခဲ့ပြီဟု ကြောက်လန့်ခြင်းရှိကုန်သည်ဖြစ်၍ ပြောဆိုကြကုန်၏။ ထိုအခါ သောဏမထေရ်သည် ရက္ခိုက်မထက် နှစ်ဆတက်သော ကိုယ်ကိုဖန်ဆင်း၍ ပရိသတ်နှင့်တကွ ရက္ခိုက်မကို အလယ်၌ထားလျက် လက်ဝဲလက်ယာနှစ်ဖက်ညပ်ရံတော်မူ၏။ ထိုသို့ရံသည်ကို မြင်လျှင် ရက္ခိုက်မကား ဤသို့ကြံလေ၏။ ဤသူတို့အား ဤအရပ်ကို ဝေဿဝဏ္ဏနတ်မင်းထံမှ မချွတ်ပိုင်စားရသည် ဖြစ်အံ့သတည်း။ ယင်းသို့ဖြစ်သော် ငါတို့သည် ထိုသူတို့အစာဖြစ်လတ္တံ့ဟု ကြောက်ထိတ်လန့်ခြင်းရှိလေရကား အလုံးစုံသော ရက္ခိုက်တို့သည် တဟုန်တည်း ပြေးကြလေကုန်၏။ သောဏမထေရ်လည်း လူတို့မတွေ့မမြင်သည့် အရပ်တိုင်အောင်ပြေးစေ၍ သုဝဏ္ဏဘုမ္မိ၊ ဘုံဘိုင်ကျွန်း၏ ထက်ဝန်းကျင်မှ ရက္ခိုက်တို့တဖန် မလာဝံ့အောင် မိဋ္ဌာန်တော်မူ၍ အစောင့်အရှောက်ထားတော်မူ၏။ ထိုအခါ စည်းဝေးလာသော များစွာသော သူတို့အား ဗြဟ္မဇာလသုတ္တန်ဒေသနာတော်ဖြင့် စိတ်၏ ကြည်လင်ခြင်းကိုဖြစ်စေ၍ သရဏဂုံသီလ၌တည်စေတော်မူ၏။ ထိုအစည်းအဝေး၌ ခြောက်သောင်းသော

သူတို့သည် သောတာပတ္တိဖိုလ်ကို မျက်မှောက်ပြုရကုန်၏၊ သုံးထောင်ငါးရာသော ယောကျ်ားတို့သည်၎င်း၊ တထောင့်ငါးရာသော မိန်းမတို့သည်၎င်း၊ ရဟန်းပြုကြကုန်၏။ ထိုအခါမှစ၍ မင်းအိမ်၌ဖွားကုန်သော သူငယ်တို့၏အမည်ကို သောဏုတ္တရဟု မှည့်ကြလေကုန်သတည်း။

ဤအရာ၌ သုဝဏ္ဏဘုမ္မိဟူသည်ကို။ ဒီပဿ အာရက္ခံဒတွာ။ ဟူ၍ ပါရာဇိ ကဏ်အဋ္ဌကထာ၌ ကျွန်းဖြစ်ကြောင်းနှင့်ဆိုတော်မူသောကြောင့် ကျွန်းမဟုတ်သော သထုံပြည်ကို သုဝဏ္ဏဘုမ္မိဖြစ်သည်ဟု စင်စစ်ယူသင့်မည်မထင်ကြောင်း။ အမှတ်အယူကြီးသောသူတို့ သတိထားရန်မှာ ပေတာဝတ္ထုပါဠိတော်ကို အဓိပ္ပါယ်နှင့်အနည်းငယ်သော ပါဠိကိုရေးသား ထုတ်ပြလိုက်ပေအံ့။ ရာဇာပိင်္ဂ လောနာမ သုရဋ္ဌာနံ အဓိပတိ အဟု။ မောရိယာနံ ဥပဋ္ဌာနံ ဂန္တွာ သုရဋ္ဌံ ပုနရာဂမာ။ ပိင်္ဂလောနာမ၊ ပိင်္ဂလအမည်ရှိသော။ ရာဇာ၊ မင်းသည်။ သုရဋ္ဌာနံ၊ သုရဋ္ဌတိုင်း ဘုံဘိုင်ကျွန်းသူတို့၏။ အဓိပတိ၊ အရှင်သည်။ အဟု၊ ဖြစ်တော်မူ၏။ ဝါ သုရဋ္ဌာနံ၊ သုရဋ္ဌတိုင်း ဘုံဘိုင်ကျွန်းသူတို့ကို။ ဝါ၊ တို့အား။ အဓိပတိ၊ အစိုးရသည်။ အဟု၊ ဖြစ်တော်မူ၏။ သော၊ ထိုသုရဋ္ဌတိုင်း ဘုံဘိုင်ပြည့်ရှင် ဘုရင်ပိင်္ဂလမင်းသည်။ မောရိယာနံ၊ မောရိယမင်းမျိုး ဓမ္မာသောက မင်းကြီးတို့အား။ ဥပဋ္ဌာနံ၊ ဆည်းကပ်ခြင်းသို့။ ဂန္တွာ၊ သွားလေပြီး၍။ ပုန၊ တဖန်။ သုရဋ္ဌံ၊ သုရဋ္ဌတိုင်း ဘုံဘိုင်ပြည်သို့။ အာဂမာ၊ ပြန်လာခဲ့ပေ၏။ ဤသို့လျှင် ရာဇာပိင်္ဂလောနာမ အစရှိသည်ဖြင့် ငါးဆယ့်ငါးဂါထာ၊ ပေတာဝတ္ထုပါဠိတော်၊ နန္ဒကပေတဝတ္ထု ၈၂ နံပါတ်တို့၌လာသည်။ ထိုဂါထာကို သိသာရုံ အဓိပ္ပာယ်ဆိုလိုက်အံ့။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် နှစ်ပေါင်းနှစ်ရာကျော်လောက်တွင် ဓမ္မာသောင်းခွင်၊ မြေပြင်အလုံးကို၊ ဘုန်းလက်ရုံးအာဏာလွှမ်းချုပ်လျက် ဓမ္မာသောကမင်း ထီးဖြူအုပ်၍ကေရာဇ်မင်းပြုလုပ်စဉ်အခါ သုရဋ္ဌတိုင်း ဘုံဘိုင်ကျွန်းကို အစိုးရသော ပိင်္ဂလမင်း၏ နတ္ထိကမိစ္ဆာဒိဋ္ဌိအယူရှိသော နန္ဒကစစ်သူကြီးသည် သမီးဥတ္တရာကို သင့်တင့်ရာ သမ္မာဒိဋ္ဌိအမျိုးသားနှင့် ထိမ်းမြားလက်ထပ်ခဲ့၍ သေလွန်သောအခါ ဝိဥ္စာဋဝိတောအုပ်တွင် ပညောင်ပင်ကြီး၌ ဝေမာနိကပြိတ္တာဖြစ်၍ သဒ္ဓါတရားနှင့်ပြည့်စုံသော သမီးဥတ္တရာသည် စင်ကြယ်အေးမြမွှေးပျံ့လှစွာသော နံ့သာရေတို့ဖြင့်ပြည့်သော သောက် ရေအိုး၊ အဆင်း အနံ့အရသာနှင့်ပြည့်စုံသော မုယောမုန့်တို့ဖြင့်ပြည့်သော မုန့်ခွက်တို့ကို အိမ်သို့ဆွမ်းခံကြွလာသော ရဟန္တာမထေရ်တပါးလက်၌ ဆက်ကပ်လှူဒါန်းပြီးလျှင် ဤအလှူသည် သွားလေသော အဖ နန္ဒကစစ်သူကြီးထံသို့ အဖို့အမျှရောက်ပါစေသတည်းဟု ရည်ညွှန်းပို့သသည်နှင့် သာဓုခေါ်ရ၍ နန္ဒကပြိတ္တာအား နတ်၌ဖြစ်သော သုံးဆောင်ရေ၊ သောက်ရေ၊ မရေတွက်နိုင်သော မုန့်ခဲဖွယ်တို့ဖြစ်ပေါ်လာသည်ကို မြင်ရသဖြင့် လူဖြစ်စဉ်က နတ္ထိဒိန္နံစသည်ဖြင့် ကံ ကံ၏အကျိုးမရှိဟု နိတ္ထိကဒိဋ္ဌိအယူကိုယူ၍ လူအများတို့အား လမ်းမှားကို ငါပြောခဲ့သည်တကား၊ မှားချေပြီဟု မိစ္ဆာအယူကိုစွန့်၍နေခိုက်တွင် သုရဋ္ဌတိုင်း ဘုံဘိုင်ကျွန်းမှ ထွက်သော အခွန်ဘဏ္ဍာတော်များကို ဓမ္မာသောက မောရိယမင်းမျိုးထံ ဆက်သွင်းခစားပြီး၍ စစ်အင်္ဂါလေးပါးနှင့်တကွ သုရဋ္ဌတိုင်းဘုံဘိုင်ကျွန်းသို့ ပိင်္ဂလမင်းပြန်လည်လာခဲ့ရာ နေချိုက်ချိုက်ပူသော မွန်းတည့်အခါ၌ မိမိနေရာပညောင်သာသို့ ရှေးရှုတန်းတန်း မွေ့လျော်ဖွယ်သော သဲဖုတ်ခရီး မင်းလမ်းမကြီးကို ဘန်ဆင်း၍ထားလေသည်နှင့် ထိုမင်းလမ်းသို့ ပိင်္ဂလမင်းကြီးလိုက်ရာတွင် ရှေ့၌လမ်းထင်၍ နောက်တွင်လမ်းပိတ်၍ ပိတ်၍လိုက်သည်ကို မြင်၍ နောက်ဆုံးတွင်လိုက်ပါသော အမှုထမ်းတယောက်ထိတ်လန့်စွာပြေးလာ၍လျှောက်၏။ အရှင်မင်းကြီး၊ အကျွန်ုပ်တို့သည် ထိတ်လန့်ကြောက်မက်ဖွယ်ကောင်းသောလမ်းမှားကို လိုက်လာခြင်းဖြစ်ကုန်ပြီ။ ရှေ့မှာသာ ခရီးလမ်းထင်၍ နောက်မှမထင်ပိတ်ခဲ့၏။ အကျွန်ုပ်

တို့သည် ခရီးမှားသို့ရောက်ကုန်ပြီ။ ယမမင်း၏ပရိသတ် ပြိတ္တာတို့ထံရောက်ကုန်ပြီ။ ပြိတ္တာတို့၏ ပုပ်ညှီသောရေနံ့တို့သည် လှိုင်ကုန်၏။ ရိုက်နှက်ထိုးပုတ် ကြမ်းကြုတ်သော အသံလည်း ကြားပါသည်ဟုလျှောက်၏။

ဤသို့လျှောက်လေသော် ပိင်္ဂလမင်းသည် ကြောက်လန့်တကြား ရထားထိန်းကိုရပ်တန့်စေ၍ ရထားမှ ဆင်းပြီးလျှင် ထိုမှဤမှကြည့်လတ်သော် ညှိညှိမှိုင်းမှိုင်း အရောင်ထင်သော ပဉ္စောင်ပင်ကြီးကိုမြင်လေ၍ အပင်ရင်းသို့ ချဉ်းကပ်ခိုဝင်ကြလေသော် နန္ဒကပြိတ္တာသည် နတ်ဝတ်နတ်တန်ဆာကိုဆင်လျက် မင်းကြီးထံချဉ်းကပ်၍ အရပ်ရပ်သောစကားကိုလျှောက်ထား၍ မုန့်ခဲဖွယ်ရေချမ်းတို့ဖြင့် ကျွေးမွေး၏။ ပိင်္ဂလမင်းကြီးလည်း ထိုနန္ဒကပြိတ္တာအား အကြောင်းကိုမေးလေသော် အကျွန်ုပ်သည် ပြိတ္တာပါတည်း။ အရှင်မင်းကြီးပိုင် သုရဋ္ဌနိုင်ငံမှ ဤဝိဉ္ဈာဋဝီအရပ်သို့ လာရောက်ဖြစ်နေရပါကြောင်း စသည်ဖြင့် လျှောက်ထား၍ မင်းကြီးအား တရားစကားဖြင့် ဆုံးမပေး၏။ ပိင်္ဂလမင်းကြီးလည်း သတိသံဝေဂရသဖြင့် သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသောသီလ၌တည်ပါတော့အံ့ဟု ဝန်ခံပြီးလျှင် သုရဋ္ဌတိုင်း ဘုံဘိုင်ပြည်သို့ ပြန်သွားလေကြောင်းနှင့်။

**ဣဒံ ဝတွာန သောရဋ္ဌော၊ ဝိရမိတွာ ပါပဒဿနံ။ နမော ဘဂဝတော ကတွာ၊ ပါမောက္ခော ရထာမာရုဟိ။**

ဟူသော အဆုံးဂါထာကို ပေတဝတ္ထုပါဠိတော်၌ ဟောတော်မူသည်။ သောရဋ္ဌော၊ သုရဋ္ဌတိုင်း ဘုံဘိုင်ပြည်ကိုအစိုးရသော ပိင်္ဂလမင်းသည်။ ဣဒံ၊ ဤသို့ ကောင်းပါပြီဟု ဝန်ခံအပ်သောစကားကို။ ဝတွာန၊ ဆိုပြီး၍။ ပါပဒဿနံ၊ မိစ္ဆာအယူကို။ ဝိရမိတွာ၊ ကြဉ်ရှောင်စွန့်ပစ်၍။ ဘဂဝတော၊ မြတ်စွာဘုရားအား။ နမော၊ ရှိခိုးခြင်းကို။ ကတွာ၊ ပြု၍။ ပါမောက္ခော၊ သုရဋ္ဌတိုင်း ဘုံဘိုင်ပြည်သို့ ရှေးရှုလျက်၊ ရထံ၊ ရထားကို။ အာရုဟိ၊ တက်စီး၍သွားလေ၏။ သွားလေသော် ပြိတ္တာ၏ အာနုဘော်ကြောင့် ထိုနေ့ပင် သုရဋ္ဌတိုင်း ဘုံဘိုင်ပြည် မိမိနန်းတော်သို့ရောက်လေ၏။ ထို့ကြောင့်။

အာရုယှ ယက္ခာနုဘာဝေန တံဒိဝသမေဝ အတ္တနော နဂရံပတွာ ရာဇဘဝနံ ပါဝိသိ။ သော အပရေန သမယေန ဣမံ ပဝတ္တိံ ဘိက္ခူနံ အာရောစေသိ။ ဘိက္ခူ ထေရာနံ အာရောစေသုံ။ ထေရာ တတိယ သင်္ဂဟံ အာရောပေသုံ။ ဟု ပေတဝတ္ထု အဋ္ဌကထာ၌ ဆိုသည်။ အာရုယှ၊ ရထားစီး၍။ ယက္ခာနုဘာဝေန၊ နန္ဒကပြိတ္တာ အာနုဘော်အစွမ်းဖြင့်။ တံဒိဝသမေဝ၊ ထိုနေ့၌ပင်လျှင်။ အတ္တနော၊ မိမိ၏၊ နဂရံ၊ ဘုံဘိုင်ပြည်သို့။ ဝါ၊ မြို့သို့။ ပတွာ၊ ရောက်လေ၍။ ရာဇ ဘဝနံ၊ မိမိနေရာ နန်းတော်သို့။ ပါဝိသိ၊ ဝင်လေ၏။ သော၊ ထိုပိင်္ဂလမင်းသည်။ အပရေန၊ တပါးသော။ သမယေန၊ အခါ၌။ ဣမံပဝတ္တိံ၊ ဤနန္ဒက ပြိတ္တာအကြောင်းကို။ ဘိက္ခူနံ၊ ရဟန်းတို့သည်။ အာရောစေသိ၊ ကြားလျှောက်ပေ၏။ ဘိက္ခူ၊ ရဟန်းတို့သည်။ ထေရာနံ၊ မထေရ်ကြီးတို့အား။ အာရောစေသုံ၊ ကြားလျှောက်ကုန်၏။ ထေရာ၊ မထေရ်ကြီး တို့သည်။ တတိယံ၊ သုံးကြိမ်မြောက်သော။ သင်္ဂဟံ၊ သင်္ဂါယနာတင်ခြင်းသို့။ အာရောပေသုံ၊ တင်တော်မူကြကုန်၏။ လိုရင်း အကျဉ်းမျှ ရေးပြလိုက်သည်။ အကျယ်ကိုအလိုရှိမူ ပေတဝတ္ထုပါဠိတော်၊ ၎င်းဝတ္ထုတို့၌ယူလေ။ ဤသို့ပေတဝတ္ထုပါဠိတော်၌လာသော သုရဋ္ဌတိုင်းသည် တခြားမဟုတ်။ သုဝဏ္ဏဘုမ္မိပြည်ပင်ဖြစ်သည်ဟု ယူရမည်။ ယူသင့်ကြောင်း အမြွက်မှာ။ မကန္တပူရာဏ်ကျမ်း၌ သုရဋ္ဌတိုင်း၊ မဟာရဋ္ဌတိုင်းတို့ကို ဣန္ဒြိယပြည်၏ အနောက်တောင်ထောင့်အရပ်တွင် တည်ရှိကြောင်းနှင့် ပြဆိုသောကြောင့် ၎င်း။ မဟာသုဓာတကကျမ်း ၂၆၉ နံပါတ်တွင် သွာဒိ၊ ဝိသာခါ၊ အနုရာဓ ဤနက္ခတ်သုံးလုံးတို့သည် လိပ်၏လက်ယာခြေ၌ကျ၍ အနောက်တောင် ထောင့်အရပ်နှင့်စပ်ဆိုင်သော နက္ခတ်မည်ကုန်၏။ ယခုအခါ စူရပ်ခေါ်သော သုရဋ္ဌတိုင်း။ ယခုအခါ ဘုံဘိုင် ခေါ်သော ကွန်ကန-အရပ် မဟာရဋ္ဌတိုင်း။ နမ္မဒါမြစ်ရိုး

တလျှောက် မြို့ရွာစု။ ဂုဇရပ်အစရှိသော အရပ်တို့တည်းဟူ၍ဆိုသောကြောင့်ဝှင်း။ သုရဋ္ဌတိုင်းဟူသည်ကို ဘုံဘိုင်ကျွန်း၊ ဘုံဘိုင်ပြည်ဖြစ်သည်ဟု မှတ်ရမည်။ အကျယ်ကိုသိလိုမူ ဇမ္ဗူဒီပ ဩက္ကိုယနယ်ပုံကျမ်း ၂၄၉ နံပါတ်တို့၌ယူလေ။ ဤသည်ကား အမှာစကားချပ်။ ဤသည်ကား ဇမ္ဗူဒိပ်ကျွန်း၊ ဩက္ကိုယပြည်ကြီး အလယ်ချက်မ မဇ္ဈိမဒေသ၏အနီးအစပ်ရှစ်ရပ်သော ပစ္စန္တဇနပုဒ်တို့သို့ သာသနာပြုစေလွှတ်တော်မူသည့် အခန်းတည်း။

## ၁၃၃။ အရှင်မဟိန္ဒ သီဟိုဠ်သို့ကြွ၍ သာသနာပြုတော်မူကြောင်း

အရှင်မဟိန္ဒထေရ်သည်ကား သီဟိုဠ်ကျွန်းသို့ သွား၍ သာသနာတော်ကို တည်ထွန်းစေရမည်ဟု ဥပဇ္ဈာယ်ဆရာ ရဟန်းသံဃာတို့ တိုက်တွန်းအပ်သည် ဖြစ်၍ သီဟိုဠ်ကျွန်းသို့သွားအံ့သောအခါကို ဆင်ခြင်တော်မူလျှင် သီဟိုဠ်ကျွန်း ၌ မုဋသိဝမင်းသည်ကား အိုမင်းခဲ့ပြီ။ ထိုမင်းအိုကိုအမှီပြု၍ သာသနာတော်ကို ချီးမြှင့်ခြင်းငှာ မတတ်နိုင်ရာ၊ ထိုမင်း၏ သားတော် ဒေဝါနံပိယတိဿသည် မင်းအဖြစ်သို့ရောက်မှ ထိုမင်းကိုအဖော်ပြု၍ သာသနာတော်ကိုချီးမြှင့်နိုင်အံ့သတည်း။ ထိုကြောင့်ရကား ယခု ငါတို့သီဟိုဠ်ကျွန်းသို့ သွားချိန်မတန်သေးဟု မြင်တော်မူလေ၏။ ဤသို့မြင်တော်မူပြီးသော် သီဟိုဠ်ကျွန်းသို့ မသွားမီ ဆွေမျိုးတို့ကိုတွေ့မြင်ဦးအံ့ဟု ကြံတော်မူ၍ ဥပဇ္ဈာယ်ဆရာဖြစ်သော အရှင်မောဂ္ဂလိပုတ္တ တိဿထေရ်နှင့်တကွ ရဟန်းသံဃာတို့ကို ရှိခိုးခဲ့၍ ဣဋ္ဌိယ၊ ဉတ္တိယ၊ သမ္ဗလ၊ ဘဒ္ဒသာလအမည်ရှိသော မထေရ်လေးပါး၊ နှမတော်သင်္ဃမိတ္တာ၏ သားဖြစ်သော တူတော် သုမန သာမဏေတို့နှင့်၊ အနာဂါမ်သီတင်းသည် သူငယ်တယောက်ကိုခေါ်တော်မူ၍ ရာဇဂြိုဟ်ပြည်ကို လက်ယာရစ်လှည့်၍သွားသဖြင့် ဒက္ခိဏာဂိရိဇနပုဒ်၌ ဆွေမျိုးတို့ကို အတွေ့ခံတော်မူ၍ ခြောက်လလွန်တော်မူလျှင် ထိုအရပ်မှထွက်ခဲ့၍ အစဉ်အတိုင်းသွားလေသော် ဝေဒိသမြို့သို့ရောက်၍ မယ်တော်နှင့် တွေ့တော်မူရလေ၏။ မယ်တော်လည်း သားတော်ကိုတွေ့မြင်ရလျှင် သားတော်၏ ခြေ၌ရှိသေစွာဦးဖြင့် ရှိခိုးပူဇော်ခြင်းကိုပြု၍ ဆွမ်းလုပ်ကျွေးပြီးသော် ဝေဒိသဂိရိကျောင်းကိုဆောက်၍ သားတော်ကို တင်လှူတော်မူ၏။ အရှင်မဟိန္ဒထေရ်လည်း ထိုကျောင်း၌နေ၍ ဤသို့ကြံတော်မူပြန်၏။ မယ်တော်မှစ၍ ဆွေမျိုးတို့ကို တွေ့မြင်ခြင်းငှာ ဤအရပ်သို့ ငါတို့လာလေသည်မှာ တွေ့မြင်ရပေပြီ။ သီဟိုဠ်ကျွန်းသို့ မရောက်ရချေသေး။ အခါတန်ပြီလောဟု ကြံဆင်ခြင်မူသည်ရှိသော် ယခုအခါ ခမည်းတော်ကပို့စေသော အဘိသိက်သွန်းခြင်းမင်းစည်းစိမ်ကို ဒေဝါနံပိယတိဿမင်းသည် ခံစားလင့်စေဦး။ ရတနာသုံးပါး ဂုဏ်ကျေးဇူးကိုကြား၍ နား၀လင့်စေဦး။ နယုန်လပြည့်နေ့၌ အနုရာဓပြည်သူတို့ကို ရေဖျန်းသဘင် ပျော်ရွှင်စေ၍ မိမိမူကား ပြည်မှထွက်ခဲ့၍ မြို့ရှေ့မိဿကတောင်သို့ ရောက်လင့်စေဦး။ ထိုတောင်သို့ ရောက်ခါမှ တွေ့မြင်အံ့ဟုကြံတော်မူ၍ မယ်တော်ကျောင်း၌ တလနေတော်မူပြန်သတည်း။ ထိုအခါ သိကြားမင်းသည် မဟာဗောဓိမဏ္ဍိုင်၌ ဘုရားသခင် အမိန့်တော်ကို ဝန်ခံလိုက်ရသည်ဖြစ်၍ အရှင်မဟိန္ဒထေရ်ထံ ချဉ်းကပ်၍ ယခုသီဟိုဠ်ကျွန်းသို့ သွားချိန်သင့်ပြီ။ အကျွန်ုပ်ကိုလည်း အရှင်ဘုရားတို့အဖော်ပြု၍ သာသနာတော်ကို ချီးမြှင့်ရစ်ရမည်ဟု ဘုရားသခင် ဗျာဒိတ်ထားတော်မူခဲ့ပါသည်ဟု လျှောက်သည်ရှိသော် အရှင်မဟိန္ဒထေရ်လည်း အချိန်ကာလသင့်ပြီဟုသိတော်မူ၍ သီရိဓမ္မာသောကမင်းကြီး အဘိသိက်မခံမီ လေးနှစ်၊ အဘိသိက်ခံပြီး တဆဲ့ ရှစ်နှစ်၊ နှစ်စုစည်းစိမ် နှစ်ဆဲ့ရှစ်နှစ်၊ သာသနာတော် သက္ကရာဇ်နှစ်ရာသုံးဆဲ့ခြောက်နှစ်တွင် နယုန်လပြည့်နေ့ ကောင်းကင်ခရီးဖြင့် သီဟိုဠ်ကျွန်း၌ ဒေဝါနံပိယတိဿမင်းနှင့် တွေ့တော်မူလေသတည်း။ သီဟိုဠ်ကျွန်း၌ ဒေဝါနံပိယတိဿမင်းကား သီရိဓမ္မာသောက မင်းကြီး အဘိသိက်ခံ၍ တဆဲ့ခုနစ်နှစ်ရှိသောအခါ မင်းအဖြစ်သို့ ရောက်သတည်း။ ထိုမင်းနှင့် သီရိဓမ္မာသောက မင်းကြီးသည်

အချင်းချင်းမတွေ့မမြင်ဖူးကြလျက် ချစ်ခင်လေးမြတ်စွာ အဒိဋ္ဌသဟာယ မဟာမိတ်ဖြစ်၍ အထူးထူးအပြားပြား လက်ဆောင်ပဏ္ဏာစေပါ ပေါက်ရောက်ကြသတည်း။ သားတော် အရှင်မဟိန္ဒထေရ် ရောက်ပြန်သည်တွင် အတိုင်းထက်အလွန် လေးမြတ်ခြင်းဖြစ်၍ အရှင်မဟိန္ဒထေရ် ကြွသွားတော်မူနှစ် နှတ်တော်လတိုင် ရောက်လျှင် အဆွေတော် ဒေဝါနံပိယတိဿမင်းက စေမှာတော်မူသဖြင့် သမီးတော် သင်္ဃမိတ္တာထေရီနှင့်တကွ မဟာဗောဓိဒက္ခိဏသာခါကိုလည်း သီဟိုဠ်ကျွန်းသို့ ပို့ရောက်ပြန်စေ၏။ သီရိဓမ္မာသောကမင်းကြီးသည် ဤသို့အစရှိသော သာသနတော်အစီးအပွားကို များစွာဆောင်ရွက်တော်မူ၍ အဘိသိက်ခံပြီး စည်းစိမ် သုံးဆယ်ပြည့်သောအခါ မိဘုရားကြီး အသန္ဓိမိတ္တာ-အနိစ္စရောက်တော်မူ၏။ ။ (အသန္ဓိမိတ္တာမိဘုရားကား ကရဝိတ်ငှက်မင်း၏ ကျူးရင့် သောအသံကိုကြားရလျှင် အဟိတ်တိရစ္ဆာန်၏ အသံမျှလျက် မအံ့နိုင်ရှိတုံသေး၏။ ဘုရားသဗ္ဗညု၏ အသံတော်သော်ကား အသို့ဆိုရန်ရှိအံ့နည်းဟု ဘုရားသဗ္ဗညု၌ ပြင်းစွာကြည်ညိုနှစ်သက်သော သဒ္ဓါပီတိကို အရင်းပြု၍ အစဉ်အတိုင်းဝိပဿနာကို ပွားစေ၍ သောတာပန်အဖြစ်သို့ ရောက်လေသည်ဟု သုတ်မဟာဝါ အဋ္ဌကထာ၌လာ၏။ ဤကား အမှာစကားချပ်)

## ၁၃၄။ သီရိဓမ္မာသောကမင်းကြီး အနိစ္စရောက်တော်မူ၍ နတ်ပြည်၌ဖြစ်ကြောင်း

အသန္ဓိမိတ္တာမိဘုရား မရှိနောက် လေးနှစ်ရောက်သောအခါ သီရိဓမ္မာသောက မင်းကြီးသည် တိဿရက္ခာ အမည်ရှိသော မင်းသမီးကို မိဘုရားမြှောက်တော်မူ၏။ ထိုမိဘုရားကား ပညာနည်း၏။ အဆင်းမာန်ယစ်၏။ ငြူစူတတ်၏။ နန်းတော်ဦးတွင် စိုက်သောဗောဓိပင်ကို မင်းကြီးရှိသေလေးမြတ်စွာ မပြတ်ရှိခိုးပူဇော်သည်ကို သည်းမခံနိုင်သဖြင့် ငါ့ထက်ပင် ဤသစ်ပင်ကို လေးမြတ်ဘိ၏တကားဟု မသင့်သောနှလုံးသွင်းသဖြင့် ငါးမန်းစွယ်ကိုရိုက်နှက်စေ၍ ဗောဓိပင်ကို ဖျက်ဆီးစေဘိ၏။ သီရိဓမ္မာသောကမင်းကြီးကား တိဿရက္ခာ မိဘုရားနှင့်သုံးနှစ်မင်းပြုတော်မူ၏။ အဘိသိက်မခံမီ လေးနှစ်၊ အဘိသိက်ခံပြီး သုံးဆဲ့ခုနစ်နှစ်၊ နှစ်စုစည်းစိမ် လေးဆဲ့တနှစ်၊ သက္ကရာဇ် နှစ်ရာငါးဆဲ့ ငါးနှစ်တွင် အနိစ္စရောက်တော်မူ၏။ အနိစ္စရောက်ပြီးသော် အဆုံးစွန် အလှူ၏ အာနုဘော်ကြောင့် နတ်ပြည်၌ဖြစ်လေရ၏ဟု လောကပညတ္တိ ကျမ်း၌ဆို၏။

(ရာဇဝင်ကြီး၌ကား စုတေခါနီးတွင် ပြင်းစွာ အမျက်ဒေါသရှိသဖြင့်စုတေသည်၏ အခြားမဲ့၌ စပါးကြီး မြွေဖြစ်၍ အရှင်မဟိန္ဒထေရ်တရား ဟောသည်တွင်မှ တရားကိုနှလုံးသွင်းမိသဖြင့် စပါးကြီးအဖြစ်မှ စုတေ၍ နတ်ပြည်၌ဖြစ်ကြောင်းကို ဆိုလေသည်၊ ထိုစကားကို ကျမ်းကြီးကျမ်းခိုင်တို့၌လာသော စကားမဟုတ်သော ကြောင့် မှန်နန်းရာဇဝင်က ပယ်လေသည်။ ငါတို့ ရခိုင်ရာဇဝင်အရေးတော်ပုံ၌လည်း အလီခင်မင်းက အင်းဝထူပါရုံ ဒါယကာ နရပတိမင်းထံပေးအပ်သော ရာဇသံတွင် သီရိဓမ္မာသောက မင်းလည်း ဇမ္ဗူဒီပါကို အစိုးရဖြစ်လျက် ထိုမင်းကံစဲချိန်တန်၍ အမှားကို အမှန်ထင်လေရာ တိရစ္ဆာန်ဘဝရောက်လေကြောင်း ကထာ စကားပညာရှိတို့ သက်သေညွှန်ပြဆိုလေသည်များကို နှလုံးသွင်းသင့်ကြောင်းနှင့်ပါရှိလေသည်။ ထိုစကားလည်း များများ ယုံကြည်ရန်မသင့် ထင်ပေကြောင်း။ သီဟဠဝတ္ထု ကျမ်း၌ကား ဤသို့လာ၏။ သီရိဓမ္မာသောကမင်းကြီးနှင့် အဆွေတော်ဖြစ်သော လင်္ကာဒီပ၊ သီဟိုဠ်ကျွန်းကို အစိုးရသော ဒေဝါနံပိယတိဿမင်းကြီးသည် တာဝတိံသာ နတ်ပြည်၌ တန်ခိုးကြီးသော နတ်သားဖြစ်ကြလေကုန်၏။ ထိုနတ်သားနှစ်ယောက်တို့သည် နတ်၏အသက်အတိုင်း မနေဘဲ သိကြားတောင်းပန်အပ်သည်ဖြစ်၍ သီဟိုဠ်ကျွန်း၌ သဒ္ဓါတိဿမင်းလက်ထက် သီရိဓမ္မာသောကမင်းကြီးကား သမ္ဗူလသူဌေးကြီးသားဖြစ်လာ၏။ ဒေဝါနံ

ပိယတိဿမင်းကြီးကား ဗျဂ္ဃသာလ သူဌေးမဝမ်း၌ ဖြစ်လာ၏။ မွေးဖွားပြီးနောက် ခုနစ်နှစ်အရွယ်သို့ရောက်ကြလျှင် ရဟန်းပြု၍ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ ရဟန္တာအဖြစ်သို့ရောက်တော်မူကြကုန်၏။ သီရိဓမ္မာသောကမင်းကြီးကား ကုဏ္ဍကတိဿထေရ်ဟူ၍တွင်၏။ ဒေဝါနံပိယတိဿမင်းကြီးကား ဗျဂ္ဃထေရ်ဟူ၍တွင်၏။ ထိုမဟာထေရ်နှစ်ပါးကား ဖွားသောအခါလည်း အတူဖွားတော်မူကြသည်။ ရဟန်းပြုသောအခါလည်း အတူရဟန်းပြုကြသည်။ ကျမ်းဂန်သင်သောအခါ၌လည်း အတူသင်ကြသည်။ ပရိနိဗ္ဗာန်ပြုသောအခါ၌လည်း သီဟိုဠ်ကျွန်းအလုံး၌ ကြီးစွာသောတန်ခိုးပြာဋိဟာကို ပြတော်မူကြ၍အတူပင် ပရိနိဗ္ဗာန်ပြုတော်မူကြကုန်သတည်းဟူ၍လာသည်။ ဤသီရိဓမ္မာသောကမင်း နန်းစံစည်းစိမ်ကို အဘိသိက်မခံမီလေးနှစ်၊ အဘိသိက်ခံပြီးနောက်သုံးဆဲ့ခုနစ်နှစ်၊ နှစ်စုစည်းစိမ်လေးဆဲ့တနှစ်၊ သာသနာသက္ကရာဇ် နှစ်ရာငါးဆဲ့ငါးနှစ်တွင် အနိစ္စရောက်ကြောင်းနှင့် မှန်နန်းရာဇဝင်၌ မဟာဝင်ဂါထာအတိုင်းဆိုလေသည်။ မဟာဝင်ဝတ္ထု၊ သမန္တစက္ခု ဒီပနီကျမ်းတို့၌ နောက်ကရေတွက်ပြီးသောနှစ်ကို မယူမူ၍ လေးနှစ်လျှော့ပြု၍ နှစ်ရာငါးဆယ့်တနှစ်တွင် နတ်ရွာစံကြောင်းနှင့်ဆိုကြလေသည်။ ထိုကြောင့် သမန္တစက္ခုဒီပနီကျမ်းပထဌတွဲ မဇ္ဈိမမင်းဆက်ကိုဆိုရာ၌။ ။

ဓေယျတု၊ မှတ်စုနံသင့်ညွှန်။ ။
မြတ်မွန်ဇိန၊ ထွတ်သကျ၊ ပြောင်းကြွပြည်နိဗ္ဗာန်။
နှစ်ဆဲ့လေးမှတ်၊ ဓာတသတ်၊
မင်းမြတ်စည်းစိမ်မှန် ..... ၂၄။
ခါ-လွန်၊ ဥဒယ။ ..... ၂၄။
လ-နေ၊ နူရုဒ္ဒါ။ ..... ၄၀။
လေ-လာ၊ မုဏ္ဍာ။ ..... ၄၄။
ဝေ-ရ၊ နာဂဒါ။ ..... ၄၈။
တိ-ဏ္ဏာ၊ သုသု။ ..... ၇၂။
နော-နု၊ ကာဠာသော။ ..... ၉၀။
ဥ-ဩ-ရ၊ သားတကျိပ်။ ..... ၁၁၈။
အိမ်-လုံး-နှိပ်၊ နန်ကိုးဦး။ ..... ၁၄၀။
အ-သာံ-ကူး၊ စန္ဒဂုတ်။ ..... ၁၆၂။
အ-ရ-သုတ်၊ ဗိန္ဒုသာ။ ..... ၁၈၆။
ကြာ-အ-လှ၊ သောကမင်း။ ..... ၂၁၄။
ကြာ-ဖြူ-အင်း၊ မင်းရိုးသုန်း။ ..... ၂၅၁။
နည်းထုံး-မှတ်ကုန်ရာ။ ဟူ၍ဆိုလေသည်။ ဤသည်ကား အရှင်မဟိန္ဒထေရ် သီဟိုဠ်သို့ကြွ၍ သာသနာပြုတော်မူသည့် အခန်းတည်း)။

ဤတွင် ရွှေကား ရမ်းဗြဲမြို့တောင်ကျောင်းဆရာတော် ဦးစန္ဒမာလာ၊ သေချာပြုပျင်ရေးစီရင်အပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ ဗိမ္ဗိသာရအစ ဓမ္မာသောကအဆုံးရှိသော မဇ္ဈိမဒေသမင်းဆက်။ ထိုမင်းတို့၏ လက်ထက် ဖြစ်ပျက်သော အခြင်းအရာ၊ သာသနာပြုစေလွှတ်တော်မူ သောအခန်းတို့ဖြင့် ပြည့်စုံစီရင်အပ်သော ဒုတိယတွဲသည် အပြီးသို့ရောက်ပြီ။ ။

**ပု-ဒိ-အာ နှင့် ပြည့်စုံပါလို၏။**

**ရခိုင်ရာဇဝင်သစ်ကျမ်း ဒုတိယတွဲ ဤတွင်ရွှေပြီးပြီ။**



# ရခိုင်ရာဇဝင်သစ်ကျမ်း

## တတိယတွဲ

### နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဤသို့လျှင် ဒုတိယတွဲဖြင့် မဇ္ဈိမဒေသမင်းဆက်ဖြစ်ပျက်သော အခြင်းအရာ၊ သာသနာပြုစေလွှတ်တော်မူသော အခန်းတို့ဖြင့် ပြည့်စွန်းသင့်သည်အရ ရေးပြစီရင်ပြီး၍ တတိယတွဲဖြင့် တဆဲ့တကပ်မြောက်သော မဟာသမ္မတမင်း၏အနွယ်တော်လျှင် အမွန်ရှိသော ရခိုင်မင်းတို့၏အရင်းအစ ပထမဖြစ်သော ဒွါရာဝတီသံတွဲမြို့ကို အစပြု၍ ထိုထိုသို့သော ပြည်ထောင်ထီးဆောင်းမင်းအပေါင်းတို့၏ အနွယ်စဉ်လာ သာသနာတော်၏အမြစ်အခြေ၊ ဓာတ်မွေ့ရုပ်တု၊ သွန်းပြုတည်ထား၊ ခြင်းရာများတို့နှင့် ရေးသားပြဆိုလိုက်ပေအံ့။

### ၁၃၅။ မဟာကံသမင်းတို့၏အကြောင်း

ဝိဝဋ္ဋဋ္ဌာယီ ဤကမ္ဘာ၏တည်ပြီးသည့်နောက် တဆဲ့တကပ်မြောက် အန္တရကပ်ဦးတွင် မြောက်တင်အပ်သော မဟာသမ္မတမင်းကြီးနောက် ဆက်လျှောက်စိုးစံတော်မူကြသော မင်းများအပေါင်း သောင်းသိန်းမက ကျရောက်သည့်အခါ လူတို့အသက်နှစ်သောင်းတမ်း၌ မဇ္ဈိမဒေသမြောက်ပိုင်းအရပ် ဥတ္တရာပထတိုင်းငယ် ကံသမင်းတို့၏ သုံးဆောင်ရာ နေရာဖြစ်သော အသိတဥ္စနမြို့၌ မဟာကံသမည်သော မင်းသည် မင်းပြု၏။ ထိုမဟာကံသမင်းအား ကံသ၊ ဥပကံသ-ဟူသော သားနှစ်ယောက်တို့သည်ရှိကုန်၏။ ဒေဝဂဗ္ဘာမည်သော သမီးတော်တယောက်သည်ရှိ၏။ ထိုဒေဝဂဗ္ဘာ မင်းသမီးကိုဖွားသောနေ့၌ နိမိတ်ဘတ်တတ်ကုန်သော ပုဏ္ဏားတို့ကိုမေး၏။ နိမိတ်ဘတ်တတ်ကုန်သော ပုဏ္ဏားတို့သည် ထိုမင်းသမီးဝမ်း၌ဖြစ်သော သားတို့သည် ကံသမင်းအနွယ်အဆက်ကို ဖျက်ဆီးကုန်လတ္တံ့ဟု ကြားလျှောက်ကုန်၏။ မဟာကံသမင်းကြီးသည် ပြင်းစွာသောချစ်ခြင်းဖြင့် ချစ်ခြင်းကြောင့် သမီးတော်ကိုဖျက်ဆီးအံ့သောငှာ မတတ်နိုင်။ မောင်တော်တို့သည် မသိကုန်လတ္တံ့ဟု အသက်ထက်ဆုံးတည်၍

မဟာကံသမင်းကြီးသည် နတ်ရွာလားလေ၏။ ထိုမဟာကံသမင်းကြီး နတ်ရွာလားလေသော် သားတော်ကြီး ကံသမင်းသားသည် မင်းပြု၏။ ညီတော်ဥပကံသသည် အိမ်ရှေ့မင်းဖြစ်၏။ ထိုညီတော် နောင်တော်တို့သည် ကြံကြကုန်၏။ ငါတို့သည် ဒေဝဂဗ္ဘာမင်းသမီးကို အကယ်၍ ဖျက်ဆီးကုန်အံ့။ ကဲ့ရဲ့ခံရကုန်သည် ဖြစ်ကုန်လတ္တံ့။ ထိုကြောင့် နှမတော်ကို တစုံတယောက်သော မင်းသားအားမပေးမူ၍ လင်မရှိသည်ကိုပြု၍ စောင့်ရှောက်ကုန်အံ့ဟု ကြံကြကုန်၏။ ကြံပြီး၍ ထိုမောင်တော်မင်းတို့သည် တခုသော တပင်တိုင် နန်းပြာသာဒ်ကိုဆောက်စေ၍ ထိုတပင်တိုင် နန်းပြာသာဒ်၌နေစေကုန်၏။ ထိုမင်းသမီး၏ အလုပ်အကျွေး အစောင့်အရှောက်သည် နန္ဒိဂေါပါလာအမည်ရှိ၏။ ထိုနန္ဒိဂေါပါလာ၏လင်ဖြစ်သော အန္ဓကဝေဏှုမည်သော ကျွန်သည် စောင့်ရှောက်ခြင်းကိုပြုလေ၏။ ထိုအခါ ဥတ္တရာပထတိုင်း၌ပင် မခုရမည်သောပြည်ဝယ် မဟာ သာဂရမည်သောမင်းသည် မင်းပြု၏။

ဤမဟာသာဂရမင်းကို မဟာသမ္မတမင်းမှစ၍ တဆယ်သုံးယောက်မြောက်ဖြစ်သော သာဂရမင်းဟူ၍ အင်းစောက်ရာဇဝင်၌ဆိုသည်။ ဝါသုဒေဝစသော မင်းညီနောင်တို့ဖြစ်သောကာလသည် အသက်နှစ်သောင်းတမ်းဟူ၍ ဒသနိပါတ်၊ ဃဋပဏ္ဍိတဇာတ်၌ဆိုသောကြောင့် ထိုတဆဲ့သုံးယောက်မြောက်ဖြစ်သော သာဂရမင်းကို မယူလေအပ်။ အဘယ်ကြောင့်နည်းဟူမူ ထိုတဆဲ့သုံးယောက်မြောက် သာဂရမင်းနှင့်တကွ နှစ်ဆဲ့ရှစ်ယောက်သောမင်းတို့သည် အသက်အသင်္ချေယျတမ်းမှာ ဖြစ်ကြောင်းနှင့် မဟာဝင်စသောကျမ်းတို့၌ ဆိုသောကြောင့်တည်း။ ထိုကြောင့်။ ။ ကုသဝတီ၊ သီဂီရွှေဘုံ၊ တည်တုံမပြား၊ တဆဲ့ငါးပြည်၊ အတည်တည်ဝယ်၊ စံသည်တွက်ကိန်း၊ အသိန်းမက၊ နောက်ဆုံးကျသည်၊ သာဂရဒေဝ၊ မင်းမြတ်လှလျှင်၊ ဥတ္တရမဓူ၊ ဓမ္မူကြေးမုံ၊ သားမျိုးစုံသည်၊ ရွှေဘုံနန်းသီး၊ စံမည်းသည်။ ပြည်ကြီးအုပ်ကာစိုးသတည်း။ ဟူ၍ စပ်ဆိုအပ်သော ရာဇဝင်လင်္ကာကိုထောက်၍ အသိန်းမကသော မင်းတို့နောက်မှ ကံသမင်းတို့ မင်းမူကြကြောင်းနှင့် ရေးလိုက်သည်။ ဤသည်ကား အမှာစကားချုပ်။ ထိုမဟာသာဂရမင်းအား သာဂရ၊ ဥပသာဂရဟူသော သားတော်နှစ်ယောက်တို့သည် ရှိကုန်၏။ ထိုသားတော်နှစ်ယောက်တို့တွင်လည်း သားတော်ကြီး သာဂရမင်းသားသည် ခမည်းတော် မဟာကံသမင်းကြီး နတ်ရွာစံသောအခါ မင်းဖြစ်၏။ ညီတော်ဥပသာဂရမင်းသည် အိမ်ရှေ့မင်းဖြစ်၏။ ထိုဥပသာဂရမင်းသားသည် ဥပကံသမင်းသား၏ အဆွေခင်ပွန်းဖြစ်၏။ တဦးတည်းသော ဆရာ့အထံ၌ အတူတကွ အတတ်သင်ဘက်တည်း။ ထိုအိမ်ရှေ့မင်း ဥပသာဂရသည် နောင်တော်သာဂရမင်း၏ နန်းတွင်း၌ ပြစ်မှား၍ နောင်တော်ကိုကြောက်သည်ဖြစ်၍ ထွက်ပြေးပြီးလျှင် ကံသမင်းတို့၏ သုံးဆောင်ရာနေရာဖြစ်သော အသိတဉ္စနမြို့၌ အိမ်ရှေ့မင်း ဥပကံသ၏အထံသို့သွားလေ၏။ အိမ်ရှေ့မင်း ဥပကံသသည် ထိုဥပသာဂရ အိမ်ရှေ့မင်းကို နောင်တော် ကံသမင်းကြီးအားပြ၏။ ကံသမင်းကြီးသည် ထိုဥပသာဂရအား ကြီးစွာသော စည်းစိမ်ကို ပေး၏။ ထိုဥပသာဂရသည် ကံသမင်းကြီးအား ခစားအံ့သောငှာ သွားသည်ရှိသော် နှမတော်ဒေဝဂဗ္ဘာ မင်းသမီး၏ စံရာတပင်တိုင်နန်းပြာသာဒ်ကိုမြင်၍ ဤပြာသာဒ် သည် အဘယ်သူ၏နေရာ ပြာသာဒ်နည်းဟုမေး၍ ထိုအကြောင်းကိုကြားသိရလျှင် ဒေဝဂဗ္ဘာမင်းသမီး၌ တပ်စွန်းသော စိတ်ရှိသည်ဖြစ်၏။ ဒေဝဂဗ္ဘာမင်းသမီးသည်လည်း တနေ့သ၌ ဥပသာဂရမင်းသားသည် မောင်တော် ဥပကံသအိမ်ရှေ့မင်းနှင့်အတူ မင်းအားခစားခြင်းငှာလာလတ်သည်ကိုမြင်၍ ဤမင်းသားသည် အဘယ်မင်းသားနည်းဟုမေး၍ မဟာသာဂရမင်းကြီး၏ သားတော်ဖြစ်သော ဥပသာဂရမင်းသားတည်းဟု နန္ဒိဂေါပါလာအမည်ရှိသော အလုပ်အကျွေးထံမှ ကြားသိရလျှင် ထိုဥပသာဂရမင်းသား၌ တပ်စွန်းသော စိတ်ရှိသည်ဖြစ်၏။ ဥပသာဂရမင်းသားသည် နန္ဒိဂေါပါလာမည်သော

အထိန်းတော်အား တံစိုးပေး၍နမ၊ ငါ့အား ဒေဝဂဗ္ဘာမင်းသမီးကိုပြခြင်းငှာ တတ်နိုင်ပါအံ့လောဟု ဆို၏။ ထိုနန္ဒိဂေါပါလာမည်သော အထိန်းတော်သည် အရှင်မင်းသား၊ ထိုဒေဝဂဗ္ဘာမင်းသမီးကိုပြခြင်းသည် ဝန်မလေးဟုဆို၍ ထိုအကြောင်းကို ဒေဝဂဗ္ဘာမင်းသမီးအား တင်လျှောက်၏။ ထိုဒေဝဂဗ္ဘာမင်းသမီးသည် ပကတိအားဖြင့်လည်း ဥပသာဂရမင်းသား၌ တပ်စွန်းသောစိတ်ရှိသည်ဖြစ်၍ ထိုစကားကိုကြားရလျှင် ကောင်းပြီဟုဝန်ခံ၍ နန္ဒိဂေါပါလာမည်သော အထိန်းတော်သည် ဥပသာဂရမင်းသားအား အမှတ်ကိုပေး၍ ညဥ့်အဘို့၌ ထိုဥပသာဂရမင်းသားကို ပြာသာဒ်သို့တင်၏။ ဥပသာဂရမင်းသားသည် ဒေဝဂဗ္ဘာမင်းသမီးနှင့်တကွ မွေ့လျော်ပျော်ပါးခြင်းကိုပြု၏။ ထိုအခါ ထိုနှစ်ယောက်ကုန်သော မင်းသား-မင်းသမီးတို့၏ အဖန်တလဲလဲ မွေ့လျော်ပျော်ပါးခြင်းကြောင့် ဒေဝဂဗ္ဘာမင်းသမီးသည် ကိုယ်ဝန်ကိုရ၏၊ နောက်အဘို့၌ ဒေဝဂဗ္ဘာမင်းသမီးအား ကိုယ်ဝန်တည်ခြင်းသည် ထင်ရှားသည်ဖြစ်၍ မောင်တော် မင်းနှစ်ပါးတို့သည် နန္ဒိဂေါပါလာကိုမေးကုန်၏။ ထိုနန္ဒိဂေါပါလာသည် ဘေးမဲ့ကိုတောင်း၍ ထိုအကြောင်းကို ကြားလျှောက်၏။ ထိုမောင်တော်နှစ်ပါးတို့သည် ကြားသိရလျှင် နှမတော်ကိုဖျက်ဆီးခြင်းငှာ မတတ်နိုင်ကုန်။ သမီးကိုတည်း အကယ်၍မွေးဖွားအံ့၊ မဖျက်ဆီးကုန်အံ့။ သားယောကျ်ားကိုတည်း အကယ်၍ မွေးဖွားအံ့၊ ဖျက်ဆီးကုန်အံ့ဟုကြံ၍ ဒေဝဂဗ္ဘာမင်းသမီးကို ဥပသာဂရ မင်းသားအားသာလျှင် ပေးကုန်၏။ ထိုဒေဝဂဗ္ဘာမင်းသမီးသည် ရင့်သောကိုယ်ဝန်ရှိသည်ဖြစ်၍ သမီးကိုဖွားမြင်၏။ မောင်တော် မင်းနှစ်ပါးတို့သည် ကြားရလျှင် အလွန် နှစ်သက်ကုန်သည်ဖြစ်၍ ထိုတူမတော် မင်းသမီးအား အဉ္ဇနဒေဝီဟူသောအမည်ကို မှည့်ကုန်၏။ ထိုနှမတော်၊ ယောက်ဖတော်တို့အား ဝဍ္ဍမာနမည်သော ရွာကို ကံကျေးခံ ပေးကုန်၏။ ဥပသာဂရမင်းသားသည် မျောက်သားတော် ဒေဝဂဗ္ဘာမင်းသမီးကိုယူ၍ ဝဍ္ဍမာနမည်သော စားကျေးရွာ၌နေ၏။ ဒေဝဂဗ္ဘာမင်းသမီး၌ တဖန်ကိုယ်ဝန် တည်ပြန်၏။ နန္ဒိဂေါပါလာသည်လည်း ထိုနေ့၌ပင်လျှင် ကိုယ်ဝန်ရ၏။ ထိုနှစ်ယောက်သော မင်းသမီး၊ ဒေဝဂဗ္ဘာ အထိန်းတော်နန္ဒိဂေါပါလာတို့သည် ကိုယ်ဝန်ရင့်ကုန်သည်ရှိသော် တနေ့တည်း၌သာလျှင် ဒေဝဂဗ္ဘာမင်းသမီးသည် သားယောကျ်ားကိုဖွား၏။ အထိန်းတော် နန္ဒိဂေါပါလာသည် သမီး မိန်းမကိုဖွား၏။ ဒေဝဂဗ္ဘာမင်းသမီးသည် သားကို မောင်တော်တို့ ဖျက်ဆီးအံ့သည်မှ ကြောက်သောကြောင့် သားတော်ကို နန္ဒိဂေါပါလာအား လျှို့ဝှက်သောအားဖြင့်ပေးလိုက်၍ ထိုနန္ဒိဂေါပါလာ၏သမီးကို ဆောင်ယူခဲ့စေ၏။ ထိုဒေဝဂဗ္ဘာမင်းသမီး သားဖွားသောအဖြစ်ကို မောင်တော်တို့အား ကြားလျှောက်၏။ ထိုမောင်တော်တို့သည် သားယောကျ်ားကို ဖွားသလော။ သမီးမိန်းမကို ဖွားသလောမေး၍ သမီးမိန်းမ ဖွားသည်ဟူ၍ တင်လျှောက်လေသော် ထိုသို့ သမီးမိန်းမဖွားသည် တပြီးကား မွေးလေကုန်ဟုဆိုကုန်၏။ ဤသို့သောနည်းအားဖြင့် ဒေဝဂဗ္ဘာမင်းသမီးသည် တကျိပ်သော သားတို့ကိုဖွား၏။ နန္ဒိဂေါပါလာသည် တကျိပ်သော သမီးတို့ကိုဖွား၏။ တကျိပ်သောသားတို့သည် အထိန်းတော် နန္ဒိဂေါပါလာ၏အထံ၌ ကြီးကုန်၏။ တကျိပ်သောသမီးတို့သည် ဒေဝဂဗ္ဘာမင်းသမီးအထံ၌ ကြီးကုန်၏။ ထိုအကြောင်းကို တစုံတယောက်သော သူသည် မသိ။ ဒေဝဂဗ္ဘာမင်းသမီး၏ သားတော်အကြီးသည် ဝါသုဒေဝမည်၏။ နှစ်ယောက်မြောက်သော သားသည် ဗလဒေဝမည်၏။ သုံးယောက်မြောက်သော သားသည် စန္ဒဒေဝမည်၏။ လေးယောက်မြောက်သော သားသည် သူရိယဒေဝမည်၏။ ငါးယောက်မြောက်သော သားသည် အဂ္ဂိဒေဝမည်၏။ ခြောက်ယောက်မြောက်သော သားသည် ဝရုဏဒေဝမည်၏။ ခုနစ်ယောက်မြောက်သော သားသည် အဇ္ဇုနမည်၏။ ရှစ်ယောက်မြောက်သော သားသည် သဇ္ဇုနမည်၏။ ကိုးယောက်မြောက်သော သားသည် ဃဋပဏ္ဍိတမည်၏။ ဆယ်ယောက်မြောက်သော သားသည် အင်္ကုရမည်၏။ ထိုတကျိပ်သော

ငွ်ပစ္စရွဲး ဖြေငွ်ဩလင္ဂဝဂ်ဂ ငွ်ဩလးရွဂဂ်ယလ ။းဒ္ဓါငွ်ပစ္စရွဲး ဖြေငွ်ဩလင္ဂဝဂ် ငွ်ဩလးရွဂဂ်ယလဒ္ဓဖ် ဒ္ဓါလ်ဒ္ဓဂငွ်ဗတ္တွ ။ဖြေတွ ဖြင်ဂ် းယယငွ်ဩလးရွဂဂ်ယလ၂ ဖြ်းဓဒေါဂလေဒဒ္ဓဓဒဲး ငွ်ဩလဂါငွ်ဩလးရွဂဂ်ယလ ဖြဓဒဿဒ္ဓဂ်ယလဩယလဩ်နှ်ဂ်နှ်ဂ် ငွ်ုးပ္ပဲး ဖြဂ်ဝဓရွ်ဂ်ငွ်ယငွ်ဩလးရွဂဂ်ယလ လေဒဒ္ဓဩဂယ္ဂီဂ်တွ ငွ်ဩလးလေးဒ္ဓဂဝဒဒလဂ ။ဖြေရွဲဓဂ်ယ၂ဂဒးရွဂဂ်ယလ ယလ်လ း၂ဝးပြ်ယဩ်ယဒ္ဓးဩ်ယဒဖြထ ငွ်ဩလငွ်ဩလးရွဂဂ်ယလ ယ္ဂီဂ်တွ ။ဖြေဓဒငွ်ယငွ်ဩလးရွဂဂ်ယလ လေဒဒငွ်ဩဂယ္ဂီဂ် ငွ်ဩလ းပြ်ဒ္ဓဂလယ် ဂ်လဒဗ္ဗငွ်ဩလလဒ ငွ်ဩလးရွဂဂ်ယလကဗ်ဓ ။ဖြေယလွ်ဓရွဂ ငွ်ဩးဒ္ဓဝိလေဒးဝ်ဝ်လ်ဒ္ဓဒယဒဒိ ငွ်ဒ္ဓရွဲဂိ ဒ္ဓါလ်း၈္ဂရွ်ဩလဂ်ဝဓရွ်ယပ္ပငွ်ဂ္ဂဒ ဖြ်း၈္ဂဓဒငွ်ဩလဒ်ဒ် ငွ် ယလထးဒ္ဓ၂ဒးငွ်ဖြယရွဲ ဒ္ဓါလ်း၈္ဂရွ်ဂ်ယဖြဂါလ်းငွ်ဩလယးဒ္ဓ၂ဂဒယ ငွ်ယထွ်ယဂစ္စမ်စနှ်လ ဖြစ္စဗငွ်းရွဝ ငွ်ယငွ်ဩလးရွဂဂ်ယလကဗ်ဓ ဖြစ္စဂငွ်ုးပြ်ယငွ်ဩလ်ဒ္ဓထ ယလ်လး၂ဝးပြ်ယဩ်ယဒ္ဓးဩ်ယဒ ဖြင်ဂ်ငွ်ုးပြ်ယငွ်ဩလ်ဒ္ဓထ လေဒဓိးပြ်ယ ဂ်ဂ္ဂဂ်ုးဒ္ဓယဒ္ဓထ ဂ်ဂ္ဂဲး ဓဒတ္တဂ ဒ္ဓံရွဲယလ ငွ်ယငွ်ဩလးရွဂဂ်ယလတွ ဖြဒ္ဓရွဲငွ်ယငွ်ဩလ းရွဂဂ်ယလ လေဒငွ်ဩဂကဗ်ဓ ငွ်ယဓတွ ။ဖြေနှ်ဂ်ုလေဒ္ဓဝ ငွ်ဒ္ဓလငိ်ဝဒယလ ယလ်လနှ်ဂ်ုယဓရွဲယ၂ဂဒးရွဂဂ်ယလ ၊ယလ်လနှ်ဂ်ုယဩ်ယဒ္ဓးဩ်ယဒ ဖြဒ္ဓထဂ်ဝးဒ္ဓလဒ္ဓးဓမ်မ်ဒ ၊ယလ်လနှ်ဂ်ုဖ္ဖဂ်းရွဂ ဖြစ္စရွဲငွ်ဩလဗ္ဗဂွ်ယလေဒး၈္ဂးရွ်ယလွ်ယလေ ဖြယလကလွ်ငွ်ုးရွဂ ငွ်ယွ်းမိဒလေဒးဒ္ဓလဒးရွဂ ၊ငွ်ယလေ ငွ်ယွ်းမိဒ လေဒးဒ္ဓလဒလေ ဖြဂ်ဝဝငွ်ယွ်းငွ်ဂ် လေဒဗ္ဗ းဒ္ဓထဒဲးလေဒဗ္ဗ ဖြ်းဗ္ဗယလ်ဂ်ယလကလ် ငွ်ုးဗ္ဗဓငွ်ဩလ၂ဓ ။းဗ္ဗဓ လေဒးဒ္ဓလဒလေ ။းဗ္ဗဓလေဒးဒ္ဓလဒးဒ္ဓဂထ ဖြနှ်ဂ်ုယဂ်ဓလ လ းငွ်ဩလငွ်ဩလငွ်ယဂ္ဂလွ်ယဓ ဒ္ဓဓဒ္ဓငွ်းလေးဒ္ဓဂ

။ဖြေနှ်ဂ်ုးငိ

ယလ်လနှ်ဂ်ုယဓရွဲယ၂ဂဒးရွဂဂ်ယလ ၊ယလ်လနှ်ဂ်ုး၂ဝးပြ်ယ ၊ယလ်လနှ်ဂ်ုယဩ်ယဒ္ဓးဩ်ယဒ ဖြနှ်ဂ်ုလေငွ်ဂ္ဂထိဂဒ္ဓလေ ဝ်ဒယလ ငွ်ဩလငွ်ယငွ်ဩလးရွဂဂ်ယလယ္ဂီဂ် ၊ငွ်ဩလးရွဂဂ်ယလ ကဗ်ဓ ဖြဂ်ိဒ္ဓထဒ္ဓထဲးဒ္ဓဓဒဒ္ဓလဒ ၊ဒ္ဓထဒ္ဓထဲး ငွ်ဩလ ။ဖြေစ္စရွဲငွ်ဩလဗ္ဗယလ်ဂ်ယလ်ဂ်ယဓဲးဓဲး ငွ်ဩလးငွ်ဲဂါ ။ဖြေနှ်ဂ်ုဓဒယလွ် ငွ်ုးလိဂ်ုနှ်ဓိဓ ဖြဒ္ဓထလေးနှ်ဓလွ်ယဂ္ဂထိဂ

ဒ္ဓလေလိဂ်ဝဒယလ ဖြဓဒးဝ်ဝ်လ်ုးဒ္ဓဝိလ်ဒ္ဓဒယဒဒိ ဒ္ဓါလ်း၈္ဂ ဒ္ဓဗ္ဗ ငွ်ယဂ္ဂထိဂဒ္ဓလေလဝဒယလ ငွ်ဒ္ဓရွဲဒ္ဓဗ္ဗးဒ္ဓဂ ဖြဓဒငွ်ဩလ ငွ်ဩလဓင်ဂ္ဂ ဂ်လိလစ္စရွဲငွ်ဩလဒ္ဓလေလိ းဒ္ဓရွဲးငွ်းရွဂဂ်ယလ ။းဒ္ဓရွဲလ်ဝဒယလ ငွ်မ်ဒလေဒယရွဲဒယဗ္ဗစ္စမ် ဂ်ဓဒပြ ဖြဂ်လိဓဒငွ်ယထွ်ငွ်ဩလးရွဂဂ်ယလ လေဒနှ်ဂ်ုယလေဒစ္စမ်ပြ ငွ်ဩလးရွဂဂ်ယလ လေဒငွ်ဩဂယ္ဂီဂ် ၊ငွ်ဩလးရွဂဂ်ယလ လေဒငွ်ဩဂကဗ်ဓ ဂ်လဒဗ္ဗငွ်ဩလနှ်ဂ်ုယလိဒ ဂ်ဂ်း နှ်ဂ်ုဒ္ဓလေဒ ဖြဓဒးရွဂ ငွ်ယငွ်ဂ် လေဒနှ်ဂ်ုလငွ်ဒ္ဓလေလိ ဒ်ဂ်လဝဒယလ ငွ်ယထွ်ဒ္ဓဓဒငွ်ဩလလေဒဂ္ဂယ ၂ဓဲးတွ ဖြဓဒါရွဲငွ်ယဒ္ဓလေလဝဒယလ ငွ်ဂ်လဒါ ။ဖြေနှ်ဂ်ုးါပြ ငွ်းဒ္ဓရွဲးငွ်းရွဂဂ်ယလ ။းဒ္ဓရွဲလ်ဝဒယလ ငွ်ဩလထွ်ဒ္ဓဓဒငွ်ဩ လေဒဂ္ဂယတွ ။းပြ်းဒ္ဓဂဒ္ဓဗ်ဲး ။ဖြေးဂဒ ငွ်ယထွ်ယဂဲး ဂ်းငွ်ဩဗ်ဲးနှ်ဂ်ုလ်းရွဂ ငွ်ယထွ်းလေးဒ္ဓဂတွ ဒ္ဓံရွဲးဒ္ဓယဒ္ဓဓဲးလေဒ ငွ်ဂ္ဂယလေဲး ဖြစ္စရွဲငွ်ဩလယဒယဒ္ဓဓနှ်ဂ်ုလဲး ငွ်ဩလးပြ်းဒ္ဓဂ ။ဖြေးဒယဒ္ဓဂ်လိဒ ငွ်ုးဒ္ဓယဒ္ဓဓဲးလေဒစ္စံးငွ်ဲး းဒ္ဓလဗစ္စရွဲ ငွ်ဩလယဒယဒ္ဓဂ်းလေဒလေဒ ငွ်ဩလဃိဝဒယမိဲးတွ ။းငွ်ဩယ ဒ္ဓါလ်လေငွ်ဩလယ၈္ဂဒ္ဓးရွ်ရွ် ငွ်ယနှ်ဂ်ုဃိဝဒယမိဲးတွ ငွ်ဩလးပြ်းဒ္ဓဂလယ် ဂ်လဒဗ္ဗငွ်ဩလနှ်ဂ်ုယဩ်ယဒ္ဓးဩ်ယဒ ငွ်ဩလ ငွ်ထွ်လိးဒ္ဓါ ယ၈္ဂဒရွ်ပြ်းငွ် ၊ယ၈္ဂဒရွ်ပြ်စ္စမ် ဒ္ဓါလ်ငွ်လ်ယြ ။ဖြေယ၈္ဂဒးရွ်ရွ် ဂ်းငွ်ဩဗ်လေဓဒါရွဲငွ်ုးဒ္ဓရွဲးထွ်ယလ် ယကလ် ငွ်ယထွ်းလေ ဒ္ဓံယဒယဒ္ဓဂ္ဂယလေဲး ဖြဓ၂ဓငွ်ယနှ်ဂ်ုလ် လေဒငွ်ဩဂ ဃိဝဒယမိဲး ငွ်ဩလးပြ်းဒ္ဓဂလယ် ။ဖြေနှ်ဂ်ုယဩ်ယဒ္ဓးဩ်ယဒ ငွ်ဒ္ဓရွဲဒ္ဓဗ္ဗးဒ္ဓဂ ဂ်ဖြေနှ်ဂ်ုးထွ်ယလ်ဂ်ယကလ် ငွ်ယဒ္ဓဒ္ဓနှ်ဂ်းဒ္ဓတွ ငွ်ဩလထွ်ဂ္ဂယလေဒ္ဓဓဒငွ်ဩ လေဒနှ်ဂ်ုယစ္စရွဲးလေ ဖြေနှ်ဂ်ုလ်ဃိဝ ယမိဲး ဖြနှ်ဂ်ုးဝဒးငွ်ဩဓငွ်ဩလထွ်ဝလ် ။းငွ်ဩယဒ္ဓါလ်လေ ငွ်ဩလနှ်ဂ်ုးထွ်ယလ်ဂ်ယကလ် းငွ်ဩလငွ်ယငိဂဒ္ဓလေဒယလ လေဒလေယဒ်ဒယထးလေးဒ္ဓဂ ။ဖြေနှ်ဂ်ုလေးငိငွ်ဂ်ငွ်ဩလ် ယလ်လနှ်ဂ်ုါရွဲ ငွ်ုးဒ္ဓရွဲးထွ်ယလ်ဂ်ယကလ် ဖြစ္စရွဲငွ်ဩလ နှ်ဂ်ုးဓဒယးဒ္ဓလနှ်ဂ်ုထယ၂ ။ဖြေနှ်ဂ်ုယဓွ်ငွ်ဩရွဲ ဒ္ဓံမ်းဓမိဲးလေဲး ဖြနှ်ဂ်ုယဒ်ဒ္ဓငွ်းဒ္ဓရွဲးပြ ငိ္ဂယဲးယလေ ငွ်ဩလထွ်ဒ္ဓဓဒငွ်ဩ လေဒဂ္ဂယတွ ။ဖြေနှ်ဂ်ုယစ္စရွဲငွ်ဩလးဒ်ဒ္ဓထနှ်ဂ်ုလဲး ဖြင်ဂ် ဂ္ဂယတွ ဒ္ဓဓဒငွ်းလေနှ်ဂ်ုလ် ဃိဝဒယမိဲး ငွ်ဩလထွ်ဒ္ဓဓဒငွ်ဩ

၎င်း၊ ငါမသိဟု လက်၌ကိုင်၍ မြေ၌ ရိုက်ခတ်လျက် အသက်ကုန်ခြင်းသို့ရောက်စေပြီးလျှင် ပွဲပြင်၌ သူကောင်ချရာတူးသောတွင်းသို့ ပစ်ချလိုက်၏။ မုဋ္ဌိကလက်ပမ်းသည်လည်း ဘီလူးကြီးဖြစ်၍ ထိုမင်းသားကို စားရလို၏ဟု ဆုတောင်းခြင်းကိုဖြစ်စေ၏။ ထိုမုဋ္ဌိက လက်ပမ်းသည်သည် ကာဠမတ္တိကမည်သော တောအုပ်၌ ဘီလူးကြီးဖြစ်လေ၏။ ဦးရီးတော် ကံသမင်းကြီးသည် ကျွန်သားညီနောင်တကျိပ်တို့ကို ဖမ်းကြကုန်အံ့ဟု ထ၏။ ထိုသို့ထသောခဏ၌ ဝါသုဒေဝမင်းသားသည် စက်လက်နက်ကိုပစ်၏။ ထိုစက်လက်နက်သည် ဦးရီးတော် ညီနောင်မင်းနှစ်ပါးတို့၏ဦးခေါင်းကိုကျစေ၏။ လူများအပေါင်းသည် ကြောက်လန့် ထိတ်လန့်သည်ဖြစ်၍ အကျွန်ုပ်တို့၏ကိုးကွယ်ရာဖြစ်ပါကုန်လောဟုဆို၍ ထိုညီနောင်တကျိပ်တို့၏ ခြေရင်း၌ဝပ်၍လျှောက်ကြကုန်၏။ ထိုညီနောင်တကျိပ်တို့သည် ဦးရီးတော် မင်းနှစ်ပါးတို့ကိုသတ်၍ အသိတဥ္စနမြို့၌ မင်းစည်းစိမ်ကိုယူပြီးလျှင် မယ်တော်၊ ခမည်းတော်တို့ကို အသိတဥ္စနမြို့၌ထား၍ နေစေကုန်၏။ (ဆရာငမည်-ရာဇဝင်။ ထိုရာဇဝင်ကိုမှီ၍ရေးသော အချို့သောရာဇဝင်သစ်တို့၌ကား အပိုအလွန်များစွာ ပါလေသည်။ ဇာတ်လာစကားနှင့်မညီလေ။ ဤကား အမှာစကားချုပ်)။

## ၁၃၆။ ဝါသုဒေဝ-စသော မင်းညီနောင် တကျိပ်တို့ အကြောင်း

ထိုတကျိပ်သော မင်းညီနောင်တို့သည် ဇမ္ဗူဒိပ်ကျွန်းအလုံး၌ရှိသော မင်းအဖြစ်ကို ယူကုန်အံ့ဟု မြို့မှထွက်၍ အစဉ်သဖြင့် ကာဠယောနက-မည်သော မင်း၏နေရာဖြစ်သော အယုဇ္ဈမြို့သို့ရောက်လျှင် ထိုအယုဇ္ဈပြည်ကို မိမိတို့လက်သို့ရောက်သည်ကိုပြု၍ ဒွါရာဝတီမြို့သို့ ရောက်လေကုန်၏။ ထိုဒွါရာဝတီမြို့၏ တမျက်နှာမှကား သမုဒ္ဒရာ၊ တမျက်နှာမှကား တောင်-ရှိ၏။ ထိုဒွါရာဝတီမြို့ကို ဘီလူးတို့ သိမ်းဆည်းအပ်သည် ဖြစ်၍ ထိုမြို့ကို စောင့်ရှောက်သော ဘီလူးသည် ရန်သူတို့ကိုမြင်၍ မြည်း၏အသွင်ဖြင့်မြည်လျှင် ထိုမြည်သော ခဏ၌ ဘီလူးတို့၏အာနုဘော်ဖြင့် မြို့အလုံးသည် ကောင်းကင်သို့ပျံတက်၍ မဟာသမုဒ္ဒရာဝယ် ကျွန်းငယ် တခု၌တည်၏။ ရန်သူတို့သွားကုန်သည်ရှိသော် တဖန်ပြန်လတ်၍ မိမိနေရာ၌သာလျှင် တည်၏။ ထိုမင်းညီနောင်တကျိပ်တို့ ရောက်လာသောအခါ၌လည်း မြည်းယောင်ဆောင်သော ဘီလူးသည် ထိုမင်းညီနောင် တကျိပ်တို့၏လာခြင်းကိုသိ၍ မြည်း၏မြည်ခြင်းကို မြည်၏။ ထိုမြို့သည် ကောင်းကင်သို့ပျံတက်၍ သမုဒ္ဒရာ ကျွန်းငယ်၌ တည်၏။ ထိုမင်းညီနောင် တကျိပ်တို့သည် မြို့ကို မမြင်ကုန်၍ ပြန်ကုန်သည်ရှိသော် တဖန်လာပြန်၍ မိမိနေရာအရပ်၌တည်၏။ ထိုမင်းညီနောင်တကျိပ်တို့သည် ဒွါရာဝတီမြို့သို့ တဖန်ပြန်လာကုန်၏။ တဖန်လည်း မြည်းသည် ရှေးနည်းအတူသာလျှင်ပြု၏။ မင်းညီနောင်တကျိပ်တို့သည် ဒွါရာဝတီမြို့၌ မင်းအဖြစ်ကိုယူခြင်းငှာ မတတ်နိုင်ကုန်သည်ဖြစ်၍ ကဏှဒီပါယန အမည်ရှိသော ရသေ့အထံသို့သွားပြီးလျှင် ရှိခိုးကုန်၍ အရှင်ဘုရား၊ အကျွန်ုပ်တို့သည် ဒွါရာဝတီမြို့၌ မင်းအဖြစ်ကိုယူခြင်းငှာ မတတ်နိုင်ပါကုန်။ အကျွန်ုပ်တို့အား တခုသောအကြောင်းကို ပြုတော်မူပါကုန်လောဟုမေး၍ ကျုံးပြင်အရပ်၌ တခုသောမြည်းသည်ရှိ၏။ ထိုမြည်းသည် ရန်သူတို့လာသည်ကိုမြင်၍ မြည်း၏အသံကို မြည်သောခဏ၌ မြို့သည်ပျံ၍ သွား၏။ သင်တို့သည် ထိုမြည်း၏ခြေတို့ကို ကိုင်လေကုန်။ ဤသည်လျှင် သင်တို့၏ အလိုပြီးခြင်း၏ အကြောင်းတည်းဟုဆိုသည်ရှိသော် ထိုမင်းညီနောင်တကျိပ်တို့သည် ရှင်ရသေ့ကို ရှိခိုးပြီးလျှင် သွားလေ၍ တကျိပ်သော မင်းညီနောင်တို့သည်ပင်လျှင် မြည်း၏ခြေ၌ကိုင်ပြီးလျှင် အရှင့်ကိုထား၍ အရှင်မှ တပါးသောသူသည် ကိုးကွယ်ရာမရှိပါ။ ငါတို့မြို့ကို သိမ်းယူသောအခါ၌ မမြည်ပါလင့်ဟု တောင်းပန်ကုန်၏။ မြည်းသည် ငါသည် မမြည်ဘဲနေခြင်းငှာ မတတ်ကောင်း။ သင်မင်းသားတို့သည်ကား ရှေးဦးစွာလာလတ်ကုန်၍

လေးယောက်ကုန်သောသူတို့သည် ကြီးစွာသော သံချောင်းတို့ကိုယူ၍ မြို့တံခါးလေးမျက်နှာတို့၌ ကြီးစွာသော သံတံသင်းတို့ကို မြေ၌စိုက်၍ မြို့၏ပျံ့အံ့သောကာလ၌ သံချောင်းတို့ကိုကိုင်၍ သံချောင်း၌ ဖွဲ့အပ်သော သံကွင်းကို သံတံသင်း၌ စွပ်လေကုန်။ မြို့သည် ပျံ့ခြင်းငှာ မတတ်နိုင်လတ္တံ့ဟုဆို၏။

ထိုမင်းညီနောင်တကျိပ်တို့သည် ကောင်းပြီဟုဆို၍ ထိုနေ့သည်၌သန်းခေါင်ယံ၌ ဝင်လျက် သံချောင်းတို့ကိုယူ၍ မြို့တံခါးလေးမျက်နှာတို့၌ သံတံသင်းတို့ကို မြေ၌စိုက်၍ တည်ကုန်၏။ ထိုခဏ၌ မြည်းသည်မြည်၏။ မြို့သည် ပျံ့ခြင်းငှာအားထုတ်၏။ တံခါးလေးမျက်နှာတို့၌ တည်ကုန်သော မင်းသားတို့သည် လေးခုသော သံချောင်းတို့ဖြင့်ကိုင်ကုန်၍ သံချောင်း၌ဖွဲ့အပ်သော သံကွင်းတို့ကို သံတံသင်းတို့၌ ဖွဲ့ကြကုန်၏။ မြို့သည် ပျံ့ခြင်းငှာ မတတ်နိုင်။ မင်းညီနောင်တကျိပ်တို့သည် ထိုနောင်မှ မြို့သို့ဝင်လျှင် မင်းကိုသတ်၍ ဒွါရာဝတီပြည်ကိုယူကုန်၏။ ဤသို့လျှင် ထိုမင်းညီနောင်တကျိပ်တို့သည် ဇမ္ဗူဒိပ်ကျွန်းအလုံးဝယ် ခြောက်သောင်းသုံးထောင်သော မြို့တို့၌ ခြောက်သောင်းသုံးထောင်သော မင်းတို့ကို စက်လက်နက်ဖြင့် အသက်ကုန်ခြင်းသို့ရောက်စေ၍ ဒွါရာဝတီပြည်၌ နေကုန်လျက် ပြည့်ထောင်အပေါင်းတို့ကို ဆယ်စုစု၍ခွဲဝေကုန်၏။ နှမတော် အဉ္စနဒေဝီကိုကား မအောက်မေ့မိကုန်။ ထိုနောင်တဖန် တဆဲ့တစုစု၍ ဝေအံ့ဟုဆိုသည် ရှိသော် အင်္ကုရမင်းသားသည် အကျွန်ုပ်၏ အစုတစုကို နှမတော်အဉ္စနဒေဝီအား ပေးတော်မူကုန်လော့။ အကျွန်ုပ်သည် ကုန်သွားခြင်းကိုပြု၍ အသက်မွေးပါအံ့။ စင်စစ်သော်ကား နောင်တော်တို့သည် မိမိ၏ဖနေပုဒ်၌ အကျွန်ုပ်အား ကင်းခွန်ကိုသာ လွှတ်တော်မူကုန်လောဟုဆို၏။ ထိုနောင်တော်မင်းတို့သည် ကောင်းပြီဟုအာမခံ၍ ထိုအင်္ကုရမင်းသား၏အစုကို နှမတော်အဉ္စနဒေဝီအားပေး၍ ထိုနှမတော် အဉ္စနဒေဝီနှင့်တကွ ကိုးယောက်ကုန်သော မင်းတို့သည် ဒွါရာဝတီပြည်ကြီး၌ နေကုန်၏။ ညီတော်အင်္ကုရမင်းသားသည်ကား ကုန်သွယ်ကိုပြု၏။ ဤသည်ကား ဒသနိပါတ်၊ ဃဋပဏ္ဍိတဇာတ်၌လာသော ဝတ္ထုစကား အစဉ်တည်း။

ဤဇာတ်ဝတ္ထု၌ ဒွါရာဝတီမြို့ကို သံဖြင့်တွဲ၍ ယူအပ်လေသည်ကို အကြောင်းပြု၍ သံတွဲမြို့ဟု တွင်ပေကြောင်း။ ဤသံတွဲမြို့ဟူသည်လည်း အခြားတပါးပြည်မဟုတ်။ ငါတို့ရခိုင်လေးမြို့အဝင် ဒွါရာဝတီ သံတွဲမြို့ပင်ဖြစ်ကြောင်း စသည်တို့ဖြင့် ရာဇဝင်၊ မှတ်စု၊ ရတု၊ မော်ကွန်းအခန်းခန်းတို့တွင် စီရင်ရေးသားမှာထားမိန့်ဆိုကြလေသည်။

## ၁၃၇။ တနည်း ဝါသုဒေဝစသော မင်းညီနောင်တို့အကြောင်း

ပေတဝတ္ထု၌ကား။ ။ ယခင်ဒသနိပါတ်၊ ဃဋပဏ္ဍိတဇာတ်၌ လာရှိသည့်အတိုင်း ပြဆိုပြီးလျှင်။ အင်္ကုရမင်းသားသည် ကုန်သွယ်ခြင်းကိုပြုသည်ရှိသော် အခါခပ်သိမ်းကြီးစွာသော အလှူကိုပေး၏။ ထိုမင်း၏အစီးအပွားကို အလိုရှိသော ကျွန်ဖြစ်သော ဘဏ္ဍာစိုးသည်ရှိ၏။ အင်္ကုရမင်းသားသည်လည်း ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍ ထိုဘဏ္ဍာစိုးအား တယောက်သောအမျိုးသမီးကိုယူ၍ပေး၏။ ဘဏ္ဍာစိုးသည် မိမိသားငယ်မဖွားမီကလျှင် သေခြင်းကိုပြု၏။ အင်္ကုရမင်းသားသည် အဘဖအားပေးအပ်သော ရိက္ခာကိုပေး၏။ ထိုသူငယ်သည် အရွယ်သို့ရောက်လတ်သော် ကျွန်ဟုတ်သည်၊ မဟုတ်ဟု အငြင်းဖြစ်ကြရာ အဉ္စနဒေဝီက နွားငယ်ဥပမာဖြင့် အမိသူကောင်းဖြစ်လျှင် သားငယ်သူကောင်းဖြစ်သင့်၏ဟု ဆုံးဖြတ်သော်လည်း မကြေမအေးရှိကြသည်ကို ရှက်သောကြောင့် သိဝိတိုင်း ရောရုဝပြည်သို့သွားပြီးလျှင် အပ်လျှိုသမား၏ သမီးကိုယူ၍ အသက်မွေးလေ၏။ ထိုအခါ ရောရုဝါမြို့၌ အသေယျသဒ္ဒေး အလှူပေးရာ မဏ္ဍပ်သို့လာကုန်သော အလှူခံတို့အား ဝမ်းမြောက်ဝမ်းသာ လက်ညှိုးညွှန်၍ပြလေ၏။ ထိုအပ်လျှိုသမား

သည် မကြာမီသေလွန်သည်ရှိသော် လက်ညှိုးညွှန်၍ပြ အပ်သော ကုသိုလ်ကံကြောင့် မရကန္တရသဲပြင်ကြီး၌ မြစ်ပျဉ်းတထောင်တို့နှင့် ပြည့်စုံသော ပဿောင်ပင်ဝယ် ရုက္ခစိုးနတ်ဖြစ်လေကြောင်း။ အင်္ကုရမင်းသားသည် အခါတပါး တဦးသောပုဏ္ဏားနှင့်တကွ တထောင်သော လှည်းတို့ဖြင့် ဒွါရာဝတီပြည်မှ ကမ္ဘောဇပြည်သို့ ကုန်ရောင်းကုန်ဝယ်အလို့ငှာ သွားကြလေသော် မရကန္တာရ၌ ခရီးမှား၍နေလေသောကြောင့် ရုက္ခစိုးနတ်သည် မိမိအားကျေးဇူး ပြုဖူးသည်ကိုထောက်၍ ပဿောင်ပင်ကို မြင်စေ၍ အင်္ကုရမင်းသားတို့ မှီခိုတည်းနေရာကို ပြုကြောင်း။ ။ အင်္ကုရမင်းသားသည် ရုက္ခစိုးနတ်မင်း လက်ကိုဆန့်လျှင် ရေကိုယိုထွက်စေခြင်း။ ထမင်းအဖျော်၊ အဝတ်တန်ဆာ၊ အစရှိသော အလုံးစုံသောဝတ္ထုတို့ကို ဖြစ်စေခြင်းတို့ဖြင့် အလုံးစုံသော သူတို့အား ရောင့်ရဲစေသော အဖြစ်ကိုမြင်ခြင်း၊ မေးမြန်းခြင်းတို့ဖြင့် မိမိလည်း ဤမရကန္တရ သဲပြင်ခရီးမှ ဒွါရာဝတီပြည်သို့ရောက်လျှင် အလှူကြီးကိုပေးအံ့ဟု ဝန်ခံလိုသည်ဖြစ်၍။

**သောဟံ နူန ဣတော ဂန္တွာ၊ အနုပ္ပတွာန ဒွါရကံ။**
**ဒါနံ ပဋ္ဌပယိဿာမိ၊ ယံ မမဿ သုခါဝဟံ။**

သောဟံ-သောအဟံ၊ ထိုငါသည်။ ဣတော၊ ဤမရ ကန္တရသဲပြင်အရပ်မှ။ ဂန္တွာ၊ သွားသည်ရှိသော်။ ဒွါရကံ၊ ဒွါရာဝတီပြည်သို့။ အနုပ္ပတွာန၊ ရောက်၍။ နူန၊ စင်စစ်။ ယံဒါနံ၊ အကြင်အလှူသည်။ မမ၊ ငါ၏။ သုခါဝဟံ၊ ချမ်းသာကို ဆောင်တတ်သည်။ အဿ၊ ဖြစ်ရာ၏။ တံဒါနံ၊ ထိုအလှူကို။ ပဋ္ဌပယိဿာမိ၊ ဖြစ်စေအံ့။ ဝါ၊ ပေးလှူပေအံ့။

ဤသို့ဂါထာဖြင့် ဝန်ခံပေးခဲ့ကြောင်း၊ ပြန်သွားပြီး နောက် ကြီးစွာသောအလှူကို ပေးလှူလေကြောင်း၊ အလှူ ပေးလွန်းသဖြင့် ခုနစ်ပြည်ထောင်သားတို့ အင်္ကုရမင်းသား အလှူကိုမှီ၍ အသက်မွေးလေသေးကြောင်း၊ မင်း၏ ဘဏ္ဍာယုတ်လေရကား အင်္ကုရမင်းသားကို ဂင်္ဂါမြစ်၏ တောင်ဘက်၊ ဒက္ခိဏာပထ၊ ဒမိဠကျေးကုလားလူမျိုးတို့၏ နေရာ မဒရပ်မြောက်ပိုင်းသို့နှင်လိုက်ကြောင်း၊ ထိုအရပ်၌ နေ၍ အနှစ်တသောင်းကာလပတ်လုံး ကြီးစွာသော အလှူကိုပေး၍ စုတေလေသော် နတ်ပြည်၌ အင်္ကုရ နတ်သားဟူ၍ဖြစ်လေကြောင်းတို့နှင့်ဆိုသည်။ ဤအင်္ကုရ ပေတဝတ္ထုကို ထောက်ထားလျှင်ငင်း၊ ဝါသုဒေဝ မင်းတို့သည် အသက်နှစ်သောင်းတမ်းမှာ ဖြစ်ကြကြောင်း ကို ငင်းဇာတ်၌ဆိုသည်။ ဝါသုဒေဝမင်းနောက် နှစ်ဆဲ့ နှစ်ဆက်မြောက် အဆုံးတွင် မာရယုမင်းဖြစ်လာကြောင်း၊ အသက်ရှစ်ဆယ်သာနေရကြောင်း၊ နောက်နောက်မင်းတို့ တွင်လည်း ကုမာရဝိသုကနှင့် မင်းထီးနှစ်ဦးသာ ရာကျော် နေရသော မင်းပါကြောင်းနှင့် ရာဇဝင်တို့၌ဆိုသည်ဖြစ်၍ မာရယုမင်းတို့ ရာတမ်းမှာသာဖြစ်လာ၏ ယူသင့်သော ကြောင့် သက်တမ်းချင်း အလွန်ဝေးကွာသည်များကို ထောက်ထားလျှင်ငင်း။ ဒွါရာဝတီပြည်ဟူသည် ဣန္ဒိယပြည်ကြီး၏ မြောက်ပိုင်းတွင်သာရှိသည်ဟု ယူသင့် သည်။ ယင်းသို့ယူသင့်လေသော်လည်း ရှေးအထက် ပဝေဏီကစီစဉ်ရေးသားမှာ ထားစီရင်သော ရာဇဝင်ဝတ္ထု၊ ရတုမော်ကွန်းအခန်းခန်းတို့၌ ဒွါရာဝတီဟူသည် ငါတို့ ရခိုင်လေးမြို့အဝင်၊ သံတွဲမြို့ပင်ဖြစ်ပေကြောင်းနှင့် ဆိုသော ကြောင့် ထိုရာဇဝင်စကားတို့ကို ထောက်ထားရှုမျှော်၍ သင့်လျော်ရာ ရေးပြလိုက်ပေဦးအံ့။

## ၁၃၈။ ရာဇဝင်ဆက်၌ ဆင်ခြင်ရန်အကြောင်း

ကဿပမြတ်စွာဘုရား သာသနာတော်အတွင်း ကောရဗ္ဗတိုင်း၌ ကောရဗ္ဗမင်းပြုသည့်အခါ ငါတို့ဘုရား လောင်း ဝိဓူရအမတ်ကြီးဖြစ်လေသည်။ ထိုကောရဗ္ဗမင်း တဆဲ့နှစ်နှစ်မြောက် နောက်ဆုံးဖြစ်သော မင်းစောမည် သော ကောရဗ္ဗမင်းလက်ထက် နဂါးညီနောင်တို့ဖျက်၍ ပျက်လေလျှင် ထိုမင်းစောသည် များစွာသော ဗိုလ်ခြေနှင့် ထွက်လာ၍ ဒွါရာဝတီ သံတွဲမြို့ကိုတည်၍ မင်းစော

ကိုးဆက်စံနေကြောင်း။ နောက်ဆုံးမင်းစောလက်ထက် ပုဂံပြည်မှ စကားတောင်စား အမတ်ရောက်လာကြောင်း၊ အဥ္စနဒေဝီ မင်းသမီးကို ဗာရာဏသီပြည်က သူရိယမင်းသား ၄က်ဆင်နှင့် တင်ယူကြောင်း အစရှိသည်ဖြင့် အင်းစောက်ရာဇဝင်၌ဆိုသည်။ ထိုစကားရပ်တွင် ကဿပ မြတ်စွာဘုရားသာသနာ အတွင်းမှန်လျှင် ဆယ်ခုမြောက် အန္တရကပ်ကဖြစ်ရမည်။ ကောရပ္ပတိုင်းသည် တဆဲ့ တကပ်မြောက် အန္တရကပ်မှာဖြစ်၍ အိန္ဒိယပြည်ကြီး အနောက်မြောက်ပန်ဂျပ်ပြည်၏အရှေ့ပိုင်း၊ ယခုအခါ ဒေလီမြို့ပင်ဖြစ်၍ ခရီးလမ်းတာ ဝေးကွာလှသောကြောင့် ၎င်း၊ နောက်ဆုံးဖြစ်သော မင်းစောလက်ထက် စကားတောင်စား အမတ်လာရောက်ကြောင်းနှင့် ဆိုသော စကားသည်လည်း ထိုခေတ်ကာလ ပုဂံပြည်ကိုထားဘိ ဦး။ မြန်မာအစ၊ တကောင်းကဟူသည်နှင့်အညီ တကောင်း သင်းတွဲပြည်တို့မှ မတည်ထောင်သေးဖြစ်၍၎င်း၊ အကြောင်းအကျိုးသင့်နိုးရာယူငင်၍ ဆင်ခြင်မှတ်သားပြု ရမည်။ အဥ္စနဒေဝီမင်းသမီးကို ဗာရာဏသီပြည်က သူရိယမင်းသား ၄က်ဆင်နှင့်တင်ယူသည်ဆိုသော စကားလည်း နောက်၌ဝေသာလီပြည်တွင် ပုရောဟိတ် ပုဏ္ဏားနှင့် အဥ္စနဒေဝီတို့ပင် ထိးနန်းစိုးလေကြောင်းနှင့် မိမိဆိုလတ္တံ့သော စကားနှင့်မညီလေ။ ဆရာ ငမည်-ရာဇဝင်၌ကား အန္တရကပ်တဆဲ့တကပ် မြောက်အဦး၌ တင်မြောက်အပ်သော မဟာသမ္မတမင်းမှစ၍ ဝရမန္ဓာတုမင်းဖြစ်တော်မူသောအခါ ထိုမင်း၏သား တော်သည် ဂဇာပတိ၊ အဿာပတိ၊ နရာပတိ၊ ဝဏ္ဏပဘာ ဟူ၍ လေးယောက်ရှိကြောင်း။ ထိုလေးယောက်တို့တွင် ဂဇာပတိသားတော်အား ဇမ္ဗူဒိပ်ကျွန်း၏မြောက်ပိုင်းကို။ အဿာပတိအား ဇမ္ဗူဒိပ်ကျွန်း၏ တောင်ပိုင်းကို။ နရာ ပတိအား ဇမ္ဗူဒိပ်ကျွန်း၏အရှေ့ပိုင်းကို ပေးအပ်တော်မူ ကြောင်း။ အငယ်ဆုံး ဝဏ္ဏပဘာကိုမေးတော်မူရာ မိမိက် ပေးရာကို လိုပါသည်လျှောက်သဖြင့် ကံမြင့်ရာဇာတွင်ပေ ကြောင်း။ ။ ၎င်းကံမြင့်ရာဇာအား ဂဝံပတိ၊ ပရမိဿာ နတ်မင်းတို့ ဖန်ဆင်းတည်ထောင်၍ပေးအပ်သော ငါတို့ ရမ္မာဝတီပြည်၊ ဒွါရာဝတီပြည်၊ မေဃဝတီပြည်၊ ဓညဝတီ ပြည်တို့ ဖြစ်ထွန်းပေါ်ပေါက်လေ ကြောင်းနှင့်ဆိုလေ သည်။ ယင်းသို့ဆိုအပ်သောစကားများကိုလည်း ထောက်ထားဆင်ခြင်၍ယူရမည်။ ဤသို့ရေးသားပြဆိုအပ် သော ရာဇဝင်စကားတို့သည် တင်စားသည်ပင်ဖြစ်စေ၊ မှန်သည်ပင်ဖြစ်စေ စင်စစ်မှာမူ ဝါသုဒေဝစသော မင်းညီနောင်တကျိပ်တို့ မလာမရောက်မီကပင် ဒွါရာဝတီ၊ ဝေသာလီစသော ငါတို့ ရခိုင်ပြည် မဟာဝိဟိကတိုင်း၌ ရှေးရှေးသော မဟာသမ္မတမင်းတို့၏ အဆက်အနွယ်တော် ဖြစ်သော မင်းများတို့ ပြုစုတည်ထောင်နေထိုင်တော်မူဖူးကြ သော တိုင်းပြည်ဟူ၍ကား မှတ်သားရန်သင့်ပေကြောင်း။

ဝါသုဒေဝစသော မင်းညီနောင်တကျိပ်တို့ကို လည်း ဆရာငမည်ရာဇဝင်၌ ဦးရီးတော်မင်းတို့ကို ဖမ်းဆီး သတ်ဖျက်မည်ကြံကြောင်းကိုသိလျှင် ဟိမဝန္တာသို့ ထွက်ပြေး၍ ရှင်ရသေ့ထံ အတတ်မျိုးကိုသင်လေကြောင်း။ ကကုသန်မြတ်စွာဘုရားလက်ထက် ညီနောင်တကျိပ်တို့ န္ဓားကျောင်းသား သူငယ်တို့ဖြစ်ဘူးကြောင်း။ ကကုသန် မြတ်စွာဘုရားကိုမြင်လျှင် ကြည်လင်သော စိတ်ရှိကြသည် ဖြစ်၍ န္ဓားတို့ကို သူငယ်မအား အပ်ထားခဲ့၍ ဥယျာဉ်သို့ သွားပြီးလျှင် အထူးထူးသောပန်းတို့ကိုယူဆောင်လျက် ကြာအိုင်မှ ရေနှင့် ကြာပွင့်ကြာသီးတို့ကိုယူခဲ့၍ ရေဖြင့် မြတ်စွာဘုရား ခြေတော်ကိုဆေးကြော၍ ကြာသီးတို့ဖြင့် မြတ်စွာဘုရားနှင့်တကွ သံဃာတော်များကို ကပ်လှူလျက် ဇမ္ဗူဒိပ်ကျွန်း အလုံးကိုသိမ်းရုံးပိုင်ပြု၍ ဆယ်စုဝေဘန် စိုးစံရသည်ဖြစ်စေသောဟူ၍ ဆုတောင်း ဘူးကြောင်း။ နောက်အဥ္စနဒေဝီလည်း တခုသောဝေစုကို ရပါစေသောဟူ၍ ဆုပန်ဘူးကြောင်း။ ဥယျာဉ်မှူးလည်း မင်းသားတို့အား ဆရာပြု၍ အတတ်သင်ပေးပါရစေ သောဟု ဆုတောင်းဘူးကြောင်း။ ထိုကောင်းမှုတို့ကြောင့် ဆုတောင်းတိုင်းပြည့်စုံကြောင်း။ ကံသမင်းတို့ ပျက်စီးရခြင်း သည် အသိတဥ္စနပြည်ဝယ် တခုသောရေအိုင်၌

မင်းညီနောင်အလောင်းဖြစ်သော ငါးတို့ကို သတ်စားခဲ့ဘူးသော အကျိုးဆက်ကြောင့် ပျက်စီးရလေကြောင်းတို့နှင့် အရှည်အများပင်ဆိုသည်။ (ဤကား အမှာစကားချုပ်)။

## ၁၃၉။ ဝါသုဒေဝစိုးရိမ်ခြင်းကို ဃဋပဏ္ဍိတ ဖျောက်ခြင်းအကြောင်း

ဤသို့လျှင် ထိုမင်းညီနောင်တို့သည် နောက်အဘို့၌ သားသမီးတို့ဖြင့် စီးပွားကုန်သည်ရှိသော် ရှည်မြင့်စွာသော ကာလလွန်လေလျှင် မယ်တော်ခမည်းတော်တို့သည် သေလွန်ကုန်၏။ ထိုအခါ ဝါသုဒေဝမင်းကြီး၏ သားတော်တယောက်သည် သေခဲ့၏။ ဝါသုဒေဝမင်းကြီးသည် စိုးရိမ်သောက နှိပ်စက်သည်ဖြစ်၍ အလုံးစုံသော အမှုကိစ္စကိုပယ်၍ ညောင်စောင်းပေါင်၌ဖက်၍ ကြီးစွာသော စိုးရိမ်ခြင်းဖြင့် ငိုကြွေးမြည်တမ်းသည်ကို ညီတော် ဃဋပဏ္ဍိတသည် ကြံ၏။ ငါ့ကိုထား၍ ငါမှတပါးသောသူသည် နောင်တော်ကြီး၏စိုးရိမ်ခြင်းကို ဖျောက်ခြင်းငှာ စွမ်းနိုင်သောသူ မည်သည်မရှိရာ။ သင့်သောအကြောင်းဖြင့် နောင်တော်ကြီး၏စိုးရိမ်ခြင်းကို ဖျောက်အံ့ဟုကြံ၏။ ကြံပြီး၍ ဃဋပဏ္ဍိတမင်းသားသည် သူရူးအသွင်ကိုယူ၍ ငါ့အားယုန်ပေး၊ ငါ့အား ယုန်ပေးဟုဆို၍ ကောင်းကင်သို့ ကြည့်လျက် မြို့အလုံးကို လှည့်လည်၏၊ ဃဋပဏ္ဍိတမင်းသားသည် ရူးသည်ဖြစ်၏ဟု မြို့အလုံးသည် ချောက်ချား၏။ ထိုအခါ၌ ရောဟိဏေယျအမတ်သည် ဝါသုဒေဝမင်းကြီးထံသွား၍ ဝါသုဒေဝမင်းနှင့်တကွ စကားဖြစ်စေလို၍။ ဥဋ္ဌေဟိ စသောဂါထာဖြင့် လျှောက်၏။ ကောင်းသောဆံပင်ရှိသော၊ ကဏှာယနအမျိုးဖြစ်တော်မူသော အရှင်မင်းကြီး၊ ထတော်မူပါလော၊ အဘယ်ကြောင့် အိပ်တော်မူပါသနည်း။ အိပ်သဖြင့် အရှင်မင်းကြီးအား အဘယ်အကျိုးရှိအံ့နည်း၊ အရှင်မင်းကြီး၏ ညီတော် ဃဋပဏ္ဍိတမင်းသားသည် အရှင်မင်းကြီး၏ နှလုံးသည်းပွတ်နှင့်လည်းတူ၏။ လက်ယာမျက်စိနှင့်လည်း တူ၏။ ဃဋပဏ္ဍိတမင်းသား၏နှလုံးကို လေသည် ပျံ့လွင့်စေ၏။ ထို့ကြောင့် ဃဋပဏ္ဍိတမင်းသားသည် ငါ့အား ယုန်ပေး၊ ငါ့အား ယုန်ပေးဟု မြည်တမ်းလှည့်လည်ပါ၏ဟုလျှောက်၏။

ထိုသို့ ရောဟိဏေယျအမတ် လျှောက်သည်ရှိသော် ဝါသုဒေဝမင်းကြီးသည် လျင်စွာထ၍ ပြာသာဒ်မှ သက်ပြီးသော် ဃဋပဏ္ဍိတထံသို့ သွား၍လက်နှစ်ချောင်းကို ကိုင်ပြီးသော်။ ။ ကိန္နု ဥမ္မတ္တရူပေါ၀၊ စသောဂါထာဖြင့်မေး၏။ ။ ညီထွေးအသို့နည်း။ သူရူးအသွင်ကဲ့သို့ အလုံးစုံသော ဤဒွါရာဝတီမြို့ကို လှည့်လည်၍ ငါ့အားယုန်ပေး၊ ငါ့အား ယုန်ပေးဟူ၍ အဘယ်ကြောင့် မြည်တမ်းနေသနည်း။ အဘယ်သူသည် ငါ့ညီ၏ ယုန်ကို ဆောင်ယူလေသနည်းဟု မင်းကြီးမေးသော်လည်း စကားတို့မဆိုမူ၍ မြည်တမ်းမြဲမြည်တမ်းသည်ရှိသော်။ သောဝဏ္ဏမယံ အစရှိသောဂါထာဖြင့် မေးပြန်၏။ ညီထွေး၊ သင်ညီထွေး၏ရွှေဖြင့်ပြီးသော ယုန်ကိုငင်း၊ ပတ္တမြားဖြင့်ပြီးသော ယုန်ကိုငင်း၊ ကြေးသံဖြင့်ပြီးသော ယုန်ကိုငင်း၊ ငွေဖြင့်ပြီးသော ယုန်ကိုငင်း၊ ခရုသင်း၊ ပုလဲ၊ သန္တာဖြင့်ပြီးသော ယုန်ကိုငင်း ပြုပေအံ့။ တောဌ် ကျက်စားလေ့ရှိသော ယုန်တို့ကိုမူလည်းဆောင်ယူပေအံ့။ အဘယ်ယုန်ကို အလိုရှိသနည်းဟု မင်းကြီးမေးသောအခါမှ။ နစာဟ မေတေ ဣစ္ဆာမိ စသောဂါထာဖြင့် ဖြေ၏။ ရှည်သောဆံရှိသည်ဖြစ်၍ ကေသဝအမည်ရှိသော နောင်တော်မင်းကြီး၊ မြေ၌ဖြစ်ကုန်သော အကြင်ယုန်တို့သည် ရှိကုန်၏။ ထိုအလုံးစုံသောယုန်တို့ကို အကျွန်ုပ် အလိုမရှိပါ။ လ-မှဖြစ်သော ယုန်ကိုသာ အကျွန်ုပ် အလိုရှိပါသည်။ ထိုလ-မှဖြစ်သောယုန်ကိုသာ အကျွန်ုပ်အား ချပေးပါဟုဆို၏။ ထိုစကားကိုကြားလျှင် ငါ့ညီ ရူးသည် မှန်၏ဟု နှလုံးမသာမယာရှိသည်ဖြစ်၍။ ။ ယောနူန မဓုရံဉာတိ အစရှိသောဂါထာဖြင့် ဆို၏။ ညီထွေး၊ အကြင် ငါ့ညီသည် လ-မှဖြစ်သောယုန်ကို အလိုရှိသည်ဟု မတောင့်တအပ်သည်ကို တောင့်တ၏။

ထိုသို့တောင့်တအပ်သော ငါ့ညီသည် ကောင်းမြတ်သော အသက်ကို စွန့်ရအံ့ဘိသည်တကားဟုဆို၏။ နောင်တော် ဝါသုဒေဝမင်းကြီး၏ စကားကိုကြားလျှင် ဃဋပဏ္ဍိတ သည် မတုန်မလှုပ်တည်ကြည်စွာနေ၍ နောင်တော်၊ လ-မှဖြစ်သော ယုန်ကို မရသောကြောင့် အသက်ကုန်အံ့သော အဖြစ်ကိုသိလျက် အဘယ်ကြောင့် လွန်လေပြီးသော သားကို စိုးရိမ်ဘိသနည်းဟုဆိုဦး၍။ ။ ဝေဠေက ဏှာ ဓာနာသိ စသောဂါထာဖြင့် ပြန်လျှောက်၏။ ကဏှာယနအမျိုးဖြစ်သော နောင်တော်မင်းကြီး၊ ဤသို့ အကယ်၍မရနိုင်သော အဖြစ်ကိုသိအံ့။ တပါးသောသူကို ထိုသို့သိသည်ဆုံးမသည်ဖြစ်လျက် အဘယ်ကြောင့် ရှေး၌သေလွန်လေပြီးသော သားတော်ကို ယနေ့တိုင် အောင်လည်း စိုးရိမ်တော်မူ သနည်းဟုလျှောက်၏။ ဤသို့လျှင်ခရီးမဒ္ဓရပ်၌ လ-မှ ဖြစ်သော ယုန်ကိုမြင်သော ကြောင့်ထင်သောဝတ္ထုကို တောင့်တ၏။ နောင်တော် တမူကား မထင်မြင်သော ဤလ-မှသည် လေးလ အထက်၌ လွန်လေသော သားတော်ကိုတောင့်တဘိသည် တကားဟုဆို၍။ ။ ယံနလဗ္ဘာအနုသေယနစသော ဂါထာတို့ဖြင့်လျှောက်ပြန်၏။ အရှင်မင်းကြီး၊ ဖြစ်ပြီးသော ငါ၏သားသည် မသေပါလင့်။ ဤသို့ အကြင်အမှုကို လူသည်၎င်း၊ နတ်ဘီလူးသည်၎င်း တောင့်တ၍မရ အပ်ကုန်။ အဘယ်မှာ တောင့်တ၍ရအံ့နည်း။ ကဏှာယန အမျိုးဖြစ်တော်မူသော နောင်တော်မင်းကြီး၊ အကြင် အတည်မကျ ဘဝတပါးပြောင်းသွားလေသောသူကို စိုးရိမ်၏။ ထိုဘဝတပါးပြောင်းသွားလေသောသူကို မန္တရားဖြင့်၎င်း၊ ဆေးမြစ်ဖြင့်၎င်း၊ အထူးထူးသော အလုံးစုံသောဆေးပေါင်းဖြင့်၎င်း၊ ဥစ္စာဖြင့်၎င်း၊ ဆောင်ယူ ခြင်းငှာ မတတ်ကောင်းပါဟု လျှောက်၏။ ဤသို့ လျှောက်သော စကားကိုကြားလျှင် ဝါသုဒေဝမင်းကြီး သည် ညီထွေး၊ ငါအမှတ်ရပြီ။ ငါ၏စိုးရိမ်ခြင်းကို ပယ်လို သောကြောင့် ဤသို့ ရူးသွပ်သောအမှုကို ငါ့ညီ ပြုပေ သည်ဟု ဃဋပဏ္ဍိတကို ချီးမွမ်းလိုသောကြောင့်။ ။ ထဿတော ဒိသာ-စသော လေးဂါထာတို့ဖြင့် ချီးမွမ်း၏။ အို..အမတ်အပေါင်းတို့၊ အကြင်အကြောင်းဖြင့် ယခုသား၌ စိုးရိမ်ခြင်းဖြင့် နှိပ်စက်သော ငါ့ကိုပညာရှိယောကျ်ား ဖြစ်သော ဃဋပဏ္ဍိတသည် ငြိမ်းစေ၏။ အကြင်မင်းအား ထိုသို့သဘောရှိကုန်သော ပညာရှိအမတ်တို့သည် ရှိကုန် ၏။ ထိုမင်းအား စိုးရိမ်ခြင်းသည် အဘယ်မှာရှိအံ့နည်း။ ဤသို့အစရှိသည်ဖြင့် ဃဋပဏ္ဍိတကို ဝါသုဒေဝမင်းကြီး ချီးမွမ်း၍ စိုးရိမ်ခြင်း ကင်းငြိမ်းပြီးသည်ရှိသော် အစွန့်ရှည်စွာ သောအခါ၌ မင်းညီနောင်တို့၏ သားတော်တို့သည် ကဏှာဒီပါယနရသေ့ကို ဒိဗ္ဗစက္ခုဟုဆို အပ်ကုန်၏။ ငါတို့ စုံစမ်းအံ့ဟု သူငယ်တယောက်ကို ဝမ်း၌ ခါးစည်းပုဆိုးဖွဲ့၍ သားရှိသောအယောင်ဆောင်၍ ဤမိန်းမငယ် အဘယ်ကာလမှ သားဖွားအံ့နည်းဟု ကဏှာဒီပါယန ရသေ့ကို မေးကုန်သည်ရှိသော မင်းညီနောင် တကျိပ်တို့ သည် ပျက်စီးရန်ကာလရောက်ပြီ။ ငါ၏အသက် အဘယ်မျှရှည်မည်နည်းဟု ကြည့်သည်ရှိသော် ယနေ့ပင် အနိစ္စနိုင်ငံသို့လိုက်ရမည်ဟုသိ၍ မင်းသားတို့၊ သားဖွားခြင်းဖြင့် အဘယ်အကျိုးရှိအံ့နည်းဟုဆိုလျှင် ဆိုလော ဆိုလောဟု တိုက်တွန်းဖန်များသဖြင့် ယနေ့မှ ခုနစ်ရက်မြောက်သောနေ့၌ ရှားလှံကန်ကို ဖွားလိမ့်မည်။ ထိုရှားလှံကန်ဖြင့် ဝါသုဒေဝအနွယ် ပျက်စီးခြင်းသို့ ရောက်လတ္တံ့။ ဆိုဖွယ်သော် တမူကား ထိုရှားလှံကန်ကို မီးတိုက်၍ပြာကို မြစ်ရေ၌ မျှောလေကုန်ဟုဆိုသည်ကို ဟယ်..ရသေ့စဉ်းလဲ၊ ယောကျ်ားသည် သားဖွားရသည် သဘောရှိသလောဟု ပုတ်ခတ်၍ အသက်ကုန်ခြင်းသို့ ရောက်စေသောအဖြစ်ကို မင်းညီနောင်တို့ကြားကုန်၍ ကြောက်လန့်တကြား ဖြစ်ကုန်သဖြင့် သားတော်တို့ကို အပြစ်တင်၍ ထိုသူငယ်ကို စောင့်ရှောက်စေ၍ ရသေ့ ဆိုတိုင်း ခုနစ်ရက်မြောက်သောနေ့၌ ထိုသူငယ်ဖွားသော ရှားလှံကန်ကို မီးတိုက်၍ မြစ်၌မျှောအပ်သောပြာသည် မြစ်ဝတဖက်၌တင်လေသဖြင့် ထိုပြာမှ ပြိတ်မြက်ပင် ပေါက်လေ၏။

ထိုအခါ ဝါသုဒေဝစသော မင်းညီနောင်တို့သည် သမုဒ္ဒရာနားသို့သွား၍ ကြီးစွာသောသဘင်ဖြင့် ရေကစားကြရာတွင် လက်ခြေထိပါးကြကုန်သည်ဖြစ်၍ နှစ်စုကွဲလျက် အချင်းချင်းခိုက်ရန်ကြီးစွာဖြစ်ကြကုန်လတ်သော် တယောက်သောသူသည် တပါးသော တုတ်လုံးကန်မရသည်ဖြစ်၍ ပြိတ်မြက်တောမှ ပြိတ်မြက်ရွက်ကိုကိုင်၏။ ထိုပြိတ်မြက်ရွက်သည် ကိုင်မိကာမျှဖြင့်လျှင် ရှားကျည်ပွေ့ဖြစ်၏။ ထိုရှားကျည်ပွေ့ဖြင့် ရိုက်၏၊ ထိုအတူဥင်း ကိုင်တိုင်းကိုင်တိုင်း ရှားကျည်ပွေ့ဖြစ်၍ အချင်းချင်း ရိုက်ပုတ်ကြကုန် သည်ဖြစ်၍ ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်ကြကုန်၏။ ထိုသို့ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်ကုန်သည်ရှိသော် ဝါသုဒေဝမင်းကြီး၊ ဗလဒေဝ မင်းသား၊ နှမတော်အဉ္စနဒေဝီ၊ ပုရောဟိတ်ပုဏ္ဏား ဤလေးယောက်သောသူတို့သည် ရထားစီး၍ ထွက်ပြေးကြကုန်သည်ရှိသော် ကာဠမတ္တိကမည်သော တောအုပ်သို့ ရောက်ကုန်၍ မုဋ္ဌိကလက်ပမ်းသည်-သည်ဘီလူးဖြစ်၍ စားရလို၏ဟု ဆုတောင်းခြင်းကိုပြု၍ ထိုတောအုပ်၌ ဘီလူးကြီးဖြစ်လေသဖြင့် ဗလဒေဝလာသည်ကိုမြင်လျှင် ရွာဘန် ဆင်း၍ လက်ပမ်းသည် အသွင်ဖြင့် လက်ပမ်းရေးပြလတ်သည်ကို ဗလဒေဝမြင်လျှင် နောင်တော် ဝါသုဒေဝမင်းကြီးအား ဤလက်ပမ်းသည်နှင့် တကွ လုံးထွေးအံ့ဟုဆို၏။ ဝါသုဒေဝမင်းကြီးတားမြစ်စဉ်လျှင် ရထားထက်မှဆင်းသက်၍ ဘီလူးထံလာခဲ့၏။ မုဋ္ဌိကဘီလူးအထံသို့ရောက်လျှင် လက်ပမ်းပေါက်ခတ်၍ လက်ကိုဆန့်၏။ မုဋ္ဌိကဘီလူးသည်လက်ကိုငင်၍ ကြာစွယ်ကြာရင်းကဲ့သို့ စားလေ၏။ ဝါသုဒေဝမင်းကြီးသည် ညီတော်ဗလဒေဝ သေသောအဖြစ်ကိုသိ၍ နှမတော်အဉ္စနဒေဝီကိုဥင်း၊ ပုရောဟိတ်ပုဏ္ဏားကိုဥင်း ယူ၍ ညဥ့်သုံးယံပတ်လုံး ပြေးသွား၍ နေထွက်သောအခါ တခုသော ရွာစွန်နားသို့ရောက်၍ ထမင်းချက်၍ ဆောင်ခဲ့ကုန်လောဟုဆို၍ နှမတော်အဉ္စနဒေဝီကိုဥင်း၊ ပုရော ဟိတ်ပုဏ္ဏားကိုဥင်း ရွာသို့စေလိုက်၍ မိမိသည် တခုသောချုံထဲ၌အိပ်လေ၏။ ထိုအခါ ဝါသုဒေဝမင်းကြီးကို ဇရာအမည်ရှိသောမုဆိုးသည် ခြုံလှုပ်သည်ကိုမြင်လျှင် ဤခြုံ၌ ဝက်ရှိလေသည်ဖြစ်လတ္တံ့ဟူသော အမှတ်ဖြင့် ထိုးအပ်သောလှံသည် ခြေ၌စူးလေ၏။ အဘယ်သူသည် ငါ့ခြေကို ထိုးသနည်းဟုဆိုလတ်သော် လူကိုထိုးမိသော အဖြစ်ကိုသိ၍ ပြေးခြင်းငှာအားထုတ်၏။ ဝါသုဒေဝ မင်းကြီးသည် သတိကိုဆောက်တည်၍ထပြီးလျှင် အမောင်၊ မကြောက်လင့်၊ လာလှည့်ဟုခေါ်၍လာလတ်သော် မုဆိုးကို သင်သည်အဘယ်အမည်ရှိသနည်းဟု မေးလျှင် အရှင်၊ အကျွန်ုပ်သည် ဇရာအမည်ရှိပါသည်ဟု ဆိုသည်ရှိသော် ဇရာမည်သောမုဆိုးသည် ထိုး၍သေလတ္တံ့ဟု ငါ့ကိုပညာရှိတို့သည် ဟောဘူးကုန်သတတ်။ မချွတ်လျှင် ယနေ့ငါသည် သေရအံ့။ ထိုကြောင့် အမောင်သည် မကြောက်လင့်။ လာလှည့်၊ ငါ့ခြေကို ကြပ်စည်းပါလော့ဟု ထိုဇရာအမည်ရှိသော မုဆိုးကို ထိုလှံစူးသော အရပ်၌ ကြပ်စည်းစေပြီးလျှင် ဇရာအမည်ရှိသော မုဆိုးကို လွှတ်လိုက်လေ၏။ ဝါသုဒေဝမင်းကြီးသည် ပြင်းစွာသော ဝေဒနာတို့သည် ဖြစ်ကုန်သည်ရှိသော် ထိုနှမတော်၊ ပုရောဟိတ်ပုဏ္ဏားတို့သည် ဆောင်အပ်ခဲ့သောအစာကို စားခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ နှမတော်တို့ကိုခေါ်ပြီးလျှင် ယနေ့ငါသည် သေရလတ္တံ့။ သင်တို့သည်ကား နူးညံ့သော ကိုယ်လက်ရှိကုန်၏။ တပါးသောအမှုကိုပြု၍ အသက်မွေးခြင်းငှာ မတတ်နိုင်ကုန်လတ္တံ့။ ဤမန္တန်ကို သင်ကြားကုန်လောဟု တခုသောမန္တန်ကိုသင်စေပြီးလျှင် လွှတ်လိုက်၍ ထိုခြုံ၌ပင်လျှင် အသက်ကုန်ခြင်းသို့ ရောက်လေ၏။

ဤသို့လျှင် နှမတော်အဉ္စနဒေဝီကိုထား၍ အလုံးစုံသော မင်းညီနောင်တို့၏ သားတော်၊ မြေးတော် အစရှိသော ဒွါရာဝတီပြည်ကြီး သူအပေါင်းတို့သည် ပျက်စီးခြင်းသို့ရောက်ကုန်ပြီ။ ခပ်သိမ်းကုန်သော တောဘုမကသခ်ါရတရားတို့သည် အမြဲမရှိကုန်။ ဆင်းရဲခြင်းအကြောင်းသာလျှင် ဖြစ်ကုန်၏ဟု ဒသနိပါတ်၊

ဃဋပဏ္ဍိတဇာတ်၌ဆိုသည်။ အဟောအနိစ္စ၁၀တ သခ်ိါရာ။

(ဤအရာတွင် ရာဇဝင်ဟောင်း၌ ဝါသုဒေဝမင်းနှင့် ဗလဒေဝ၊ နမတော်အဥ္စနဒေဝီ၊ ပုရောဟိတ်ပုဏ္ဏားတို့သည် မြောက်အရပ်သို့ပြေးလတ်၍ ကင္ကမတ္တိယ-တောသို့ ရောက်လေလျှင် တောင်စောင့် အတ္တိယဘီလူးသည် ဗလဒေဝကို စားလေကြောင်း။ ပုရောဟိတ်ပုဏ္ဏား၊ နမတော်အဥ္စနဒေဝီတို့နှင့် အစဉ်အတိုင်းလာလတ်သော် တောအုပ်တခုတွင် အိပ်ကြလေရာ တောသားမုဆိုးသည် မြားနှင့်ပစ်၍ ဝါသုဒေဝမင်းအနိစ္စရောက်လေကြောင်း။ ပုရောဟိတ်ပုဏ္ဏားသည် အဥ္စနဒေဝီကိုယူဆောင်၍ မြောက်တူရူသို့လာလတ်၍ ဝေသာလီပြည်သို့ ရောက်လာကြောင်းနှင့်ဆိုသည်။ ဆရာ မေည်ရာဇဝင်၌ကား ရှားလုံကန်ပြာသည် သမုဒ္ဒရာကမ်းနား၌ပါး၍ ပြာပင်ချည်းပေါက်လေ၏။ ပြာပင်ပေါက်ရာအရပ်ကို ပြာချောင်းဟုခေါ်ကြောင်း။ သေအရက်သောက်စား၍ ခိုက်ရန်ဖြစ်ပွားရိုက်ပုတ်သေကြေကြကြောင်း။ ပုရောဟိတ်ပုဏ္ဏားအလျှုခံသွား၍ ဝါသုဒေဝမင်းနှင့် နမတော်အဥ္စနဒေဝီနှင့်နေကြရာ ကျူပင်လှုပ်၍ တောသားထင်ပြီးလျှင် လုဒ္ဒရှားမုဆိုးသည် လုံနှင့်ထိုးလေရာ ဝါသုဒေဝမင်းကြီး ဖဝါးကိုမှန်၍ ထုတ်ချင်းထွင်းလေကြောင်း။ ဝါသုဒေဝမင်းကြီးသည် ဘွဲ့ဖြူပုဆိုးကိုဆုတ်ဖြတ်၍ ပါဠိဘာသာ၊ ဗန္ဓောဗန္ဓော ဟုဆိုရာကျွန်းကို ပန်းထော်ဟုခေါ်ကြောင်း။ စသည်တို့ဖြင့် အပိုအလွန် အတန်တန်ပါလေသည်။ ၎င်းရာဇဝင်ကိုမှီ၍ ရေးသားအပ်သော အချို့ရာဇဝင်သစ်၌လည်း စီစစ်ဆင်ခြင်မပြု ဇာတ်ဝတ္ထုစကားပြင်ထက် ချဲ့ထွင်ကာရေးသား၍ အများကြီးပါလေသည်။ ပညာဖြင့်ဆင်ခြင်၍ ဇာတ်တွင်လာ စကားကိုသာ မှတ်သားနှလုံးမူရမည်။ ဤသည်ကား စကားချပ်)။

## ၁၄၀။ ပုရောဟိတ်ပုဏ္ဏားနှင့် အဥ္စနဒေဝီတို့ အကြောင်း

ဝါသုဒေဝမင်းကြီးလွှတ်လိုက်သဖြင့် ပုရောဟိတ်ပုဏ္ဏားနှင့် နမတော်အဥ္စနဒေဝီတို့သည် မြောက်အရပ်သို့ အစဉ်အတိုင်းသွားကြလေသော် ဝေသာလီမြို့သို့ ရောက်ကြလေကုန်၏။ ထိုအခါ ဝေသာလီပြည်တွင် မင်းမရှိ၊ လွန်လေသည်နှင့် မင်းလောင်းရှာကြလေသည်အခိုက် ပုရောဟိတ်ပုဏ္ဏားနှင့် အဥ္စနဒေဝီတို့ကိုတွေ့ကြလေသော် ဤသူတို့သည် ငါတို့အရှင်ဖြစ်ထိုက်သော မင်းလောင်းမင်းလျာတို့ပင်တည်းဟု မှူးမတ်အပေါင်းတို့ညီညာ၍ ဝေသာလီပြည် ထီးနန်းကိုအပ်နှင်း၍ မင်းပြုတော်မူလေရာ ပုရောဟိတ်ပုဏ္ဏားသည် ဗြာဟ္မဏရာဇာဟူသောအမည်ကို ခံ၍ အဥ္စနဒေဝီမင်းသမီးနှင့် ထီးနန်းစိုးစံတော်မူလေသည်။ ထိုနောက် ဝေသာလီပြည်မှပြောင်းခွာ၍ ကစ္ဆပနဒီမြစ်၏ အရှေ့ဘက်ကမ်းဖြစ်သော ငခွေးသင်းတောင်မြို့ကို တည်ထောင်ပြုစုစိုးစံတော်မူ၍ သားတော်ဗြဟ္မသုန္ဒရကို ဖွားမြင်တော်မူသည့်နောက် လွန်တော်မူလေသည်။

(ဤသည်ကား ရာဇဝင်ဟောင်း၊ အင်းစောက် ရာဇဝင်တို့၌လာရှိသော စကားတို့တည်း။ ။ ဆရာမေည် ရာဇဝင်၌ကား။ ဝါသုဒေဝမင်းကို သင်္ဂြိုဟ်ပြီးမှ ပုဏ္ဏား၊ အဥ္စနဒေဝီတို့လာခဲ့ရာ တခုသောအရပ်သို့ရောက်၍ ယောကျ်ားက မိန်းမအား အိမ်ထောင်ခန်းစကားကို အပေးတင်မှ လင်မယားဖြစ်လေသည်ဖြစ်၍ အပေးတင်သည်ကို ပတင်းဟုတွင်ကြောင်း။ တခုသောတောင်နားသို့ ရောက်သည်ရှိသော် တောင်ထက်ကငှက်တို့မြည်သံကို လက်မိုး၍ကြည့်ပြီးလျှင် တန့်ရွဲ၍နေသောကြောင့် တန့်ရွဲ့ဟု တွင်ကြောင်း။ လက်မိုး၍ကြည့်သောကြောင့် မိုးဟုတွင်ကြောင်း။ တခုသောအရပ်သို့ရောက်၍ အဥ္စနဒေဝီကမေးရာ ပုရောဟိတ်ပုဏ္ဏားက ရှေးအထက်က ရွှေငွေများသောကြောင့် ဟိရဉ္ဉရာတွင်၏။ ယခု ဝါလမ္ဗုဘီလူးနေသောကြောင့် လမ္ဗူ တွင်ကြောင်း။ အခွန့်ရှည်သော မြစ်တခုကိုတွေ့ရာ အဥ္စနဒေဝီသည် ဤမြစ်အဘယ်မျှ

အခွန်ရှည်သနည်းဟု ရင်ကိုကော့လျက် ပျော့၍ကြည့်သော် မတည်ချောင်း-တကားဟုဆို၏။ ပျော့၍ကြည့်သောမြစ်ကို မယ်ပျော့မြစ်-တွင်ကြောင်း။ မတည်ချောင်းဟူသည်ကို မဤချောင်းတွင်ကြောင်း။ တခုသောချောင်းသို့ရောက်၍ အစစဝမ်းနည်းဖွယ်တကား-ဟူသည်ကို စနည်ဟုတွင် ကြောင်း၊ ချောင်းတခုသို့ရောက်၍ ရင်လက်ခတ်တီးလျက်၊ အံ့ဖွယ်တကား-ဆိုသည်ကို ရင်ခတ်တီးတွင်ကြောင်း၊ အံ့ဖွယ်တကား-ဟူသည်ကို အံ့ချောင်းတွင်ကြောင်း၊ တခုသောချောင်းသို့ရောက်၍ စိတ်နှလုံးရှုပ်ဖွယ်တကား ဟူသည်ကို ရှုပ်ဟုတွင်ကြောင်း၊ တခုသောချောင်းသို့ ရောက်၍ ချောင်းတွင်နေသူတို့က မလာပါနှင့်ဟု တားလင့်သော ကြောင့် တားလက်ချောင်းတွင်ကြောင်း။ ဝေသာလီပြည်သို့ရောက်၍ ဗြဟ္မသုန္ဒရပုဏ္ဏားနှင့် အဋ္ဌနဒေဝီတို့ ထီးနန်းစိုးစံ လေကြောင်းတို့နှင့် အလွန် များပြား စိတ်အားထင်ရာဆိုလေသည်။ ထိုစကားရပ်တွင် ပြေး၍လာစဉ်က ပုရောဟိတ်ပုဏ္ဏားဟူ၍သာဆိုသည်။ ဝေသာလီပြည်၌ ထီးနန်းတက်သောအခါမှ ဗြဟ္မသုန္ဒရ ပုဏ္ဏားဟူ၍ ဆိုလေသည်။ ထိုရာဇဝင်ကိုမှီ၍စီရင်သော အချို့ရာဇဝင်သစ်၌ကား ပြေး၍လာသည်မှ ဝေသာလီ ပြည်သို့ရောက်အောင် ဗြဟ္မသုန္ဒရပုဏ္ဏားဟူ၍ဆိုသည်။ ထီးနန်းတက်သောအခါ ပုရောဟိတ်ပုဏ္ဏားဟူ၍ ဆိုပြန်သည်။ သားတော်နာမည်ကိုလည်း ဗြဟ္မသုန္ဒရ မင်းသားဖြစ်ကြောင်းနှင့် ဆိုလေသည်။ ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ရာဇဝင်လင်္ကာတို့နှင့် မညီလေ။ ထို့ကြောင့် ရာဇဝင်လင်္ကာ၌ *ဗြာဟ္မဏ ရာဇာ၊ လောကာဓိပတိ၊ နံ့သီထင်ပေါ်၊ တံဆိပ်တော်နှင့်၊ တောင်ပျော်နန်းမ၊ အဋ္ဌနဒေဝီ၊ တူညီစံစား၊ သားတော်ထွန်းပ၊ ဗြဟ္မသုန္ဒရ၊ မင်းလှတယောက်၊ ဖွားတုံမြောက်လျှင်း၊ ပုဏ္ဏားမင်းသည်၊ ကင်းခဲ့လူ့ရွာ၊ ပြောင်းလွှဲခွာ၍-ဟု အဖသည် ဗြာဟ္မဏရာဇာ၊ သားသည်-ဗြဟ္မသုန္ဒရ မည်ကြောင်းနှင့်၊ ဆိုလေသည်။ ထိုမှတပါး စကားရပ်တို့သည် မညီမညွတ်သောအဆို၊ အပိုအလွန်သာများသော ကြောင့် ရာဇဝင်ဟောင်းများ အလာဖြင့်သာ လျော်ရာရေးပြလိုက်ပေသည်။ နောက်နောက်စကား ရေးသားပြုပြင်မည့် အရာတွင်လည်း ရာဇဝင်ဟောင်းကိုသာ များစွာအမှီပြု၍ ထောက်ရှုစာနာလျက် သင့်လျော်ရာ ရေးပြပေအံ့။ ။ ဤသည်ကား စကားချပ်)။ ။

## ၁၄၁။ ဗြဟ္မသုန္ဒရမင်းတို့အကြောင်း

ခမည်းတော်ဗြဟ္မဏရာဇာမင်း လွန်တော်မူပြီး နောက် သားတော်ဗြဟ္မသုန္ဒရမင်းသားသည် ရှေးအထက် ဝေသာလီမင်းလွန်တော်မူလေရာ တနှစ်ရွယ်ခန့်ရှိ ကျန်ရစ်သော မင်းသမီးသုနန္ဒရီနှင့်အဘရိပ်ရာဖြစ်သော ရွှေထီး ရွှေနန်းကို သိမ်းမြန်းစိုးအုပ်တော်မူသည်။ (မင်းသမီးအမည်ကို ဆရာငမည် ရာဇဝင်၌ သိန္ဒရီယေ။ ။ အင်းစောက်၌ သိရိသုန္ဒရာ။ ။ ရာဇဝင်သစ်၌ သိရိန္ဒရဟူ၍ ဝါဒကွဲပြား ရေးသားကြလေသည်။ ရာဇဝင်ဟောင်းအလိုဖြင့် သုနန္ဒရီ ဟူ၍ ဆိုလိုက်သည်။ ထိုငခွေးသင်းတောင်မြို့၌ ဗြာဟ္မဏ ရာဇာမင်း၏ သားရင်းမြေးမြစ်ဖြစ်ပွားစိုးစံသော မင်းပေါင်းတို့သည် ခြောက်ဆက်မြောက်ဖြစ်လေကုန်သတည်း။ ဤစကားရပ်တွင်လည်း ဗြဟ္မသုန္ဒရမင်းသည် ဝေသာလီမှခွာ၍ ငခွေးသင်းတောင်မြို့ကိုတည်သည်။ ထိုမင်းသားမြေးမြစ်တို့သည် ခြောက်ဆက်မြောက်ဖြစ်ကုန်သည်ဟု အင်းစောက်ရာဇဝင်တို့၌ဆိုသည်။ ထိုအတိုင်းယူလျှင် ဗြာဟ္မဏရာဇာနှင့်သော် ခုနစ်ဆက်ဖြစ်ရာသည်။ ဖြစ်ရာသင့်လျက် ခြောက်ဆက်မျှသာဆိုသောကြောင့် ဗြာဟ္မဏ ရာဇာသည်သာလျှင် ငခွေးသင်းတောင်မြို့ကို တည်သည်။ ထိုမင်းနှင့်တကွ ခြောက်ဆက်မြောက် စိုးစံလေသည်ဟု ဆိုသော ရာဇဝင်ဟောင်းစကားကိုသာလျှင် အနိုင်ပြုသင့်သည်။ ဤအရာတွင် အသမ္ဘိန္နခတ္တိယန္ဓယ်လာဖြစ်သော ဝါသုဒေဝမင်းကြီး၏ အစဉ်အဆက်ဖြစ်သောမင်းတို့သည် ကစ္ဆပနဒီမြစ် အရှေ့ဘက်-ကိုးဆဲ့ကိုးမြို့၊ အနောက်ဘက် ကိုးဆဲ့ကိုးမြို့တို့ကို အစဉ်မပျက်ဆက်လက်တည်ထောင် စိုးစံတော်မူကြလေသည်ဟု ရာဇဝင်ဟောင်း၊ အင်းစောက်

ရာဇဝင်တို့၌ စီရင်ရေးသားမှာထားလေသည့်အရာကို စာနှာထောက်ထားခြင်းမပြုပဲ ဝါသုဒေဝအစ ဖြပ္ပဏာ မင်းဆက်အဆုံးရှိသော မင်းတို့သည်ပင် ကစ္ဆပနဒီမြစ် အရှေ့ဘက် ကိုးဆဲ့ကိုးမြို့၊ အနောက်ဘက်ကိုးဆဲ့ ကိုးမြို့တို့ကို တည်ထောင်ပြုစုစိုးစံတော်မူလေဟန်။ ရာဇဝင်လင်္ကာ၌။ ။ အသင္ကိန္န၊ ခတ္တိယဟု၊ ဝါသုဒေဝ မင်းကစ၍၊ ကစ္ဆပနဒီ၊ မြစ်ကိုမှီလျက်၊ လက်ဝဲလက်ယာ၊ များစွာမြို့ပြည်၊ တည်ခဲ့ပေမှ၊ နောက်ဆုံးကျသည်၊ တေဝပြင်းထန်၊ သရဘန်မင်း၊ ဆက်ပြန်လျှင်းသည်။ ။ ဟူ၍ဆိုလေသည်။ ထိုနည်းတူစွာ ဆရာမေည် ရာဇဝင်၌ လည်း။ ထိုဖြာပ္ပဏာမင်း၏သားမြေးတို့သည် ခြောက်ဆက် နေခဲ့၍ ထိုငခွေးသင်းတောင်မြို့မှခွာခဲ့သော ထိုမင်း၏ အစဉ်အဆက်ဖြစ်သော မင်းအပေါင်းတို့သည်ပင် ဆက်ကာ ဆက်ကာ တည်ထောင်သော မြို့တို့ကို အမည်နာမ မျှဉ်းကြောင်းချလျက် ရေးပြစီရင်ပြုလေသည်။ ထိုရာဇဝင် ကိုမှီသော ရာဇဝင်သစ်၌လည်း မစူးစမ်းမဆင်ခြင်ပဲ စီရင်ရေးသားပြုလေသည်။ စဉ်းစားဆင်ခြင်ရန်မှာ ယခင်ပြ ဆိုအပ်သော ကစ္ဆပနဒီမြစ် အရှေ့အနောက်မြို့ပေါင်း တရာကိုးဆဲ့ရှစ်မြို့များသည် ဝါသုဒေဝ-အစ ဖြာပ္ပဏာ ရာဇာ မင်းမျိုးအဆုံးရှိသော မင်းပေါင်းခုနစ်ယောက်တို့ တည်ထောင်ပြုစုသော မြို့များမဟုတ်။ ဝါသုဒေဝ-အစ သမ္မတမင်း-အဆုံးရှိသော မင်းဆက်ပေါင်း တဆဲ့ ကိုးဆက်။ မင်းပေါင်း နှစ်ရာငါးဆဲ့ခုနစ်ယောက်တို့တွင် ဘုန်းအင်ကြီးမားသော မင်းများတို့တည်ထောင်ပြုစုအပ် သော မြို့များသာဖြစ်သည်ဟု စီစစ်ဆင်ခြင်ပြုရမည်။ ဆင်ခြင်ထောက်ရှုသတိပြုလျှင် ဝါသုဒေဝ၊ ဖြာပ္ပဏာ ရာဇာမင်းဆက်တို့ တည်ထောင်ပြုစုသော မြို့ချည်း မဟုတ်ဟု ဧကဝုတ် သိရမည်။ ဤသည်ကို မျှော်ဆ၍ မြို့နာမဘွဲ့သညာကို ဤနေရာဌာန၌ ရေးပြခြင်းမပြုပဲ ကျမ်းပြီးလှူနီးကာမှ ပြသင့်သောဌာနတွင် ရေးပြထည့်သွင်း လိုက်ပေအံ့။ ဤကားစကားချပ်)။ ။

## ၁၄၂။ သရဘန်မင်း တဆဲ့ခြောက်ဆက်တို့ အကြောင်း

ထိုနောက်ဝေသာလီပြည်၌ သရဘန်အမည် ရှိသော မင်းသည် သိဒါဘီအမည်ရှိသောမိဘုရားနှင့် မင်း၏ ထီးနန်းစည်းစိမ်ကို ဆက်ခံအုပ်စိုးတော်မူ၍ သားမြေးမြစ် စသည်ဖြင့် တဆဲ့ခြောက်ဆက်မြောက် ဖြပ္ပသိဒ္ဓိမင်း တိုင်အောင် ဝေသာလီပြည်၌ အစဉ်မပျက် ဆက်လက် စိုးအုပ် စံမြန်းတော်မူလျက် သာယာစည်ပင် ဖြစ်တော်မူကြလေကုန်သတည်း။

## ၁၄၃။ ဝေသာလီပြည်ကို ဘီလူးတို့ဖျက်သည့် အကြောင်း

ထိုအခါ ဟိမဝန္တာဝယ် မျောက်ဖိုနှင့် ဆတ်မကျင် လည်ကြ၍နေကြစဉ်တွင် လေမုန်တိုင်းထလျက် မိုးသည်း ထန်စွာရွာသည်ရှိသော် မှီခို၍နေကြသော ပညောင်ပင်နှင့် သဖန်းပင်တို့သည် လဲ၍ရေထဲသို့ကျပြီးလျှင် ကစ္ဆပနဒီမြစ် ညာမှ အစဉ်အတိုင်း မျောလတ်သည်ရှိသော် သေလာဂိရိ မည်သော ကျောက်တော်တောင်ခြေရင်း ဝယ်တင်လာ၏။ မျောက်ဖိုနှင့်ဆတ်မသည် တောထဲသို့ဝင်၍ ကာလမြင့် ရှည်စွာ ပေါင်းသင်းဆက်ဆံ၍နေကြလေလျှင် သားသမီး သုံးကျိပ် နှစ်ယောက်မွေးမြင်၏။ ထိုသားတွင် အချို့ကား လူဖြစ်၏။ အချို့ကား ဘီလူးဖြစ်၏။ သားအကြီးဖြစ်သော ဘီလူးငဆဒ္ဒန်ကား ဆင်အယောင်ဆောင်၍ တောသွား တောလာလူများကို ဖမ်း၍စားလေ၏။ ထိုသို့ဖမ်း၍စားရာ တောင်ကို ယနေ့တိုင်အောင် ငဆဒ္ဒန်တောင်ဟုတွင်၏။ (အချို့ရာဇဝင်သစ်၌ ဘီလူးဆေးတံတောတွင်၏ဟု အရေး မှားလျက်ပါလေသည်)။

ထိုဘီလူးငဆဒ္ဒန်၏ညီဖြစ်သော ပက္ကမိဘီလူး ကား ကူးတို့သည်အယောင်ဆောင်၍ လှေ၌လူကိုတင် လျက် ချောင်းတခုကိုအမှတ်ပြု၍ စားလေသောကြောင့် ထိုချောင်းသည် မှတ်ချောင်းဟု ယနေ့တိုင်တွင်၏။ ထိုကူးတို့တင်ရာအရပ်သည် ပက္ကမိကူးတို့ဟု ယနေ့တိုင်

အောင် တွင်၏။ အချို့ရာဇဝင်သစ်၌ မှိုင်းချ၍စားသောကြောင့် မှိုင်းချောင်းတွင်ကြောင်းနှင့်ဆိုသည်။ ထိုပက္ကမိဘီလူး၏ညီ ငရက်ကြိုက်နေ၍ စားသောတောင်ကို ငရက်ကြိုက်တောင်ဟု ခေါ်ကြကုန်၏။ ထိုပက္ကမိဘီလူး၏နှမဖြစ်သော ရက္ခဏီသည် ရေကန်တခု၌နေလျက် ရေကန်သို့ သောက်ချိုးအံ့သောငှာ လာသောသူတို့ကို ဖမ်း၍စားလေသောကြောင့် ထိုရေကန်သည် ရက္ခဏီရေကန်ဟု ယနေ့တိုင်အောင် တွင်၏။ ထိုဘီလူးမ၏ အောက်ဖြစ်သော မောင်ရောဟာဟူသော ဘီလူးကား ရက်ကြိုက်တောင်၏ တောင်စူးစူးအရပ်၌ တောင်တလုံးတွင်နေ၍ ညနေဝင်ဆည်းဆာ၊ နံနက် မိုးလင်းဆည်းဆာ၌ ပြိုင်းပြိုင်းရပ်၍ နေနှင့်သောကြောင့် ခရီးသွားသောသူတို့သည် အကယ်လူထင်မှတ်၍ ချဉ်းကပ်လေလျှင် စားလေသည်ချည်းဖြစ်သောကြောင့် ထိုတောင်သည် ပြိုင်းတောင်ဟုတွင်၏။ ဘီလူးနာမည်ကို မောင်ရာဟုဟူ၍ ရာဇဝင်သစ်၌ တခြားဆိုသည်။ (ဤပြိုင်းတောင်ကို ရက္ခဏီရေကန်မှ တောင်စူးစူးအရပ်ဟူ၍ ဆရာမေည်ရာဇဝဝင်၊ ရာဝင်သစ်တို့၌ ဆိုကြလေသည်။ ။ ရာဇဝင်ဟောင်းနှင့်မညီ)။

ထိုဘီလူး၏ညီဖြစ်သော ငပိဿဲနှင့်၊ လေက်ကုပ်တို့သည် အလွန်မည်းနက်သောကြောင့် နှမ-အစ်ကိုတို့ အပေါင်းအဖော်မပြုခြား၍နေသောကြောင့် ငှက်တို့ကိုဖမ်း၍စားကုန်၏။ တောသွားတောလာလူတို့ကိုလည်း ဖမ်း၍စားလေကုန်၏။ ထိုအရပ်သည် ပိဿဲလက်ကုပ်ဟူ၍ တွင်၏။ (ဆရာမေည်-ရာဇဝင်တို့၌ လက်ခုပ်ပိတ်သည်ဟု တွင်ကြောင်းနှင့် ဆိုသည်)။

ဤသို့ချည်း အသီးအသီးနေ၍ စားကြလေသောကြောင့် ဝေသာလီပြည်ဝယ် လူတရွေ့ရွေ့နည်းပါးလတ်သောကြောင့် လူတို့စူးစမ်းသည်ရှိသော် ဘီလူးဖမ်း၍စားသောအကြောင်းကို သိလေကုန်သောကြောင့် တောအုံသို့ မသွားမဝင်ဝံ့သည်ဖြစ်၍ အိမ်၌သာလျှင်နေကြကုန်၏။ ထိုသို့အိမ်၌နေကြလတ်သော် ဘီလူးတို့သည် မစားရသဖြင့် ငတ်မွတ်သည်ဖြစ်၍ ည-ဆည်းဆာ၊ နံနက်-ဆည်းဆာ၌ ဝေသာလီမြို့သို့ဝင်၍ တအိမ်မှတအိမ်သို့ သွားလေသော သူတို့ကိုဖမ်း၍စားလေကုန်၏။ ထိုသို့သော အကြောင်းကိုသိကြလေလျှင် ည-ဆည်းဆာ၊ နံနက်-ဆည်းဆာ၌ အိမ်မှမသက်ဘဲ ရှောင်ကြဉ်ကြကုန်၏။ ထိုအခါတွင် ဆည်းဆာ၌ ဘီလူးလာလေသည်ကို အကြောင်းပြု၍ ယခုတိုင်အောင် အစဉ်အားဖြင့် ဆည်းဆာ၌ ဘီလူးလာသည်ဟုဆိုကုန်၏။ ထိုအခါ၌ ဝေသာလီပြည်ကို အစိုးရသော ဗြဟ္မသိဒ္ဓိမင်းသည် ဘီလူးဆည်းဆာ၌သာလာသည်ဟူ၍ များစွာသော အလုံးအရင်းနှင့် နေ့အခါ၌ တောကစားသွားရာတွင် ဘီလူးငဆဒ္ဒန်သည် ဆင်အဟန်ဖန်ဆင်းခြိမ်းမောင်း၍ လိုက်လာလျှင် အလုံးအရင်း ရဲမက်ဗိုလ်ပါတို့သည် ထိုမှဤမှပြေးကြလေသော် မင်းကိုဖမ်း၍စားလေ၏။ မိဘုရားနှင့်သမီးတို့သည်ကား နန်းတွင်ကျန်ရစ်လေကုန်၏။ ဤသို့ ဝေသာလီပြည်သည် ဘီလူးဘေးဖြင့် နှိပ်စက်အပ်သည်ဖြစ်၍ ဆိတ်ညံ့ခြင်းသို့ရောက်လေ၏။ (ဤအရာတွင် ဆရာမေည်-ရာဇဝင်၌ ဝေသာလီမင်းသည် ဆည်းဆာဘီလူးထွက်သလော-မထွက်သလောဟူ၍ တောကစားထွက်ကြောင်းနှင့် မရှင်းမလင်းဆိုသည်။ ရာဇဝင်သစ်၌ ဆည်းဆာဘီလူးကိုဖမ်းခြင်းငှာ စစ်သည်ဗိုလ်ပါအလုံးအရင်းနှင့် တောကစားရာဝယ်ဟူ၍ နှစ်ဖက်သွားဆိုလေသည်)။ ဤသည်ကား ဝါသုဒေဝအစ ဝေသာလီပြည် ဘီလူးစားသော ဗြဟ္မသိဒ္ဓိမင်းအဆုံး ၂၃ ဆက်သော မင်းတို့၏ အကြောင်းတည်း။

## ၁၄၄။ ကပိလဝတ်ပြည်ရှင် အဇ္ဈနမင်းကြီး အကြောင်း

ထိုရောအခါဝယ် မဇ္ဈိမဒေသ ကပိလဝတ်ပြည်၌ အဇ္ဈန-အမည်ရှိသော သာကီဝင်မင်းကြီးသည် မင်းပြုတော်မူ၏။ ထိုအဇ္ဈနမင်းကြီးသည် တသောင်းခြောက်ထောင်သော မိဘုရားမောင်းမတို့အား ငြီးငွေ့ရှုရာခြင်းရှိသည်ဖြစ်၍ ကပိလဝတ်ပြည်ကို မိမိသားတော်

ဖြစ်သော ဓမ္မသေနမင်းအား အပ်နှင်းခဲ့၍ ဟိမဝန္တာတောသို့ ဝင်ပြီးလျှင် ရသေ့ရဟန်းပြုလျက်နေလေ၏။ ထိုအခါ နတ်တို့သည် နောင်ဖြစ်လတ္တံ့သောအကြောင်းကိုမြင်၍ အဇ္ဈုနရသေ့အား တတောဝင်လည်း မပျော်မွေ့အောင် တတောင်တက်လည်း မပျော်မွေ့အောင် ကြံဆောင် ဖန်ဆင်း၍ တရွေ့ရွေ့ ခရီးငင်လေသဖြင့် ကဠပနဒီမြစ်ဖျား မြစ်နားအနီးသို့ရောက်လေမှ စိတ်နှလုံးချမ်းမြေ့ ပျော်မွေ့ ခြင်းသို့ ရောက်သည်ဖြစ်၍ ငါသည် ဟိမဝန္တာတော၌ နေစဉ်ကာလ စိတ်နှလုံးချမ်း မြေ့ခြင်းမရှိ။ ဤအရပ်သို့ ရောက်လာမှ ချမ်းသာမွေ့လျော်ခြင်းရှိသည်။ ဤအရပ်၌ ပင် နေတော့အံ့ဟု တခုသောပညောင်ပင်ရင်းဝယ် မြတ်သောသီလကို ဆောက်တည်၍နေ၏။

(ဤအရာတွင် အဇ္ဈုနမင်းသည် ညဥ့်အခါ၌ နေ-လ-နှစ်ပါးကိုပိုက်ရသည်ဟု အိပ်မက်မြင်မက်သောကြောင့် အိပ်မက်ကိုဆင်ခြင်ရာ လ-မင်းကိုပိုက်မက်ခြင်းသည် မြတ်စွာဘုရား ပွင့်တော်မူအံ့သောအကြောင်း၊ နေ-ကို ပိုက်မက်ခြင်းသည် နေနှင့်တူသော ရောင်ခြည်တော်လွှတ် ၍ လူ,နတ်,ဗြဟ္မာတို့ကို ချွတ်အံ့သော အကြောင်းတည်း။ ငါသည်လည်း ထိုအခိုက်ဝယ် မချွတ်ကြုံပါအံ့ဟု ထင်မြင် ၍ တောထွက်တော်မူကြောင်းနှင့် ရာဇဝင်ဟောင်း၊ ဆရာငမည်-ရာဇဝင်တို့၌ဆိုသည်။ ထိုစကားကို ထောက်ထားစာနာသော် မြတ်စွာဘုရားမပွင့်မီ နှစ်ထောင် ခုနစ်ရာခုနစ်ဆယ်လောက်ကပင် မာရယုမင်းဖြစ်လာ ကြောင်းကို နောက်၌ဆိုလတ္တံ့သောအိမ်နိမ့်၊ နန်းစံ၊ သက်တော် သက္ကရာဇ်တို့ကို ထောက်၍သိရသည်ဖြစ် လေရကား များများယုတ္တိမပါသောကြောင့် ပေယျာလ ပြုပျင်၍ ရာဇဝင်လင်္ကာအတိုင်းမျှ ရေးပြလိုက်ပေသည်။ ထို့ကြောင့် ရာဇဝင်လင်္ကာ၌။ ❋ထိုရောအခါ၊ မဇ္ဈိမာဒေသ၊ ကပိလမှာ၊ အဇ္ဈုနမင်း၊ ထွန်းလင်း ကျက်သရေ၊ စံတုံပေ၏။ နီးနေများမြောင်၊ သောင်းခြောက် ထောင်ကို၊ နံဟောင်ညီညီ၊ မသတီ၍၊ ကပိလဝတ်၊ ပြည်ကို လွှတ်လျက်၊ အကျွတ်ရရာ၊ တောမှာပျော်မွေ့၊ ရသေ့ရဟန်း၊ စီးဖြန်းဘာဝနာ၊ နေတုံပါလည်း၊ မြိုင်သာရိပ်ကောင်း၊ ကိန်း အောင်းမပျော်၊ ရသေ့ကျော်ကို၊ ထိုရော်တောတောင်၊ နတ် တို့ဆောင်၍၊ ချောက်မြောင်ကူးသန်း၊ တခန်းရပ်သစ်၊ ပြောင်းပြန်လစ်၍၊ ကဠပနဒီ၊ ကပ်မှီမကင်း၊ ပညောင်ရင်း သို့၊ လျှင်ပြင်းရသေ့ ရောက်သတည်း။ ဟူ၍ဆိုလေသည်။ ဤကားစကားချပ်)။

## ၁၄၅။ အဇ္ဈုနရသေ့နှင့် ဣန္ဒမာယုဆတ်မတို့ သင့်နေကြသည့် အကြောင်း

ထိုအခါ ပညောင်ပင်ကိုစောင့်သောနတ်သည် ရှင်ရသေ့ ဘုန်းတန်ခိုးကြောင့် ညောင်ပင်ထက်ဝယ် မနေဝံ့ ၍ မျောက်၏အယောင်ဆောင်လျက် တောတောင်၌ရှိသော မျောက်မင်းကို ငါ၏ညောင်ပင်ရင်းဝယ် သီတင်းသုံးနေ လာသော ရှင်ရသေ့သည် သီလစင်ကြယ်၏။ ဘုန်းတန်ခိုး ကျက်သရေရှိန်စော်ရှိ၏။ ငါတို့တောတွင်နေသည်ထက် ရှင်ရသေ့ကို ဆည်းကပ်ခစားရသည်ရှိသော်ကောင်း၏ ဟုဆိုလေသော် မျောက်မင်းသည် ကောင်း၏ဟုဝန်ခံ၍ အခြံအရံမျောက်အပေါင်းတထောင်နှင့်တကွ ရှင်ရသေ့ အထံသို့ ဆည်းကပ်လျက် တောသစ်သီး၊ တောသစ်ပွင့် တို့ဖြင့် လုပ်ကျွေးပေ၏။ ထိုညောင်စောင့်နတ်သည် တဖန် ဆတ်အယောင်ဘန်ဆင်းပြန်၍ ဆတ်မင်းကို ရှေးနည်းတူ ဆိုပြန်လေသော် ဆတ်မင်းလည်း အခြံအရံ တထောင်နှင့် တကွ ရှင်ရသေ့ထံဆည်းကပ်၍ အထိုက်အလျောက် လုပ်ကျွေးလေ၏။ ထိုအခါ ဆတ်အပေါင်းတို့တွင် ပါလာသော ဣန္ဒမာယုအမည်ရှိသောဆတ်မသည် ကောသလာခြင်္သေ့မင်း၏ သမီးဖြစ်သော အမိလာမတွင် ဖွားမြင်သောကြောင့် ခြင်္သေ့မင်း၏မြေးရင်းဖြစ်၍ ဘုန်းတန်ခိုးအသရေနှင့်ပြည့်စုံသောကြောင့်၎င်း၊ ရှေးခုနစ်ဖြစ်က မယားဟောင်းဖြစ်ခဲ့ဖူးသောကြောင့်၎င်း၊ အဇ္ဈုနရှင်ရသေ့သည် ဣန္ဒမာယုအမည်ရှိသော ဆတ်မကို မြင်လျှင် ကပိလဝတ်ပြည်၌ တသောင်းခြောက်ထောင် သော မိဘုရားမောင်းမတို့ကိုစွန့်၍ ရသေ့ ရဟန်းပြုသူ

ဖြစ်လျက် တက်မက်ချစ်ခင်ကြင်နာခြင်း ရှိသည်ဖြစ်၍ ထိုဣန္ဒမာယုဆတ်မကို သုံးသပ်၏။ ဆတ်မလည်း ခုနစ်ဘဝက လင်ဖြစ်ခဲ့သောကြောင့် ကြည်နူးချစ်ခင်လျက် အသုံးအသပ်ခံ၏။ ဤသို့သုံးသပ်နိုးနှော ရောပြွမ်းဆက်ဆံလျက် ပေါင်းဖက်နေထိုင်ကြလေ၏။

(ရာဇဝင်သစ်မှာ သုံးဘဝက မယားဖြစ်ဘူးကြောင်းနှင့် ဆိုသည်။ ရာဇဝင်ဟောင်းတို့နှင့်မညီ၊ ဣန္ဒမာယုဆတ်မကို နတ်သမီးကဲ့သို့ထင်ကြောင်းနှင့် ရာဇဝင်ဟောင်း၌ဆိုသည်။ သိကြားမိဘုရား သုနန္ဒာကဲ့သို့ ထင်ကြောင်းနှင့် ဆရာမည်ရာဇဝင်တို့၌ဆို၏။ ပိုလွန်သည်ထင်၍ မထည့်သွင်းလိုက်ပေ။)

## ၁၄၆။ သိကြားမင်း မာရယုအလောင်းနတ်သားကို တောင်းပန်သောအကြောင်း

ထိုအခါ ဝေသာလီပြည်၌ ငဆဒ္ဒန်ဘီလူးညီနောင် မောင်နှမတို့သည် ဖမ်းဆီးစားသောက်ကြကုန်၍ ဝေသာလီပြည် ဆိတ်ညံခြင်းသို့ရောက်လေသောကြောင့် သိကြားမင်းနေရာ ပဏ္ဍုကမ္ဗလာသည် တင်းမာပူလောင်သည်ဖြစ်၍ သိကြားမင်းအကြောင်းကို ကြည့်လတ်သည်ရှိသော် ဘီလူးတို့စားသောကြောင့် ဝေသာလီပြည်ဆိတ်ညံခြင်းသို့ရောက်သောအဖြစ်ကိုမြင်လေလျှင် ဤဝေသာလီပြည်သည် အဆက်ဆက်သောဘုရားသခင်တို့၏ သာသနာတော် တည်ထွန်းရာဖြစ်ပေသည်။ မပျက်စကောင်းဟု နှလုံးသွင်းလျက် အဘယ်သူသည်လျှင် ဤဘီလူးတို့ကို ခွင်းနိုင်အံ့နည်းဟု ကြည့်လတ်သည်ရှိသော် သောဏခတ္တိယနတ်သားကိုမြင်လေ၏။ မြင်သဖြင့် ထိုနတ်သား၏ဗိမာန်သို့သွားလေပြီးသော် အချင်းနတ်သား၊ လူတို့၏ဝေသာလီပြည်ဝယ် လူအများတို့ကို ဆတ်မနှင့် မျောက်ထီးတို့ ပေါင်းဖော်စပ်ယှက်ရာတွင် ဖွားမြင်သောဘီလူးမောင်နှမတို့သည်စား၍ ကုန်လုမတတ်ရှိလေပြီဖြစ်သောကြောင့် ကပိလဝတ်ပြည်ကိုအစိုးရသော အဇ္ဈနကပိလ ရှင်ရသေ့မယားဖြစ်သော ဣန္ဒမာယု ဆတ်မဝမ်းဝယ် လူ၏အဖြစ်ပဋိသန္ဓေဖြင့်စွဲနေလေလော့။ ထိုဘီလူးတို့ကို ခွင်းလေလော့။ လူပြည်၌ လူဖြစ်သည့်အခါ၌ကား ဝင်သောနေကဲ့သို့ ကျင့်သည်ရှိသော် ထိုဘီလူးတို့ကို မခွင်းနိုင်ရာ။ ထွက်သောနေကဲ့သို့ ကျင့်မှသာလျှင် ထိုဘီလူးတို့ကို ခွင်းနိုင်ရာ၏ဟု သုံးကြိမ်တိုင်အောင် တောင်းပန်ပြောဆိုမှ သောဏခတ္တိယနတ်သားသည် မပယ်ရှားသာသောကြောင့် ဝန်ခံလေ၏။ ဝန်ခံပြီးလျှင် နတ်သားအဖြစ်မှစုတေ၍ ဣန္ဒမာယုဆတ်မဝမ်း၌ လူ၏အဖြစ် ပဋိသန္ဓေဖြင့်စွဲနေလာပေ၏။ ယင်းသို့ပဋိသန္ဓေစွဲနေလာသဖြင့် ဆယ်လစေ့သည်တွင်။ (ရာဇဝင်သစ်၌ ဆယ်လမစေ့မီဟူ၍ ရာဇဝင်ဟောင်းတို့နှင့်မညီ ဆိုလေသည်။)။

သိကြားမင်းလည်း ထိုမင်းသားသည် လူပြည်နှင့် နီးစပ်ရာအရပ်တွင် မွေးဖွားသည်ဖြစ်မှ ကြံတိုင်းပြီးမြောက် မည်ကိုမြင်၍၎င်း၊ ၎င်းရှင်ရသေ့နှင့် ဆတ်မကိုလည်း ကင်းကွာစေလိုသည်ဖြစ်၍၎င်း၊ ဝါတဝလာဟကလေနတ်သားကိုခေါ်တော်မူ၍ လေမုန်တိုင်းထစေလျက် ကပိလရှင်ရသေ့နေသော ပညောင်ပင်ကို လဲအောင်တိုက်လေလော။ နဂါးမင်းကိုခေါ်တော်မူ၍ ပညောင်ပင်မြစ်အောက်မှ ဥမင်တူး၍ မြစ်သေးမြစ်မတို့ကို ဖြတ်လေလော။ ပဇ္ဇုန်နတ်သားကိုခေါ်တော်မူ၍ မိုးကြီးစွာရွာစေလောဟု သိကြားမင်း အမိန့်ချလေ၏။ (ဆရာမည်ရာဇဝင်၌ သိကြားမင်း ရှင်ရသေ့ထံလာလျက် မိဘုရားမောင်းမတို့ကိုစွန့်၍ ရသေ့ပြုသူဖြစ်သည်။ တိရစ္ဆာန်ဆတ်မနှင့် ပေါင်းဘော်နေထိုင်၍ မလျော်၊ နတ်ပြည်သို့ လိုက်ခဲ့ပါဟုဆိုသည်ကို မနာယူ၍ သိကြားမင်းမာန်ပါ၍ လေနတ်သားတို့ကို စေခိုင်းကြောင်းတို့နှင့်ဆိုလေသည်။ ရာဇဝင်ဟောင်း၌ မလာ)။ ။

ထိုအခါ နဂါးမင်းသည် ပညောင်ပင်မြစ်အောက်မှ ဥမင်တူး၍အမြစ်တို့ကိုဖြတ်လေ၏။ ပဇ္ဇုန်နတ်သားသည်လည်း ကြီးစွာသောမိုးကိုရွာစေ၏။ ဝါတဝလာဟကနတ်သားသည်လည်း လေပြင်းမုန်တိုင်းပြင်းစွာ တိုက်လေ

၏။ ထိုသို့တိုက်ခြင်းကြောင့် ပသျောင်ပင်သည် လဲခဲ့၏။ အဓွနှုရှင်ရသေ့မှစ၍ မျောက်မင်း၊ ဆတ်မင်းတို့သည် အခြံအရံနှင့်တကွ ညောင်ပင်ကိုစွန့်၍ ဖရိုဖရဲပြေးကြလေကုန်၏။ ဣန္ဒာမာယုဆတ်မ တဦးတည်းသာလျှင် ညောင်ပင်ခွကိုမှီ၍ကျန်ရစ်လေရာ ရေဖြင့် မျောလျက် ကစ္ဆပနဒီမြစ်ထဲသို့ကျသဖြင့် အညာမှသည် အစဉ်အတိုင်း မျောလတ်သောအခါ ကြိမ်ပျစ်တောသာယာကိုမြင်၍ သက်လတ်မည်ကြံလေသောကြောင့် ထိုအရပ်သည် သလတ်ချောင်းဟု ယနေ့တိုင်အောင်တွင်၏။ (ဆရာငမည် ရာဇဝင်တို့၌ လက်သက်ချောင်းဟုဆို၏)။ ထိုမှ အယဉ်ထန်စွာဖြင့်ပါလတ်၍ မြိုင်တောချောင်တခုကို မြင်၍ကူးအံ့ဟုကြည့်သောအရပ်သည် ကူးလတ်ဟု ယနေ့တိုင်အောင်တွင်၏။ ထိုမှသည် ခတ်မိ၍ ညောင်ခက်ကျိုးကြွေလျက် ကျရစ်သောအရပ်သည် ကြွေပြင်ဟု ယနေ့တိုင်အောင်တွင်၏။ ထိုမှသည် အစဉ်အတိုင်းမျောလတ်သော ပင်ပန်းမိန်းမောရှိသည်အရပ်သည် မိချောင်းဟု တွင်၏။ ထိုမိချောင်းမှ အောက်သို့တကွေ့အရပ်ဝယ် နတ်တို့သည်စောင်မ၍ ထက်ကြပ်ပါလာသောကြောင့် သင့်အပ်လျော်ကန်ပြီဟူ၍ တင်လေသောအရပ်သည် တောင်ကြီးဟု ယနေ့တိုင်အောင် တွင်၏။ (ဆရာငမည် ရာဇဝင်တို့၌ စတုလောကပါလနတ်သားတို့ဟူ၍ အထူးပြု၍ဆို၏။ ရာဇဝင်ဟောင်းအလို မဟုတ်)။

ထိုတင်ရာအရပ်နှင့် မနီးမဝေးသောအရပ်၌ ဆတ်မဝမ်းကိုတွန်း၍ပေးသင့်ပြီဟု နတ်တို့ တွန်းပေးရာအရပ်သည် ငစေတွန်းဟူ၍ ယနေ့တိုင်အောင်တွင်၏။ ထိုသူငယ်လည်း ဓမ္မကရိုဏ်ရေစစ်မှရေသည် သက်ဆင်းသကဲ့သို့ ဖွားမြင်၍ ခုနစ်တောင်မျှလောက်သောအရပ် ထက်ဝန်းကျင်နှံ့အောင် မီးကဲ့သို့ အရောင်ထွန်းပလျက်တည်၏။

## ၁၄၇။ မာရယုမင်းအစ မျိုးခြားအမတ်သုံးဦး အဆုံးရှိသော မင်း ၅၇ ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့၏အကြောင်း

ထိုအခါ၌ မြို့သင်းကြီး ငအောင်လာသည် ခွေးများနှင့် တောလည်လာလတ်သော် ဆတ်မသည် သူငယ်ဖွား၍ ငိုသံကြားသဖြင့် ကြောက်လန့်၍ထွက်ပြေးလေ၏။ မြို့သင်းကြီး ငအောင်လာသည် ခြုံထဲ၌ ထွန်းပသောအရောင်ကိုမြင်၍ ခွေးများနှင့်တိုက်လေသော် မီးလျှံတွင်းသို့ဝင်၍ ခွေးများဟောင်နေသည်။ မီးမလောင်ပါတကားဟု ဝင်၍ကြည့်ချေသော် ကြန်အင်လက္ခဏာနှင့် ပြည့်စုံသော သူငယ်ကိုမြင်လေရာ တန်ခိုးအာနုဘော်ကြီးသူဖြစ်၍ သားကဲ့သို့ ကြင်နာလေးမြတ်ချင်ခင်ခြင်းဖြစ်၍ အိမ်သို့ဆောင်ယူလျက် မွေးစားလေ၏။ (ဆရာငမည်ရာဇဝင်နှင့် ၄င်းကိုမှီသော ရာဇဝင်သစ်တို့၌ ဆတ်မသည် လူသံ,ခွေးသံ,ကိုကြားမှ ပြေးလေကြောင်း။။ ရာဇဝင်သစ်မှာ အောင်လာအရောင်ထဲသို့ ဝင်၍ရှာလေသော် မီးကား မလောင်ပါတကားဟု ဝင်၍ကြည့်လေသော် သူငယ်ကိုမြင်ကြောင်းနှင့်ဆိုသည်။ ခွေးဟောင်၍နေကြောင်း မပါလေ။ ဣန္ဒမာယုဆတ်မတွင် ဖွားမြင်သောသားဖြစ်သောကြောင့် မာရယုဟူသော အမည်ကို မှည့်လေ၏။ ဤအရာတွင် ဣန္ဒမာယုဆတ်မ အမည်ကို နတ်တို့ဝင်ပူး ပြောဆိုဟန်တူသည်)။

ထိုသူငယ်ကို မြို့ခပ်သိမ်းတို့သည် အံ့အားသရဲပြု၍ လက်ခုပ်လက်ဝါးတီး၍ကြည့်ကြသောအရပ်သည် ငလက်ခုပ်ဟူ၍ ယနေ့တိုင်အောင်တွင်၏။ သူငယ်ကို မြို့တို့မြင်၍ ရယ်ပြုံးကြသောအရပ်သည် ငရယ်ပြုံးဟူ၍ ယနေ့တိုင်အောင်တွင်၏။ ထိုသူငယ်သည် ကြီးလတ်လျှင် အဆင်းအင်္ဂါ အစွမ်းခွန်အားနှင့်လည်း ပြည့်စုံလေ၏။ လေးမြားအရာ၌လည်း အလွန်လိမ္မာတတ်လှစွာသောကြောင့် မြို့အပေါင်းတို့က ဤသူငယ်ကို မင်းပြုစေအံ့ဟု မြို့သင်းကြီး ငအောင်လာသမီး မိပိန့်ညာနှင့်ပေးမြားပြီးသော်

သာယာကြီးမြင့်သော တောင်ထိပ်၌အိမ်ကြီး ခုနစ်ဆောင်ဆောက်၍ မင်းမြှောက်ကြလေ၏။ (မြို့သမီးကို ဝိဟူ၍ ၎င်း၊ ဘီဟူ၍၎င်း ရာဇဝင်ဟောင်း တို့၌ဆိုသည်။ ရာဇဝင်လင်္ကာ၌ကား မိပိန့်ညာဟူ၍ ဆိုသည်။ ထို့ကြောင့် ၎င်းလင်္ကာ၌ အောင်လာသမီး၊ လျှံညီးဝင်းထိန်၊ ကျောက်ကောင်းစိန်သို့၊ မိပိန့်ညာမည်၊ ဆင်းနတ်ရည်ကို၊ ချစ်ကြည် တောင်ညာ၊ တင်ပြီးခါလျှင် ဟူ၍ဆိုလေသည်။ ဆရာမည် ရာဇဝင်တို့၌ တဲခုနစ်ဆောင်ဆောက်၍ မင်းမြှောက်လေကြောင်းနှင့် ဆိုကြလေသည်)။

ထိုသို့ အိမ်ခုနစ်ဆောင်ဆောက်သောအရပ်သည် ယနေ့တိုင်အောင် ခုနစ်ဆောင်ရွာဟုတွင်၏။ (ဆရာမည် ရာဇဝင်တို့၌ ခုနစ်ဆောင်တောတွင် ကြောင်းနှင့်ဆိုကြလေသည်)။ ထိုမာရယုမင်းသားကို မင်းမြှောက်သောနေ့၌ သိကြားမင်းကိုယ်တိုင်ဆင်းလာ၍ အရိန္ဒမာလှံ၊ လေးမြား၊ သန်လျက်တို့ကို အပ်ဆက်ပေးလာလေ၏။ ထိုအရိန္ဒမာလှံကိုရလျှင် ထိုအရပ်မှသည် တောင်ဘက်အရပ်သို့ထွက်လတ်၍ သိကြားမင်းဆက်ပေးအပ်သောအရိန္ဒမာလှံဖြင့် ဘီလူးမျိုးတို့ကို ထိုးသတ်လေ၏။ ထိုသို့ ဘီလူးရက္ခိုက်တို့ကို ထိုးသတ်ပယ်နှင်ရာပြည်ဖြစ်၍ ရက္ခိုင်ပြည်ဟု ယနေ့တိုင်အောင် တွင်လေ၏။ (ဆရာမည် ရာဇဝင်၌ သိကြားပေးသောလေးဖြင့် ဝေသာလီပြည်၌ဝင်၍ စားသောဘီလူးတို့ကိုပစ်၍ သိကြားပေးသော သန်လျက်ဖြင့် အပိုင်းအပိုင်းဖြတ်ပြီးလျှင် ထိုအရပ်၌ မင်းဖြစ်လေ၏ ဟူ၍တမျိုးဆိုလေသည်ကို ရာဇဝင်သစ်၌ တခြားထင်လျက် သိကြားလေးဖြင့် ထိုဝေသာလီပြည်သို့ဝင်၍ လူကိုစားသောဘီလူးတို့ကို ပစ်ခွင်းလေ၍ သိကြားပေးသော သန်လျက်ဖြင့် အပိုင်းအပိုင်းဖြတ်ပြီးလျှင် ထိုဝေသာလီမြို့၌ မင်းအဖြစ်ကိုယူလေ၏ဟူ၍ဆိုလေသည်။ ဘီလူးတို့ကို ထိုးသတ်ပယ်ခွင်းရာအရပ်သည် ဝေသာလီမြို့တွင်း မဟုတ်သေး၊ မြို့ပြင် တောမှာသာ ဖြစ်လေသည်။ ဖြစ်ကြောင်းကိုဆိုလတ္တံ့သော ရာဇဝင်ဟောင်းတို့ဖြင့် သိရမည်)။

ထိုသို့ ဘီလူးတို့ကို အောင်မြင်ပြီးမှ ယခင် ဝေသာလီပြည်၌ တောကစားသွားရာ ဆေဒွန်ဘီလူး စားလေသော ဖြဟ္မသိဒ္ဓိမင်း၏ မိဘုရားနှင့်သမီးတော် ရစိတမာလာကိုရပြီးသော် မိဘုရားကြီးကိုကား ယောက္ခမ အရာ၌ထားပြီးမှ သမီးတော် ရစိတမာလာနှင့် ဝေသာလီ ပြည်၌ အဘိသိက်ခံ၍ မင်းပြုတော်မူလေ၏။ ဤရာဇဝင် ဟောင်းစကားတွင် တောတောင်ကွင်းပြင်အရပ်တို့၌ မိုကပ် နေထိုင်စားသောက်ကြသော ဘီလူးတို့ကို ထိုးသတ် ပယ်ခွင်းပြီးမှ ဝေသာလီပြည်သို့ဝင်၍ ရစိတမာလာ မင်းသမီးနှင့် အဘိသိက်ခံလေသည်ဟု ဆိုလေသည်။ ထိုစကားကိုထင်ရှားစေလို၍ *သိကြား လက်နက်၊ ထိန်ထိန်ထွက်သည်၊ စကြာအရောင်၊ ဝင်းဝင်းပြောင်နှင့်၊ တောတောင်နိုမို၊ အလဗ္ဗိဘီလူး၊ လူစားကြူးကို၊ ဂုဏ်ထူး အာဏာ၊ ဘုန်းမိုဃ်းဖြာ၍၊ လိုရာအောင်မြင်၊ အောင်မြို့ဝင် ၍၊ ခေါ်တွင်ရက္ခိုင်၊ ခုတိုင်မပျက်၊ မော်ကွန်းထွက်၍၊ မင်းဆက်ပျော်မှီ၊ ဝေသာလီတွင် စသည်ဖြင့် ရာဇဝင် လင်္ကာ၌ဆိုလေသည်။ မင်းဖြစ်ပြီးမှ ဤမြို့သည် ဘီလူး မိစ္ဆာတို့ နှိပ်စက်ဝင်စားသောမြို့ဖြစ်လေသောကြောင့် နေထိုင်ခြင်းငှာမအပ်ပြီဟူ၍ ဝေသာလီမြို့ကိုစွန့်ခဲ့၍ တပါးသောမြို့ရာ ရှာအံ့သောငှာ ရဲမက်ဗိုလ်ပါနှင့် မြောက်အရပ်တူရှုသို့ ထွက်သွားလေလျှင် သီရိမာမည် သော သရေချောင်းဖျားလက်ယာဘက်ကမ်းနား၌ ကောင်းကင်ခရီးဖြင့် ဟိမဝန္တာမှပြန်လာသော နာဂိန္ဒရသေ့ နှင့် တွေ့လေ၏။ ရှင်ရသေ့က ဘယ်အလို့ငှာ မင်းကြီး လာသနည်းဟုမေးလေသော် မြို့ရာရှာသောအဖြစ်ကို လျှောက်လေလျှင် ဤအရပ်သည် ဘူမိနက်သန်မှန်၍ အလွန်လျှင်မြတ်၏ဟုဆိုပေသော် ထိုမာရယုမင်းက ဘူမိနက်သန်မှန်သောအဖြစ်ကို အကျွန်ုပ်တို့မသိနိုင်ပါဟု အရှင်ရသေ့ကို လျှောက်ထားတောင်းပန်လေသော် ဘူမိစလမန္တန်ကိုရွတ်လေလျှင် ဆင်အသံကဲ့သို့ဟီးလျက် ဖြူသောခရုသင်း အဆင်းကဲ့သို့အဝွေ့သည် လက်ယာရစ် လှည့်၍ ကောင်းကင်သို့ တက်လတ်သည်ကိုမြင်ရမှ

ဘူမိနက်သန်မှန်သောအဖြစ်ကိုသိရလေ၍ သက္ကရာဇ် ၅၉၉၅ ခုတွင် မြို့ကြီးသာယာကိုတည်လေ၏။ (ဆရာမေညီ ရာဇဝင်တို့၌ ဘူမိပါလသုတ်ကိုရွတ်လေကြောင်းနှင့် ရာဇဝင်ဟောင်း၊ ရာဇဝင် လင်္ကာတို့နှင့်မညီဘဲဆိုလေသည်။)

ထိုမြို့ကို အဘယ်သို့ အမည်မှည့်ရပါအံ့နည်းဟု လျှောက်ပြန်လေသော် ရှင်ရသေ့ ဤသို့ဆို၏။ ကကုသန်၊ ကောဏာဂုံ၊ ကဿပဟူသော မြတ်စွာဘုရားတို့ လက်ထက်တွင်လည်း ဓညဝတီဟု အစဉ်အတိုင်းအမည်ကို ဗျာဒိတ်ပေးတော်မူလေပြီ။ နောင်ပွင့်တော်မူလတ္တံ့သော ဂေါတမနှင့် အရိမေတ္တေယျမြတ်စွာဘုရားတို့လည်း ဓညဝတီအမည်ဟောင်းကို တွင်စေအံ့သတည်းဟု အမည်ဟောင်းကိုပင် ပညတ်ခေါ်ဝေါ်ကြလေဟု မိန့်တော်မူ၍ နာဂိန္ဒရှင်ရသေ့သည် မြောက်ဘက် ဟိမဝန္တာသို့ ကောင်းကင်ခရီးဖြင့် ကြွတော်မူလေသည်။ ထိုကုန္တမာယုဆတ်မသား မာရယုမင်းသည် မျောက်သားတော် မြို့သင်းကြီး အောင်လာသမီး မိပိန်ညာလည်းတယောက်၊ ဘီလူးစား သောဝေသာလီပြည့်ရှင် ဖြဟ္မသိဒ္ဓိမင်း၏ သမီးတော် ရုစိတမာလာလည်းတယောက်၊ ဤနှစ်ယောက်သော မိဘုရားတို့နှင့် မောင်းမမိဿံခြံရံလျက် မင်စည်းစိမ်ကိုခံစားတော်မူ၍ ပြည်သူတိုင်းသား အမျိုးလေးပါးတို့၏ စီးပွားချမ်းသာကို ကောင်းစွာရှုက်ဆောင်စောင့်ရှောက်ပြုစုတော်မူ၏။ ထိုမာရယုမင်းကား ဘုရားဘိုးတော်အဋ္ဌနမင်း 'ဏ,ဝ,စ,န္တေ' ကိန်းဟုဆိုအပ်သော ၈၆၄၅၊ ရှစ်ထောင်ခြောက်ရာလေးဆဲ့ ငါးခုကိုမဖြို့မီ သက္ကရာဇ် ၅၉၉၅ ခုခန့်တွင် ထီးနန်းတက်တော်မူ၍ အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၆၂၊ ခြောက်ဆဲ့ နှစ်နှစ်။ နှစ်စုသက်တော် ၈၀၊ ရှစ်ဆယ်၊ သက္ကရာဇ် ၆၀၅၇ ခုတွင် လွန်တော်မူလေသည်။၁။

ထိုမင်းလွန်တော်မူလေလျှင် မိဘုရား ရုစိတမာလာတွင် ဖွားမြင်တော်မူသော မာရဇေတု မည်သော သားတော်သည် သုမိဇေဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၀၅၇ နှစ်တွင် အဖရိုပ်ရာဖြစ်သော ထီးနန်းပြည်ရွာကိုစိုးအုပ်၍ မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၃၂၊ သုံးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၀၈၉ ခုတွင် လွန်တော်မူလေသည်။၂။

ထိုမင်းလွန်တော်မူလေလျှင် မာရအုံမည်သော သားတော်သည် ဂေါယာဇေဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၀၈၉ နှစ်တွင် အဖရိုပ်ရာဖြစ်သော ပြည်၏ စည်းစိမ်ကိုစိုး အုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်၊ နန်းစံ ၅၃၊ ငါးဆဲ့သုံးနှစ်၊ နှစ်စုသက်တော် ၇၃၊ ခုနစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၆၁၄၂ ခုနှစ်တွင် လွန်တော်မူလေသည်။၃။

ထိုမင်းလွန်တော်မူလေလျှင် မာရရွယ်မည်သော သားတော်သည် ကုလဝ္ဂီမည်သော မင်းသမီးနှင့်သက္ကရာဇ် ၆၁၄၂ ခုတွင် အဖရိုပ်ရာဖြစ်သော ထီးနန်းထက်အဘိသိက် ခံလျက် မင်း၏စည်းစိမ်ကို စိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၄၈၊ လေးဆဲ့ရှစ်နှစ်၊ နှစ်စု သက်တော် ၇၈၊ ခုနစ်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၁၉၀တွင် လွန်တော်မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် မာရတင်မည်သော သားတော်သည် သီလဘီမည်သောနမတော်နှင့် သက္ကရာဇ် ၆၁၉၀ တွင် အဖရိုပ်ရာဖြစ်သော ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၅၅၊ ငါးဆဲ့ငါးနှစ်။ နှစ်စုသက်တော် ၈၀၊ ရှစ်ဆယ်။ သက္ကရာဇ် ၆၂၄၅ခုတွင် လွန်တော်မူလေသည်။၅။

ထိုမင်းလွန်တော်မူလေလျှင် မာရဓိန်မည်သော သားတော်သည် တုတ္တာဘီဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၂၄၅ ခုတွင် အဖအရိုပ်အရာ ထီးနန်းတိုင်းပြည်ကို သိမ်းပိုက်စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၁၊ သုံးဆဲ့တ။ နန်းစံ ၃၃၊ သုံးဆဲ့သုံးနှစ်။ နှစ်စု ပေါင်းသက်တော် ၆၄၊ ခြောက်ဆဲ့လေးနှစ်။

သက္ကရာဇ် ၆၂၇၈ ခုတွင် လွန်တော်မူလေသည်။၆။

ထိုမင်းလွန်တော်မူလေလျှင် မာရကင်မည်သော သားတော်သည် သဝမ္ဗိ-မည်သော မိဘုရားတူမတော်ရင်းနှင့် သက္ကရာဇ် ၆၂၇၈ ခုတွင် အဖရိုပ်ရာဖြစ်သော ထီးနန်းကိုစိုးအုပ်စံမြန်းတော်မူလေ၏။ ထိုမင်းကား အလွန်မွေ့လျော်ပျော်လွန်း၍ သူရဲကျွန်လေးယောက်ရှိ၏။ ထိုသူရဲတို့သည် အရာမရောက်သောအခါကား ကောင်းကင်သို့ပျံ၍ ခုတ်ဖြတ်ဘိသကဲ့သို့ အရာရောက်သောအခါကား မြေအောက်လျှိုးသကဲ့သို့ဖြစ်၏။ ထိုအကြောင်းကို ဘဏ္ဍာစိုးအမတ် ဆေတ်အိုသည် သူရဲလေးယောက်နှင့်တကွ မာရကင်မင်းကို ပုန်စားလေ၍ မရကင်မင်းသည် အိမ်နိမ့် ၃၄၊ သုံးဆဲ့ လေးနှစ်၊ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၆၊ ငါးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၆၃၀၀ တွင်လွန်တော်မူလေသည်၇။

ထိုမင်းလွန်တော်မူလေလျှင် မျိုးခြားအမတ် ဘဏ္ဍာစိုးဆေတ်အိုသည် မာရကင်မိဘုရားသဝမ္ဗီနှင့် သက္ကရာဇ် ၆၃၀၀ တွင် မင်းပြုလေ၏။ ထိုကစ၍ မာရယုမင်းအနွယ်ကို ဆေတ်အို-သတ်လေသည်ဟုဆိုကြကုန်၏။ ထိုဆေတ်အိုမင်းကား အိမ်နိမ့် ၆၆၊ ခြောက်ဆဲ့ခြောက်နှစ်။ နန်း စံ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၈၇၊ ရှစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၆၃၂၁ခုတွင် လွန်တော်မူလေသည်။ ၁။

ထိုမင်းလွန်လေလျှင် ဆေတ်အိုသည် မာရကင်မင်းကို ပုန်စားသောအခါ ပြည်သူတို့ဂုက်လျှို၍ထားသော မာရကင်မင်း၏သားတော် ဒေါလစန္ဒရားသည် ဝဇ္ဇုတာပီမည်သော မိဘုရားနှင့်သက္ကရာဇ် ၆၃၂၁ ခုတွင် ဘိုးဘ အရိပ်အရာဖြစ်သောထီးနန်းကို စိုးအုပ်စံစားတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စု သက်တော် ၆၀၊ ခြောက်ဆယ်။ သက္ကရာဇ် ၆၃၆၁ ခုတွင် လွန်တော်မူလေသည်။ ၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သောလစန္ဒရားသည် ခန္တီပီမည်သော မျောက်သားတော်နှင့် သက္ကရာဇ် ၆၃၆၁ခုတွင် ပြည်စည်းစိမ်ကို စိုးအုပ်စံမြန်းတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၃၃၊ သုံးဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၅၆၊ ငါးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၆၃၉၄ ခုတွင် လွန်တော်မူလေသည်။၉။ (ဤသောလ စန္ဒရားမင်းသည် အင်းစောက်ရာဇဝင်၌မပါဖြစ်၍ ကျနေဟန်တူသည်။)

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယစန္ဒရားသည် ဓမ္မဒေဝီမည်သော မိထွေးရင်း သမီးတော်နှင့် သက္ကရာဇ် ၆၃၉၄ ခုတွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်၊ နန်းစံ ၃၇၊ သုံးဆဲ့ခုနစ်။ နှစ်စုသက်တော် ၇၇၊ ခုနစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၆၄၃၁ခုနစ်တွင် လွန်တော်မူလေသည်။၁၀။

ထိုမင်းလွန်တော်မူလေလျှင် ကာလစန္ဒရားမည်သော သားတော်သည် သူရိယာပီမည်သောမိဘုရားနှင့် သက္ကရာဇ် ၆၄၃၁ ခုတွင် ပြည်စည်းစိမ်ကို သိမ်းပိုက်စံမြန်းတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၆၀၊ ခြောက်ဆယ်။ သက္ကရာဇ် ၆၄၇၁ ခုတွင် လွန်တော်မူလေသည်။

ထိုမင်းလွန်တော်မူလေလျှင် တဥ္စန္ဒရားမည်သော သားတော်သည် ဓမ္မဒိန္နာ-မိဘုရားင့် သက္ကရာဇ် ၆၄၇၁ ခုတွင် အဘအရာကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၁၊ ငါးဆဲ့တနှစ်။ သက္ကရာဇ် ၆၅၀၂ ခုတွင် လွန်တော်မူလေသည်။၁၂။

ထိုမင်းလွန်တော်မူလေလျှင် မဓုစန္ဒရားမည်သော သားတော်သည် သန္တာပီမည်သော မိဘုရားနှင့် သက္ကရာဇ် ၆၅၀၂ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၄၈၊ လေးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၅၂၃ ခုတွင် လွန်တော်မူလေသည်။၁၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဇေယျစန္ဒရားသည်သုဘဂ္ဂပီမည်သော မျောက်သားတော်

မိဘုရားနှင့် သက္ကရာဇ် ၆၅၂၃ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၆၃၊ခြောက်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၆၅၆၃ ခုတွင် လွန်တော်မူလေသည်။၁၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မောက္ခစန္ဒရားသည် သုလာဝိမည်သောမိဘုရားနှင့် သက္ကရာဇ် ၆၅၆၃ ခုတွင် ပြည်ကြီးစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်။ နန်းစံ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နှစ်စု သက်တော် ၅၈၊ ငါးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၅၈၉ ခုတွင် လွန်တော်မူလေသည်။၁၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဂုဏစန္ဒရားသည် မိဘုရားသုရာဘီနှင့် သက္ကရာဇ် ၆၅၈၉ ခုတွင် အဘ၏ စည်းစိမ်ဖြစ်သော ထီးနန်းကို အုပ်စိုးတော်မူလေ၏။ ထိုမင်း၌ သူရိယဟူသော သားတော် တယောက်၊ အထက် ဘိုးတော်အမည်ကိုမှည့်သော ကာလစန္ဒရားတယောက်အားဖြင့် နှစ်ယောက်ရှိ၏။ ထိုမင်းဝယ် ငယ်ကျွန်ရင်းဖြစ်သော မြို့ကျွန်သား သုံးယောက်လည်း ရှိ၏။ ထိုသုံးယောက်တို့ကို အမတ်ကြီး မြှောက်လေ၏။ မြို့ကျွန်သား အမတ်သုံးယောက်တို့သည် မိမိအရှင်ဖြစ်သော ဂုဏစန္ဒရားမင်းကို သတ်လေသည်။ ထိုမင်းကား အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၁၂၊ တဆဲ့နှစ်နှစ်။ နှစ်စု သက်တော် ၄၈၊ လေးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၆၀၁ ခုတွင် လွန်တော်မူလေသည်။၁၆။ (ဤ ဂုဏစန္ဒရားမင်း နန်းစံကို ၉၀၊ ကိုးဆယ်ဟူ၍ ရာဇဝင်ဟောင်း၌ဆိုသည်။ မြို့ကျွန်တို့ ပုန်ကန်သတ် ဖြတ်လေသည်ဆိုသောကြောင့် ၎င်း၊ အင်းစောက်ရာဇဝင်စသည်တို့၌ ၁၂၊ တဆဲ့နှစ်နှစ်သာ ပါရှိသည်ဖြစ်၍၎င်း၊ ထိုအတိုင်းရေးပြလိုက်သည်။)

ထိုမင်းလွန်တော်မူလေလျှင် သားတော် နှစ်ယောက်တို့ကိုလည်း မြို့ကျွန်သား အမတ်သုံးယောက်တို့သည် သတ်ဖြတ်၍ တယောက်ကားနန်းတက်၍ သုံးရက်မင်းမူ၏။ တယောက်ကား သုံးလမင်းမူ၏။ တယောက်ကား ရှစ်လမင်းမူ၏။ ဤသို့ အချင်းချင်း သတ်ဖြတ်၍ မင်းမူကြကုန်၏။ ထိုသို့သတ်ဖြတ်၍ မင်းမူကြစဉ် ဂုဏစန္ဒရား-သားတော်အကြီး သူရိယတွင် ဖြစ်သော သားတော်ကံရာဇာကြီးသည် နောက်ဆုံးဖြစ်သော မြို့ကျွန်သား မင်းကိုသတ်၍ ဘိုးဘရိပ်ရာဖြစ်သော ထီးနန်းစည်းစိမ်ကို သိမ်းမြန်းတော်မူလျက် စောမာလာ မိဘုရားနှင့် သက္ကရာဇ် ၆၆၀၂ ခုတွင် မင်းပြုတော်မူလေ၏။ထိုမင်းကား တန်ခိုးအာနုဘော်ရှိ၏။ သဒ္ဓါ, သီလ, ပညာ, ဝီရိယနှင့်ပြည့်စုံ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနှစ်နှစ်။ နန်းစံ ၄၁၊ လေးဆဲ့တနှစ်။ နှစ်စု သက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၆၄၃ခု တွင် လွန်တော်မူလေသည်။၁၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ကံရာဇာငယ်သည် စောပန်းကုံးဟူသော မင်းသမီးနှင့် သက္ကရာဇ် ၆၆၄၃ ခုတွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အဆင်းအဝါအစွမ်းခွန်အားနှင့် ပြည့်စုံ၏။ ထိုမင်းသည် အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နှစ်စု သက်တော် ၅၆၊ ငါးဆဲ့ ခြောက်နှစ်။ သက္ကရာဇ် ၆၆၇၉ ခုတွင် လွန်တော်မူလေသည်။၁၈။ (ဤကံရာဇာငယ် မင်းသည် ရာဇဝင်ဟောင်း၌ မပါ၊ ကျနေဟန်တူသည်။ ကံရာဇာကြီး အိမ်နိမ့်၊ နန်းစံ၊ သက်တော်များအတိုင်း ဆိုလေသည်။)

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဣန္ဒသူရိယသည် မျောက်သားတော် စောနန္ဒီနှင့်သက္ကရာဇ် ၆၆၇၉ ခုတွင် ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထို မင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၃၅၊ သုံးဆဲ့ ငါးနှစ်။ နှစ်စုသက်တော် ၅၇၊ ငါးဆဲ့ ခုနှစ်နှစ်။ သက္ကရာဇ် ၆၇၁၄ ခုတွင် လွန်တော်မူလေ သည်။၁၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် အသူရိန္ဒသူရိယသည် မျောက်သားတော်စောကြွယ်နှင့် သက္ကရာဇ် ၆၇၁၄ ခုတွင် ပြည်ကြီးစည်းစိမ်ကို အလိုတော်ပြည့် စိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့်

၃၂ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၆၂၊ ခြောက်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၆၇၄၄ ခုတွင် လွန်တော်မူလေသည်။၂၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သာရမိတ္တသည် စောပန်းနှပဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၇၄၄ ခုတွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၄ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၅၂၊ ငါးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၆၇၂၂ ခုတွင် လွန်တော်မူလေသည်။ ၂၁။ (ရာဇဝင်ဟောင်းတွင် ဤသာရမိတ္တမင်း၊ ဆိုလတ္တံ့သော သူရိယမင်း၊ မင်းထီးမင်း၊ သုံးပါးမပါ။ ကျလေဟန်တူသည်။ မင်းပါကစ၍သာဆိုလေသည်)။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယမင်းသည် စောပန်းဝေဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၇၇၂ ခုတွင် ထီးနန်းစိုးအုပ်၍ မင်းလုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၉ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၆၀၊ ခြောက် ဆယ်။ သက္ကရာဇ် ၆၈၀၃ ခုတွင် လွန်တော်မူလေသည်။၂၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းထီးသည် မင်းသီဒါဟူသော မိဘုရားနှင့်သက္ကရာဇ် ၆၈၀၃ ခု တွင် ထီးနန်းစိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆဲ့တနှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၄၃၊ လေးဆဲ့သုံးနှစ်။ သက္ကရာဇ် ၆၈၂၅ ခုတွင် လွန်တော်မူလေသည်။၂၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းပါသည် မိဘုရားရှင်ဝန်းဖြူနှင့် သက္ကရာဇ် ၆၈၂၅ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၅ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနှစ်နှစ်။ သက္ကရာဇ် ၆၈၄၇ ခုတွင် လွန်တော်မူလေသည်။၂၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် စည်ပေါင်သူသည် ဆီမဆန်းဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၈၄၇ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၅၄ ငါးဆဲ့လေးနှစ်။ သက္ကရာဇ် ၆၈၇၅ ခုတွင် လွန်တော်မူလေသည်။၂၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် တံတိုင်းသင်သည် ငွေဒါးအိမ်ဟူသော မိဘုရားနှင့်သက္ကရာဇ် ၆၈၇၅ ခုတွင် မင်း၏စည်းစိမ်ကိုစိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉ တဆဲ့ကိုးနှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၀ငါးဆယ်။ သက္ကရာဇ် ၆၉၀၆ ခုတွင် လွန်တော်မူလေသည်။၂၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကျော်ခေါင်စည်သည် ရှင်လှကျော်ဟူသောမိဘုရားနှင့် သက္ကရာဇ် ၆၉၀၆ ခုတွင် မင်းစည်းစိမ်ကို ခံစားတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၅၃၊ ငါးဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၇၅၊ ခုနှစ် ဆဲ့ငါးနှစ်။ သက္ကရာဇ် ၆၉၅၉ ခုတွင် လွန်တော်မူလေသည်။၂၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယစန္ဒမိတ်သည် မျောက်သားတော် ချစ်ရောင်ဟူသော မိဘုရားနှင့် သက္ကရာဇ် ၆၉၅၉ ခုတွင် မင်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၄ သုံးဆဲ့လေးနှစ်။ နန်းစံ ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၅၅၊ ငါးဆဲ့ငါးနှစ်။ သက္ကရာဇ် ၆၉၈၀ ပြည့်တွင် လွန်တော်မူလေသည်။၂၈။

ထိုမင်းလွန်တော်မူလေလျှင် အနန္တာဘယဟူသော သားတော်သည် မျောက်သားတော် ကလျာဝင်းနှင့် သက္ကရာဇ် ၆၉၈၀ ပြည့်တွင် မင်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀ လေးဆယ်။ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၇၀၊ခုနှစ်ဆယ်။ သက္ကရာဇ် ၇၀၁၀ ခုတွင် လွန်တော်မူလေသည်။၂၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော်လင်္ကာစည်သူသည် မင်းသမီးဆင်းလှစံနှင့် သက္ကရာဇ် ၇၀၁၀ ခုတွင် မင်း၏ချမ်းသာကို စံစားတော်မူလေ၏။ ထိုမင်း

ကား အိမ်နိမ့် ၃၀ သုံးဆယ်။ နန်းစံ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၆၀ ခြောက်ဆယ်။ သက္ကရာဇ် ၇၀၄၀ ခုတွင် လွန်တော်မူလေသည်။၃၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သီဟကုဠ်မင်းသားသည် မျောက်သားတော် စောညက်ထွားနှင့် သက္ကရာဇ် ၇၀၄၀ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၄၃၊ လေးဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၆၅၊ ခြောက်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၇၀၈၃ ခုတွင်လွန်တော်မူလေသည်။၃၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းဘုန်းသန်သည် မျောက်သားတော် ဆင်းမြစ်နှင့် သက္ကရာဇ် ၇၀၈၃ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့်၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၇၁၁၄ ခုတွင် လွန်တော်မူလေသည်။ ၃၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သက္ကမွေးသည် မင်းသမီးစလပ်ပန်းနှင့် သက္ကရာဇ် ၇၁၁၄ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉ တဆဲ့ကိုးနှစ်။ နန်းစံ ၄၉၊ လေးဆဲ့ကိုးနှစ်။ နှစ်စုသက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၇၁၆၃ ခုတွင် လွန်တော်မူလေသည်။၃၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဇေယျနန္ဒသူသည် မျောက်သားတော် မြပန်းကုံးနှင့် သက္ကရာဇ် ၇၁၆၃ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁ နှစ်ဆဲ့တနှစ်။ နန်းစံ ၅၂၊ ငါးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၇၃၊ ခုနှစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၂၁၅ ခုတွင် လွန်တော်မူလေသည်။၃၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် တက္ကသူသည် မျောက်သားတော် ဆင်းလှမွေးနှင့် သက္ကရာဇ် ၇၂၁၅ ခုတွင် မင်း၏စည်းစိမ်ကို ခံစားတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၆ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၄၆၊ လေးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၇၂၊ ခုနှစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၂၆၁ ခုတွင်လွန်တော်မူလေသည်။ ၃၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် လက္ခဏာသည် နှမတော်ရင်းမင်းသမီး ဂဏ္ဍာဒေဝီနှင့် သက္ကရာဇ် ၇၂၆၁ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၃၇၊ သုံးဆယ့်ခုနှစ်။ နှစ်စုသက်တော် ၆၅၊ ခြောက်ဆဲ့ ငါးနှစ်။ သက္ကရာဇ် ၇၂၉၈ ခုတွင် လွန်တော်မူလေသည်။၃၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဂုဏရာဇ်သည် မင်းသမီးစောမာလာနှင့် သက္ကရာဇ် ၇၂၉၈ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၁ လေးဆဲ့တနှစ်။ နန်းစံ ၄၂၊ လေးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၈၃၊ ရှစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၃၄၀ ခုတွင် လွန်တော်မူလေသည်။၃၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သီဝရာဇ်သည် မျောက်သားတော် ပွင့်ဝတ်ရွှေနှင့်သက္ကရာဇ် ၇၃၄၀ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၂ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၄၁၊ လေးဆဲ့တနှစ်။ နှစ်စုသက်တော် ၇၃၊ ခုနှစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၃၈၁ ခုတွင် လွန်တော်မူလေသည်။၃၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းလှမွေးသည် မင်းသမီးစောနတ်လာနှင့် သက္ကရာဇ် ၇၃၄၀ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၂ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၅၄၊ ငါးဆဲ့လေးနှစ်။ သက္ကရာဇ် ၇၄၀၂ ခုတွင် လွန်တော်မူလေသည်။၃၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ပုရိန္ဒသည် မျောက်သားတော်စောရွှေချပ်နှင့် သက္ကရာဇ် ၇၄၀၂ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား လေးမြားအတတ်၌ လေ့လာပွန်းတီး၏။ ထိုမင်းကား အိမ်နိမ့် ၂၂ နှစ်ဆဲ့ နှစ်နှစ်။ နန်းစံ၆၀၊ ခြောက်ဆယ်။ နှစ်စုသက်တော် ၈၂၊ ရှစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၄၆၂

ခုတွင် လွန်တော်မူလေသည်။၄၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းသီဒွတ်သည် လင်္ကာဏာဒေဝီ မိဘုရားနှင့်သက္ကရာဇ် ၇၄၆၂ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀ လေးဆယ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၂၊ ခြောက်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၄၈၄ ခုတွင် လွန်တော်မူလေသည်။၄၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းလှကြီး၊ မင်းလှငယ်ဟူ၍ နှစ်ယောက်ရှိသည်။ ထိုနှစ်ယောက်တွင် အစ်ကိုဖြစ်သူ မင်းလှကြီးသည် စောပန်းဖြူဟူသောမိဘုရားနှင့် သက္ကရာဇ် ၇၄၈၄ ခုတွင် ပြည်၏စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၉ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ ၄၇၊ လေးဆဲ့ခုနှစ်နှစ်။ နှစ်စုသက်တော် ၇၆ ခုနှစ်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၇၅၃၁ ခုတွင် လွန်တော်မူလေသည်။၄၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ထွေးလုပ်ကြီးမည်သောမင်းသားသည် မျောက်သားတော် ရွှေစင်ဦးမိဘုရားနှင့် သက္ကရာဇ် ၇၅၃၁ ခုတွင် ပြည်၏ စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀နှစ်ဆယ်နှစ်။ နန်းစံ ၂၄၊ နှစ်ဆဲ့လေးနှစ်။ နှစ်စု သက်တော် ၄၄၊ လေးဆဲ့လေးနှစ်။ သက္ကရာဇ် ၇၅၅၅ ခုတွင် လွန်တော်မူလေသည်။၄၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော်စေရာဇ်သည် မင်းသမီးစောလှမယ်နှင့်သက္ကရာဇ် ၇၅၅၅ ခုတွင် ထီးနန်းတိုင်းပြည်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၁ သုံးဆဲ့တနှစ်။ နန်းစံ ၃၈၊ သုံးဆဲ့ရှစ်နှစ်။ နှစ်စု သက်တော် ၆၉၊ ခြောက်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၇၅၉၃ ခုတွင် လွန်တော်မူလေသည်။၄၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မျက်နှာဝန်းသည် နမတော်ရင်း မင်းသမီးစောဘုန်းတူနှင့် သက္ကရာဇ် ၇၅၉၃ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၂၄၊ နှစ်ဆဲ့လေးနှစ်။ နှစ်စုသက်တော် ၆၀၊ ခြောက်ဆယ်။ သက္ကရာဇ် ၇၆၁၇ ခုတွင် လွန်တော်မူလေသည်။၄၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် လက်ရုံးကြီးသည် မင်းသမီး ရှင်လှဖြူနှင့် သက္ကရာဇ် ၇၆၁၇ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၂၇၊ နှစ်ဆဲ့ခုနှစ်နှစ်။ နှစ်စုသက်တော် ၅၇၊ ငါးဆဲ့ခုနှစ်နှစ်။ သက္ကရာဇ် ၇၆၄၄ခုတွင် လွန်တော်မူလေသည်။၄၆။ (ဤလက်ရုံးကြီးမင်းသည် ရာဇဝင်ဟောင်း၌မပါ၊ ကျနေဟန်တူလေသည်။)

ထိုမင်းလွန်တော်မူလေလျှင် သိရိကမ္ဗုသုန္ဒရမင်းသည် စန္ဒာဒေဝီမိဘုရားနှင့်သက္ကရာဇ် ၇၆၄၄ ခုတွင်၊ ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စု သက်တော် ၅၆ ၊ ငါးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၇၆၇၄ ခုတွင် လွန်တော်မူလေသည်။၄၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော်နန္ဒကောဘယသည် မျောက်သားတော်စောမင်းဖြူနှင့် သက္ကရာဇ် ၇၆၇၄ ခုတွင် မင်း၏စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၉၊ သုံးဆဲ့ကိုးနှစ်။ နန်းစံ ၂၇၊ နှစ်ဆဲ့ခုနှစ်နှစ်။ နှစ်စုသက်တော် ၆၆၊ ခြောက်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၇၇၀၁-ခုတွင် လွန်တော်မူလေသည်။၄၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းနံ့ဖြူသည် မျောက်သားတော် စောလှခေါင်နှင့် သက္ကရာဇ် ၇၇၀၁ ခုတွင် မင်း၏စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၂၀၊ နှစ်ဆယ်။ နှစ်စုသက်တော် ၄၄၊ လေးဆဲ့လေးနှစ်။ သက္ကရာဇ် ၇၇၂၁ ခုတွင် လွန်တော်မူလေသည်။၄၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းနန်းလှသည် မျောက်သားတော် စောပုညီနှင့် သက္ကရာဇ် ၇၇၂၁ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် လေး၊ သန်လျက်အတတ်တို့၌ အလွန်ကျင်လည်၏။ ဆင်စီး၊ မြင်းစီး၌လည်း လိမ္မာတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၅၈၊ ငါးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၇၇၄၉ ခုတွင် လွန်တော်မူလေသည်။၅၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းခေါင်ငယ်သည် မျောက်သားတော် ပတ္တမြားသွေးနှင့် သက္ကရာဇ် ၇၇၄၉ ခုတွင် မင်း၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၁၊ သုံးဆဲ့တနှစ်။ နန်းစံ ၂၀၊ နှစ်ဆယ်။ နှစ်စုသက်တော် ၅၁၊ ငါးဆဲ့တနှစ်။ သက္ကရာဇ် ၇၇၆၉ ခုတွင် လွန်တော်မူလေသည်။၅၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော်လောက်ခေါင်ရာဇာသည် မင်းသမီး စောဘုန်းထွတ်နှင့်သက္ကရာဇ် ၇၇၆၉ခု တွင် မင်း၏စည်းစိမ်ကို ခံစားတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ ၁၅၊ တဆဲ့ငါးနှစ်။ နှစ်စုသက်တော် ၄၄၊ လေးဆဲ့လေးနှစ်။ သက္ကရာဇ် ၇၇၈၄ ခုတွင် လွန်တော်မူလေသည်။၅၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းသီဟသည် မင်းသမီးစောခေါင်နှင့် သက္ကရာဇ် ၇၇၈၄ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၄၉၊ လေးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၇၈၀၅ ခုတွင် လွန်တော်မူလေသည်။၅၃။ (ဤမင်းသီဟသည် ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ဆရာငမည် ရာဇဝင်တို့၌ မပါသော်လည်း ဓညဝတီအရေးတော်ပုံ၌ အထင်အရှား ရေးသားပါရှိသည်ဖြစ်၍ ရေးသားထည့်သွင်း လိုက်ပေသည်)။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းငယ် ပျော်လှစည်သူသည် စောစစ်ဟူသော မိဘုရားနှင့် သက္ကရာဇ် ၇၈၀၅ ခုတွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ဤမင်းငယ်ပျော်လှစည်သူဟူသော မင်းသည် မင်းဖြစ်၍ နန်းစံသက်တော် ၆၊ ခြောက်နှစ်ရှိလျှင် ဓညဝတီမြို့ပျက်အံ့သော ကိန်းခန်းကာလသည် ရောက်လတ်ပြီဟူ၍ နတ်မျက်စိအမြင်ကိုအစိုးရသော ဗေဒင်တတ်တို့သည် လျှောက်ကြလေကုန်၏။ ထိုသို့ လျှောက်ကြသည်ကို အကြောင်းပြု၍ မင်းငယ် ပျော်လှစည်သူသည် ဓညဝတီမြို့တော်မှ စစ်အင်္ဂါ လေးပါးနှင့်တကွ ထွက်တော်မူ၍ တောင်မျက်နှာအရပ်သို့ အစဉ်အတိုင်း ချီတော်မူလေသော် ၅၀၅၊ ငါးရာ ငါးစင်းသော မြစ်တို့တွင်အကျုံးဝင်သော ကစ္ဆပနဒီမြစ်၏ အရှေ့ဘက် သီရိမာနဒီမည်သော သရေချောင်း လက်ယာ ကမ်းနားသို့ ရောက်လေလျှင် တစ်တစ်တီးတီးမြေပြင်ကြီးကို မြင်လေသော် ဤမြေပြင်အရပ်ကား ဘူမိနက်သန်မှန်သဖြင့် အသရေရှိသောမြေ ဖြစ်သည်။ မြို့တည်ခြင်းငှာ အပ်၏ဟူ၍ တကုဋေမျှလောက်သော ရဲမက်ဗိုလ်ပါတို့နှင့် သက္ကရာဇ် ၇၈၁၁ ခုတွင် မြို့ကြီးစွာတည်လေ၏။ မြို့၊ပြ၊ ကျုံး၊ မြောင်း၊ တန်ဆောင်း၊ပြာသာဒ်၊ ဇရပ်၊ မဏ္ဍပ်၊ ဥယျာဉ်၊ ရေတွင်း၊ ရေကန် စသောမြို့အင်္ဂါကိရိယာဟူသမျှသည် ငါးလနှင့်ပြီးမြောက်လေသတည်း။ ထိုမြို့ဝယ် မင်း၏စည်းစိမ်ကို ၁၊ တနှစ်ခံစားတော်မူသော မင်းငယ် ပျော်လှစည်သူကို အမတ်သုံးယောက်တို့သည် ပုန်စားလေကုန်၏။ ထိုမင်းငယ် ပျော်လှစည်သူမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆဲ့တနှစ်။ နန်းစံ ဓညဝတီမြို့တွင် ၆၊ ခြောက်နှစ်။ မိမိတည်သောမြို့တွင် ၁၊ တနှစ်။ နှစ်ရပ်ပေါင်း ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၇၈၁၂ ခုတွင် လွန်တော်မူလေသည်။ ၅၄။ (ဤမင်းငယ် ပျော်လှစည်သူ သက်တော်ကို ၈၀၊ ရှစ်ဆယ်တွင် လွန်တော်မူကြောင်းနှင့် ရာဇဝင်ဟောင်း၌ဆိုသည်။ အမတ်သုံးယောက်တို့ပုန်စား၍ လွန်တော်မူလေသည် ဆိုသောကြောင့်ရင်း။ အင်းစောက်ရာဇဝင် အစရှိသော ရာဇဝင်အစောင်စောင်တို့၌ ၂၇၊ နှစ်ဆဲ့ခုနစ် နှစ်ဟူ၍သာ

ပြဆိုကြသောကြောင့်ငင်း။ ၂၈၊ နှစ်ဆဲ့ရှစ်နှစ်ဟူ၍ပင် ရေးသားလိုက်ပေသည်)။

ထိုမင်းလွန်တော်မူလေလျှင် အမတ်သုံးယောက်တို့တွင် တယောက်ရှစ်လမင်းမူ၏။ တယောက်နှစ်လမင်းမူ၏။ တယောက်ခြောက်လမင်းမူ၏။ ဤသို့ အမတ်ကျွန် သုံးယောက်တို့ အဆင့်ဆင့်မင်းပြုကြလေသည်ကို အကြောင်းပြု၍ (ကျွန်-သုံးဆင့်မြို့)ဟူ၍ ဆိုလေသည်ကို (ကန်သုံးဆင့်)ဟု ယနေ့တိုင်အောင် ခေါ်ကြလေသတည်း။၃။

မင်းငယ်ပျော်လုစည်သူ လွန်တော်မူလေလျှင် မိဘုရားစောစစ်သည် သမီးတော်အကြီး သုနန္ဒရီ၊ သမီးတော်အငယ် ဖွားတော်သွေး၊ ဤသမီးတော်နှစ်ယောက်၊ ကျေးကျွန်တို့နှင့် ကန်သုံးဆင့်မြို့မှ ထွက်ခဲ့ပြီးလျှင် နီလာပန်းတောင်းမြို့ကို ပြုစုတည်ထောင်၍ နေကြလေကုန်သတည်း။ (ဤအရာတွင် ရာဇဝင်ဟောင်း၊ ဆရာမည်ရာဇဝင်တို့၌ ကန်သုံးဆင့်မြို့မှ စောစစ်မိဘုရားတို့ ထွက်လာကြောင်းကိုဆိုသောစကား ထင်ရှားသည်ဖြစ်လျက် အချို့ရာဇဝင်သစ်၌ စမွဝက်မြို့မှသည်သွား၍ နီလာပန်းတောင်းမြို့ကို တည်ထောင်ပြုစု၍ နေကြလေကုန်၏ဟူ၍ တမျိုးတဖုံဆိုလေသည်။ စမွဝက်ဟူသောမြို့သည် မင်းငယ်ပျော်လုစည်သူကို ပုန်စားသော အမတ်ကျွန်မင်းသုံးယောက်တို့နောက် မင်းပေါင်းခြောက်ဆဲ့သုံးယောက်မြောက် တော့မင်းတည်ထောင်သော မြို့သာဖြစ်သောကြောင့် ထိုကာလရှိပြီးဖြစ်ပြီးသော မြို့မဟုတ်ဖြစ်၍ အခြေအမြစ်မရှိသောစကားဟူ၍သာ မှတ်သားခြင်းပြုရမည်)။ မာရယုမင်းဆက် ၅၇။ နန်းစံနှစ်ပေါင်း ၁၈၁၈ နှစ်တည်း။

ဤသည်ကား မာရယုမင်း၏အဆက်အနွယ် ၅၄ ဆက်။ မျိုးခြားအမတ် ၃ ဆက်၊ ပေါင်း ၅၇ ဆက်။ မင်းပေါင်း ခြောက်ဆဲ့တယောက်သော မင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့နှင့်တကွ ရေးပြအပ်သော အခန်းတည်း။

ဤမာရယုမင်းဆက် ၅၇ ဆက်အခန်းတွင် အမည်၊ အိမ်နိမ့်၊နန်းစံ၊ သက်တော်၊ မိဘုရားအမည်တို့ကို သာလျှင် ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင် အစောင်စောင်တို့၌ ထုတ်ဆောင်ရေးသားမှာထားစီရင်ကြလေသည်။ နန်းတက်သက္ကရာဇ်၊ နန်းကျသက္ကရာဇ်တို့ကို ရေးသားပြဆိုခြင်း မပြုကြလေ။ ယင်းသို့ မပြုကြလေသောကြောင့် မည်သည့်သက္ကရာဇ်က နန်းတက်တော်မူ၍ မည်သည့်သက္ကရာဇ်တွင် နန်းကျလေသည်ဟု ယခုတိုင်အောင် မသိနိုင်ကြဖြစ်ရလေသည်။ ဤမာရယုမင်းတွင် သာမဟုတ် နောက်နောင်သော မင်းဆက်တို့၌လည်း ဤအတူပင်ဖြစ်လေသည်။ စန္ဒသူရိယမင်းကြီးသည် ၈၇၊ ကိုးဆဲ့ခုနှစ်၊ သက္ကရာဇ်တွင် နန်းတက်တော်မူကြောင်းနှင့် ဆိုအပ်သော အင်းစောက်ရာဇဝင်၌ ရေးပြအပ်သော သက္ကရာဇ်သည် ဏ၊ ဝ၊ စန္ဓေ-ကိန်း။ ပဿု၊ စတု၊ ရူပ-ကိန်း။ နဝ၊ခ၊ဆ-ကိန်း။ ခ၊ဆ၊ပဉ္စ-ကိန်း လေးရပ်တွင် မည်သည့်ကိန်းကိုပြုပြီးနောက် ဖြစ်ပွားလာသောသက္ကရာဇ်ဟူ၍ စိစစ်ရေးသားလျက် မပြမဆိုလေသောကြောင့် စင်စစ်မုချသိရမည်အချက် ခဲခက်လေသည်။ ယင်းသို့သိနိုင်ရန်ခက်ခဲသည်ကို ရေးမြွက်၍ပြဦးအံ့။ မာရယုစသောမင်းတို့၏ နန်းတက်သက္ကရာဇ်၊ နန်းကျသက္ကရာဇ်တို့ကို စီစစ်မှတ်ယူရန်အချက်မှာ ထိုမာရယုစသောမင်းတို့၏ နန်းစံနှစ်ပေါင်းကို ပြဆိုလေသည်ဖြစ်၍ မာရယုမင်းမှစ၍ ၅၇ဆက်သော မင်းတို့၏ နန်းစံနှစ်ပေါင်း ၁၈၁၈၊ တထောင့်ရှစ်ရာ တဆဲ့ရှစ်နှစ်တရပ်။ တကောင်းအနွယ်၊ ကံရာဇာမင်းကြီးမှစ၍ ၂၄ ဆက်မြောက် ရာလမာယုမင်းနန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်ထိ နန်းစံနှစ်ပေါင်း ၈၃၂၊ ရှစ်ရာသုံးဆဲ့နှစ်နှစ်တရပ်။ နှစ်ရပ် နန်းစံနှစ်ပေါင်း ၂၆၅၀၊ နှစ်ထောင့်ခြောက်ရာ့ ငါးဆယ်ဖြစ်၏။ ၎င်း ၂၆၅၀ နှင့် ဘုရားဘိုးတော် အဥ္စနမင်းမြို၊ ဏ၊ ဝ၊ စ၊ န္ဓေ-ကိန်းဟုဆိုအပ်သော ၈၆၄၅၊ ရှစ်ထောင်ခြောက်ရာ လေးဆဲ့ငါးခုတွင်နုတ်။ နုတ်ကြွင်း နှစ်ပေါင်း ၅၉၉၅၊ ငါးထောင်ကိုးရာ ကိုးဆဲ့ငါးခုသည် မာရယုမင်း၏

နန်းတက်သက္ကရာဇ်ဖြစ်၏။ ၎င်းတွင် နန်းစံနှစ် ခြောက်ဆဲ့နှစ်နှစ်ကိုရော၊ နန်းကျသက္ကရာဇ် ၆၀၅၇ ခုဖြစ်၏ဟူ၍ မှတ်ရမည်။ ဏ, ဝ, စ, နွေ-ကိန်းကိုဖြိုလေသည်မှာ ကံရာဇာမင်းကြီးနောက် ၂၄ ဆက်မြောက် ရာလမာယုမင်း နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်တွင် ဖြိုကိန်းကြုံလေသည်။ ဖြိုပြီးနောက် နာလမာယုမင်းနန်းစံ ၃၃၊ သုံးဆဲ့သုံးနှစ်မှစ၍ စန္ဒသူရိယမင်း နန်းတက်သည့်တိုင်အောင် နှစ်ပေါင်း ၉၇ ခုကို အဋ္ဌနမင်း ဏ, ဝ, စ, နွေ-ကိန်းကိုဖြိုပြီးနောက် ဖြစ်သော သက္ကရာဇ်ဟူ၍ မှတ်ရမည်။ ဤသည် သာကေကိုထောက်ဆ၍ နန်းတက်၊ နန်းကျသက္ကရာဇ်တို့ကို စီစစ်ရေးသွင်းလိုက်ပေသည်။ ၎င်းမာရယုမင်း ၅၇ ဆက်တို့တွင်လည်း ရာဇဝင်ဟောင်း၌ ကံရာဇာငယ်၊ သာရမိတ္တ၊ သူရိယ၊ မင်းထီး၊ လက်ရုံးကြီး၊ မင်းသီဟတို့ မပါပဲ ၅၁၊ ငါးဆဲ့တဆက်မျှ ဆိုလေသည်။ အင်းစောက် ရာဇဝင်၌ သောလစန္ဒရား၊ မင်းသီဟ၊ နောက်မျိုးခြား အမတ် သုံးဦးတို့မပါပဲ ၅၅၊ ငါးဆဲ့ ငါးဆက်မျှပြလေသည်။ ဓညဝတီအရေးတော်ပုံ၌ မင်းသိဒ္ဓတ်နှင့် နောက်မျိုးခြားအမတ်သုံးဦးတို့မပါပဲ ၅၄၊ ငါးဆဲ့လေးဆက်မျှ ဆိုလေသည်။ ရာဇဝင်လက်ာ၌ သောလစန္ဒရား၊ တဋ္ဌန္ဒရား၊ မျိုးခြားအမတ်နှစ်ဆက် ၆ ဦး၊ မင်းသီဟတို့ မပါပဲ ၅၃၊ ငါးဆဲ့သုံးဆက်မျှ ဆိုလေသည်။ ဆရာငမည် ရာဇဝင်၌ မင်းသီဟမပါပဲ ၅၄၊ ငါးဆဲ့လေးဆက်မျှ ရေးသားလေသည်။ ဤသို့ရေးကြသော ရာဇဝင်အရပ်ရပ် တို့နှင့် စေ့စပ်အောင်ယူရန်မှာ မာရယုမင်းမှစ၍ ခုနစ်ဆက်။ မျိုးခြားငဆတ်အို-တဆက်။ မာရယုအနွယ် ဒေါလ စန္ဒရားမှစ၍ ဂုဏာစန္ဒရားတိုင်အောင် ကိုးဆက်။ မျိုးခြား အမတ်သုံးဦး တဆက်။ မာရယုအနွယ် ကံရာဇာကြီးမှ စ၍ မင်းငယ်ပျော်လှစည်သူတိုင်အောင် ၃၈၊ သုံးဆဲ့ ရှစ်ဆက်။ မျိုးခြားအမတ်သုံးဦး တဆက်တို့တွင် မာရယုမင်းအနွယ် ၅၄၊ ငါးဆဲ့လေးဆက်။ မျိုးခြား အမတ် ၃၊ သုံးဆက်။ ပေါင်း ၅၇ ၊ ငါးဆဲ့ခုနစ်ဆက်။ မင်း အရေအတွက်အားဖြင့် ၆၁၊ ခြောက်ဆဲ့တယောက်ဖြစ်သည် ဟု စင်စစ်မုချမှတ်ရမည်။ ဤမင်းဆက်နည်းတူ အမည်, အိမ်နိမ့်, နန်းစံ, သက်တော်, သက္ကရာဇ်, နှစ်ပေါင်း, မိဘုရားတို့၏ အမည်တို့သည်လည်း မညီမညွတ်ရှိကြ လေသည်။ ယင်းသို့ရှိကြလေသည်ကို ထောက်ထားစာနာ၍ သင့်ရာရေးပြလိုက်ပေသည်။ ဂမ္ဘီရပညာဖြင့် သင့်ရာ ယူကြပါလေ။ (ဤကား အမှာစကားချုပ်)။

### ၁၄၈။ တကောင်းမင်းရိုး ကံရာဇာကြီးမင်းအနွယ် ၂၈ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့၏အကြောင်း

ယခင်ရှေးက ပြဆိုအပ်ခဲ့သော စောစစ်မိဘုရားသည် သမီးတော်တို့နှင့် နီလာယန်းတောင်းမြို့ဝယ် နေထိုင်ကြသောကာလသည် မြတ်စွာဘုရားမပွင့်မီနှစ်ပေါင်း ၉၃၄၊ ကိုးရာ့သုံးဆဲ့လေးနှစ်ခန့်ကာလနှင့်ညီမျှလေသည်။ ထိုအခါ၌ ကောသလတိုင်း၊ ပဥ္စာလရစ်တိုင်းနှစ်တိုင်းကို အစိုးရသော ပဥ္စာလရာဇ်မင်းက ကောလိယမင်းအား အမျိုးဆက်လိုသော၄ာ အမတ်တို့ကိုစေ၍ သမီးတောင်းစေရာ ကောလိယမင်းက ဇာတိမာန်ဖြင့် မခြေမင် သောစကားကိုဆိုချေသောကြောင့် ပဥ္စာလရာဇ်မင်း၊ ကောလိယမင်းတို့ စစ်ကြီးဖြစ်ကြရာ ပဥ္စာလရာဇ်မင်းနိုင်၍ ကောလိယ၊ ဒေဝဒဟ၊ ကပိလမည်သော သုံးပြည်ထောင် သာကီဝင်မင်းတို့ရှုံးလေလျှင် သုံးဖြာကွဲ၍ သာကီဝင်မင်းတို့ ပျက်စီးလေ၏။ နောက်မှတဖန် တည်ထောင်ပြန်၍ သုံးပြည်ထောင်သော သာကီဝင်မင်းတို့သည် စည်ပင်ပြန်လေသည်။ ယင်းသို့ သာကီဝင်မင်းတို့ ပျက်စီးလေသောအခါ ကပိလဝတ်ပြည်မှ အဘိရာဇာမည်သော သာကီဝင်မင်းသည် မိမိဗိုလ်ခြေအလုံးအရင်းကိုယူ၍ မဇ္ဈိမဒေသမှ ဖဲခဲ့သဖြင့် သင်္ကဿရဋ္ဌမည်သော တကောင်းသင်းတွဲပြည်ကြီးကို တည်ထောင်ပြုစုတော်မူ၏။ ထိုတကောင်းပြည်သည် ကကုသန်ဘုရားလက်ထက် သံသယပြည်ဟုတွင်၏။ ကောဏာဂုံဘုရားလက်ထက်

ရဋ္ဌပြည်ဟုတွင်၏။ ကဿပဘုရားလက်ထက် သင်းတွဲပြည်ဟုတွင်၏။ ငါတို့ဂေါတမဘုရားလက်ထက်၊ တကောင်းပြည်ဟု တွင်၏။ ထိုအဘိရာဇာ မင်းနတ်ပြည်စံတော်မူလျှင် သားတော်ကံရာဇာကြီး၊ ညီတော်ကံရာဇာငယ် မင်းညီနောင်နှစ်ပါးတို့ နန်းလုကြရာ အမတ်ပညာရှိတို့က အရှင်သားတို့၊ ရန်စစ်ကြီးဖြစ်ကြလျှင် ပြည်သူသတ္တဝါအပေါင်းတို့ သေကြေပျက်စီးခြင်း ဖြစ်လတ္တံ့သည်။ ရန်စစ်ထိုးတော်မမူကြပါလင့်။ ကုသိုလ်စစ်ကို ထိုးတော်မူကြပါဟုဆိုကြလေသော် မင်းညီနောင်နှစ်ယောက်တို့လည်း အသို့ကုသိုလ်စစ်ကို ထိုးရအံ့နည်းဟုမေးလေသော် အရှင်သားတို့၊ အလျှုမဏ္ဍပ်ကြီးနှင့် ဘုရားတဆူစီ တယောက်တယောက် လျှင် တည၌ခြင်းတွင် ဆောက်လုပ်တည်တော်မူကြပါ။ ဆောက်လုပ်တည်တော်မူ၍ အလျင်ပြီးသောသူသည် ခမည်းတော်အရာကိုခံယူ၍ မင်းပြုတော်မူပါဟု အမတ်ပညာရှိတို့ လျှောက်ကြလေကုန်၏။ မင်းညီနောင်တို့လည်း ကောင်းပြီဟုဝန်ခံပြီးလျှင် တောင် တယောက် တလုံးစီယူ၍ အလှူမဏ္ဍပ်နှင့်ဘုရားတည်အံ့သောငှာ စီရင်ကြကုန်၏။ ယင်းသောအခါ နောင်တော် ကံရာဇာကြီးမှာမူကား သစ်ကြီး ဝါးကြီး ကျောက်ကြီးတို့ဖြင့် စီရင်လေသောကြောင့် မပြီးစီးလေ၊ ညီတော် ကံရာဇာငယ်မူကား သိမ်မွေ့ထိုးထွင်းသောပညာဖြင့် လက်နိုင်ခြေနိုင်သော သစ်ဝါးတို့ဖြင့် မဏ္ဍပ်ကိုဆောက်စေ၍ ဘုရားကိုပြုလုပ်စေပြီးသော် အပေါ်က ဖျာပတ်လျက် ဖျင်ဖြူရစ်၍ ထုံးမွမ်းမံပြီးလျှင် ထီးတင်၍ပြီးလေ၏။ နံနက်မိုးလင်းလျှင်ညီတော်မှာ အလှူမဏ္ဍပ်နှင့်တကွ ဘုရားပြီး၍ ထီးနှင့်ဖွေးဖွေးဖြူပြီးလေသည်ကိုမြင်လေလျှင် နောင်တော် ကံရာဇာကြီးသည် ငါ့ညီကား ဘုန်းပညာနှင့်ပြည့်စုံလှပေသည်ဟု ညီတော်အား ထီးနန်းကိုအပ်နှင်းခဲ့၍ မိမိအလုံးအရင်းကိုယူ၍ ဧရာဝတီမြစ်ကိုစုန်ခဲ့ပြီးလျှင် ချင်းတွင်းမြစ်ကိုဆန်၍ ကလေးတောင်ညိုကို ရာဇဂြိုဟ်သမုတ်၍ ခြောက်လစံတော်မူ၏။ ထိုအခါ ပြူတို့က မင်းလျာတောင်းသဖြင့် သားတော် မုဒုစဏ္ဍ မင်းသားကို ပြူတို့အရပ်ဝယ် မင်းပြုစေပြီးလျှင် ဖိုးခေါင်တောင်ကို ကျော်၍ လာတော်မူခဲ့လေသည်။ ဤသည်ကား ရာဇဝင်ဟောင်းအလိုတည်း။ (ဆရာမည် ရာဇဝင်၌ကား ပြုလုပ်သည်ကာလမဏ္ဍပ်ပြီးသည့်အခါ စေတီဖြစ်ကြောင်းနှင့် ဆိုလေသည်။ မြန်မာတို့၏မှန်နန်းရာဇဝင်နှင့် ၎င်းရာဇဝင်ကိုအမှီပြု၍ ရေးသားဟန်ရှိသော အချို့ရာဇဝင်သစ်၌ မလျှုမဏ္ဍပ်ဆောက်လုပ်ကြကြောင်းသာပါသည်။ ဘုရားတည်ကြောင်း မပါလေ။ ယင်းသို့ ဘုရားတည်ကြောင်း မပါပဲလျက် သစ်ငယ်ဝါးငယ်တို့ဖြင့်စီရင်ပြီးလျှင် ပုဆိုးဖြူလွှမ်းလျက် ထုံးဖွေးဖွေးဖွပ်၍ ပြီးလေ၏ဟူ၍ မဏ္ဍပ်ကို ပုဆိုးဖြူလွှမ်းလျက် ထုံးဖွပ်လေသကဲ့သို့ ဆိုသောစကားသည် ရှေ့သွားနောက်လိုက် ကိုက်ညီမည်မထင်လေ။ သာသနာပဖြစ်၍ ဘုရားတည်နိုင်ရန်မရှိ သဘောရ၍ ချန်ထားကြဟန်တူလေသည်။ သာသနာပ၌စေတီတည်၍ ကိုးကွယ်ကြဘူးသည်မှာ ဗာရာဏသီမင်းသည် ဘုရားလောင်း မဟာကပိ မျောက်မင်း၏သချိုင်း၌တဆူ၊ မြို့၌ မျောက်မင်း၏ဦးခေါင်းခွံကိုဌပနာ၍ တဆူတည်ထားပူဇော်ကိုးကွယ်ဖူးကြောင်းကို သတ္တနိပါတ်၊ မဟာကပိဇာတ်၌ဆိုသည်။ သီဝလိဒေဝီသည် ဘုရားလောင်းတောသို့ဝင်၍မမြင်လျှင် ပူပင်ခြင်းဖြစ်ပြီးနောက် ဘုရားလောင်းရပ်တော်မူရာ၌ စေတီတဆူ၊ ထူဏမြို့နားတွင် လေးသမားနှင့် စကားပြောရာ၌ စေတီတဆူ၊ သတို့သမီးနှင့် စကားပြောရာ၌ စေတီတဆူ၊ ပုံသုကူ အမဲကင်ကို ဘုဉ်းပေးရာ၌ စေတီတဆူ၊ ထိုနောက် မိဂါဇိန်ရှင်ရသေ့နှင့်စကားပြောရာ၌ စေတီတဆူ၊ နာရဒရှင်ရသေ့နှင့် စကားပြောရာ၌ စေတီတဆူ၊ ခရီးလမ်းတွင် ဗီလာဖြတ်အရေးသားရာ၌ စေတီတဆူ၊ နိုးသူတို့ထသည် မိဘုရားလျှောက်ရာ၌ စေတီတဆူ၊ မိးလောင်ကြောင်းကိုလျှောက်ရာ မြို့တွင်း၌ စေတီတဆူ တို့ကိုတည်စေ၍ ပန်းနံ့သာစသည်ဖြင့် ပူဇော်လျက် မိမိလာပြည်သို့ပြန်လာကြောင်းနှင့် မဟာဇနကဇာတ်တော်

ကြီး၌ဆိုသည်။ ဤသည်ဝတ္ထုများကိုထောက်ဆ၍ သာသနာပအခါ၌လည်း စေတီဘုရားတည်ထား ပြုလုပ် ပူဇော်ကြသော အလေ့အလာရှိသည်ပင်မှတ်ရမည်။ နောက်ပါမိုလ်ခြေကိုဆိုရာ၌ကား ဆယ်ကုဋေမျှလောက် ရှဲမက်မိုလ်ခြေပါကြောင်းနှင့်ရာဇဝင်ဟောင်း၊ ဆရာမေညိ ရာဇဝင်တို့၌ဆိုသည်။ ရာဇဝင်သစ်၌ကား ဆယ်ကုဋေ မကပါကြောင်းနှင့်ဆိုသေးသည်။ များအံ့ထင်၍မှန်နန်း ရာဇဝင်အတိုင်း မိမိအလုံးအရင်းကိုယူ၍ ဧရာဝတီမြစ်ကို စုန်လာကြောင်းနှင့် ရေးလိုက်သည်။ ဤသည်ကား အမှာ စကားချပ်)။

ယင်းသို့ ဖိုးခေါင်တောင်ကို ကျော်၍လာခဲ့ရာ ဂန္ဓာလရာဇ် နတ်မင်းကြီး၏သမီး စောပဥ္စနာရီမင်းသမီးကို ရခဲ့၍ အစဉ်အတိုင်းလာလတ်ပြီးသော် မိချောင်းအဖျား ကျောက်ပန်းတောင်းတောင်ထိပ်ဝယ် မြို့ကြီးသာယာစွာ တည်၍ ရတနာပြဿဒ်ခုနစ်ဆောင်၊ ရတနာတန်းဆောင်း ခုနစ်ဆောင်ဆောက်လျက် စောပဥ္စနာရီမိဘုရားနှင့် သက္ကရာဇ် ၇၈၁၃ ခုတွင် မင်း၏စည်းစိမ်ကိုခံစားတော်မူ၏။ ထိုအခါဝယ် အထက်က မင်းငယ်ပျော်လုစည်သူကို ကျွန်သုံးယောက်ပုန်စားသဖြင့် မိဘုရားဓောစစ်သည် သမီးတော်အကြီးသုနန္ဒရီ၊ သမီးတော်အငယ် ဖွားတော်သွေး တို့နှင့် နီလာပန်းတောင်းမြို့၌ နေနှင့်ရှိလေသည်ကို ကံရာဇာမင်းကြီးကြားတော်မူလေလျှင် မင်းကိုယ်တိုင် သွားရောက်ဆောင်ယူတော်မူ၍ မယ်တော်ဓောစစ်ကို ယောက္ခမအရာ၌ထားတော်မူ၏။ ကံရာဇာမင်းကြီးအား စောပဥ္စနာရီနှင့်သော် မိဘုရားသုံးယောက်ဖြစ်သတည်း။ ထိုကံရာဇာမင်းကြီးကား ကျောက်ပန်းတောင်းမြို့ဝယ် ၂၄၊ နှစ်ဆဲ့လေးနှစ် စံနေတော်မူပြီးမှ စောပဥ္စနာရီ နတ်မင်းသမီး သည် တောင်ဘက်အရပ်၌ ကွင်းပြင်သာယာရှိသည်ကို မြင်၍ အရှင်မင်းကြီး၊ ဤတောင်ထိပ်တွင် နေတော်မူသည် ထက် တောင်ဘက် ကွင်းပြင်သာယာသောအရပ်၌ မြို့ကြီးတည်ထောင်ပြုစု၍နေရသော် သင့်လျော်မည် ထင်ပါကြောင်းနှင့်လျှောက်ထားလေလျှင် ကံရာဇာမင်းကြီး ၎င်း၏ဟု ကျောက်ပန်းတောင်းမြို့မှ ထွက်ခွာ၍ သိရိဂုတ်အရပ်ဝယ် မြို့ကြီးသာယာစွာ တည်တော်မူသည်။ ထိုအခါဝယ် ကြမ်းကြုတ်သောမြေ ဖြစ်သောကြောင့်၎င်း။ သဗ္ဗညုမြတ်စွာဘုရား၏ ရုပ်တုတော်ဖြစ်သော မဟာမုနိရုပ်ရှင်တော်ကို တည်ထားတော်မူလတ္တံ့သော အရပ်ဌာနဖြစ်သောကြောင့်၎င်း။ ဆင်၊မြင်း၊ လူသူတို့သည် သေကြေပျက်စီးခြင်းများသည်ဖြစ်၍ မြေ၏ အဆင်း သဏ္ဌာန်ကို တူးဖြို၍ကြည့်သည်ရှိသော် ၃၂ တောင်၊ သုံးဆဲ့နှစ်တောင်မျှလောက်သော မြေအောက်၌ လက်ယာရစ်လှည့်၍ ဖြူလှစွာသော အဆင်းဖြင့် နဂါးရုပ်သဏ္ဌာန်ကို မြင်လေ၏။ ထိုအခါ နတ်မျက်စိ အမြင်ကို အစိုးရသောဟူးရားတတ်တို့က သဗ္ဗညု မြတ်စွာဘုရား၏ ရုပ်တုတော်ဖြစ်သော မဟာမုနိဘုရားကို တည်ထားတော်မူလတ္တံ့သော အရပ်ဌာနဖြစ်သောကြောင့် ဆင်၊မြင်း၊လူသူတို့ သေကြေပျက်စီးကြပါသည်ဟု မင်းကြီးအားလျှောက်ထားလေလျှင် မြို့ရာအသစ်ကို ရှာအံ့ဟု ကြံစည်တော်မူစဉ် သိကြားမင်းသည် အိပ်မက် ဖြင့် ညွှန်ပြသောကြောင့် ဓညဝတီမြို့ဟောင်းရာတွင် တည်အံ့ဟုသွားလေလျှင် သိကြားမင်းသည် ကောင်းကင် က သက်တန့်ဝန်းဖြင့်ပြ၍ မြို့ကောင်းမွန်စွာတည်လိုလျှင် ဤသက်တန့်ဝန်းပြရာ အရပ်အောက်၌တည်လေဟု သိကြားမင်းပြသည့်အတိုင်း ဒုတိယဓညဝတီမြို့ကြီးကို သက္ကရာဇ် ၇၈၃၇ ခုတွင် တည်ထောင်စီမံ၍ စိုးစံတော်မူ ၏။ (ဤအရာတွင် ဆရာမေညိရာဇဝင်တို့၌ မြေကိုတူး၍ ကြည့်သော် သုံးဆယ်ခုနစ်တောင်အောက်မှ နဂါးရုပ် သဏ္ဌာန် တွေ့ကြောင်း။ သိထင်အောင်ဝန်း၍ မြို့တည်ရာ ကိုပြကြောင်းတို့နှင့် ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင် တို့နှင့် မညီမညွတ်ဆိုကြလေသည်။ သက်တန့်ဆိုသည်မှာ ငါတို့ရခိုင်အခေါ် သတင်းရေသောက်ကိုဆိုသည်။ ထိုသတင်းရေသောက်အဝန်းဖြင့် ပြသည်ဟုဆိုလိုသည်။ ကျမ်းဂန်အလို ဣန္ဒဓနူ=သိကြားမင်းလေးဟူ၍ ဆိုသည်။ ဤကား စကားချပ်)။

မြို့တော်ကြီးကို တည်သောအခါ ဇမ္ဗူဒီပါကျွန်း အပြင်မှ ခိုဝင်စားသော မင်းများအပေါင်းတို့ တာဝန်းချ၍ လုပ်ကြသောကြောင့်ငှင်း၊ နဂါး၊ ဂဠုန်၊ ကုမ္ဘဏ် အပေါင်းတို့သည်လည်း တာဝန်းချ၍ လုပ်ကြလေသော ကြောင့်ငှင်း။ တန္တေနှင့် တန်နက်အတွင်းဝယ် မြို့၊ပြ၊ ကျုံး၊မြောင်း၊ ပဝွင်၊ ရင်တား၊ ဥယျာဉ်၊ ရေကန်စသော မြို့၏အင်္ဂါနှင့် ညီညာပြီးမြောက်လေသတည်း။ ထို ကံရာဇာမင်းကြီးသည် ဘုန်းတန်ခိုး အာနုဘော်ရှိန်စော် တောက်ပ၍ နေ၊လကဲ့သို့ ထွန်းလင်းသောကြောင့် ဇမ္ဗူဒိပ်ကျွန်းအပြင်၌ ပြည်ထောင်ချင်း မင်းအပေါင်းတို့ သည် ညွတ်ပျောင်း ကြောက်ရွံ့ထိတ်လန့် ရှိသေစွာ ပဏ္ဏာလက်ဆောင် အတုတ်အခွန်တို့ကို နှစ်စဉ်မပျက် ပို့ဆက်လာကြကုန်၏။ သေဒ္ဓေး သေကြွယ်၊ ကျိုကြ ဘဏ္ဍာတို့သည် များစွာပြည့်ဖြိုးသာယာသဖြင့် စည်ပင်စွာ ရှိကုန်၏။ ထိုမင်း၏မိဘုရား နတ်သမီး စောပဋ္ဌနာရီတွင် သီလရာဇာဟူသောသားတော် တယောက် ဖွားမြင်တော် မူသည်။ မိဘုရားသုနန္ဒရှိ၌ကား သားသမီးဖွားမြင်တော် မမူလေ။ ဖွားတော်သွေး မိဘုရားတွင်မူကား သုဝဏ္ဏာ ဟူသော သမီးတော်တယောက်၊ သုပဘာဟူသော သမီးတယောက်အားဖြင့် နှစ်ယောက်ရှိတော်မူသည်။ ခမည်းတော် ကံရာဇာမင်းကြီးသည် နတ်သမီး စောပဋ္ဌနာရီ တွင် ဖွားမြင်တော်မူသော သီလရာဇာ သားတော်နှင့် မိဘုရားဖွားတော်သွေးတွင် ဖွားမြင်သော သမီးတော် သုဝဏ္ဏာ၊ သုပဘာနှစ်ယောက်တို့ကို ထိမ်းမြားပြီးသော အိမ်ရှေ့အရာကိုပေးတော်မူ၏။ ကံရာဇာမင်းကြီးသည် အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ၊ ကျောက်ပန်းတောင်း မြို့၌ ၂၄၊ နှစ်ဆဲ့လေးနှစ်။ ဓညဝတီမြို့တွင် ၁၃၊ တဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၇၃၊ ခုနစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၈၅၀ တွင် လွန်တော်မူလေသည်။၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သီလ ရာဇာမင်းသားသည် အဘတူ အမိကွဲဖြစ်သော နှမတော် သုဝဏ္ဏာ၊ သုပဘာဟူသော မင်းသမီးနှစ်ယောက်တို့နှင့် သက္ကရာဇ် ၇၈၅၀ တွင် ပြည်စည်းစိမ်ကို စိုးအုပ်တော် မူလေ၏။ ထိုမင်းကား ကုသိုလ်ကောင်းမှု၌ အလွန် မွေ့လျော်၏။ ကင်းခွန်၊ ရေခွန်တို့ကို လျှော့ပေါ့၍ ကောက်သောကြောင့် တိုင်းပြည်ဝယ် အမျိုးလေးပါးတို့ သည် လမင်း၏အရိပ်တွင် နေရဘိသကဲ့သို့ အလွန် ငြိမ်းချမ်း သာယာဝပြောစည်ပင်စွာရှိ၏။ အရိပ်အသီး အရသာနှင့်ပြည့်စုံသော နတ်ဥယျာဉ်ကြီးသည် ကျေးငှက် အပေါင်းတို့၏ မှီခိုစားသောက်ရာဖြစ်သကဲ့သို့ အရပ် ရှစ်မျက်နှာတို့မှ ရောက်လာသောသူတို့၏ မှီခိုကိုးကွယ်ရာ လည်း ဖြစ်တော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆယ့် သုံးနှစ်။ နန်းစံ၄၁၊ လေးဆဲ့တနှစ်။ နှစ်စု သက်တော် ၆၄၊ ခြောက် ဆဲ့လေးနှစ်။ သက္ကရာဇ် ၇၈၉၁ ခုတွင် နတ်ပြည်စံတော်မူလေသည်။၂။

ထိုမင်းနတ်ပြည်စံတော်မူလေလျှင် သားတော် ဝါသုရသည် နန္ဒာပီမည်သော မျောက်သားတော်နှင့် သက္ကရာဇ် ၇၈၉၁ ခုတွင် အဘရိပ်ရာ ထီးနန်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား ဘုန်းတန်းခိုးလက်ရုံး အာဏာနှင့် ပြည့်စုံတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်၊ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၁၊ ငါးဆဲ့တနှစ်။ သက္ကရာဇ် ၇၉၂၂ ခုတွင် လွန်တော် မူလေသည်။၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် နန္ဒသူရိယသည် ဂန္ဒာပီမည်သော မျောက်သားတော်နှင့် သက္ကရာဇ် ၇၉၂၂ ခုတွင်မင်း၏စည်းစိမ်ကို စိုးအုပ်တော် မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်၊ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၆၂၊ ခြောက်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၉၆၂ ခုတွင် လွန်တော်မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယနန္ဒသည် နောပီဟူသော မိဘုရားနှင့် သက္ကရာဇ် ၇၉၆၂ ခုတွင် ထီးနန်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်း၏တန်းခိုး သတင်းသည် ပွင့်လင်းထင်ပေါ် ကျော်စောခြင်းရှိ၏။ ကုသိုလ်ကောင်းမှု၌ အလွန်မွေ့လျော်

၏။ မြတ်နိုးစုံမက်ခြင်းရှိ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၃၂၊ သုံးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၂၊ ခြောက်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၉၉၄ ခုတွင် လူ့ပြည်ငြိုး၍ နတ်ထီးစံတော်မူလေသည်။ ၅။

ထိုမင်း နတ်ပြည်စံတော်မူလေလျှင် သားတော် သူရနန္ဒသည် သုပဘာမည်သော နမတော်နှင့် သက္ကရာဇ် ၇၉၉၄ ခုတွင် ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းသည် အလွန်အဆင်းလှ၏။ လေးအတတ်၊ သန်လျက်၊ ဒါး၊ လှံအတတ်တို့၌လည်း အလွန်ကျွမ်းကျင်လိမ္မာ၏။ ပြည်သူတို့၏အကျိုးစီးပွားကိုကား စောင့်ရှောက်ခြင်းမရှိ၊ သတိမေ့လျော့ခြင်းလွန်၏။ ပျော်ရွှင်ကစားခြင်း၌ လိုလား၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၆၃၊ ခြောက်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၈၀၁၇ ခုတွင်လွန်တော်မူလေသည်။

ထိုမင်းလွန်တော်မူလေလျှင် သားတော်စန္ဒမာရသည် စန္ဒရာသီမည်သော နမတော်ရင်းနှင့် သက္ကရာဇ် ၈၀၁၇ ခုတွင် ပြည်၏စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၃၂၊ သုံးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၂၊ ခြောက်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၈၀၄၉ ခုတွင် လွန်တော်မူလေသည်။ ၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သီရိစန္ဒာမင်းသည် မိဘုရားရမ္မာပီနှင့် သက္ကရာဇ် ၈၀၄၉ ခုတွင် အဖစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် အမျိုးလေးပါးတို့၏စီးပွားချမ်းသာကိုဆောင်ပေ၏။ ဒါန, သီလစသော ကုသိုလ်ကောင်းမှုကို ပြုစုအားထုတ်တော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၃၅၊ သုံးဆဲ့ငါးနှစ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၇၅၊ ခုနစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၈၀၈၉ ခုတွင် နတ်ပြည်စံတော်မူလေသည်။ ၈။

ထိုမင်း နတ်ပြည်စံတော်မူလေလျှင် သားတော် သီဟရာဇာမင်းသည် ဝါသုစာပီဟူသော မင်းသမီးနှင့် သက္ကရာဇ် ၈၀၈၉ ခုတွင်အဘိသိက်ခံ၍ ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၄၆၊ လေးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၇၃၊ ခုနစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၈၁၃၅ ခုတွင် လွန်တော်မူလေသည်။၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သီဟဟနုမင်းသည် ဓမ္မာပီမည်သော မျောက်သားတော်နှင့် သက္ကရာဇ် ၈၁၃၅ ခုတွင် မင်း၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၂၀၊ နှစ်ဆယ်။ နှစ်စုသက်တော် ၃၈၊ သုံးဆဲ့ ရှစ်နှစ်။ သက္ကရာဇ် ၈၁၅၅ ခုတွင်လွန်တော်မူလေသည်။ ၁၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ပယာကသည် မျောက်သားတော်ရင်းဖြစ်သော ရောဟနန္ဒီနှင့် သက္ကရာဇ် ၈၁၅၅ ခုတွင် ရွှေထီးရွှေနန်းကို စံမြန်းအုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၁၊ ငါးဆဲ့တနှစ်။ သက္ကရာဇ် ၈၁၈၆ ခုတွင် လွန်တော်မူလေသည်။၁၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် နိလဂုဏ်သည် နမတော်ရင်းဖြစ်သော စောမနာနှင့် သက္ကရာဇ် ၈၁၈၆ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် ဆင်အတတ်ကို အလွန်တတ်လှစွာ၏။ ထိုမင်းလက်ထက် ဆင်လည်းရှေးမင်းတို့လက်ထက်ကထက်အလွန် များပြားစွာ၏။ ဆင်ဖြူတော်လေးစီးရတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်၊ နန်းစံ ၄၁၊ လေးဆဲ့တနှစ်။ နှစ်စု သက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၈၂၂၇ ခုတွင် လွန်တော်မူလေသည်။ ၁၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ရောဟဂုဏ်သည် မိဘုရားရောဟဏီနှင့် သက္ကရာဇ် ၈၂၂၇ ခုတွင် ခမည်းတော်အရာကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် အဋ္ဌာရသအတတ်တို့ကို အလွန်လျှင်နလုံးသွင်းလေ့ရှိ၏။ ထိုမင်းကား အိမ်နိမ့် ၃၈၊ သုံးဆဲ့ရှစ်နှစ်။ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၆၈၊

ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၈၂၅၇ ခုတွင် လွန်တော်မူလေသည်။ ၁၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သိရိဂုဏ်သည် သမာဝိမည်သော မင်းသမီးနှင့်သက္ကရာဇ် ၈၂၅၇ ခုတွင် အဘိသိက်ခံ၍ မင်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၂၄၊ နှစ်ဆဲ့လေးနှစ်။ နှစ်စုသက်တော် ၄၄၊ လေးဆဲ့လေးနှစ်။ သက္ကရာဇ် ၈၂၈၁ ခုတွင် လွန်တော်မူလေသည်။၁၄။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏တူတော် သမ်ဇာသည် မင်းသမီးစန္ဒာဝီနှင့် သက္ကရာဇ် ၈၂၈၁ ခုတွင် ဦးရီးတော် စည်းစိမ်ဖြစ်သောထီးနန်းကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ ကိုးနှစ်။ နန်းစံ၃၅၊ သုံးဆဲ့ငါးနှစ်၊ နှစ်စုသက်တော် ၅၄၊ ငါးဆဲ့လေးနှစ်။ သက္ကရာဇ် ၈၃၁၆ ခုတွင် လွန်တော်မူလေသည်။ ၁၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သုဝဏ္ဏကုမ္မာသည် မျောက်သားတော် ဝါသဝါနှင့်သက္ကရာဇ် ၈၃၁၆ ခုတွင် အဖ၏အရိပ်အရာဖြစ်သော ထီးနန်းတိုင်းပြည်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် လေး, သံလျက်အတတ်၊ စောင်းအတတ်တို့၌အလွန်လျှင် လိမ္မာတတ်ကျွမ်း၏။ စစ်မက်၌လည်း အလွန်ကြူးသောကြောင့် ပြည်သူတို့ မနှစ်သက်လေကုန်။ ထိုမင်းကား အိမ်နိမ့် ၃၃၊ သုံးဆဲ့ သုံးနှစ်။နန်းစံ ၂၀၊ နှစ်ဆယ်၊ နှစ်စုသက်တော် ၅၃၊ ငါးဆဲ့သုံးနှစ်။ သက္ကရာဇ် ၈၃၃၆ ခုတွင် လွန်တော်မူလေသည်။၁၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သက်တင်ဖြူသည် သိရိကုမ္မာရီမည်သော နှမတော်နှင့် သက္ကရာဇ် ၈၃၃၆ ခုတွင် မင်းအဖြစ်သို့ ရောက်တော်မူလေ၏။ ထိုမင်းသည် အမျိုးလေးပါးတို့၏ စီးပွားချမ်းသာကို ရွက်ဆောင်ကြည့်ရှု၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၈၃၇၆ ခုတွင် လွန်တော်မူလေသည်။ ၁၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သက်တင်ဦးသည် မျောက်သားတော် မာလာရီနှင့် သက္ကရာဇ် ၈၃၇၆ ခုတွင် ခမည်းတော်ထီးနန်းကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆဲ့ တနှစ်။ နန်းစံ ၄၂၊ လေးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၃၊ ခြောက်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၈၄၁၈ ခုတွင် လွန်တော်မူလေသည်။ ၁၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဓေတဝန်သည် မင်းသမီးလက္ခဏာရီနှင့်သက္ကရာဇ် ၈၄၁၈ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၇၆၊ ခုနှစ်ဆယ့်ခြောက်။ သက္ကရာဇ် ၈၄၅၄ ခုတွင် လွန်တော်မူလေသည်။၁၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မုဋ္ဌိယသည် မင်းသမီးသီတာရီနှင့် သက္ကရာဇ် ၈၄၅၄ ခုတွင် အဘိသိက်ခံ၍ အဘစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၄၊ သုံးဆဲ့လေးနှစ်။ နန်းစံ ၂၇၊ နှစ်ဆဲ့ ခုနစ်နှစ်။ နှစ်စုသက်တော် ၆၁၊ ခြောက်ဆဲ့တနှစ်။ သက္ကရာဇ် ၈၄၈၁ ခုတွင် လွန်တော်မူလေသည်။၂၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကုမ္မာရဝိသုကသည် မိဘုရားရွှေစင်ကြန်နှင့် သက္ကရာဇ် ၈၄၈၁ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းမိဘုရား နှစ်ပါးတို့သည် တရံမျှမလတ် ပဥ္စသီသီတင်းကို အမြဲဆောက်တည်၍ ဒါနတည်းဟူသော အလှူပေးခြင်း၌၎င်း၊ စာဂတည်းဟူသော စွန့်ကြဲခြင်း၌၎င်း၊ အလွန်မွေ့လျော်သောကြောင့် မင်းဘဏ္ဍာ ကျီကျဝယ် ကုန်ခန်းလှုမတတ်အောင်လျှင် လှူဒါန်းစွန့်ကြဲတော်မူကြကုန်၏။ ထိုမင်းကား အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၇၇၊ ခုနှစ် ဆဲ့ခုနစ်နှစ်။ နှစ်စုသက်တော် ၁၀၂၊

တရှာနှစ်နှစ်။ သက္ကရာဇ် ၈၅၅ ခုတွင် နတ်ရွာစံတော်မူလေသည်။၂၀။ (ဤကုမ္မာရဝိသုက မင်း၏နန်းစံကို အင်းစောက်ရာဇဝင်တစောင်၌ ၈၇၊ တစောင်၌ ၈၂ ဟူ၍ဆိုသည်။ ဓညဝတီအရေးတော်ပုံ၌ ၂၂ ဟူ၍ဆိုသည်။ ရာဇဝင်ဟောင်း၊ ဆရာမည်ရာဇဝင်တို့၌ ၈၇ ဟူ၍ဆိုပြလေသည်။ ရှေးနောက်နန်းစံကိုထောက်၍ ၇၇၊ ခုနစ်ဆဲ့ခုနစ်နှစ် ရေးလိုက်သည်)။ ။

ထိုမင်း နတ်ရွာစံတော်မူလေလျှင် သားတော်ဝါသုမဏ္ဍလသည် နမတော်မည္ဟုနာရီနှင့်သက္ကရာဇ် ၈၅၅ ခုတွင် အဘစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၂၊ လေးဆဲ့နှစ်နှစ်။ နန်းစံ ၃၄၊ သုံးဆဲ့ လေးနှစ်။ နှစ်စုသက်တော် ၇၆၊ ခုနစ်ဆယ့်ခြောက်နှစ်။ သက္ကရာဇ် ၈၅၉၂ ခုတွင် လွန်တော်မူလေသည်။၂၂။

ထိုမင်း လွန်တော်မူလေလျှင် သားတော်ပူရိန္ဒသည် မြောက်သားတော် ဂင်္ဂါယဉ်နှင့်သက္ကရာဇ် ၈၅၉၂ ခုတွင် မင်း၏စည်းစိမ်ကို စိုးအုပ်လေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၈၆၂၃ခုတွင် လွန်တော်မူလေသည်။ ၂၃။

ထိုမင်းလွန်တော်မူလေလျှင် ညီတော်ရာလမာယုသည် မရီးတော် ဂင်္ဂါယဉ်နှင့်ပင် သက္ကရာဇ် ၈၆၂၃ ခုတွင် နောင်တော်၏ရိပ်ရာကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၄၊ ငါးဆဲ့ လေးနှစ်။ သက္ကရာဇ် ၈၆၄၅ ခုတွင် လွန်တော်မူလေသည်။ ၂၄။ (ဤရာလမာယုမင်း လက်ထက် သက္ကရာဇ် ၈၆၄၅ ခုပြည့်လေသည်နှင့် ဘုရားဘိုးတော် အဒ္ဓုနမင်းကြီးသည် ထို ၈၆၄၅ သက္ကရာဇ်ကို "ဏ၊ ဝ၊ စ၊ န္တေ"ကိန်း ဟူသောအမည်ကို ဖြို့တော်မူလေသည်။ ။ ရာလမာယုမင်းနှင့် အဒ္ဓုနမင်းကြီး နန်းပြိုင်စိုးစံတော်မူသော ကာလကြုံလေသည်ဟုယူသင့်သည်။ ဤသည်ကား "ဏ၊ ဝ၊ စ၊ န္တေ"ကိန်းကိုဖြို့သည့် အကြောင်းတည်း)။

ထိုရာလမာယုမင်း လွန်တော်မူလေလျှင် သားတော်နာလမာယုမင်းသည် မြောက်သားတော် သဝဇ္ဈီနှင့် သက္ကရာဇ် ၂ ခု၊ နှစ်ခုအစ၌ မွေးဘရိပ်ရာဖြစ်သော ပြည်စည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၇၊ ငါးဆဲ့ ခုနစ်နှစ်။ သက္ကရာဇ် ၃၃ ခုတွင် လွန်တော်မူလေသည်။ ၂၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဝရဇာကုန်သည် မြောက်သားတော် သမာဓိနှင့်သက္ကရာဇ် ၃၃ ခုတွင် ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၀၊ ငါးဆယ်။ သက္ကရာဇ် ၅၅ ခုတွင် လွန်တော်မူလေသည်။ ၂၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဝိသုရာဇာသည် မြောက်သားတော် ကာနာသူနှင့် သက္ကရာဇ် ၅၅ ခုတွင် မင်းစည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၁၂၊ တဆဲ့ နှစ်နှစ်။ နှစ်စုသက်တော် ၃၉၊ သုံးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၆၇ ခုတွင် လွန်တော်မူလေသည်။ ၂၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သီရိရာဇာမင်းသည် သက်တော် ၂၂၊ နှစ်ဆဲ့နှစ်နှစ်မြောက်ဝယ် ကုမ္မာရံဟူသော မင်းသမီးနှင့်သက္ကရာဇ် ၆၇ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းဝယ်ဖြစ်သော သားတော်သည် သက္ကရာဇ် ၇၂ ခု၊ ပြာသိုလပြည့်၊ ပုဏ္ဏမာသီနေ့၌ နေဝင်လူဆဲဆဲ လပေါ်သစ်ရဲရဲတွင် ဖွားမြင်တော်မူသောကြောင့် စန္ဒသူရိယဟူသော အမည်ကို မှည့်တော်မူ၏။ ထိုမင်းသားကား ဘုန်းတန်းခိုးအာဏာစက်သည် ထွန်းပကုန်၏။ ထိုမင်းသား၏ ခမည်းတော် သီရိရာဇာမင်းကြီးသည် အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်၊ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၅၂၊ ငါးဆဲ့နှစ်နှစ်၊ သက္ကရာဇ် ၉၇ ခုတွင် လွန်တော်မူလေ၏။ ၂၈။

(ဤသည်ကား ရာဇဝင်ဟောင်းနှင့် ဆရာမေည် ရာဇဝင်တို့အဆိုတည်း။ ဓညဝတီအရေးတော်ပုံ၌ကား။ ။ သာကီဝင်မင်းမျိုး မင်းသီရိရာဇာသည် စက်တော်ခေါ်ရာ၌ နေ့,လကိုဆွတ်ယူ၍ မိဘုရားကြီး ဝိမလာဒေဝီကုမ္မာရီသို့ ပေးမက်တော်မူလေသော် မင်းပွဲခံရာ၌ မှူးမတ်တို့သို့ အိပ်မက်ကိုပြန်တော်မူလေရာ ယင်းသောအခါ အမတ်တော် မင်းတုန်းစား ဝိမလအမတ်၊ ပြောင်းပြာစားဒေဝကျော်တို့ လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ သူရိယ-နေကိုသာ ဆွတ်ယူ၍ပေးတော်မူလေသော် ဘုန်းအာဏာ ကြက်သရေ တောက်ထွန်းသော သားတော်ဖွားမြင်ရာသည်။ စန္ဒရာ- လကိုဆွတ်ယူလျက်ပေးမက်လျှင်လည်း စကြာမန္ဒာတ် မင်းနှင့်ထိုက်တန်သော သမီးတော်ဖွားမြင်ရာသည် အမှန် ဖြစ်ပါသည်။ ယင်းသို့ ရှေးထုံးဟောင်းလာရှိပါသည်။ ယခုထင်မြင်တော်မူသော အိပ်မက်တော်တွင် နေ့,လအစုံကို ဆွတ်ယူတော်မူ၍ မိဘုရားကြီးသို့ပေးတော်မူသည့်အလို ဇမ္ဗူဒီပါကျွန်း၌ အဘက်မရှိအောင် ဘုန်းရောင်ထွန်းလင်း အမင်းမင်းတို့ ဦးညွှတ်လာရသောသားတော်မြတ်ကို ဖွားမြင်တော်မူပါမည်။ လရောင်ပမာ၊ ချမ်းအေးစွာ၊ သတ္တဝါတို့၏ အထွတ်အထိပ်ဖြစ်တော်မူသော ဘုရားလောင်းဓမ္မတာ၊ ဝိဇ္ဇာပွင့်၍ သားတော်နှင့် တွေ့ကြုံ တော်မူရမည် အမှန်ဖြစ်ပါကြောင်း၊ မဟာမင်္ဂလာကြီး မြင်မက်သော အိပ်မက်ဖြစ်တော်မူပါသည်ဟု ပညာရှိ အမတ်တို့လျှောက်လေသော် ပြည့်ရှင်မင်းက တထောင် တန်သော ပတ္တမြားလက်စွပ်တကွင်း၊ ဆင်ပေါက်တစီး ဆုပေးတော်မူလေသည်။ ထိုမင်းသားကို ဖွားမြင်တော် မူသောအခါ၌လည်း ကြယ်ဥပါ သပိတ်လုံးခန့် အနောက် အရပ်က ပျံလာ၍ နန်းတော်အထွဋ် ပြာသာဒ်အတွင်း၌ ကျလာရာ ထိုအကြောင်းကို အမတ်ပညာရှိ မင်းတုန်းစား ဝိမလလျှောက်သော ထုံးသည်ကား။ အရှင်မင်းမြတ်၊ ဥပါကြယ်ကြီးသည် အနောက်မျက်နှာက ပျံလာလျက် နန်းတော်ပြာသာဒ်မှာ ထွန်းလင်းသည့်အလို သားတော် လက်ထက်၌ ဘုံသုံးပါးတွင် အတုမရှိသော မြတ်စွာဘုရား ကောင်းကင်ခရီးဖြင့် မဇ္ဈိမဒေသက ပျံကြွတော်မူခဲ့၍ ဤရက္ခပူရတိုင်း၊ ဓညဝတီပြည်သို့ ကြွရောက်တော်မူမည့် အကြောင်းကိုပြသော တိတ်နိမိတ် မင်္ဂလာဖြစ်ပါသည်ဟု လျှောက်လေသော် ပြည့်ရှင်မင်းကြီးက စားကျေးတမြို့ ပေးတော်မူလေသည်။ နေနှင့်လကို အကြောင်းပြု၍ သားတော်ကိုလည်း စန္ဒသူရိယဟူသော အမည်ကို ပေးတော်မူလေသည်။ ဟူ၍ဆိုသည်။ ။

အချို့ရာဇဝင်သစ်၌ကား ပညာရှိအမတ် ဒေဝကျော်တို့ လျှောက်ထားအပ်သောစကားကို မိဘုရားကြီးအား ကြားတော်မူ၍ အလှူပေးခြင်း၊ သီတင်းသီလ ဆောက်တည်စေခြင်း၊ ဆုလာဘ်ထိုက်တန် ရာပေးခြင်း၊ မင်းကြီးကိုယ်တိုင် သီလကိုဆောက်တည်၍ မပြတ်အလှူပေးခြင်း၊ သားတော်ဖွားမြင်ကြောင်းကို သံတော်ဦးတင်လျှင် အဘိသိက်ခံခြင်း၊ ထီးဖြူဖွင့်ခြင်း၊ ဥကင်မင်္ဂလာဖွင့်လှစ်ခြင်း၊ တူရိယာမျိုးစုံတီးမှုတ်စေခြင်း၊ ရာဇဝတ်ကောင်များကိုလွှတ်၍ ဘေးမဲ့ပေးခြင်း၊ မင်္ဂလာ ပြုစေခြင်း၊ ပုဏ္ဏားတို့အား မန္တရားတို့ကိုရွတ်စေခြင်း၊ အဘိသိက်မင်္ဂလာပြုစေခြင်း၊ မြို့လေးမျက်နှာ၌ ပွဲသဘင် ခံစေခြင်း၊ သားတော်အားအမည်ပေးအံ့သော မင်္ဂလာ အခါနေ့၌ ပြုဗ္ဗဝိဒေဟကျွန်းမှ နေဝန်းပေါ်ထွက်ခြင်း၊ အပရဂေါယာန ကျွန်းမှ လဝန်းပေါ်ထွက်ခြင်း စသည်ကို အကြောင်းပြု၍ စန္ဒသူရိယဟု နာမတံဆိပ် ခတ်နှိပ် ပေးသနားတော်မူသော အခန်း၊ အနောက်ကျွန်းမှ လဝန်းပေါ်ထွက်လေဟန် ဝေဘန်ချဲ့ထွင်၍စီရင်များပြား ရေးသားပြဆိုလေသည်။ ငါတို့ကား လိုရင်းအဓိပ္ပာယ် ပါလျှင် သင့်တော်ရာဖြစ်ပေပြီဟု မနသိသဘောထား၍ အများအပိုကိုမဆို မထည့်လိုက်ပေသည်။ ။ ဤကား စကားချပ်)။ ။

တကောင်းမင်းရိုး ကျောက်ပန်းတောင်းမြို့တည် ကံရာဇာမင်းကြီးအစ သီရိရာဇာမင်းအဆုံး မင်း၂၈ ဆက် တို့၏ နန်းစံနှစ်ပေါင်း ၉၂၇ နှစ်တည်း။ ဤသည်ကား တကောင်းမင်းရိုး ကျောက်ပန်းတောင်းမြို့တည် ကံရာဇာ

မင်းကြီးအစ သီရိရာဇာမင်းအဆုံး မင်း ၂၈ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားနှင့်တကွ ရေးပြစီရင်အပ်သောအကြောင်းတည်း။

ဤတကောင်းမင်းရိုး ကံရာဇာမင်းကြီးအနွယ် ၂၈ ဆက်တွင် ၂၄ ဆက်မြောက်သော ရာလမာယုမင်း နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်တိုင်ရောက်သည့်အခါ ကောဇာသက္ကရာဇ် ၈၆၄၅ ခုသို့ ပြည့်ရောက်သည်ဖြစ်၍ ဘုရားဘိုးတော် အဥ္ဇနမင်းကြီးသည် ၎င်းသက္ကရာဇ် ၈၆၄၅ ခုကို "ဏ, ဝ, စ, ဧ္ဓ"ကိန်းဟူသောအမည် ဖြင့် ဖြိုခွင်းတော်မူလေသည်နှင့် ပြိုင်လေသည်။ ထိုအခါ ကံရာဇာမင်းကြီး၏အဆက် ၂၄ ဆက်၊ နန်းစံ နှစ်ပေါင်း ၈၃၂၊ ရှစ်ရာ့သုံးဆဲ့နှစ်နှစ်ရှိလေပြီ။ ထိုနောက် နာလ မာယုမင်းနန်းစံ ၃၃၊ သုံးဆဲ့သုံးနှစ်မှစ၍ သီရိရာဇာ မင်းနန်းစံ ၃၀၊ သုံးဆယ်တိုင်အောင် မင်းလေးဆက်၊ နန်းစံနှစ်ပေါင်း ၉၇၊ ကိုးဆဲ့ခုနစ်။ ၎င်း ၉၇ နှစ်သည် စန္ဒသူရိယမင်း နန်းတက်သက္ကရာဇ်ဖြစ်၏။ မြတ်စွာဘုရား သည် ဘိုးတော်အဥ္ဇနမင်း ဖြိုကြွင်းသက္ကရာဇ် ၁၀၃ ခုနှစ်၊ ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့တွင် ဘုရားအဖြစ်သို့ရောက်တော် မူသောကြောင့် ဘုရားမဖြစ်မီတနှစ် သက္ကရာဇ်သည် ၁၀၂ ခုဖြစ်ရကား ၉၇ ခုတွင် ၅၊ ငါးခုရော= ၁၀၂ ဖြစ်၏။ ယခင်ရှေ့၌ပြအပ်သော ၈၃၂ ခုတွင်ရောသော် ၉၃၄ နှစ်ဖြစ်၏။ ဤ ၉၃၄ နှစ်သည် ကံရာဇာမင်းကြီး ကျောက်ပန်းတောင်းမြို့၌ ထီးနန်းစိုးစံတော်မူသည်မှ ငါတို့ မြတ်စွာဘုရား ပွင့်တော်မူသည်တိုင်အောင် နှစ်ပေါင်း အကြာကာလဖြစ်သည်ဟုမှတ်ရမည်။ ဤတကောင်း မင်းကြီးကိုဆိုရာ၌ စွယ်စုံကျော်ထင် အဖြေကျမ်း ဒုတိယတွဲ ၇၇၈ နံပါတ်တွင်။ အဥ္ဇနမင်းဖြိုကြွင်းသက္ကရာဇ် ရှစ်ဆဲ့ ရှစ်ခု၊ နတ်တော်လဆန်း ခုနစ်ရက်နေ့ကပင် သက်သနဂိုရ် ပြည့်ရှင်မင်း၏ သားတော်သာကီယမင်းသည် မှူးမတ် အပေါင်း နှစ်သောင်းခြောက်ထောင်တို့နှင့်တကွ မဇ္ဈိမ ဒေသမှထွက်ခဲ့၍ ရှေးအနှစ်သုံးရာခန့်က ဘိုးတော် တည်ထောင်စပြုခဲ့သော တကောင်းပြည်ကြီးကို တည်ထောင်တော်မူ၍ ရာဇာဘိသေကခံတော်မူသည့်အခါ ဇမ္ဗူဒီပဓရောဇာဟူ၍ အမည်ခံတော်မူကြောင်း။ ၎င်းဇမ္ဗူ ဒီပ ဓရောဇာမင်းကြီး၏သားတော်သည် ကံရာဇာကြီး၊ ကံရာဇာငယ်တို့ဖြစ်ကြောင်းနှင့် ရှေ့နောက်စကား မညီညွှတ်ဘဲ ရောစပ်လျက်ဆိုလေသည်။ မှန်နန်းရာဇဝင် ၁၅၇ နံပါတ်၌ မဇ္ဈိမဒေသသာကီယအနွယ် အဘိရာဇာ အမည်ရှိသောမင်းသည် တကောင်းပြည်ကြီးကို လက်မွန် တည်ထောင်ကြောင်း၊ ဘုရားပွင့်တော်မမူမီ ရှေးလွန်လေပြီး သောအတိတ်ကာလ၌ ကောလိယမင်းနှင့် ပဥ္စာလရာဇ်မင်း တို့ စစ်ကြီးဖြစ်၍ ကောလိယမင်းရှုံးသဖြင့် သုံးပြည်ထောင် သောသာကီဝင်တို့ ပျက်စီးကြကြောင်း၊ နောက်မှသာကီဝင် မင်းတို့ စည်ပင်ပြန်ကြောင်း။ ယင်းသို့ သာကီဝင်မင်းတို့ ပျက်စီးလေသောအခါ ကပိလဝတ်ပြည်မှ အဘိရာဇာ မည်သော သကျသာကီဝင်မင်းသည် မိမိဗိုလ် ခြေအလုံး အရင်းကိုယူ၍ မဇ္ဈိမဒေသမှထွက်ခဲ့၍ တကောင်းပြည်ကြီး ကို တည်ထောင်စံနေတော်မူကြောင်း။ တကောင်းပြည်၌ ကံရာဇာငယ်မင်းမှစ၍သားတော်၊ မြေးတော်ဆက်သွယ် လျက်၊ သုံးဆဲ့သုံးဆက်မြောက် ဟိန္ဒုကရာဇာမင်း လက်ထက်မှဂန္ဓာလရစ်တိုင်း၊ စိန့်တိုင်းတို့မှ တရုတ်တရက် တို့ နှောက်ယှက်၍ တကောင်းပြည်ကြီးပျက်စီးလေ ကြောင်း။ ထိုနောက် ငါတို့မြတ်စွာဘုရားလက်ထက်- ဝိဋ္ဋူဘမင်းဖျက်ဆီးသဖြင့် သာကီဝင်မင်းတို့ ပျက်စီးပြန် ကြောင်း။ ထိုသို့သာကီဝင်မင်းတို့ပျက်စီးလေသောအခါ ဓရောဇာမည်သော သာကီဝင်မင်းသည် မိမိအလုံးအရင်းကို ယူ၍ မဇ္ဈိမဒေသမှအစဉ်အတိုင်းလာလတ်၍ ရှေးသကျ သာကီဝင်မင်းတို့နေထိုင်ခဲ့ရာ တကောင်းပြည်ကြီးကို ပဥ္စာလရစ်သမုတ်၍ ထီးနန်းမြို့ပြတည်ထောင် စံနေတော် မူ၍ သတိုးဇမ္ဗူဒီပဓရောဇာ တံဆိပ်နာမံခံတော်မူကြောင်း။ ထိုမင်းမှစ၍ သတိုးမဟာရာဇာမင်းတိုင်အောင် တဆယ့် ခုနစ်ဆက် စိုးစံလေကြောင်း။ ထိုသတိုးမဟာရာဇာမင်းကြီး ၏ သားတော်တို့သည် မဟာသမ္ဘဝ၊ စူဠသမ္ဘဝတို့ဖြစ် ကြောင်းတို့နှင့် ၁၆၈ နံပါတ်တို့၌ဆိုသောကြောင်

အဘိရာဇာမင်းလည်း တယောက်၊ ဇမ္ဗူဒီပဓဇရာဇာမင်းလည်း တယောက်ဟူ၍သာယူရမည်။ တယောက်တည်းအဖြစ်ဖြင့် မယူလေလင့်။ အဘိရာဇာမင်း တကောင်းပြည်ကို တည်ထောင်သောနှစ်အကြာသည်လည်း ဘုရားမပွင့်မီ နှစ်ပေါင်းသုံးရာခန့်ကဖြစ်ကြောင်းနှင့် ဆိုလေသည်။ ယင်းသို့ဆိုခြင်းသည်လည်း ငါတို့ ရခိုင်ရာဇဝင်တို့၌ တကောင်းမင်းရိုး ကံရာဇာကြီးမှစ၍ သီရိရာဇာမင်းအဆုံးရှိသော မင်း ၂၈ ဆက်တို့၏ နန်းစံနှစ်ပေါင်းကို ရာဇဝင်ဟောင်းအလိုမှာ ၁၀၃၈၊ တထောင်သုံးဆဲ့ရှစ်နှစ်။ အင်းစောက်ရာဇဝင် နှစ်စောင်လုံး၌ ၉၄၁၊ ကိုးရာလေးဆဲ့တစ်။ ဉဿဝတီ အရေးတော်ပုံ၌ ၉၂၄၊ ကိုးရာနှစ်ဆဲ့လေးနှစ်။ ဆရာမေည်ရာဇဝင်၌ ၉၇၅၊ ကိုးရာခုနစ်ဆဲ့ငါးနှစ်ဖြစ်ကြောင်းတို့နှင့် ဆိုကြလေသည်။ ထိုတွင် ကမ္ဗာရဝိသုကမင်းနန်းစံကို ဉဿဝတီအရေးတော်ပုံ၌ ၂၂ နှစ်မျှသာဆိုလေ၍လျော့လေသည်။ ရာဇဝင်ဟောင်းတို့မှာ ၈၂၊ ရှစ်ဆယ့်နှစ်နှစ်ဟူ၍ငင်း။ ၈၇၊ ရှစ်ဆဲ့ခုနစ်နှစ်ဟူ၍ငင်း ဆိုကြသောကြောင့် ပိုလေသည်။ အရပ်ရပ်ရာဇဝင် ရှေ့နောက်တို့ကို ထောက်၍သို့နိူင်းရာ ၇၇၊ ခုနစ်ဆဲ့ခုနစ်နှစ် အမှန်ယူလျက် နန်းစံနှစ်ပေါင်း ၉၂၇ နှစ်ရလေရကား ငါတို့ ရခိုင်ရာဇဝင်စကားရပ်တို့နှင့် ဆန့်ကျင်လေသည်။ ယင်းသို့ ဆန့်ကျင်လေသောကြောင့် စွယ်စုံကျော်ထင်အဖြေနှင့် ၎င်း၏မှီရာဖြစ်သော နားတော်သွင်းလင်္ကာ၌။ ။ ပြည်သရေ၏၊ ထောင်နေစတည်၊ ကြောင်းရင်းသည်မူ၊ သုံးမည်လူ့ရှင်၊ မပွင့်ခင်တည်း၊ များဖျင်မြင့်ကြာ၊ နှစ်သုံးရာဝယ်၊ ငါးဖြာပတ်ဝိုက်၊ မချွေတိုက်မှ၊ ထွက်စိုက်ရာဟောင်း၊ လေးကြိမ်လောင်းသား၊ တကောင်းထောင်ထား၊ နရဖျားမှ၊ ဆက်ပွားစီလျှဉ်၊ နန်းစဉ်စိုးနေ၊ သတိုးရွှေဟု၊ မြတေထွန်းဝင်း၊ ထိုသည့်မင်းလျှင်၊ ဆောက်နှင်းယောက်ဖ၊ အိမ်ရှေ့ရအား၊ ပြည်မရန်မီး၊ တောဝက်ကြီးကို၊ ဖမ်းဆီးတုံလှည့်၊ သတ်လေတည့်သည်၊ စုံပြည့်တည့်မနေး၊ လက်နက်လေး။ ဟူ၍ စပ်ဆိုအပ်သောစကားကို အဘိရာဇာမင်းမှစ၍မယူဘဲ ဇမ္ဗူဒီပ ဓဇရာဇာမင်းမှစ၍ ၁၇၊ တဆဲ့ခုနစ်ဆက်တို့၏အဆုံး သတိုးမဟာရာဇာမင်းတိုင်အောင်ဟု ယူမှသာလျှင် နှစ်ပေါင်းသုံးရာနှင့် မင်း ၁၇ ဆက် နန်းစံသင့်လျော်မည် ထင်ပေကြောင်း။ အဘယ်ကြောင့်နည်းဟူမူ ငါတို့ရခိုင်ရာဇဝင်၌ မင်း ၂၈ ဆက်မှာနှစ်ပေါင်း ၉၂၇ အမှန်ထွက်ဆိုလေသည်ဖြစ်၍ မြန်မာပြည်မင်း ၅၀ မှ နှစ်ပေါင်း ၃၀၀ ဆိုလျှင် မင်းတဦးတဦးသော် ၆ နှစ်ခန့်မျှသာစိုးစံရန် အကြောင်းရှိသောကြောင့်ငင်း၊ ဇမ္ဗူဒီပဓဇရာဇာမင်း နောက် ၁၇ ယောက် အဆုံး သတိုးမဟာရာဇာမင်း နန်းစံကို။

မြတ်သာသနာ၊ နှစ်ဆယ်မှာမူ၊

| | |
|---|---|
| မဟာသတိုးစံ ... ... ... | ၂၀။ |
| သုံးဆဲ့နှစ်၊ အိမ်ရှေ့ပျော် ... ... ... | ၃၂။ |
| လေးဆယ်သော်၊ ဝက်လိုက်လာ ... ... ... | ၄၀။ |
| ၄င်းနှစ်ပင်၊ ဖွားမြင်သားနန်းလျာ ... ... ... | ၄၀။ |
| ပဥ္စနော၊ ပြည်မှနှင် ... ... ... | ၅၉။ |
| ခြောက်ဆယ်လျှင်။ ပြုစ္ဆာတွင်၊ | |
| မဟာသမ္ဘဝ ... ... ... | ၆၀။ |

ဟူ၍ သမန္တစက္ခုဒီပနီကျမ်း ၃၄၈ နံပါတ်၌ သာသနာတော် နှစ်ဆယ်မှစ၍ ခြောက်ဆယ်အထိ စိုးစံရကြောင်းနှင့် ဆိုသောစကား။ ထိုသတိုးမဟာရာဇာမင်း၏ သားတော်မဟာသမ္ဘဝမင်းသည် ရသေ့ပြည်ကို တည်ထောင်စံနေတော်မူ၏။ ယင်းသောအခါ အညာတကောင်းပြည်ကြီး၌ ခမည်းတော် သတိုးမဟာရာဇာမင်းကြီးနှင့် သားတော် ရသေ့မြို့တည် မဟာသမ္ဘဝမင်းတို့ မင်းပြိုင်စံတော်မူကြကုန်သည်။ ဟူ၍ မှန်နန်းရာဇဝင် ၁၉၃ နံပါတ်၌ဆိုအပ်သော စကားများကိုထောက်ထားလျှင် သတိုးမဟာရာဇာမင်းတဦးတည်းသာ နန်းစံလေးဆယ်ရှည်ရန်မသင့်။ အခြားသောမင်း ၄၉ ဆက်တို့လည်း ယထာရဟာရှည်ကြရန် သင့်လေရကား ဖြန်းမျှသောအားဖြင့် မင်းတပါးလျှင် ထက်ဝက် ၂၀ စီပင် စိုးစံရလေသော်လည်း မင်းဆက်ပေါင်း ၅၀ မှာ အနှစ်တထောင်

ကိုးရာရှည်ကြာရန်သင့်သောကြောင့်ငင်း၊ ဇမ္ဗူဒီပ ဇေရာဇာမင်းမှသာစ၍ယူသင့်မည်ထင်ကြောင်းနှင့် ဆိုလိုက်သည်။ (ဤသည်ကား အမှာစကားချုပ်)။

ဤတွင် ရွှေကား ရမ်းဗြဲမြို့၊ တောင်ကျောင်း ဆရာတော် ဦးစန္ဒမာလာသည် သေချာပြုပျင် ရေးစီရင်အပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ ဝါသုဒေဝမင်း ၁ ဆက်၊ ဗြာဟ္မ ဏရာဇာမင်း ၆ ဆက်၊ သရဘန်ဆက် ၁၆ ဆက်၊ မာယုမင်းဆက် ၅၇ ဆက်၊ တကောင်းမင်းရိုး ကံရာဇာကြီး မင်းဆက် ၂၈ ဆက်၊ ပေါင်းမင်းဆက်- ၁၀၈ ဆက်သောမင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော တတိယတွဲသည် အပြီးသို့ ရောက်ပြီ။ ။

**ပု–ဒီ–အာ နှင့် ပြည့်စုံရပါလို၏။**

**ရခိုင်ရာဇဝင်သစ်ကျမ်း တတိယတွဲ ဤတွင်ရွှေ့ပြီးပြီ။**



# ရခိုင်ရာဇဝင်သစ်ကျမ်း

## စတုတ္ထတွဲ

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

ဤသို့လျှင် တတိယတွဲဖြင့် ဝါသုဒေဝအစ သီရိရာဇာမင်း အဆုံးရှိသော မင်း ၁၀၈ ဆက်တို့၏အမည်, အိမ်နိမ့်, နန်းစံ, သက်တော်, သက္ကရာဇ်, နှစ်ပေါင်း, မိဘုရားတို့ကို ရေးသားပြဆိုပြီး၍ယခုအခါ၌ စတုတ္ထတွဲဖြင့် စန္ဒသူရိယမင်းအစ သိင်္ဂသူမင်းအဆုံးရှိသော မင်း ၉၆ ဆက်တို့၏အမည်, အိမ်နိမ့်, နန်းစံ, သက်တော်, သက္ကရာဇ်, နှစ်ပေါင်း, မိဘုရားတို့ကို ရေးသားပြဆိုလိုက်ပေအံ့။

### ၁၄၉။ စန္ဒသူရိယမင်းအစ သူရိယကေတုမင်း အဆုံးရှိသော မင်း ၂၅ ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကိုရေးသားပြဆို အပ်သောအကြောင်း

ခမည်းတော် သီရိရာဇာမင်း လွန်တော်မူလေလျှင် သားတော်ဖြစ်သော စန္ဒသူရိယမင်းသည် သက္ကရာဇ် ၇၂၊ ခုနစ်ဆဲ့နှစ်ခု၊ ပြာသိုလပြည့်နေ့တွင် ဖွားမြင်တော်မူသည် ဖြစ်၍ သက်တော် ၂၅ နှစ်မြောက်၊ သက္ကရာဇ် ၉၇၊ ကိုးဆဲ့ခုနစ်ခုတွင် ကာလသေနအမည်ရှိသော ဘုမ္မစိုးနတ်မင်းကြီး၏သမီးဖြစ်သော စန္ဒိမာလာနှင့် ရွှေထီးရွှေနန်းကို သိမ်းမြန်း စိုးအုပ်တော်မူလေ၏။ (ဤအရာ၌ ၉၇၊ ကိုးဆဲ့ခုနစ်ခုတွင် နန်းတက်ကြောင်းနှင့်ဆိုလိုက်ခြင်းသည် အင်းစောက်ရာဇဝင် 'ဂု'ချုပ်၌ ၉၇ ခု နန်းတက်သည်။ ၅၁၊ ငါးဆဲ့တနှစ်ရောက်လျှင် ဘုရားကြွရောက်တော်မူသည်ဟု ဆိုအပ်သည်ကိုငင်း၊ ကျောက်ချောင်းမြေပြူးတောင်တွင် သတ္တဋ္ဌာနရုပ်တုပေါ်ရာ၌ စန္ဒသူရိယမင်းခပ်၊ အင်္ဂလိပ်မင်းခပ် ဒင်္ဂါးနှစ်ရပ်တွင် စန္ဒသူရိယမင်းခပ်ဒင်္ဂါး၌ ၁၀၁၊ တရာ့တစ်၊ ရွှေနန်းသခင် စန္ဒာသူရိယဟု သက္ကရာဇ်တံဆိပ်ခပ်နှိပ်လျက်ပါသည်ကို သူငါဒိဋ္ဌသိမြင်ရသည်ကိုထောက်ဆ၍ငင်း ရေးပြလိုက်ပေသည်)။

ထိုစန္ဒသူရိယမင်းကြီး၏ ဘုန်းတန်ခိုးအာနုဘော်အစွမ်းဖြင့် နဂါးတို့သည် ဝပ်တွားဆည်းကပ်လာကုန်၏။ ဆင်ဖြူနှစ်ဆဲ့ခြောက်စီးတို့သည်လည်း ရောက်လာကုန်၏။ မှူးမတ်အပေါင်း တသိန်းခြောက်အရေအတွက်ရှိကုန်၏။ ပြည်ဦးကင်း၊ ပြည်တံခွန်၊ ပြည်မျက်စိ၊ ပြည်နား၊ ပြည်စွယ်၊ ပြည်မျက်နှာ၊ ပြည်ဝမ်း၊ ပြည်ခြေ၊ ပြည်လက်တို့နှင့်လည်း ပြည့်စုံတော်မူ၏။ ဆင်, မြင်း, ရထား, ခြေသည်တည်းဟူသော စစ်အင်္ဂါလေးပါးတို့နှင့်လည်း ပြည့်စုံ၏။ ထိုစစ်အင်္ဂါလေးပါးတို့၏ အသံသည် မြေမိုး

ကောင်းကင်မဆုံ၊ ပုံ့နှံ့ချောက်ချားတုန်လှုပ်၏။ ဓမ္မုဒီပါ ကျွန်းလုံး၏ အခွန်အတုပ်တို့ကို ခံစားတော်မူလျက် ဒါနသီလ စသောကုသိုလ်ကောင်းမှု၌ အလွန်မွေ့လျော်တော်မူ၏။ ဤအရာ၌ ပြည်ဦးကင်း စသည်များကို မှတ်သားလိုသော်။

(နဝရတ်ကိုးသွယ်၊ ဆင်စလွယ်ကား၊ တိုင်းကျယ်ပြည်ရေး၊ မူရှုပ်ထွေးကို၊ ဆွေးနွေးတိုင်ပင်၊ ပြေကုန်တွင်သည်၊ ရောက်ဝင်ကပ်မိုး၊ မှူးမတ်ကြီးသည်၊ ရွှေထီးရွှေပြည်၊ ဦးကင်းမည်၏။ စင်ကြည်သီလ၊ အာစာရနှင့်၊ ဓမ္မပွင့်လန်း၊ ထေရ်ရဟန်းတို့၊ ရှေ့နန်းထွင်းတည်၊ တံခွန်မည်၏။ တိုရှည်နီးဝေး၊ မှုခင်းရေးကို၊ ထောက်တွေးမြော်မြင်၊ ဗေဒင်ဟူးရား၊ သမားကောင်းသည်၊ မျက်စိမည်၏၊ တပြည်တမြို့၊ သူရပ်သို့လျှင်၊ ဝင်ကြို့ချောင်းမြောင်း၊ သူလျှိုကောင်းသည်၊ ကျိုးကြောင်းဖွေနှည်း၊ ပြည်နားမည်၏၊ ဝိုက်လည်လှည့်ပတ်၊ ရန်ညွှန့်ဖြတ်သား၊ မင်းမြတ်မင်းသား၊ မင်းညီများနှင့်၊ ဆွေဝါးမျိုးသည်၊ ပြည်စွယ်မည်၏။ ရွှေရည်စံသီး၊ ရှုမညီးသည်၊ သမီးလုလင်၊ လှဆင်းပြင်သည်၊ ပြည်တွင်စံတည်၊ မျက်နှာမည်၏။ ပွားစည်ငွေကြေး၊ ကြွယ်သူဌေးတို့၊ ဝတ်ရေးစားရာ၊ ပြည့်စုံစွာနှင့်၊ ရင့်မာခိုင်ကြည်၊ ပြည်ဝမ်းမည်၏။ ဓာနည်ရဲစွမ်း၊ မှုတော်ထမ်းသည်၊ ကြိုးပမ်းအားထု၊ သူရဲစုကား၊ မြဲမှုဆောက်တည်၊ ပြည်ခြေမည်၏။ နှစ်ပြည်ပိုင်ချက်၊ သိကြားစက်သို့၊ လက်နက်တန်ဆာ၊ ကိရိယာကား၊ မိုရာလှမ်းသည်၊ ပြည်လက်မည်၏။ ရွှေပြည်စိုးခြင်း၊ အမင်းမင်းတို့၊ ဦးကင်းမလွန်၊ တံခွန်မတိ၊ မျက်စိမဖောက်၊ နားပေါက်မပယ်၊ ပြည်စွယ်မခွါ၊ မျက်နှာမလွှမ်း၊ ပြည်ဝမ်းမမွေ၊ ပြည်ခြေမဖျက်၊ ပြည်လက်မဖြတ်၊ ကျင့်နိုင်တတ်မှ၊ နဝရတ်ကိုးဖြာ၊ ဆင်ရရာသည်။ တန်ဆာမင်းတို့ကျင့်ထုံးတည်း။ ဟူသောလင်္ကာဖြင့် မှတ်သားလေ။ ဤသည်ကား အမှာစကားချပ်။) ။

## ၁၅၀။ ကံရာဇာမင်းကြီးအနွယ် ၂၉ ဆက်မြောက် ဤစန္ဒသူရိယမင်းကြီး လက်ထက် သဗ္ဗညု မြတ်စွာဘုရား ကြွရောက်တော်မူသည့် အကြောင်း

စန္ဒသူရိယမင်းကြီးသည် ထီးနန်းစိုးအုပ်တော်မူသည့် နောက် ၂၆ နှစ်ဆဲ့ခြောက်နှစ်မြောက်၊ သက္ကရာဇ် ၁၂၃ ခုနှစ်တိုင်ရောက်လတ်သောအခါ လောကဓိပတိ၊ မုနိအထွဋ်၊ သဗ္ဗညုမြတ်စွာဘုရား ဖြစ်ပွားထွန်းလင်းတော်မူကြောင်းကို သတင်းစကား ကြားသိတော်မူသည်ဖြစ်၍ ဖူးမြင်လျှုဒါန်းလိုသဖြင့် မှူးမတ်တို့အား မေးမြန်းတိုင်ပင်တော်မူလေလျှင် အမတ်ပညာရှိတို့က အရှင်မင်းကြီး၊ မြတ်စွာဘုရားအားရည်မှတ်၍ ပန်းနံ့သာတို့ဖြင့်ပူဇော်လျက် ပင့်ဖိတ်တော်မူလျှင် ကြွရောက်တော်မူရန်ရှိပါကြောင်းနှင့် လျှောက်တင်ကြလေသော် စန္ဒသူရိယမင်းကြီးလည်း အမတ်ပညာရှိတို့လျှောက်တင်သည့်အတိုင်း ပန်းနံ့သာတို့ဖြင့် ပူဇော်လျက် ပင့်ဖိတ်တောင်းပန်တော်မူလေ၏။ ထိုအခါ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ကျွတ်ထိုက်သော ဝေနေယျသတ္တဝါတို့ကို ကရုဏာရှေးရှု၍ ကြည့်တော်မူသည့်အခိုက် ကြုံကြိုက်တော်မူသဖြင့် စန္ဒသူရိယမင်းကြီး ပင့်ဖိတ်တောင်း ပန်အပ်သည်ကို မြင်တော်မူလေလျှင် ငါဘုရားကြွတော်မူက စန္ဒသူရိယမင်းနှင့်တကွ မောင်းမ မိဿံ ခြွေရံအပေါင်းတို့ သောတာပတ္တိဖိုလ်၌ တည်အံ့သောအကြောင်း၊ တိုင်းနေပြည်သူအပေါင်းတို့သည်လည်း သရဏာဂုံပဥ္စသီအစရှိသည်တို့၌ တည်အံ့သောအကြောင်း၊ ငါ၏ကိုယ်စား ရုပ်ပွားတော် မဟာမုနိကို ခွင့်ပြုသွန်းလုပ်တည်ထားကိုး ကွယ်လေသဖြင့် ငါဘုရားထားတော်မူလတ္တံ့သော သာသနာတော် ငါးထောင်ပတ်လုံး လူ၊ နတ်၊ ဗြဟ္မာသတ္တဝါအပေါင်းတို့ ကောင်းမှုတရား ပွားများအံ့သောအကြောင်းတို့ကို ဆင်ခြင်တော်မူ၍ ကြွတော်မူအံ့ဟု ကြံတော်မူလေသော် သိကြားမင်းသည် အကြောင်းကို သိ၍ ဝိသကြုံနတ်သားအားစေခိုင်းအပ်သည်ဖြစ်၍

ပြာသာဒ်ငါးရာတို့ကို ဖန်ဆင်းကာ အသင့်ထားလင့်ပေ၏။ မြတ်စွာဘုရားသည် တပည့်သံဃာ ငါးရာနှင့်တကွ ဝိသကြုံနတ်သား ဖန်ဆင်းအပ်သော ပြာသာဒ်ငါးရာတွင် ကိန်းဝပ်စံပယ်တော်မူလျက် ကောင်းကင်ခရီးဖြင့် ဒေသစာရီကြွချီတော်မူလာ၍ ဧရာဝတီမြို့၏ အနောက်ဘက်မျက်နှာ ကစ္ဆပနဒီအမည်ရှိသော ကုလားတန်မြစ်၏ အရှေ့ဘက်ကမ်းထိပ်ဝယ် သောလာဂိရိအမည်ရှိသော ကျောက်တော်တောင်ထိပ်၌ သက်ဆင်းရပ်တန့်တော်မူလေ၏။ (ဤအရာတွင် ရာဇဝင်ဟောင်း၌ မြတ်စွာဘုရား၊ ပြာသာဒ်ငါးရာစီးတော်မူ၍ ရဟန္တာအပေါင်းခြံရံ၍ ကြွလာတော်မူကြောင်းမျှသာဆိုသည်။ စန္ဒသူရိယမင်း ဘုရားပွင့်တော်မူသည်ကို ကြားသိကြောင်းမပါလေ။ ဆရာမည်ရာဇဝင်၌ စန္ဒသူရိယမင်းသည် မြတ်စွာဘုရား ပွင့်တော်မူကြောင်းကို ကျမ်းဂန်ရှိသည်နှင့် အစဉ်စကား ကြားတော်မူကြောင်း။ မြတ်စွာဘုရားကိုပင့်ရန်စေလွှတ်ရာ ဆရာတော်တို့ကပင့်၍ မရနိုင်ဆိုသောကြောင့် ဆရာတော်တို့ကို တောသို့နှင်ကြောင်း။ ဘိုးတော် နရပတိဝင်စားသော စန္ဒာဒေဝီ၊ နမတော် အဥ္စနဒေဝီ၊ နမထွေး ဥဒုမ္ဗရဒေဝီတို့ကိုလည်း တောသို့နှင်လေကြောင်း။ နောက်မှ အမတ်ပညာရှိတို့ လျှောက်သည့်အတိုင်း ပန်းနံ့သာတို့ဖြင့်ပူဇော်၍ ခုနစ်ရက်တိုင်တိုင် ပင့်ဖိတ်ကြောင်းတို့နှင့် အကျယ်တဝင့်ဆိုသည်။ ထိုရာဇဝင်ကိုမှီသော အချို့ရာဇဝင်သစ်၌ကား စန္ဒသူရိယမင်းသည် မြတ်စွာဘုရားပွင့်တော်မူကြောင်းကို ရှေးမင်းတို့ ကျောက်စာ ကမ္ပည်းနှင့်ရေးသားသော နန်းစဉ်ကျမ်းစာစကားနှင့် လူအပေါင်းတို့ ပြောကြားသော စကားဖြင့် ကြားသိလေကြောင်းတို့နှင့်ဆိုပြီးလျှင် နောက်၌ ဆရာမည် ရာဇဝင်အတိုင်းဆိုလေသည်။ ထိုစကားရပ်တွင် ရှေးမင်းတို့ကျောက်စာ ကမ္ပည်းနှင့် ရေးထားသည်ဟူသောစကားသည် များစွာချဲ့လွန်းသည်ထင်ကြောင်း။ အဘယ်ကြောင့်ဟူမူ မင်းသား ပဋိသန္ဓေယူသောအခါ ဖွားမြင်တော်မူသောအခါတို့၌ ပညာရှိအမတ် မင်းဘုန်းစား ဝိမလနှင့်ပြောင်းပြာစားအမတ် ဒေဝကျော်တို့၊ သားတော်လက်ထက် ဘုံသုံးပါးတွင် အတုမရှိမြတ်စွာဘုရား ကြွတော်မူ၍ ဖူးတွေ့ရမည့်အကြောင်းနှင့် လျှောက်တင်ဖူးသည်။ ထိုသို့ လျှောက်တင်ဖူးသောစကားသည် အနှစ်နှစ်ဆဲ့ငါးနှစ်ခန့် ကြာသေးသည်ဖြစ်၍ သိမိလိုက်သော မှူးမတ်များရှိသဖြင့် လျှောက်တင်လျှင်သိနိုင်ရန် အကြောင်းရှိပေသောကြောင့် ၎င်း။ ။ မဇ္ဈိမဒေသရာဇဂြိုဟ်ပြည်သည် ငါတို့ရခိုင်ပြည်နယ်အဆုံး ကာလကတ္တား၊ ဘင်္ဂလား၊ ဝင်္ဂတိုင်းမှ မိုင်ပေါင်း ၂၅၆ မိုင်ခန့်၊ ယူဇနာအားဖြင့် ၃၂ ယူဇနာခန့်သာဝေးသည်နှင့်ခြေကြောင်း၊ လှည်းကြောင်း ရောင်းဝယ်ဖောက်ကား သွားလာနေထိုင်ကြသောကြောင့် မြတ်စွာဘုရားပွင့်တော်မူပြီး၍ နှစ်ဝါမြောက်၊ သုံးဝါမြောက်၊ လေးဝါမြောက်၊ တဆယ့် ခုနစ်ဝါမြောက်၊ နှစ်ဆယ်မြောက်ဝါတို့ကို ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ ဆိုတော်မူသည်ဖြစ်၍ သတင်းစကားကြားသင့်သောကြောင့် ၎င်း၊ များစွာချဲ့လွန်းသည်ထင်ပေကြောင်း။ ဆရာတော်၊ ဘိုးတော်နရပတိ ဝင်စား-မိဘုရား၊ နမတော်တို့ကို တောသို့နှင်သည်ဟူသော စကားသည်လည်း အလားနည်းတူပင်ဖြစ်ပေကြောင်း။ ။ ပန်းနံ့သာတို့ဖြင့်ပူဇော်၍ ပင့်ဖိတ်သည်ဟူသော စကားသည်ကား ရာဇဝင်ဟောင်းတို့ပင် မလာသော်လည်း သင့်လျော်ရာစကားဖြစ်ပေသည်။ မြတ်စွာဘုရားကြွလာတော်မူသောပြည်ကို သာဝတ္ထိပြည်ဟုဆို၏။ ငါတို့ကား ရာဇဂြိုဟ်ပြည်သာ နီးစပ်သည်ဖြစ်၍ သတင်းကြားရာ ပင့်ဖိတ်သောကြောင့် ရာဇဂြိုဟ်ပြည်မှ ကြွလာတော်မူကြောင်းနှင့် ရေးလိုက်သည်။ နှစ်သက်ရာယူလေ။ ။ ဤကား အမှာစကားချုပ်)။

## ၁၅၁။ ဧရာဝတီပြည်ကို ချီးမွမ်းလျက် မိန့်ခွန်း ဗျာဒိတ်ပေးတော်မူကြောင်း

ယင်းသို့ သက်ဆင်းရပ်တန့်တော်မူလျက် အရပ်ထက်ဝန်းကျင်ကိုကြည့်ရှုတော်မူ၍ ပြုံးတော်မူ၏။ မြတ်စွာဘုရား ပြုံးတော်မူလေလျှင် စွယ်တော်လေးချောင်း

အကြားမှ ထန်းလုံးခန့်မျှရှိသော ရောင်ခြည်တော်သည် အရပ်ဆယ်မျက်နှာ ရေးရှုရာသို့ထွက်တော်မူသည်ကို ညီတော်အာနန္ဒာမြင်လေလျှင် ငါးပါးသော ရှိုးခြင်းတို့ဖြင့် ရှိသေစွာရှိခိုး၍ အကြောင်းကိုလျှောက်လေသော် မြတ်စွာဘုရားသည် ဤသို့မိန့်တော်မူ၏။ ချစ်သားအာနန္ဒာ၊ မဇ္ဈိမဒေသ၊ သောဠသနဂိုရ်ပြည်ကြီးတို့၏ အနီးအစပ် အရှေ့တောင်အရပ်ဖြစ်သော ဤဓညဝတီပြည်သည် အလွန်ထင်ရှားမြင့်မြတ်သော တိုင်းပြည်ဖြစ်ပေ၏။ အဘယ်သို့ထင်ရှားမြင့်မြတ်လေ သနည်းဟူမူကား ၅၀၅၊ ငါးရာငါးစင်းတွင် အကျုံးဝင်သော ကစ္ဆပနဒီ ကုလားတန်မြစ်၏ အရှေ့ဘက်၌ ၉၉ မြို့၊ အနောက်ဘက်၌ ၉၉ မြို့တို့သည် မင်းတို့စိုးစံ စိမံတည်ထောင်သော မြို့ပြည်ရွာတို့ဖြင့် ပြည့်နှက်စည်ကားလျက် ထင်ရှားမြင့်မြတ်သော တိုင်းပြည်ဖြစ်လတ္တံ့သောကြောင့်၎င်း။ ထိုထိုသို့သောမြို့တို့၌ အထိုက်အလျောက် စိုးစံတော်မူ လတ္တံ့သောမင်းတို့သည် လည်း အသမ္ဘိန္နခတ္တိယမင်းမျိုး အရိုးအစဉ်မခြား ထီးနန်း ဖွားသော မင်းများတို့ချည်း ဖြစ်လတ္တံ့သောကြောင့်၎င်း။ ငါတို့သာကီဝင်မင်း၏ အဆက်အနွယ် ကပိလအဖွဲ့နှ ရှင်ရသေ့က ဆက်ပေလာသောကြောင့်၎င်း၊ ဤဓညဝတီ ပြည်ကို အလွန်ထင်ရှား မြင့်မြတ်သောပြည်ဟူ၍ ဆိုအပ်သတည်း။ ။ (ဤဓညဝတီပြည်ကို ရာဇဝင်ဟောင်းတို့၌ မဇ္ဈိမဒေသအဝင်ပြု၍ ရေးသားကြလေသည်။ မဇ္ဈိမဒေသ သို့မဝင်၊ ဘင်္ဂလားမြို့ အနောက်ဘက် ဟူဂလီမြစ်၏ အနောက်ဘက်ကမ်းသာ မဇ္ဈိမဒေသသို့ပါဝင်လေသည်။ အကျယ်ကိုသိလိုမူ ငါတို့စီရင်အပ်သော ဇမ္ဗူဒီပ ဩဇ္ဈယ နယ်ပုံကျမ်း ၂၉ နံပါတ်တို့၌ယူလေ။ ကစ္ဆပနဒီမြစ်၏ လက်ဝဲ ၉၉ မြို့၊ လက်ယာ ၉၉ မြို့တို့လည်း ထိုခါ ကပင်ရှိပြီ လိုလိုဖြင့်ဆိုကြလေသည်။ နောက်၌ရှိလတ္တံ့ဟူ၍ သာ ရေးသင့်သည်။ ဤသည်ကား စကားချပ်)။

ချစ်သားအာနန္ဒာ၊ ငါဘုရားအလောင်းသည် ရှေးရှေးသောဘဝ၌ သုံးဆယ်သောပါရမီကို ဖြည့်ကျင့်တော်မူသောအခါဝယ် ဤဓညဝတီပြည်၌ အကြိမ်များစွာ ဖြစ်တော်မူဘူးလေသည်။ (ဤအရာတွင် ဆရာမည်-ရာဇဝင်၌ အနန္တဘဝက။ ဟူ၍ အမှန်ပါရှိလျက် ရာဇဝင်သစ်မှာ အနန္တရဘဝ၊ သံသရာက။ ဟူ၍ရေးသားလေသည်။ အနန္တရဆိုလျှင် အခြားမရှိ၊ ဒုတိယ သေတကေတု နတ်သားဘဝသာရှိသည်။ သတိထားကြလေ)။

အဘယ်သို့ အကြိမ်များစွာ ဖြစ်တော်မူဘူးလေသနည်းဟူမူကား ဤဓညဝတီမြို့၌ ခြောက်ထောင်သော တပည့်တို့၏အကြီးအမှူး ပုရောဟိတ်ပုဏ္ဏားဖြစ်တော်မူဘူးလေသည်။ ယင်းသို့ဖြစ်တော်မူဘူးလေသောကြောင့် ငါ၏ကိုယ်စား သဏ္ဌာန်သွန်းလုပ်တော်မူလတ္တံ့သော မဟာမုနိရုပ်ရှင်တော်သည် သုံးဘော်သောလောက၌ တောက်ပထွန်းလင်းစွာ ငါထားတော်မူလတ္တံ့သော သာသနာငါးထောင်ပတ်လုံး ကိန်းဝပ်တော်မူရာဖြစ်လတ္တံ့ သတည်း။ ဤငါဘုရား သက်ဆင်းရပ်တန့်တော်မူရာ သေလာဂိရိကျောက်အတိပြီးသော ဤမောရပဗ္ဗတတောင်ထက်၌ ပန်းပွတ်သမားတစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါဘုရား ပရိနိဗ္ဗာန်လွန်တော်မူလေလျှင် ငါ၏ကျောက်ရိုးတော်ဓာတ်ကို စေတီတည်လတ်၍ ကျောက်တော်စေတီဟု တွင်လတ္တံ့။ သေလာဂိရိကျောက်တော်တောင်မှသည် ကစ္ဆပနဒီမြစ်၏အရှေ့ဘက် မျက်နှာအားဖြင့် တောင်သို့ အစဉ်အတိုင်းကြည့်တော်မူ၍ မဠုပဗ္ဗတတောင်ကိုမြင်လေလျှင် ချစ်သားအာနန္ဒာ၊ ဤမဠုပဗ္ဗတတောင်၌လည်း ငါမြွေင်နီးမင်း တစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလေလျှင် ငါ၏ချက်တော်ဓာတ်ကိုတည်လတ်၍ ချက်တော်စေတီဟု တွင်လတ္တံ့။ ထိုမဠုပဗ္ဗတတောင်မှ တောင်ဘက်မျက်နှာအရပ်ဝယ် ရန္ဒနဒီမည်သော ရန်းချောင်း လက်ယာဘက်ကမ်း၊ သေလာနဒီမည်သော ချောင်းဖျား၌ မိဂပဗ္ဗတတောင်ကြီးထိပ်ထက်ဝယ် သမင်တစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလျှင် နဖူးသင်းကျစ်တော်ဓာတ်ကို စေတီတည်လတ်၍ သင်းကျစ်တော် စေတီဟု တွင်လတ္တံ့။ ထိုမိဂပဗ္ဗတတောင်၏ အနီးဝယ် နန္ဒပဗ္ဗတတောင်၌ ရွှေကြက်မင်းတစ်ဖြစ်ခဲ့ဘူး

သောကြောင့် ငါလွန်တော်မူလျှင် ပါးမွေးတော်ဓာတ်ကို စေတီတည်လတ်၍ ပါးမွေးတော်စေတီဟုတွင်လတ္တံ့။ ထိုပါးမွေးတော်စေတီမှသည် တဂါဝုတ်မျှလောက်သော အရပ်၌ ဝေဠုပဗ္ဗတတောင်ထိပ်ဝယ် ယုန်မင်းတဈာစ် ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလျှင် နားရင်းတော်ဓာတ်ကို စေတီတည်လတ်၍ နားလိပ်တော်စေတီဟု တွင်လတ္တံ့။ ထိုနားလိပ်တော်ဓာတ်စေတီမှသည် တယူဇနာမျှလောက်သောအရပ်ဝယ် မုဋ္ဌပဗ္ဗတတောင်ကြီး၌ ပုဏ္ဏားတဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလျှင် လက်ယာပါးရိုးတော်ဓာတ်ကို စေတီတည်လတ်၍ ပြိုင်းတိုင်းတောင်စေတီဟု တွင်လတ္တံ့။ ။(ဆရာမည် ရာဇဝင်တို့၌ တယူဇနာရှိသော အရှေ့တောင်ထောင့် အရပ်ဝယ် မဠုပဗ္ဗတတောင်ဟုဆိုကြ၏။ မဠုပဗ္ဗတနှစ်ခါ ကျသောကြောင့် ဆင်ခြင်လေ)။

ထိုမုဋ္ဌပဗ္ဗတတောင်၏ တောင်မျက်နှာတူရူ အနီးဝယ် ကာလာဂိရိတောင်ကြီးထက်၌ ကျီးမင်းတဈာစ် ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလျှင် ငါ၏လျှာရင်းတော်ဓာတ်ကို စေတီတည်လတ်၍ ဇိဝှာဓာတ်တော်စေတီဟု တွင်လတ္တံ့။ ။ (ဤတောင်ကို ကာလာဂိရိတောင်ဟူ၍ ဆရာမည်ရာဇဝင်တို့၌ဆိုသည်။ ။ ရွှေကျေးသားတဈာစ် ဖြစ်ခဲ့ဖူးကြောင်းနှင့်ကား ရာဇဝင်ဟောင်းတို့၌ပင်ဆိုသည်။ ကာလာဂိရိဟူ၍ဆိုသောကြောင့် ကျီးမင်းဟူ၍သာယူရမည်။ သုဝဂိရိဆိုမှ ရွှေကျေးသားယူသင့်သည်။)။

ထိုကာလဂိရိတောင်၏အနီးဝယ် ကပေါတဂိရိ တောင်ထိပ်၌ ခိုမင်းတဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါ၏ လည်တော်ဓာတ်ကို စေတီတည်လတ်၍ ဂီဝါဓာတ်တော် စေတီဟု တွင်လတ္တံ့။ ။(ဆရာမည်ရာဇဝင်တို့၌ ခြိုးမင်း ဟူ၍ဆို၏။ ရာဇဝင်ဟောင်းနှင့်ငင်း၊ ကပေါတ သဒ္ဒါသည် ခိုဟောဖြစ်သောကြောင့်ငင်း မလျော်လေ)။

ထိုကပေါတတောင်မှသည် အဠနနဒီမည်သော လေးမြို့ချောင်း၏အနောက်ဘက်ကမ်းနားဝယ် စူဠပဗ္ဗတ တောင်၌ သမင်တဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော် မူလျှင် ငါ၏ပေါင်ရိုးတော်ဓာတ်ကို စေတီတည်လတ်၍ ပေါင်တော်ဓာတ်စေတီဟု တွင်လတ္တံ့။ (ဆရာမည် ရာဇဝင်တို့၌ ဘားမင်းဟူ၍ဆို၏။ ရာဇဝင်ဟောင်းနှင့်ငင်း၊ တောင်၌ဆိုသောကြောင့်ငင်း၊ အရာဌာနအား မလျော်လေ)။

ထိုစူဠပဗ္ဗတတောင်မှသည် ယူဇနာခွဲရှိသော တောင်ဘက်အရပ်ဝယ် ဂန္ဓပဗ္ဗတတောင်၌ တံစဉ်သည် သား တဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါလွန်တော်မူလျှင် ငါ၏ ဦးခွံတော်ဓာတ်ကိုစေတီတည်လတ်၍ ဦးခွံတော် စေတီဟု တွင်လတ္တံ့။ ထိုစူဠပဗ္ဗတတောင်၏အနီးဝယ် ရေနသာရ မည်သောတောင်၌ မြင်းမင်းတဈာစ်ဖြစ်ခဲ့ဘူး သောကြောင့် ငါလွန်တော်မူလျှင် လက်ဝဲပါးရိုးတော် ဓာတ်ကို စေတီတည်လတ်၍ ပါးရိုးတော်စေတီဟု တွင်လတ္တံ့။ ထိုရေနသာရတောင်မှသည် အနောက်တောင် ထောင့် တဂါဝုတ်ကွာသောအရပ်ဝယ် ဝါယုပဏ္ဏရ မည်သော တောင်သည်ရှိ၏။ ထိုတောင်၌ လက်ပမ်းသည် တဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် နောင်လာလတ္တံ့သော အခါဝယ် ငါ၏လက်မောင်းတော်ဓာတ်ကို စေတီတည် လတ်၍ မောင်းဆွဲစေတီဟု တွင်လတ္တံ့။ ။ (ဆရာမည် ရာဇဝင်တို့၌ ပါမန္တရတောင် ဟုဆို၏။)။

ထို ဝါယုပဏ္ဏရတောင်မှသည် တယူဇနာရှိသော တောင်အရပ် ပင်လယ်ကမ်းနားဝယ် လေပဗ္ဗတတောင်၌ ဇော်မည်သော သားတဈာစ်ဖြစ်ခဲ့ဘူးသောကြောင့် နောင်လာလတ္တံ့သောအခါ ငါ၏ရင်ရိုးတော်ဓာတ်ကို စေတီတည်လတ်၍ ရင်ရိုးတော်စေတီဟု တွင်လတ္တံ့။ (ဤတောင်ကို ဓာတ်တည်ခန်းတွင် ဥရပဗ္ဗတတောင်ဟု ဆိုလေသည်)။

လေပဗ္ဗတတောင်မှသည် ယူဇနာခွဲရှိသော အနောက်မျက်နှာအဘို့ဝယ် ကစ္ဆပနဒီမြစ်၏ အရှေ့ဘက် ဖြစ်သော သမုဒ္ဒရာကမ်းနား၌ သေလပဗ္ဗတအမည်ရှိသော တောင်သည်ရှိ၏။ ထိုတောင်၌ တံငါသားတဈာစ် ဖြစ်ခဲ့ ဘူးသောကြောင့် ငါလွန်တော်မူလျှင် ငါ၏မေးငှတော် ဓာတ်ကို စေတီတည်လတ်၍ မေးငှစေတီဟုတွင်လတ္တံ့။

(ဤ မေးငူစေတီတော်ရှိသည်ကိုအကြောင်းပြု၍ မေးငူကျွန်း ခေါ်သည်ကို ကာလကြာ၍ မြေငူကျွန်းခေါ်ပါသန်တူသည်)။ ထိုသေလပဗ္ဗတတောင်၏အနီးဝယ် နေသာဒပဗ္ဗတတောင်၌လည်း တံငါသားတစာစ်ဖြစ်ခဲ့ဘူးသောကြောင့် ငါ လွှန်တော်မူလေလျှင် ငါ၏သလုံးတော်ဓာတ်ကို စေတီတည်လတ်၍ သလုံးတော်စေတီဟု တွင်လတ္တံ့။ (ဤသလုံးတော်ဓာတ်အကြောင်းကို ရာဇဝင်တို့၌ မဆိုလေ။ မင်းဖလောင်းဓာတ်တည်ခန်း "နာ" ချပ်တွင်သာ နေသာဒတောင်၌ သလုံးတော်ဓာတ်ကို ဌပနာပြု၍စေတီတည်ကြောင်းနှင့်ဆိုသည်။ တံငါသားဖြစ်ဘူးကြောင်းကား မပါလေ။ ယင်းသို့မပါလေသော်လည်း နေသာဒတောင်ဟူ၍ဆိုသောကြောင့် နေသာဒသဒ္ဒါကိုထောက်၍ တံငါသည်သား ဖြစ်ဘူးကြောင်းနှင့်ရေးလိုက်သည်။ ဤသလုံးတော်ဓာတ်၊ မေးငူတော်ဓာတ်၊ ဆိုလတ္တံ့သော ဆံရှင်တော်ဓာတ်၊ ခြေရာတော်စေတီအားဖြင့် ဓာတ်တော်သုံးဆူ၊ ခြေရာတော်စေတီတဆူသာ မြေငူကျွန်း၌ ရှိကြောင်းကို ရာဇဝင်ဓာတ်တည်ခန်းတို့၌ ဆိုသည်။ မြောက်ဦးမြို့ဆက် ရာဇဝင်လင်္ကာကို ရေးသားသော စာရေးဆရာဦးမောင်သာအောင်ကား ဘုန်းခေါင်သကျ၊ ဂေါတမ၏၊ တေဇရောင်လွှတ်၊ ဆံရှင်ဓာတ်နှင့်၊ မေးဓာတ်စုရုံး၊ သလုံးမျက်မှောင်၊ ခြောက်ရောင်ထွန်းပေါ်၊ ခြေရာတော်က၊ စသည်မကျန်၊ ဓာတ်မွန်လေးဆူ၊ ကိန်းတော်မူသည်၊ မြေငူခေါ်မှန်း၊ ထိုသည်ကျွန်းကား၊ ရံဝန်းသီတာ၊ ယမုန်နာနှင့်၊ ရေသာမြမြ၊ ငါးရွှရွှတည်း။ ဟူ၍ မျက်မှောက်တော်ဓာတ်ရှိသေးကြောင်းနှင့်ဆိုသည်။ ဤကား အမှာစကားချပ်)။

ထိုသေလပဗ္ဗတတောင်၏ လက်ယာနံပါး သမုဒ္ဒရာအနီးဝယ် နီလပဗ္ဗတမည်သောတောင်ထိပ်သို့ ငါဘုရားရောက်တော်မူသောအခါ၌ နဂါးကြောင်၊ နဂါးပတ်၊ နဂါးရွှေ၊ နဂါးနီ၊ နဂါးဖြူ၊ နဂါးပြောက်၊ နဂါးမွဲ၊ နဂါးမည်း၊ ဤနဂါးရှစ်ဦးတို့သည် တောင်းပန်သောကြောင့် ဗျာဒိတ်ရွေနှုတ်၊ မိန့်တော်မူခဲ့သည့်အတိုင်း ငါရပ်တော်မူသော ခြေရာတော်၌ ဆံတော်ရှင်ဘုရားတည်လတ်၍ ဆံရှင်တော်စေတီဟု တွင်လတ္တံ့။ (ဤသည်ကား ရာဇဝင်ဟောင်းနှင့် ဆရာမေည်ရာဇဝင်တို့အဆို။ အချို့ရာဇဝင်သစ်၌ကား ချစ်သားအာနန္ဒာ၊ ဤသေလာပဗ္ဗတတောင်မှ နီလပဗ္ဗတတောင်သို့ ငါဘုရားကြွရောက်တော်မူလတ္တံ့စသည်ဖြင့် အနာဂတ်ကာလနှင့် တမျိုးကြံ၍ဆိုလေသည်။ ဆိုကားဆို၏။ နောက်ကြွရောက်တော်မူကြောင်း မပါလေ။ ရာဇဝင်ဟောင်း၊ ဆရာမေည်ရာဇဝင်တို့အလိုမှာ ရှေးအထက်က ကြွရောက်ဘူးစဉ်အခါ တောင်းပန်၍ချပေးတော်မူခဲ့သည်ကို ရည်၍ ဆိုလေသည်။ ဤကား အမှာစကားချပ်)။

ဤသို့ ဗျာဒိတ်၊ နှုတ်တံဆိပ်ဖြင့် ခတ်နှိပ်ဟောကြားတော်မူပြီးမှ ကစ္ဆပနဒီမြစ်၏အနောက်ဘက်ကမ်းသို့ကြည့်တော်မူလျက် ညီတော်အာနန္ဒာကို ခေါ်တော်မူ၍ ဤသို့မိန့်တော်မူ၏။ ချစ်သားအာနန္ဒာ၊ ဤကစ္ဆပနဒီမြစ်၏ အနောက်ဘက်အပြင်ဝယ် ငါ ကျင်လည်တော်မူဘူးသောအရပ်တို့သည် များစွာလျှင် ရှိကုန်၏။ အာယသို့လျှင်ရှိလေကုန်သနည်းဟူမူကား ယခုငါဘုရားသက်ဆင်းရပ်တန့်နေတော်မူသော ဤသေလာဂိရိအမည်ရှိသော ကျောက်တော်တောင်မှ အနောက်တောင်ထောင့်၌ တယူဇနာအလွန်ရှိသော အရပ်ဝယ် မလ္လပဗ္ဗတတောင်၌ ဟိန္တျတ်အမျိုးသားတစာစ် ဖြစ်ဘူးသောကြောင့် ငါ၏ဦးစွန်းတော်ဓာတ်ကို စေတီတည်လတ်၍ ဦးစွန်းတော်စေတီဟု တွင်လတ္တံ့။ (ရာဇဝင်သစ်၌ ဟိန္တျမည်သောသားတစာစ်ဖြစ်ဘူးကြောင်းနှင့်ဆိုသည်။ ရာဇဝင်ဟောင်း၊ ဆရာမေည်ရာဇဝင်တို့နှင့်မညီလေ)။

ထိုမလ္လပဗ္ဗတတောင်အနီးဝယ် ဝေဠုဝနမည်သောတောင်၌လည်း စပါးကြီးတစာစ်ဖြစ်ဘူးသောကြောင့် နောင်လာလတ္တံ့သောအခါ၌ ငါ၏နှာရိုးတော်ဓာတ်ကို စေတီတည်လတ်၍ နှာသဓာတ်စေတီဟုတွင်လတ္တံ့။ ထိုဝေဠုဝနတောင်၏အနီးဝယ် သန္တာဂိရိတောင်သည်ရှိ၏။ ထိုတောင်ဝယ်လည်း ကြွဲဆင်တစာစ်ဖြစ်ဘူးသောကြောင့်

ငါလွန်တော်မူလျှင် လက်ဝဲနားတော်ဓာတ်ကို စေတီတည်လတ်၍ ကဏ္ဏဓာတုစေတီဟု တွင်လတ္တံ့။

ထိုသင်္ကာဂိရိတောင်မှသည် တောင်မျက်နှာ တယူဇနာမက ကွာဝေးသောအရပ်ဝယ် သာလမယ မည်သော တောင်သည်ရှိ၏။ ထိုတောင်၌လည်း ဥယျာဉ် သည်သား တဓာစ်ဖြစ်ဘူးသောကြောင့် ငါလွန်တော်မူ လျှင် စမြုံတော်ဓာတ်ကို စေတီတည်လတ်၍ စမြုံတော် စေတီဟု တွင်လတ္တံ့။

ထိုသာလမယတောင်၏အနီး ချောင်း၏ တောင်ဘက်ကမ်းအရပ်တွင် ကစ္ဆပနဒီမြစ်၏ အနောက် ဘက် ကမ်းအနီးအပါးဝယ် သီလပဗ္ဗတမည်သော ကျောက်ရဲတောင်တည်ရှိ၏။ ထိုတောင်၌ အမျိုးမြတ်သော ဗေဒင်သုံးပုံကိုတတ်သော ပုဏ္ဏားသားတဓာစ်ဖြစ်ဘူးသော ကြောင့် ငါပရိနိဗ္ဗာန်လွန်တော်မူလေလျှင် လုံးပတ် နှစ်ညိုမျှလောက်ရှိသော ဦးခေါင်းခွံဓာတ်တော်ကို စေတီ တည်လတ်၍ ဦးရစ်တော်စေတီဟု တွင်လတ္တံ့။ (ဆရာ ငမည်ရာဇဝင်တို့၌ ထိုကသည် ချောင်းမြောက်ဘက် တောင်ဘက်မျက်နှာဟုဆိုသည်။ ချောင်းအနေနှင့် ဦးရစ်တော်စေတီအနေကို ဆင်ခြင်၍ယူလေ)။

ထိုသီလပဗ္ဗတတောင်၏ အနောက်မျက်နှာ အဖို့ဝယ် သုံးဂါဝုတ်မျှသောအရပ်ဝယ် မလ္လာယုဟူသော မယူမြစ်ကြီးရှိ၏။ အရှေ့ကမ်းထိပ်ပြင်ထက် စာရပဗ္ဗတ တောင်ကြီးသည်ရှိ၏။ ထိုတောင်၌ ဆဒ္ဒန်ဆင်မင်းတဓာစ် ဖြစ်ဘူးသောကြောင့် ငါလွန်တော်မူလေလျှင် ငါ၏ဦးကင်း တော်ဓာတ်ကိုစေတီတည်လတ်၍ ဦးကင်းတော်စေတီဟု တွင်လတ္တံ့။ ထိုစာရပဗ္ဗတတောင်၌ ဆဒ္ဒန်ဆင်မင်းတဓာစ် ဖြစ်တော်မူဘူးသောအခါ ကဆုန်နွေလ မိုးသည်းစွာ ရွာလတ်၍ ချမ်းအေးလှသောကြောင့် တဂါဝုတ်မျှလောက် ကွာဝေးသော မြောက်အရပ် တောမြိုင်ရိပ်ဝယ် ခိုအောင်း၍ နေလျှင် မိုးသည်စဲခဲ့သောကြောင့် နောင်အခါ၌ ထိုအရပ် သည် မိုးစဲအရပ်ဟု တွင်လတ္တံ့။ (ဆရာငမည် ရာဇဝင် တို့၌ကား မြူမှုန်ကျသောကြောင့် ခိုအောင်း၍နေလျှင် မြူမှုန်စဲခဲ့သောကြောင့် မှုန်စည်အရပ်တွင် လတ္တံ့အကြောင်း နှင့် တမျိုးဆိုကြလေသည်။ ရာဇဝင်ဟောင်းနှင့်ငင်း၊ ယခု ခေါ်ကြသော မိုးစဲကျွန်းဟူသော ဝေါဟာရနှင့်ငင်း မညီလေ)။

ထိုမလ္လာယုမြစ်ကြီး၏ အနောက်ဘက်ကမ်းပြင် ဝယ် သမုဒ္ဒရာအနီး ကာသီရမည်သော တောင်ကြီးထက်၌ လည်း ရွှေဥဒေါင်းမင်းတဓာစ်ဖြစ်ဘူးသောကြောင့် ငါလွန်တော်မူလေလျှင် ငါ၏လည်ရိုးတော်ဓာတ်ကို စေတီတည်လတ်၍ လည်ရိုးတော်စေတီဟုတွင်လတ္တံ့။ ဤသို့လျှင် ညီတော်အာနန္ဒာအား ရွှေနှုတ်ဗျာဒိတ်ခတ်နိုပ် ပိုင်းခြား ဟောကြားမိန့်မှာတော်မူသောအဆုံး၌ မြင့်မိုရ်၊ သတ္တရာဇ်၊ ခုနစ်တန်သီဒါ၊ စကြာဝဠာတိုက်အလုံးသည် ရှန်းရင်းခတ်မျှ တုန်လှုပ်လေ၏။ သမုဒ္ဒရာလှိုင်းသည် ဆူပွက်လေ၏။

## ၁၅၂။ စန္ဒသူရိယမင်း မြတ်စွာဘုရားထံ သွားရောက်ဖူးမြင်ကြောင်း

ဤသို့ နိမိတ်ပြဋ္ဌိဟာ ကြီးစွာဖြစ်လတ်သည်ကို မဟာစန္ဒသူရိယမင်းကြီး မြင်တော်မူလေလျှင် အလွန် ထိတ်လန့်တုန်လှုပ်ခြင်းရှိသည်ဖြစ်၍ တသိန်းသော အမတ်အပေါင်းတို့အား ကြီးမားသောတိတ်နိမိတ်ဖြစ်လာ သည့်အကြောင်းကို မေးတော်မူလေလျှင် အမတ်အပေါင်း တို့သည် အကျိုးအကြောင်းကိုတိုင်ပင်၍ လျှောက်တင်ကြ ကုန်သည်မှာ အရှင်မင်းကြီး၊ ထိန်ညီးပြိုးပြက် တခဲနက် သော အရောင်အဝါတို့သည် သေလာဂိရိကျောက်တော် တောင်မှစ၍ ပေါ်ထွန်း ဖြစ်ပွားပြီးနောက် မကြာမီ ဤသို့ သဘောရှိသောတိတ်နမိတ်တို့ ထင်ရှားစွာဖြစ်ပါသည်။ ဤသို့ ဖြစ်ပေါ်ထွန်းလင်း အကြောင်းရင်းကိုထောက်သော် အရှင်မင်းကြီး ပင့်ဖိတ်တောင်းပန်အပ်သည်ကို အကြောင်း ပြု၍ သဗ္ဗညုမြတ်စွာဘုရား ကြွရောက်တော်မူသည်ဟု ထင်ပါကြောင်း လျှောက်ထားကြလေသော် စန္ဒသူရိယ မင်းကြီးသည် အလွန်ဝမ်းမြောက် ဝမ်းသာဖူးချင်စွာသော

စိတ်ရှိတော်မူသည်ဖြစ်၍ အမတ်အပေါင်းတို့ကို ရှေ့တည်စေလျက် ဆင်၊မြင်း၊ ရထား၊ ယာဉ်၊ သန်လျင်း၊ ထမ်းစင်တို့ကိုမစီးပဲ အလွန်သဒ္ဓါကြည်ညိုခြင်းပြင်းစွာဖြင့် အဖျော်ယမကာ၊ ပန်းနံ့သာ၊ အမွှေး၊ အထုံတို့ကို ဆောင်ယူစေလျက် သဗ္ဗညုမြတ်စွာဘုရားအား ဝပ်တွားရှိကျိုးရှိခိုးပူဇော်ဖူးမြော်အံ့သောငှာ လျှင်စွာကြွသွားတော်မူလေ၏။ (ဤအရာ၌ အမတ်တို့က သဗ္ဗညုမြတ်စွာဘုရား သေလာဂီရိကျောက်တော်တောင်သို့ ရောက်တော်မူသည်ဟု တင်လျှောက်ကြောင်းနှင့် ရာဇဝင်ဟောင်း၌ဆိုသည်။ တိုက်ရိုက်သိဦးမည် မထင်။ အနုမာနအားဖြင့်သာ သိနိုင်ရာသည်ထင်၍ ချဲ့ထွင်ရေးပြလိုက်သည်။ ဆရာမေည်ရာဇဝင်၌ကား ဗေဒင်တတ်တို့အား သွားအံ့သောအချိန်ကိုမေး၍ သွားတော်မူလေကြောင်းနှင့် ဆိုသည်ကို ထောက်လျှင် မင်းကြီးပင် ထင်ထင်ရှားရှားသိပြီးလိုလိုဖြစ်သည်။ ရာဇဝင်သစ်၌ကား ဘုရားသခင် ကြွလာတော်မူသည့်အခင်းကြောင့် သို့စင်သော တိတ်နိမိတ်ဖြစ်ပါကြောင်းနှင့်လျှောက်သည်ဟု သင့်လျော်အောင် ဆိုသည်)။

ယင်းသို့ မင်းကြီးကြွတော်မူလေသော် အလွန်ပင်ပန်းစွာသွားလေသည်ဖြစ်၍ ဝမ်းတော်ဆာမွတ်သည်နှင့် ခဏတန့်နား စားတော်ခေါ်ရာ မြတ်စွာဘုရား၌ သဒ္ဓါကြည်ညိုရောက်လိုစိတ် အားကြီးသည်ဖြစ်၍ ထမင်းကိုစားတော်ခေါ်၍ ဟင်းလျာတော်ကို မစားမိသောကြောင့် ထိုအရပ်ကို ယနေ့တိုင်အောင် ဟင်းမစားအရပ်ဟု ခေါ်တွင်လေ၏။ ထိုအရပ်မှ ချီသွားပြန်လျှင် ဆင်၊မြင်း၊ ရထား၊ ခြေသည်တည်းဟူသော စစ်အင်္ဂါလေးပါးတို့၏ အသံသည် တပြိုင်နက် အုတ်အုတ်ကျက်ကျက် ကောင်းကင်မဆုံ သဲသဲရုတ်ရုတ်ဖြစ်ကြလေသောကြောင့် ထိုအရပ်ကို ရုတ်ပြင်ဟူ၍ ယနေ့တိုင်အောင်ခေါ်တွင်လေ၏။ ထိုအရပ်မှချီတော်မူလေလျှင် ပြင်ကြီးတပြင်သို့ ရောက်လေသော် ထက်ဝန်းကျင် မြေမှုန်အတိချုပ်လတ်၍ မိုက်မှောင်ဖြစ်ဘိလတ်ရကား သွားအံ့သောငှာခရီးကိုမျှ မမြင်ဖြစ်လေလျှင် မြတ်စွာဘုရားအား ညွတ်တွားရှိကျိုးကိုးကွယ်ခြင်းကိုပြုလေ၏။ ယင်းသို့ကိုးကွယ်ခြင်းကိုပြုကြသောအဖြစ်ကို မြတ်စွာဘုရားသိမြင်တော်မူ၍ ရောင်ခြည်တော်အလင်းကို လွှတ်တော်မူ၍အလင်းကိုမြင်ပြီးမှ အစဉ်အတိုင်းသွားတော်မူလေ၏။ ထိုမြူမှုန်ကျရာပြင်ကို ယနေ့တိုင်အောင် မြူပြင်ဟုခေါ်တွင်လေ၏။ ထိုအရပ်မှသည် လျှင်မြန်စွာသွားတော်မူလေသော် မြတ်စွာဘုရားရပ်တန့် သီတင်းသုံးတော်မူရာ သေလာဂီရိ ကျောက်တော်တောင်ထိပ်သို့ ရောက်တော်မူ၍ မြတ်စွာဘုရားခြေတော်စုံကို ဦးတိုက်လျက် ကရမက်၊ စမ္မာ၊ နံ့သာ၊ ပန်း၊ မန်၊ တံခွန်၊ ကုက္ကား၊မုလေးပွား၊ ကြက်လျှာအဖြာဖြာတို့ဖြင့် များစွာပူဇော်ကြကုန်၏။ သဗ္ဗညုမြတ်စွာဘုရားသည် စန္ဒသူရိယမင်းနှင့်တကွ မှူးမတ်ဗိုလ်ပါ ပရိတ်သတ်တို့အား ငါးပါးသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါးသီလတို့၌ ကျင့်ဆောင်ရအံ့သောအဖြစ်၊ အလှူပေးခြင်းဟုဆိုအပ်သော ဒါန။ ကျင့်သုံးဆောက်တည်ခြင်းဟု ဆိုအပ်သောသီလ။ စွန့်ကြဲခြင်းဟု ဆိုအပ်သောပရိစ္စာဂ။ ဖြောင့်မတ်စွာကျင့်ခြင်းဟု ဆိုအပ်သော အဇ္ဇဝ။ နူးညံ့သိမ်မွေ့စွာပြုကျင့်ပြောဆိုခြင်းဟုဆိုအပ်သော၊ မဒ္ဒဝ။ ဥပုသ်သီတင်းကျင့်သုံးခြင်းဟုဆိုအပ်သော၊ တပ။ အမျက်မထွက်ခြင်းဟုဆိုအပ်သော အကောဓ။ မညဉ်းဆဲခြင်းဟုဆိုအပ်သော အဝိဟိံသ။ သည်းခံခြင်းဟု ဆိုအပ်သော ခန္တီ။ တိုင်းသားပြည်သူတို့နှင့် မဆန့်ကျင်အောင်ကျင့်ခြင်းဟုဆိုအပ်သော အဝိရောဓန။ ဤသို့ မင်းတို့ကျင့်အပ်သော တရားဆယ်ပါးစသည်တို့ကို ဟောကြားဆုံးမတော်မူပေ၏။

## ၁၅၃။ စန္ဒသူရိယမင်းပင့်ဘိတ်၍ နန်းတော်သို့ မြတ်စွာဘုရား ကြွရောက်တော်မူကြောင်း။

စန္ဒသူရိယမင်းကြီးသည် အလွန်နှစ်သက်ဝမ်းမြောက်သော စိတ်ရှိသည်ဖြစ်၍ ဤသို့နားတော်လျှောက်ပေ၏။ ဘုန်းတော်ခြောက်စုံ ဂုဏ်တော်အနန္တနှင့်ပြည့်စုံတော်မူသော တရားမင်းဘုရား၊ အကျွန်ုပ်နှင့်တကွ မောင်းမမိဿံ တိုင်းနိုင်ငံသူအပေါင်းတို့အား သနားတော်

မူသည်ကိုအကြောင်းပြု၍ ဓညဝတီမြို့တော်ကြီးသို့ ကြွတော်မူပါဘုရားဟု လျှောက်ထားတောင်းပန် ပင့်ဘိတ်လေသော် မြတ်စွာဘုရားလည်း သနားသဖြင့် ပဋိညာဉ်ပေးတော်မူ၍ ရတနာအတိဖြင့် ဆန်းကြယ်သော စုလစ်မွမ်းချွန် အလျှံပြိုးပြက်ထွက်လတ်သော နေ,လ ဗိမာန်ကဲ့သို့ ရောင်ဝှန်ထိန်လက် တခဲနက်သော ပြာသာဒ်ယာဉ်ငါးရာနှင့် ရဟန္တာအရိယာအပေါင်းခြံရံ၍ ဘုရား၏တင့်တယ်စံပယ်ခြင်းဖြင့် မြန်းကြွတော်မူလာ၍ ဓညဝတီမြို့မင်းကြီး၏နန်းတော်သို့ ဝင်ရောက်သက်ဆင်း သီတင်းသုံးတော်မူလေ၏။ ထိုအခါစန္ဒသူရိယမင်းကြီးသည် ဘုရားသဗ္ဗညုအမှူးရှိသော တပည့်အရိယာရဟန္တာအပေါင်းတို့အား ရေမရောသောနို့ယနာဖြင့် ချက်အပ်သော သလေးဆွမ်းနှင့်တကွ အထူးထူးသောခဲဖွယ် ဘောဇဉ်၊ ချိုချဉ်အရသာတို့ဖြင့် ကောင်းစွာစီမံလျက် ခုနစ်ရက်ပတ်လုံး လှူဒါန်းကျွေးမွေးတော်မူ၏။ သဗ္ဗညုမြတ်စွာဘုရားလည်း စန္ဒသူရိယမင်းကြီးမှစ၍ မိဘုရားမောင်းမမိဿံမှူးကြီးမတ်ရာ ပြည်သူပြည်သားတို့အား ကောင်းမြတ်သင့်လျော်ရာ ဒေသနာအမြိုက်ဆေးကို တိုက်ကျွေးဟောကြားတော်မူပေ၏။ တရားဟောတော်မူသည့်အဆုံး၌ မင်းမိဘုရား မောင်းမမိဿံ ခြံရံဗိုလ်ပါတို့သည် သောတာပတ္တိဖိုလ်၌ တည်ကြလေကုန်၏။ တိုင်းနေပြည်သူလူခပ်သိမ်းတို့သည်ကား သရဏဂုံ ပဉ္စသီတရား၌ တည်ကြလေကုန်၏။

ထိုအခါ စန္ဒသူရိယမင်းကြီးသည် မြတ်စွာဘုရားကြွ သွားတော်မူသဖြင့် ကွဲကွာရအံ့သည်ကို တခဏမျှ အလိုမရှိသည်ဖြစ်၍ ဤသို့နားတော်လျှောက်ပေ၏။ သုံးပါးသောဘုံသူတို့၏ မကိုဋ်တန်းဆောင်၊ ဦးသျှောင် မှန်ကင်းတရားမင်း ဖြစ်တော်မူသော မြတ်စွာဘုရား၊ အရှင်ဘုရားသည် တပါးသော အရပ်သို့ ဒေသစာရီကြွချီဖြန့်မြန်းတော်မူခဲ့သည်ရှိသော် အကျွန်ုပ်သည် ကိုးကွယ်ရာမဲ့ဖြစ်ပါတော့မည်။ ယင်းသို့ ကိုးကွယ်ရာမဲ့ဖြစ်အံ့သော အကျွန်ုပ်စသော တိုင်းသူပြည်သားတို့အား သနားတော်မူသည်ကို အကြောင်းပြု၍ ရုပ်တုကိုယ်စား ထားတော်မူစေချင်ပါကြောင်းနှင့် လျှောက်တောင်းပန်အသနားခံလေလျှင် သဗ္ဗညုမြတ်စွာဘုရားလည်း ဉာဏ်တော်စက္ခုဖြင့် ကြည့်ရှုဆင်ခြင်မူလေသော် ကောသလမင်းကြီး တောင်းပန်အပ်သည်ကို အကြောင်းပြု၍ ထုလုပ်ကိုးကွယ်စေအပ်သော စန္ဒနသာရ-မည်သော ငါ၏ရုပ်တုတော်ကို နောင်သောအခါ မိစ္ဆာဒိဋ္ဌိမင်းတို့၏တိုင်းနိုင်ငံ၌ဖြစ်၍ ဖျက်ဆီးအံ့သည်ကိုမြင်၍ သိကြားမင်းကြီးသည် ရွှေပလ္လင်နှင့်တကွဝှက်သို၍ ထားလတ္တံ့သည်ဖြစ်၍ အခွန့်ရှည်ကြာ မင်းများစွာတို့ ကိုးကွယ်ဆည်းကပ်ရာမရဖြစ်အံ့သောအကြောင်းရှိချေသည်။ ငါဘုရားအလောင်းသည် ဘဝအဆက်ဆက်ကျင်လည်ဖူးသော ဤဓညဝတီပြည်သည် ဇမ္ဗူဒီပါကျွန်း၌ မြို့ကြီးအပေါင်း ရှစ်သောင်းလေးထောင်တို့တွင် အလွန်မြင့်မြတ်သော တိုင်းပြည် မြို့ကြီးဖြစ်ပေသည်။

ဤဓညဝတီပြည်၌ ငါ၏ကိုယ်စား ရုပ်တုထားခဲ့သည်ရှိသော်ကား ငါဘုရား ပရိနိဗ္ဗာန်စံတော်မူသည့်နောက်ထားတော်မူလတ္တံ့သော သာသနာငါးထောင်ပတ်လုံးတည်လတ်၍ လူ၊ နတ်၊ ဗြဟ္မာ၊ သတ္တဝါတို့၏ ချမ်းသာစီးပွား များစွာဖြစ်ကြကုန်လတ္တံ့ဟု မြင်တော်မူ၍ မဟာစန္ဒသူရိယမင်းကြီး၏ လျှောက်ထား အသနားခံတောင်းပန်အပ်သည်ကို ဝန်ခံပဋိညာဉ်ပေးတော်မူ၏။

စန္ဒသူရိယမင်းကြီးသည် အလွန်ဝမ်းမြောက်ဝမ်းသာ၍ ရတနာကိုးပါးတို့ကို ကိုးကုဋေမျှလောက်စုဝေး၍ မြတ်စွာဘုရားအား လျှောက်ကြားလေလျှင် မြတ်စွာဘုရားသည် သိကြား၊ ဝိသုကြံတို့ကိုခေါ်တော်မူ၍ ငါဘုရားကိုယ်တော်နှင့် မယုတ်မလွန်အတိုင်း အရှည်ပမာဏရှိသော ရုပ်တုတော်ကို ဤမျှသောရတနာအစုဖြင့် ပြုလုပ်၍ ပြီးလျှင်စေဟု လက်တော်ဖြင့် ခုနစ်လက်ခုပ်ကျုံးပြီးသော် တကုဋေမျှလောက်သော ရတနာရွှေငွေကို သိကြားမင်းအား အပ်နှင်းတော်မူ၏။ စန္ဒာသူရိယမင်းလည်း မြတ်စွာဘုရားအား ရုပ်တုတော်သွန်းလုပ်

ပြီးမြောက်အောင် ဆိုင်းငှံသီတင်းသုံးတော်မူပါဟု လျှောက်ထားတောင်းပန်၍ တည်းကျောင်းမဏ္ဍပ် ဆောက်လုပ်လှူဒါန်း၍ သီတင်းသုံးနေတော်မူစေပြီးလျှင် သိကြားမင်းသည် စန္ဒသူရိယမင်းအမှူးရှိသော မိုလ်ပါ အပေါင်းတို့နှင့်တကွ တကုဋေမျှလောက်သော ရတနာ ရွှေငွေကို ရတနာအတိပြီးသော ရွှေပန်းတောင်းနှင့်ထည့်၍ ရတနာဆင်ဖြူထက်တင်ပြီးလျှင် ထီးဖြူအုပ်လျက် သီရိဂုတ် အမည်ရှိသောတောင်သို့ ဆောင်ယူလေ၍ တောင်ထိပ် ပေါ်တွင် မဏ္ဍပ်ကနားဘန်ဆင်း၍ အထူးထူးသောတန်ဆာ တို့ဖြင့် တင့်တယ်လျှောက်ပတ်စွာဆင်ယင်ပြီးလျှင် ကခြင်း၊ သီခြင်း ၊တီးမှုတ်ခြင်း၊ ပဥ္စင်္ဂတူရိယာအသံတို့ဖြင့် တာဝတိံသာနတ်ပြည်ဝယ် သုဓမ္မာနတ်ပွဲသဘင်ကဲ့သို့ အလွန်လျှင် ပျော်ရွှင်မွေ့လျော်ရာ ကြီးစွာသောသဘင်ကို ခုနစ်ရက်ပတ်လုံး ခင်းကျင်းကြလေ၏။ ထိုအခါ စကြဝဠာအပေါင်း တိုက်တသောင်းမှ သောင်းသောင်း အုတ်အာ နတ်၊ဗြဟ္မာတို့သည်လည်း ရောက်လာ စည်းဝေးကြကုန်၏။ နတ်စည်၊ စောင်း၊ ညင်း တီးမှုတ်ခြင်းတို့ဖြင့်လည်း သင်းပင်းညီညာ ပြုလာကုန်၏။

## ၁၅၄။ မဟာမုနိရုပ်တုတော်ကို သွန်းလုပ်ကြောင်း

ယင်းသို့ ခုနစ်ရက်ပတ်လုံး ပွဲလမ်းသဘင် ခင်းကျင်းပြီးမှ သိကြား၊ ဝိသုကြံတို့သည် စန္ဒသူရိယမင်း နှင့်တကွ တရာသော မင်းအပေါင်းတို့ဖြင့် ခြံရံ၍ အဥ္စနမင်းဖြိုကြွင်း သက္ကရာဇ် ၁၂၃ ခု၊ တရာနှစ်ဆဲ့ သုံးခု၊ ကဆုန်လပြည့်၊ ဗုဒ္ဓဟူးနေ့ ညနေအချိန်မှစ၍ ရုပ်တုတော်မဟာမုနိကို သွန်းလုပ်ဘန်ဆင်းတော်မူ၍ မိုးသောက်နံနက်အခါ မြတ်စွာဘုရားအား ပင့်ဖိတ် လျှောက်ထားတော်မူလေလျှင် ကြွလာတော်မူ၍ သိကြား၊ ဝိသကြံတို့ သွန်းလုပ်ဘန်ဆင်းအပ်သော ရုပ်တုတော်၏ တန်ခိုးကြီးခြင်းကိုဖြစ်စေလိုသောကြောင့် ကိုယ်တော်မှ ဖြစ်သော ရင်ငွေ့တော်ကို ခုနစ်လက်ခုပ်ထည့်တော်မူ၏။ သဗ္ဗညုမြတ်စွာဘုရားထပ်မံ၍စီရင် ဘန်ဆင်းတော် မူအပ်သော ရုပ်တုတော်သည် တဆံခြည်မျှမချွတ်။ ယခင် သက္ကရာဇ် ၁၂၃၊ တရာနှစ်ဆဲ့သုံးခု၊ ကဆုန်လပြည့် ကျော်တရက် ကြာသပတေးနေ့ နံနက်အချိန်တွင် အောင်မြင်ပြီးမြောက်တော်မူလေ၏။ ထိုသို့ ပြီးမြောက် သောအခါ ဗြဟ္မာ၊ နတ်၊ လူအပေါင်းတို့၏ မျက်စိတွင် ဘုရားနှစ်ဆူ တပြိုင်နက်ပွင့်တော်မူသကဲ့သို့ ထင်ကုန်၏။ စန္ဒသူရိယမင်းမှစ၍ မှူးမတ်၊ ပြည်သူ၊ နတ်၊လူ၊ဗြဟ္မာ အပေါင်းတို့သည် သောင်းသောင်းကြော်ကြော် သာဓုခေါ်၍ ပူဇော်ဖွယ် အခန်းခန်းတို့ဖြင့် လှူဒါန်းပူဇော်ကြကုန်၏။ သိကြား၊ ဗြဟ္မာ၊ နတ်များစွာတို့သည် မဟာဗောဓိမဏ္ဍိုင်၌ လေးနိုင်သစွာ၊ ငါးဖြာဥဿျ၊ ဓမ္မပင်းကို ထိုးထွင်းသိမြင် ၍ သုံးခွင်ထွန်း၍ထား ဘုရားအဖြစ်သို့ရောက်တော်မူသော အခါကဲ့သို့ လွှမ်းစွာဝမ်းမြောက်ကြကုန်သည်ဖြစ်၍ နတ်၌ ဖြစ်သော ထင်ရှားပန်း၊ အာသာဝတီပန်းအစရှိသော အထူးထူးအဆန်းဆန်း နတ်ပန်းမျိုးအပေါင်းတို့ဖြင့် သွန်းလောင်းပူဇော်ခြင်း၊ နတ်၌ဖြစ်သော အမွှေးအထုံတို့ဖြင့် လွှမ်းခြုံပူဇော်ခြင်း၊ နတ်၌ဖြစ်သော စောင်း၊ညင်း၊ ပတ်သာတူရိယာတို့ဖြင့် သာယာမှုတ်တီးခြင်း စသည်တို့ ဖြင့် ညွတ်ခပူဇော်ကြကုန်၏။ ဗြဟ္မာမင်းတို့လည်း လက်ပမ်းပေါက်ခတ်ကုန်၏။ တသောင်းသောစကြဝဠာ မှ နတ်၊ဗြဟ္မာအပေါင်းတို့သည်လည်း ကောင်းစွာ လာရောက်ဖူးမြင်ကြကုန်၏။ မြင့်မိုရ်သတ္တရဘန်၊ ခုနစ်တန်သောသီတာ၊ စကြာဝဠာတော် တောင်အားလုံးတို့ သည်လည်း ဖြုန်းဖြုန်းခါမျှ တုန်လှုပ်ကြကုန်၏။ ဤသို့ အံ့ဖွယ်သရဲ ထူးကဲသော တိတ်နိမိတ်ပြာဋိဟာတို့ကို စန္ဒသူရိယမင်းကြီး မြင်တော်မူလေလျှင် ကြည်ရွှင်သဒ္ဓါ စေတနာဗလဝ အားကြီးလှသည်ဖြစ်၍ သမ္ဗုဒ္ဓမြတ်စွာ၏ နှစ်ဖြာသောခြေတော်စုံကို လက်မှုံဦးတိုက်လျက် မေးငိုက် ပျော်မွေ့သတိတော်မေ့လေ၏။ နောက်ရွေ့တဖန် သတိတော်တည်ပြန်၍ အရဟံဂုဏ်ထူးကို ချီးကျူးအံ့ဩ တော်မူလေ၏။ ယင်းသို့ ချီးကျူးအထူးအံ့ဩတော်မူပြီးမှ ဗုဒ္ဓကိုယ်စားရုပ်ပွားတော်အရှင်ကို ပလ္လင်တော်ရတနာထက်

ကောင်းစွာတင်ထားတော်မူလျက် ထီးဖြူကနဏ္ဍဒန်၊ တံခွန်ကုဏ္ဍား၊ မုလေးပွား ပန်းနံ့သာတို့ဖြင့် ကောင်းစွာချီးမြှင့်ပူဇော်တော်မူပြီးလျှင် သဗ္ဗညုဘုရားသခင်နှင့်တကွ တပည့်သာဝက ရဟန္တာအရိယာငါးရာတို့အား ရသာကြိုင်မွှမ်း၊ ဆွမ်းပန်းအကျော်၊ အဖျော်ယမကာ အဖြာဖြာတို့ဖြင့် ကောင်းစွာလှူဒါန်း ကျွေးမွေးတော်မူ၏။ သဗ္ဗညုမြတ်စွာဘုရားလည်း ဆွမ်းဘုဉ်းပေးတော်မူပြီးလျှင် မင်္ဂလာရှစ်ပါးတရားတော် ဓမ္မစက်ကို မိန့်မြွက်ဟောကြားတော်မူပြီးမှ တည်းကျောင်းသို့ကြွတော်မူလေသည်။

တနေ့မိုးသောက်ရောက်လတ်သောအခါ မြတ်စွာဘုရားကို ပင့်ဘိတ်တော်မူပြန်၍ ကြွလာတော်မူစဉ် မြင့်မိုရ်သောတောင်ပို့တခုထက် ရပ်တန့်တော်မူလျက် ရုပ်တုတော်ကိုကြည့်ရှုတော်မူလေ၏။ ထိုအရပ်ကို မြင့်မိုဟု ယနေ့တိုင်အောင်ခေါ်ကြလေ၏။

ထိုအရပ်မှ သဗ္ဗညုမြတ်စွာဘုရားသည် တင့်တယ်သော ရုပ်တုတော်ကိုမြင်တော်မူလေလျှင် ကြည်လင်သော စိတ်ရှိတော်မူ၍ တန်ဆာဆင်အပ်သော ခရီးဖြင့် မဏ္ဍပ်အတွင်းသို့ ကြွတော်မူလာသည့်အခါ ရုပ်တုတော်လည်း အသက်ဝိညာဉ်ရှိသကဲ့သို့ နောင်တော်မြတ်စွာဘုရားအား ခရီးဦးကြိုပြုအံ့ဟုထအံ့သော အခြင်းအရာကိုပြုလေသော် မြတ်စွာဘုရားက ဧရာဝဏ်ဆင်မင်း၏နှာမောင်းနှင့်တူသော လက်ယာလက်တော်ကို ဆန့်၍ လက်ဝါးကာတော်မူလျက် ငါ၏ညီတော်၊ မထလင့်ဟု တားမြစ်တော်မူ၍ ငါ့ညီတော်၊ ငါတမူကား မကြာမြင့်ခင်လျှင် ပရိနိဗ္ဗာန်ပြုရလိမ့်မည်။ ငါ့ညီတော်သည်သာလျှင် ငါဘုရားဖန်ဆင်းဘိသကဲ့သို့ အထူးထူးအပြားပြား တန်းခိုးပြာဋိဟာတို့ကိုဖြစ်စေလျက် ငါထားတော်မူလတ္တံ့သော သာသနာငါးထောင် မကုန်သရွေ့အမျှတည်ရစ်သဖြင့် လူ၊နတ်၊ဗြဟ္မာ သတ္တဝါအပေါင်းတို့၏ ရှိသေရာဖြစ်စေလောဟု ဗျာဒိတ်ပေးတော်မူပြီးမှ ငါဘုရားသည် ရှေးရှေးဘဝ၌ မာန်အောင်ကျွန်းတွင် မင်းဖြစ်သောအခါ တောင်သူကြီး၏ ခြေထောက်အပေါင်ကို ဖွဲ့ခဲ့ဖူးသောဝိပါက်တော်နှင့် မင်းသားငါးယောက်တို့၏ ကြောသားကိုနှုတ်ခဲ့ဖူးသော ဝိပါက်တော်၊ ဤဝိပါက်တော်နှစ်ပါးကို ငါ၏ကိုယ်စားတော်ဖြစ်သော ငါ့ညီတော်သည် ခံရစ်လောဟု ဗျာဒိတ်စကားမှာထားပြုတော်မူလေသည်။ ယင်းသို့ မှာထားခြင်းပြုတော်မူပြီးသောနောင်မှ စန္ဒသူရိယမင်းကြီးသည် ငါးရာသောရဟန္တာအရိယာတို့နှင့်တကွ သဗ္ဗညုမြတ်စွာဘုရားအား များပြားသော အရသာတို့ဖြင့် ကောင်းစွာ ဆွမ်းပန်းလှူဒါန်း ကျွေးမွေးတော်မူလေသည်။ မြတ်စွာဘုရားလည်း မဟာစန္ဒသူရိယမင်းကြီးအား သရဏဂုံနှင့်စစ်ဖြစ်သော စန္ဒနသာရရုပ်တုတော်၏ အကျိုးနှင့်အတူဟောတော်မူပေ၏။ စန္ဒသူရိယမင်းကြီးလည်း ရုပ်တုသွန်းလုပ်ရန် ခုနစ်လက်ခုပ် တကုဋေမျှလောက်သော ရတနာရွှေငွေမှကြွင်းသော ရှစ်ကုဋေသော ဥစ္စာရတနာတို့ကိုဆောင်ယူစေပြီးလျှင် ရဟန္တာအရိယာတို့ကို လှူဒါန်းတော်မူလေသော် လက်ခံတော်မမူသည်ဖြစ်၍ ရတနာသုံးပါးအား ရည်မှတ်လေပြီးသော ဥစ္စာကို ပြန်ယူခြင်းငှာမအပ်ပြီဟု ရုပ်တုတော်၏ ပလ္လင်အောက်ဝယ် မြှုပ်တော်မူလေ၏။ ထိုဥစ္စာရွှေငွေမှတပါး အတိုင်းမသိမရေတွက်နိုင်သော လှူဒါန်းပေးကမ်းစွန့်ကြဲခြင်း ပူဇာသက္ကာရအမှုကိုလည်း ပြုစုလှူဒါန်းပေးကမ်း ချီးမြှင့်တော်မူပေ၏။ (ဤရုပ်တုတော်ကို သွန်းလုပ်ခန်း၌ ရာဇဝင်ဟောင်းတို့တွင် ခုနစ်လက်ခုပ်သော ရတနာဟူ၍သာ ဆိုကြသည်။ အရေအတွက်ကို မဆိုကြလေ။ ရာဇဝင်လင်္ကာ၌ ခုနစ်လက်ခုပ်သောရတနာသည် တကုဋေဖြစ်ကြောင်းနှင့် ဆိုသည်။ ဘုရားလက်ခုပ်တော်ဖြစ်၍ တကုဋေ မရှိမဆိုသာ။ သွန်းလုပ်သောအခါ ရတနာထီးဖြူအုပ်၍ သွန်းလုပ်ကြောင်းမျှ ရာဇဝင်ဟောင်းကဆိုသည်။ မည်သည့်နေရာ၌ သွန်းလုပ်ကြောင်းကို မဆိုလေ။ သွန်းလုပ်ပြီးမှ ပွဲသဘင်ကျင်းပ၍ မဏ္ဍပ်သို့ မြတ်စွာဘုရားကိုပင့်ကြောင်း မျှဆိုသည်။ မည်သည့် မဏ္ဍပ်သို့ ပင့်ကြောင်း မပါလေ။ သိကြား၊ ဝိသကြုံတို့ သွန်းပြီး ရုပ်တုတော်၌ ရင်ငွေ့တော်ကိုထည့်တော်မူရာ

ညဖုဒ္ဓဟူး၊ မိုးသောက် ကြာသပတေးနေ့ ပြီးမြောက်ကြောင်းနှင့်ဆိုသည်ကို နံနက် ကြာသပတေးနေ့ ထည့်သည်ယူမှသင့်မည်။ ရုပ်တုတော်သွန်းပြီးလျှင် ချက်ချင်း သိမ်တော်ကျောင်း ဆောက်လုပ်လှူဒါန်းပြီးအဆုံး၌ ဆွမ်းကျွေးကြောင်းနှင့်ပါသည်ကို စာနာရန်ရှိသည်။ ဆရာမည်-ရာဇဝင်၌ ဆင်ဖြူထက်တွင် ထီးဖြူအုပ်လျက်ထားလေ၏ဟူ၍သာဆိုသည်။ သွန်းလုပ်ကြောင်း မပါလေ။ သိရိဂုတ်တောင်ထိပ်တွင် မဏ္ဍပ်စီရင်၍ ပွဲသဘင်ခံကြောင်းမျှဆိုသည်။ သွန်းလုပ်ကြောင်း မပါလေ။ နောက်သိကြား၊ ဝိသကြုံတို့ သွန်းခဲ့သည်အရာဝယ် ရုပ်တုတော်၏တန်းခိုးကြီးခြင်းကိုဖြစ်စေလို၍ ကိုယ်တော်ရင်ငွေ့ကို ထည့်ပေးကြောင်းမျှဆိုသည်။ သွန်းလုပ်ရာ လုံးလုံးမပါလေ။ ရာဇဝင်သစ်၌ကား အရင်းမှ၊ ဆရာမည် ရာဇဝင်အတိုင်းဆိုပြီးလျှင်အဆုံးတွင် ရင်ငွေ့တော်ကို သိကြား၊ ဝိသကြုံတို့သာဟူ၍ သဗ္ဗညု မြတ်စွာဘုရားနှင့် အလားတူမျှသဏ္ဌာန်ကျအောင် ဆောက်ထည့်ဘန်ဆင်းကြောင်းနှင့် ဆိုလေသည်။ ဆိုလေသမျှ အဝဝတို့ကို စိန္တိတဉာဏ်ရှင်တို့ဆင်ခြင်၍ ယူလေကုန်။ ငါတို့အလိုကား ရာဇဝင်အဆိုအသွားနှင့် လင်္ကာများအလာကို စာနာ၍ရေးခဲ့ပေသတည်း။ ရာဇဝင်လင်္ကာသွားကို မှတ်သားသိလိုမူ။

သုံးဆဲ့နှစ်ပါး၊ ထင်ရှားအရာ၊ လက္ခဏာကြီး၊ နေမီးသဖွယ်၊ ရှစ်ဆယ်လက္ခဏာ၊ ရောင်ခြောက်ဖြာနှင့်၊ မဟာမုနိ၊ မည်ရှိထင်ပေါ်၊ ရုပ်တုတော်ကို၊ နတ်ကျော်သိကြား၊ သွန်းဗြားသောခါ၊ ပြီးရုံသာလျှင်၊ မြတ်စွာဘုရား တပည့်သားနှင့်၊ တန့်နားတုံလျှင်း၊ သီတင်းသုံးရန်၊ ဗိမာန်ကျောင်းကြီး၊ ဆောက်ပြီးကပ်လှူ၊ တောင်းဆုယူ၏။ ပြည်သူရတနာ၊ များစွာမှုုးမတ်၊ ခြံရံပတ်လျက်၊ မိုးနတ်သိကြား၊ နတ်သားဝိသုကြုံ၊ ဆောင်တုံမကွာ၊ ရတနာရွှေငွေ၊ တကုဋေကို၊ ရွှေပန်းတောင်းမှာ၊ ထည့်ပြီးခါလျှင်၊ ရတနာဆင်ဖြူ၊ တင်တော်မူ၍၊ ထီးဖြူမိုးမှ၊ ဓညဝတီ၊ သီဂီရွှေရောင်၊ တပြောင်ပြောင်မှ၊ ရွှေတောင်ရပ်ခွင်၊ ဆောင်ယူကျင်း၍၊ မြသွင်းမှိုင်းဏ္ဍ၊ တန်ခိုးရှိသည်။ သိရိဂုတ်တောင်၊ ဖွေထိပ်ခေါင်ကို၊ ညီအောင်ပျင်ဆင်၊ မဏ္ဍပ်ခွင်နှင့်၊ သဘင်ထူးပြား၊ အခြားခြားလျှင်၊ နတ်များတန်ဆာ၊ ဆင်ယင်ကာတည်း။ သုဓမ္မာဇရပ်၊ ပြာသာဒ်ဝင်းဝင်း၊ မတူလျှင်းပဲ၊ ထူးကဲသာယာ၊ များစွာပဋ္ဋင်၊ သဘင်ခြိမ့်ခြိမ့်၊ တသိမ့်သိမ့်လျှင်၊ ပျော်ရွှင်မှုတ်တီး၊ နားမညီးသည်၊ ပွဲကြီးသဘင်၊ ထူးဆန်းတည်း။

မိုးနတ်,ဗြဟ္မာ၊ များစွာစည်းဝေး၊ ချီးကြွေးညည်၊ ကောင်းကြီးသံဖြင့်၊ မိုးယံဘဝဂ်၊ ဝှန်တက်ကြော်ငြာ၊ ဇမ္ဗူချာထက်၊ တရာထီးဆောင်း၊ မင်းပေါင်းခြံရံ၊ ညီလာခံလျက်၊ စံစံပပ၊ သူရိယစန္ဒာ၊ ဗြဟ္မာ,သိကြား၊ နတ်များညီညွတ်၊ မှုတ်ခတ်ကျူးလွင်၊ ပဋ္ဋင်ပြီးစီး၊ မဏ္ဍပ်ကြီးတွင်၊ ရှင်တော်ကိုယ်စား၊ ရုပ်ပွားဆင်းတု၊ သွန်းပြုသောခါ၊ နှစ်ကောဇာမူ၊ တရာနှစ်ဆယ်၊ စွန်းဝယ်သုံးခု၊ ရတုဂိမှ၊ နွေလကဆုန်၊ ပူဟုန်ပြင်းစွာ၊ ဝိသာခါနှင့်၊ မက္ခာယှဉ်မှတ်၊ ရက်မြတ်ဗုဒ္ဓ၊ ညဦးကလျှင်၊ စ၍သွန်းရာ၊ ထိုအခါတွင်၊ တေဇာတန်းခိုး၊ တက်တိုးဝှန်ဝေ၊ ဖြစ်စေခြင်းငှာ၊ အဓိဋ္ဌာဖြင့်၊ မဟာပုရိသ၊ လောကကြေးမုံ၊ သုံးဘုံမျက်ဖျော်၊ ရွှေကိုယ်တော်ငွေ့၊ လက်တော်ပွေ့လျက်၊ ထည့်၍ကြည့်ရှု၊ သဗ္ဗညုတ၊ ကြပ်မသွန်းလုပ်၊ ရုပ်တုတော်ကြီး၊ ထိန်ညီးလျှံပြေး၊ ကြာသပတေးနေ့တွင်၊ ပြီးအောင်မြင်၏၊ သုံးခွင်ဘုံသူ၊ နတ်, လူ, ဗြဟ္မာ၊ သတ္တဝါတို့၊ ရှုကာတီတီ၊ မျက်စိ၌တွင်၊ ရှင်တော်ဘုရား၊ နှစ်ပါးရည်တူ၊ နှစ်ဆူမပျက်၊ တပြိုင်နက်လျှင်၊ ပွင့်သည်ထင်၏၊ ပြည့်ရှင်မင်းဖျား၊ နတ်အများနှင့်၊ သိကြား,ဗြဟ္မာ၊ ဝမ်းမြောက်ကာလျှင်၊ များစွာပူဇော်၊ ရွှင်ပျော်စိတ်နှ၊ သာဓု သာဓု၊ ခေါ်ပြုအသံ၊ ပဲ့တင်လျှံရှင့်၊ မိုးယံဘဝဂ်၊ ကျော်ဝှန်တက်သည်၊ အုတ်ကျက်နတ်လူ၊ သောင်းသောင်းတည်း။ ဟူသောဤလင်္ကာတို့ဖြင့် ကောင်းစွာမှတ်သားကြလေ။

ဤလင်္ကာ၌ သိရိဂုတ်တောင်ကို ဓညဝတီမြို့မှ ရွှေတောင်ရပ်ခွင်ဟူ၍ ပါရှိလေသည်ကို ရာဇဝင်ဟောင်း

တွင် ဒသရာဇာမင်းရုပ်တုတော် မဟာမုနိကို ရှာတော်မူခန်း၌ အရှေ့အရပ်ဟုဆိုလတ္တံ့ဖြစ်သောကြောင့် ရှေ့ဘောင်ရပ်ခွင်ဟူ၍ ဖျင်ရေးလိုက်သည်။ ဆရာမည် ရာဇဝင်တို့၌ကား အရှေ့မြောက်ထောင့်အရပ်ဟူ၍ဆိုကြလေသည်။ ရာဇဝင်ဟောင်းအဆိုနှင့် မညီလေ၊ ရုပ်တုသွန်းသော သက္ကရာဇ်ကိုလည်း တရာ့ရှစ်ဆယ်၊ စွန်းဝယ်သုံးခုတွင် မြတ်စွာဘုရားမရှိပြီ။ တရာ့လေးဆဲ့ရှစ်ခုနှစ်ကပင် ပရိနိဗ္ဗာန်စံယူတော်မူလေပြီဖြစ်၍ငင်း၊ စန္ဒသူရိယမင်းနန်းစံ ငါးဆဲ့တနှစ်၊ သက္ကရာဇ်တရာ့နှစ်ဆဲ့သုံးခုနှစ်တွင် မြတ်စွာဘုရား ဓညဝတီပြည်သို့ ကြွလာတော်မူကြောင်းနှင့် အင်းစောက်ရာဇဝင်၌ဆိုသောကြောင့်ငင်း၊ ထိုရာဇဝင်နှင့်ညှိ၍ တရာ့နှစ်ဆယ်၊ စွန်းဝယ်သုံးခုဟု ဖျင်လျက် ရေးလိုက်သည်။ ခ,ဆ,ပဉ္စ ကိန်းဖြိုပြီးနောက်သက္ကရာဇ် ၈၂၀ ပြည့်တွင် နန်းတက်တော်မူသော ဘစောဖြူမင်းလက်ထက် အမတ်ကြီး အဒူမင်းညို စပ်ဆိုအပ်သော ထိုမင်းသမီးဧချင်း၌ကား စန္ဒသူရိယမင်းလက်ထက် မြတ်စွာဘုရားကြွလာတော်မူသဖြင့် စန္ဒသူရိယမင်း တောင်းပန်၍ မဟာမုနိရုပ်ရှင်တော်ကို သွန်းလုပ်တော်မူခဲ့ကြောင်းမျှကိုသာ စပ်ဆိုရေးသားလေသည်။ ခုနစ်သက္ကရာဇ်တို့မပါလေ။ ထိုကြောင့် ငင်းဧချင်း စန္ဒသူရိယမင်း၏ အခန်း၌-

ဧလျက်ကျစ်လျစ်၊ စည်တရစ်တည်း၊ တလှစ်ယင်းက၊ သိကြားပြသား၊ ဓညဝတီ၊ သညီမည်သာ၊ တည်တံ့လာ၍၊ ဆက်ကာလွှထိပ်၊ နှစ်ကျိပ်ရှစ်ယောက်၊ မင်းများနောက်တွင်၊ ထက်အောက်အာဏာ၊ စကြာနန္ဒာ၊ နေ,လမတူ၊ မဟူမြတ်မော၊ ဥာဏ်ရောင်ပြောလျက်၊ ရှင်ဂေါတမ၊ ပွင့်လတ်ထသည်၊ ဘဝသုံးထိပ်ဦးတည့်လေး။ ဦးတည့်မှောက်တော်၊ ဟုတ်တည့်သြော်၊ ဂေါတမဟု၊ ဘဝသုံးမည်၊ မဏ္ဍိုင်တည်သည်၊ ဥာဏ်ခြည်တည့် ရောင်ပြေး၊ ပတ်ကုံးမွေး၊ ဧလည်းယင်ယင်ဧ။

ဧဧရင်ရှူ၊ ဖိုးသည်မူလျက်၊ လူသူခေါ်ကာ၊ မေတ္တာရေးရေး၊ ပုံမွေးသာကြည်၊ နားတော်တည်လော့၊ ထူးလည်မြတ်စစ်၊ ကေရာဇ်တံခွန်၊ ဆဒ္ဒန်ဖြူလွှ၊ ဆွရရှုနှင့်၊ ဓညဝတီ၊ သီဂီရွှေပြည်၊ ဘုံတိစည်သား၊ အမည်သူရိယ၊ စန္ဒရာဇာ၊ မင်းသဒ္ဒါလျှင်၊ ထိုခါစိုးခိုက်၊ ရှင်တော်ကြိုက်၍၊ ရိုက်ရိုက် သဲပိမ့်၊ အူသိမ့်တက်ဝုန်၊ ပီတိမွှန်မျှ၊ တောင်းပန်သောခါ၊ မဟာမုနိ၊ ရှိသည်ယခု၊ ဆင်းရုပ်တုကို၊ ဝိသုကမ္မ၊ သိကြားမ၍၊ ပဉ္စလောဟာ၊ ရတနာဖြင့်၊ သွန်းကာမဖြစ်၊ ခုနစ်လက်ခွေ့၊ ကိုယ်ငွေ့တော်ယူ၊ ထည့်တော်မူမှ၊ ဘုန်းတူဘုန်းရှည်၊ ညီနည်ဘုရား၊ ကိုယ်တော်စားဟု၊ ထားခဲ့သောအား၊ သုံးပါးနတ်လူ၊ ကိုးရာမူသည်၊ အယူရှိညွှတ်နူးတည့်လေ၊ နူးတည့်မှောက်တော်၊ ဟုတ်တည့်သြော်၊ ရှင်တော်ကိုယ်စား၊ ကိုးရာထား၍၊ သုံးပါးလူနတ်၊ အားလုံးညွှတ်သည်၊ အထွတ်တည့်မှန်လေး၊ နှိုင်းမဲ့ဝေး၊ ဧလည်းယင်ယင်ဧ။

ဟူ၍ စပ်ဆိုရေးသားခဲ့လေသည်။

နောက်သားရှင်လူတို့ မှတ်ယူစေလိုကြောင်း ကောင်းမြတ်သောစေတနာဖြင့် အစိုးရတို့ထုတ်ဝေအပ်သော မြန်မာစာညွှန်ပေါင်းကျမ်းမှ ထုတ်ပြရေးသားလိုက်ပေသည်။ (ဤကား အမှာစကားချုပ်)။

(၁)ရုပ်တုတော် မဟာမုနိကိုသွန်းလုပ်တည်ထားတော်မူရာဖြစ်သော သိရိဂုတ်တောင်ကို ဖြူစင်သောငွေအဆင်းကဲ့သို့ လက်ယာရစ် ခရုသင်းသဏ္ဌာန်နှင့်တူသောကြောင့် သိရိဂုတ်တောင်ဟုခေါ်ကြောင်း။ (၂)မြတ်သော ကျေးဇူးရှိသောတောင်ဖြစ်သောကြောင့် အဂ္ဂညုတောင်ဟု ခေါ်ကြောင်း။ (၃)ဘီလူးသုံးခုတို့သည် ရင်ဆိုင်ပူး၍ နေကြဟန်ရှိသောကြောင့် တြိကူဋ္ဌတောင်ဟု ခေါ်ကြောင်း။ (၄)ခြင်္သေ့သည် တိရစ္ဆာန်တို့ကိုဟောက်၍ ဖမ်းဟန်ပုံသဏ္ဌာန်ရှိသောကြောင့် သီဟရာဇာတောင်ဟု ခေါ်ကြောင်း။ (၅) ဝက်မရင်အောက်တွင် ဝက်ငယ်စု၍ နေဟန် သဏ္ဌာန်ရှိသောကြောင့် ဝက်သစို့တောင်ဟု ခေါ်ကြောင်း။ (၆) တနည်းအားဖြင့် ဒေဝဒတ်အလောင်းကျားက စားမည်ပြုသည်ကို ဘုရားအလောင်းဝက်မင်း အရံငါးရာနှင့် ဥမင်တူး၍ပြေးစေမှ အသက်ချမ်းသာ

သောကြောင့် ဝက်သတိုးတောင်ဟုခေါ်ကြောင်း။ ဤတောင်အမည် ၆ မျိုးကို ညီတော်အာနန္ဒာအား ဘုရားဟောတော်မူလေကြောင်းနှင့် ဆရာငမည် ရာဇဝင်တို့၌ဆိုသည်။ ရာဇဝင်ဟောင်း၌ မပြမဆိုလေ။ (ဤကား စကားချပ်)။

## ၁၅၅။ ဒွါရာဝတီသံတွဲမြို့သို့ ကြွတော်မူကြောင်း

စန္ဒာသူရိယမင်းကြီးသည် မြတ်စွာဘုရားအား လှူဒါန်းပူဇော်ပြီးသောအဆုံး၌ သဗ္ဗညုတမြတ်စွာဘုရားသည် တပည့်သားတို့အား ဤသို့မိန့်တော်မူ၏။ ချစ်သားရဟန်းတို့၊ ဤဇမ္ဗူဒီပါကျွန်းအပြင်၌ မဇ္ဈိမဒေသဖြစ်သော သောဌသခရိုင်နိုင်ငံပြည်ကြီး အသီးသီးတို့၌ နိမိုးနေရပ်ဆွမ်းခံအပ်သည်ရှိသော် ပြောင်း, ပဲ, လူး, ဆတ် ရောယှက်စပ်သော ဆွမ်းကိုသာလျှင် ရရှိသုံးဆောင်ရလေသည်။ ထိုပြည်တို့ထက် အလွန်ဝပြောသော ဤပြည်ဝယ် ဆွမ်းလှူအပ်၊ ခံအပ်သည်ရှိသော်ကား အထူးထူးသော အဆင်းအနံ့နှင့်ပြည့်စုံသော ကောက်ကြီးသလေးဆန်တို့ဖြင့် ချက်လှူအပ်သောဆွမ်းကို ဘုဉ်းပေးသုံးဆောင်တော်မူရသောကြောင့် ရှေးလွန်လေပြီးသော ကကုသန်၊ ကောဏာဂုံ၊ ကဿပ-ဟူသော ဘုံသုံးပါးတွင် အတုမရှိ ထင်ရှားစွာဖြစ်တော်မူသော နောင်တော်သုံးပါးတို့သည်လည်း ဤပြည်ကို ဓညဝတီပြည်ဟူ၍ အမည်ပေးတော်မူခဲ့သတည်း။ ယခုလည်း ဤပြည်သူ ပြည်သားအပေါင်းတို့သည် စိုးစဉ်းရံဖန်မျှ ရှားပါးငတ်မွတ်ခြင်းမရှိ ဖြစ်သောကြောင့် ဓညဝတီပြည်ဟူ၍ပင်လျှင် ထင်ရှားကျော်စောစွာဖြစ်သတည်းဟု ဗျာဒိတ်စကား မိန့်ကြားတော်မူပြီးမှ ရဟန္တာအရိယာငါးရာ ခြံရံလျက် ပြာသာဒ်ပျံ ရတနာထက်စီး၍ မြို့ကြီးဒွါရာဝတီသို့ တိမ်ဆီကောင်းကင်ဝေဟာခွင်ဖြင့် စက်ရှင်ဖြန့်မြန်းတော်မူလေသော် ဒွါရာဝတီသံတွဲမြစ်ကို လျှောက်၍ဝင်တော်မူလေလျှင် ဒွါရာဝတီသံတွဲမြို့၏အရှေ့ဘက် နှစ်ဂါဝုတ်ခန့်အကွာတွင် တခုသော ကုန်းမြင့်တောင်ပို့ထက်ရပ်တော်မူ၏။ ယင်းသို့ရပ်တန့်တော်မူသည်ကို အကြောင်းပြု၍ ထိုကုန်းမြင့်တောင်ပို့ကို တန့်တော်မူဟု ယခုတိုင်အောင်ခေါ်ကြလေ၏။

ထိုတန့်တော်မူကုန်းမြင့်တောင်ပို့ထက် ရပ်တော်မူပြီးလျှင် ဒွါရာဝတီ သံတွဲမြို့နှင့်တကွ အနောက်မျက်နှာအရပ်သို့ကြည့်တော်မူ၍ ပြုံးရွှင်တော်မူ၏။ ထိုအခါ ညီတော်အာနန္ဒာက ပြုံးခြင်းအကြောင်းကိုမေးလျှောက်အပ်သည်ဖြစ်၍ ဤသို့မိန့်တော်မူ၏။ ချစ်သား အာနန္ဒာ၊ ငါဘုရားအလောင်းတော်သည် ဤဒွါရာဝတီ သံတွဲမြို့၌ လူမင်းအဖြစ်ဖြင့်လည်း များစွာခံစားကျင်လည်ဘူး၏။ သတ္တဝါ၏အဖြစ်ဖြင့်လည်း များစွာဖြစ်ဘူး၏။ ထိုသို့ဖြစ်ဘူးရာဝယ် ဤငါရပ်တော်မူသော ကုန်းမြင့်တောင်ပို့မှ အနောက်မြောက် နှစ်ဥသဘခန့်အကွာတွင် ဝါသုရတောင်၌ မြွေင်နီးတစာစ်ဖြစ်ဘူးသောကြောင့် ငါဘုရားလွန်တော်မူလျှင် ငါ၏အံတော်ဓာတ်ကို စေတီတည်လတ်၍ အံတော်စေတီဟု တွင်လတ္တံ့။

ထိုဝါသုရတောင်မှ အနောက်တောင် နှစ်ဂါဝုတ်ခန့်အကွာတွင် ရောဟကူဋအမည်ရှိသောတောင်၌လည်း ငါဘုရား ခါမင်းတစာစ်ဖြစ်ဘူးသောကြောင့် ငါဘုရားလွန်တော်မူလျှင် ငါဘုရား၏နံတော်ဓာတ်ကို စေတီတည်လတ်၍ နံတော်စေတီဟုတွင်လတ္တံ့။

ထိုရောဟကူဋတောင်မှ အရှေ့တောင်ထောင့် တဂါဝုတ်ကျော်ခန့်ကွာသောအရပ်၌ မဏိကေသအမည်ရှိသောတောင်ဝယ်လည်း စာမရီတစာစ် ဖြစ်ဘူးသောကြောင့် ငါဘုရားလွန်တော်မူလျှင် ငါဘုရား၏ဆံတော်ဓာတ်ကို စေတီတည်လတ်၍ ဆံတော်စေတီတွင်လတ္တံ့ဟု ဗျာဒိတ်ပေးတော်မူ၍ အရှေ့သရေခေတ္တရာရသေ့ပြည်သို့ ကောင်းကင်ခရီးဖြင့် ပြာသာဒ်ယာဉ်ရှင်စီး၍ ပျံကြွတော်မူလေသည်။ (ဤအရာတွင် မှန်နန်းရာဇဝင် ၁၆၄ နံပါတ်၌ မြတ်စွာဘုရား ငါးဝါမြောက်တွင် စူဠပုဏ္ဏ၊ မဟာပုဏ္ဏတို့ကိုအကြောင်းပြု၍ အပရန္တတိုင်းသို့ ကြွတော်မူရာမှ ဒေသစာရီကြွချီတော်မူလျက် ဖိုးဦးတောင်သို့ ရောက်တော်မူ၍ အရှေ့တောင်ယံ သမုဒ္ဒရာရေမျက်နှာဝယ် နွားချေး

ခြောက် ပေါ်လောမျောနေသည်ကို မြင်တော်မူကြောင်း။ ပွေးငယ်တခုသည် မြတ်စွာဘုရားအား မြေကိုနှုတ်သီးဖြင့် ကော်၍ ပူဇော်ကြောင်း။ နောင် ဤနွားချေးခြောက်မျောနေရာ၌ ပင်လယ်ရေခန်းခြောက်၍ သရေခေတ္တရာပြည်တည်၍ ပွေးငယ်သည် ဒွတ္တဘောင်မင်းကြီးဖြစ်၍ စိုးစံလတ္တံ့ဟု ဗျာဒိတ်ပေးတော်မူခဲ့ကြောင်းနှင့်ဆိုသည်။ သာသနာလင်္ကာရကျမ်း ၈၅ နံပါတ်၌ ဝါတော်နှစ်ဆယ်ရှိမှ စူဠပုဏ်တို့ကိုအကြောင်းပြု၍ အပရန္တတိုင်းသို့ ကြွတော်မူကြောင်းနှင့်ဆိုသည်။ နှစ်စောင်မညီလေ။ တို့တွင် လိုရင်းမှာ ငါတို့ဓညဝတီ ရခိုင်ပြည်သို့ ကြွရောက်တော်မူသည့်အခါ ဝါနှစ်ဆယ်မြောက်ဖြစ်၍ ယင်းအခါမှ ဒွါရာဝတီ သံတွဲမြို့က ကောင်းကင်ခရီးဖြင့်ကြွတော်မူ၍ ဖိုးဦးတောင်သို့ရောက်တော်မူဟန်ရှိသည်။ ထိုအခါ သရေခေတ္တရာ ရသေ့ပြည် မတည်မရှိသေး။ သမုဒ္ဒရာ ရေပြင်သာရှိသေးသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသည့်နောက် အနှစ်တရာ့တခုနှစ်မှ ဒွတ္တဘောင်မင်းကြီး ဖြစ်သည်။ စန္ဒသူရိယမင်းနှင့် ဒွတ္တဘောင်မင်းကြီး အနှစ်တရာခန့် ဝေးကွာလေရကား ရှေး၌ပြဆိုအပ်သော စန္ဒသူရိယမင်းခတ်ဒင်္ဂါး၌ ၁၀၁၊ တရာ့တစ်သက္ကရာဇ် တံဆိပ်ခပ်နှိပ်လျက်ပါသည်ကို မြတ်စွာဘုရား မပွင့်မီ ၁၀၁၊ တရာ့တစ်သက္ကရာဇ်ဟူ၍ယူသင့်သည်။ နိဗ္ဗာန်ယူပြီးနောက် သက္ကရာဇ်ဟုမယူသင့်။ ဤကား စကားချပ်)။

စန္ဒသူရိယမင်းကြီးသည် မဟာမုနိကိုယ်စားတော်မြတ် ကိန်းဝပ်တော်မူရန် စုလစ်မွမ်းချွန်တပ်သော ပြာသာဒ်သိမ်ကျောင်းရတနာကို ကောင်းစွာဆောက်လုပ်လျှုဒါန်းတော်မူပြီးလျှင် ရိုသေလေးမြတ်စွာအခါခပ်သိမ်း နေ့ညဥ့်မပြတ် ဆည်းကပ်လျှုဒါန်း ကိုးကွယ်ပူဇော်တော်မူပေ၏။ တိုင်းသူပြည်သား၊ သိကြား၊ ဗြဟ္မာ၊ အာကာသစိုး၊ ရုက္ခစိုး၊ ဘုမ္မစိုး၊ တောစိုး၊ ယက္ခ၊ နာဂ၊ ဂဠုန်၊ ကုမ္ဘဏ်မကြွင်း ခပင်းများစွာသတ္တဝါတို့သည်လည်း သဒ္ဓါညွတ်နူး ရွှင်မြူးပူဇော်ကြကုန်၏။

## ၁၅၆။ စန္ဒသူရိယမင်းစသော မင်း ၂၅ ဆက် အကြောင်း

ကာမ၊ရူပ၊ အရူပ ဟုဆိုအပ်သော လောက သုံးပါးတို့၏ ကိုးစားမှီခိုရာ ရတနာအထွဋ်၊ သင်းကျပ်ဦးသျှောင်ဖြစ်တော်မူသော မြတ်စွာဘုရား၏ ဒါယကာ၊ မဟာမုနိရုပ်ရှင်တော်မြတ်၏ ဒါယကာရင်း အမင်းမင်းတို့ ရှိညွတ်ရာ မဟာစန္ဒသူရိယမင်းကြီးသည် တန်းခိုးရှိန်စော် ထင်ပေါ်သတင်း ထွန်းလင်းတောက်ပတော်မူလျက် ဒါန၊ သီလ စသော ကုသိုလ်အစုကောင်းမှုတရားကို ပွားများအားထုတ်တော်မူ၍ အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၅၂။ ငါးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၇၇၊ ခုနစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၁၄၉ ခုတွင် နတ်ပြည်စံတော်မူလေသည်။

မြတ်စွာဘုရားသည် ၁၄၈ ခုနှစ် ပရိနိဗ္ဗာန်ပြုတော်မူသည်။ ထိုသက္ကရာဇ် ၁၄၈၊ တရာ့လေးဆဲ့ရှစ်ခုကို အဇာတသတ်မင်း ပဿျ၊ စတု၊ ရူပ-ကိန်းဟူသော အမည်ဖြင့် တခုကြွင်းထား၍ ဖြိုလေသည်။ ဖြိုပြီးနောက် တနှစ်မြောက် အတိုသက္ကရာဇ် ၂၊ နှစ်ခုနှစ်တွင် မဟာစန္ဒသူရိယမင်း နတ်ပြည်စံတော်မူသည်ဟု မှတ်ယူရမည်။ ဤသည်ကား ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ရာဇဝင်လင်္ကာတို့အရ ရေးပြအပ်သော အလိုတည်း။ (ဆရာမေည် ရာဇဝင် စသည်တို့၌ကား အိမ်နိမ့်နန်းစံမှုကိုသာ ဆိုကြလေသည်။ မွေးသက္ကရာဇ်၊ နန်းတက်သက္ကရာဇ်၊ မြတ်စွာဘုရား ကြွတော်မူသော သက္ကရာဇ်၊ ရုပ်တုတော်သွန်းသော သက္ကရာဇ်၊ နတ်ရွာစံသော သက္ကရာဇ်တို့ကို မဆိုကြလေ။ အချို့ရာဇဝင်သစ်တွင်ကား မွေးဖွားသက္ကရာဇ်တို့ကို မဆို။ မြတ်စွာဘုရား ကြွလာတော်မူသည်ကိုသာ သာဝတ္ထိပြည် အနာထပိဏ်သူဌေး လုပ်ကျွေးအပ်သောဆွမ်းကို တပည့်သံဃာတို့နှင့်တကွ ဘုဉ်းပေးတော်မူပြီးလျှင် ရွှေထမ်းစင်စီးတော်မူ၍ မဟာသက္ကရာဇ် ၁၂၃ခု၊ ကဆုန်လပြည့်၊ အင်္ဂါနေ့နံနက် တချက်တီးကျော်အချိန်တွင် လူရှင်ရဟန်း အများနှင့်ကြွလာတော်မူ၍ ထိုနေ့နှစ်ချက်တီး၊ ခြောက်နာရီတွင်

ဓညဝတီပြည် စန္ဒသူရိယမင်း နန်းတော်သို့ရောက်တော်မူကြောင်းတို့နှင့် အကျယ်တဝင့်ဆိုလေသည်။ ထိုစကားရပ်တွင် မဟာသက္ကရာဇ် ၁၁၃ ခုဟူ၍သာဆိုသည်။ မည်သည့်ကိန်းမှလာသော မဟာသက္ကရာဇ်ဟူ၍မဆိုလေ။ မဆိုလေသော်လည်း ဘိုးတော် အဉ္ဇနမင်းဖြိုကြွင်းမှလာသော မဟာသက္ကရာဇ်ဟူ၍ ယူသင့်သည်။ ယင်းသို့ယူချေလျှင် မြတ်စွာဘုရား ဆယ်ဝါမြောက်တွင် သာဝတ္ထိပြည်မှ ကြွတော်မူလာသည်ဟု ယူရလိမ့်မည်။ ယူရလျှင် မြတ်စွာဘုရားသည် ဆယ်ဝါမြောက်တွင် ဝံသတိုင်းကောသမ္ဗီပြည်အနီး ပလလဲတောမှာ ဝါဆိုတော်မူသောနှစ်သာဖြစ်သေးသည်။ သာဝတ္ထိပြည်သို့ကား "ဇေတေ စုဒ္ဒသမေနာထော" စသည်ဖြင့် တဆဲ့လေးဝါမှ ရောက်တော်မူသည်ဆိုသော ဝိနယသာရ။ ။ တတော ပဋ္ဌာယ သာဝတ္ထိယံယေဝ၊ စသည်ဖြင့် ဝါနှစ်ဆယ်လွန်မှ ဇေတဝန်ကျောင်း၊ ပုဗ္ဗာရုံကျောင်းတို့ဝယ် အလှည့်အလှည့် အမြဲဝါဆိုတော်မူသည်ဟုဆိုအပ်သော ဗုဒ္ဓဝင်အဋ္ဌကထာတို့နှင့် မညီလေ။ ရွှေထမ်းစင်စီး၍ လူရှင်အများနှင့် ယခုကာလဆရာတော်ကြီးတို့ ကြွလာတော်မူသကဲ့သို့ ဆိုသောစကား၊ နံနက် တပဟိုရ်ကျော်ကို ကြွတော်မူခဲ့၍ မွန်းလွဲခြောက်နာရီတွင် ရောက်တော်မူသည်ဆိုသော စကားများကိုလည်း စဉ်းစား၍ယူရာသည်။ ၁၂၃ ခုဟု ပျင်၍ယူသော်ကား ငါတို့ညှိနှိုင်း ပြဆိုခဲ့သည်နှင့်ညီရာသည်။ ဆရာငမည်-ရာဇဝင်၌ မဟာမုနိရုပ်ရှင်တော်ကိန်းဝပ်တော်မူအပ်သောသိမ်တော်၌ အံ့ဖွယ်ကိုးပါးတို့သည် ဖြစ်ကုန်၏။ အဘယ်သို့ဖြစ်ကုန်သနည်းဟူမူကား(၁)ရှေ့တော်အပြင်၌ ပြုလုပ်ထားသော ဝသုန္ဓရေတွင်းဝယ် လူအပေါင်းတို့ ရေစက်သွန်းချ၍လှူသော် ပြည့်ခြင်းမရှိသည်လည်းတပါး။ (၂) မိစ္ဆာဒိဋ္ဌိအယူရှိသော သူတို့သည် ပူဇော်ကန်တော့ခြင်းပြုလျှင် ရောင်ခြည်တော် ခြောက်ပါးတို့သည် မှေးသန်းသည်လည်းတပါး။ (၃)မိစ္ဆာဒိဋ္ဌိအယူရှိသောသူတို့သည် အနှောင့်အရှက်ပြုသော်လည်း ရောင်ခြည်တော်ခြောက်ပါးတို့သည် ပြိုးပြိုးပြက်ပြက်လျှပ် စစ်နွယ်ကဲ့သို့ရှိမြဲသာရှိသည်လည်းတပါး။ (၄)ရောင်ခြည်တော်ခြောက်ပါးတို့သည် နေ့ညဥ့်မပြတ်ထွန်းတောက်ပသည်လည်းတပါး။ (၅) ကျေးငှက်တိရစ္ဆာန်တို့သည် သိမ်တော်အထက်ကပျံဝဲ၍ မသွားသည်လည်း တပါး။ (၆)ကိုယ်တော်ပမာဏကို အတိုင်းအထွာပြုသော်လည်း မသိနိုင်သည်လည်းတပါး။ (၇)သိမ်တော်အတွင်းသို့ တပါးသောလူတို့ ဝင်ရောက်စုဝေးသော်လည်း ပြည့်ခြင်းမရှိသည်လည်းတပါး။ (၈)ဦးတော်ဆေးကန်သည် မိုးရွာနေပူသော်လည်း တိုးခြင်းယုတ်ခြင်း မရှိသည်လည်း တပါး။ (၉) သိမ်တော်ကို ရစ်ပေါက်သော ပန်း၊ သစ်ပင်အပေါင်းတို့၏ အညွန့်အဖူးတို့သည် သိမ်တော်သို့ညွတ်လျှက် ပေါက်ရောက်သည်လည်း တပါး။ ဤသို့ အံ့ဖွယ်သရဲတို့သည် ကိုးပါးဖြစ်ကုန်၏။ ဤသို့အံ့ကိုးပါးနှင့် ပြည့်စုံသောကြောင့်စက်ဟူ၍ ခေါ်ဝေါ်ကြကုန်၏ဟူ၍ဆိုလေသည်။ ပဋိရူပစသော သမ္ပတ္တိစက်လေးပါး၏ပြည့်စုံရာဖြစ်သောကြောင့် မဟာမုနိစက်-ဟူ၍ ခေါ်ဝေါ်လေသည်ဟုယူလျှင်လည်း သင့်သည်ပင်ဖြစ်သည်။ ဘုရားဂုဏ်ကျေးဇူးနှင့်စပ်သော အရာဖြစ်သောကြောင့် အပြစ်မဆိုသာ။ ဤသည်ကား အမှာစကားချပ်)။

ခမည်းတော် စန္ဒသူရိယမင်းကြီး နတ်ပြည်စံတော်မူလေလျှင် နတ်မင်းသမီး စန္ဒိမာလာတွင် ဖွားမြင်တော်မူသော သူရိယာဓိပတိမင်းသားသည် နှမတော်ရင်းဖြစ်သော သူရိယာရုံသီ-မင်းသမီးနှင့် အတိသက္ကရာဇ် ၂-ခုတွင် အဘိသိက်ခံ၍ ခမည်းတော်ရိပ်ရာဖြစ်သော ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကြီးကား ဘုန်းတန်ခိုးအာနုဘော်ကြီးမြင့်သောကြောင့် ဆင်ဖြူငါးစီး ရောက်လာပေ၏။ ခမည်းတော် ကျင့်ထုံးကျင့်နည်းကို ကျင့်ဆောင်တော်မူ၍ ပြည်သူပြည်သားတို့သည် စည်ကားသာယာ ငြိမ်းချမ်းစွာရှိကြပေ၏။ အမတ်အပေါင်းလည်း တသိန်းခြောက်လျှင်ရှိသတည်း။ ဆင်,မြင်း, ရထား, ခြေသည်တို့သည်လည်း အလွန်ထူထပ်များပြားစွာသောကြောင့် ခပ်သိမ်းသော ပြည်ထောင်ချင်းမင်းတို့သည် ရန်တုံ့





မပူဘဲ အမြဲမပြတ်အခွန်အတုတ်ဆက်သကြကုန်၏။ သဗ္ဗညုဘုရား၏ ကိုယ်စားတော်ဖြစ်သော မဟာမုနိရုပ်ရှင်တော်ကိုလည်း ခမည်းတော်မင်းကြီးကဲ့သို့ ဆည်းကပ်ခြင်း၊ ရိုသေခြင်း၊ ပူဇော်ခြင်း၊ မြတ်နိုးခြင်း၌ အလွန်လျှင်မွေ့လျော်၏။ ဒါန, သီလ စသောကုသိုလ်ကောင်းမှုတရားကို အလွန်အားထုတ်တော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ ၄၇၊ လေးဆဲ့ခုနစ်နှစ်။ နှစ်စုသက်တော် ၇၆၊ ခုနစ်ဆဲ့ခြောက်နှစ်။ သက္ကရာဇ်၄၉ တွင် နတ်ရွာစံတော်မူလေသည်။၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဖြစ်သော သူရိယာပတိပါတိမင်းသားသည် မျောက်သားတော်သုဝဏ္ဏကလျာနှင့် သက္ကရာဇ် ၄၉ တွင် ပြည်စည်းစိမ်ကိုစိုးအုပ်တော်မူလေ၏။ ထိုမင်းသည်လည်း ဘိုးတော်-ခမည်းတော်တို့ကဲ့သို့ ကိုယ်စားတော်ဖြစ်သော မဟာမုနိရုပ်ရှင်တော်ကို အလွန်လျှင်ရိုသေလေးမြတ်ဆည်းကပ်ကိုးကွယ်၏။ ပြည်သူခပ်သိမ်းတို့အားလည်း ဝမ်းထွက်သားကဲ့သို့ သနားချစ်ခင်ကြင်နာတတ်သောကြောင့် အမျိုးလေးပါးတို့သည် မျက်ကွယ်မျက်မှောက်ချစ်ကြောက်မြတ်နိုး စုံမက်ကြကုန်၏။ ထိုမင်းကား အိမ်နိမ့် ၃၁၊ သုံးဆဲ့တနှစ်။ နန်းစံ ၅၆၊ ငါးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၈၇၊ ရှစ်ဆဲ့ ခုနစ်နှစ်။ သက္ကရာဇ် ၁၀၅ တွင် နတ်ရွာစံတော်မူလေ၏။ ၃။(ဤသူရိယပတိပါတိမင်းနှင့် အရှေ့သရေခေတ္တရာ ရသေ့ပြည် ဒွတ္တဘောင်မင်း နန်းပြိုင်ဖြစ်၏)။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဖြစ်သော သူရိယရူပသည် သုပဘာဟူသော မျောက်သားတော်နှင့် သက္ကရာဇ် ၁၀၅ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား နုပျိုသောကြောင့် ကောင်းမှုတရားကို ပွားများခြင်း၊ တရားစောင့်ရှောက်ခြင်းကို မပြုမကျင့်၊ ဆရာသမားမှူးကြီးမတ်ရာ စသောသူတို့၏စကားကို ဖီဆန်၍ သူ့မယား၊ သူ့သမီးတို့ကို များစွာပြစ်မှားခြင်းပြု၏။ ဥယျာဉ်၊ ရေကန်ကစားခြင်း၊ သားငါးလိုက်လံရှာကြံပြုလုပ်ခြင်း၊ စောင်း,ညင်း,ပတ်သာ တူရိယာတို့ဖြင့် သာယာပျော်မွေ့ခြင်း၊ ပြည်ရေးတိုင်းရေးတို့၌ မေ့လျော့ပေါ့တန်ခြင်းကြောင့် အမျိုးလေးပါးတို့၏ အစီးအပွားသည် ဆုတ်သောလကဲ့သို့ဖြစ်ကုန်၏။ ထိုမင်းကား အိမ်နိမ့် ၁၈၊ တဆယ့်ရှစ်နှစ်။ နန်းစံ ၄၅၊ လေးဆဲ့ငါးနှစ်။ နှစ်စုသက်တော် ၆၃၊ ခြောက် ဆဲ့သုံးနှစ်။ သက္ကရာဇ် ၁၅၀ တွင် လွန်တော်မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယစန္ဒလသည် မင်းသမီးနန္ဒာဝရနှင့် သက္ကရာဇ် ၁၅၀ ပြည့်တွင် အဘိသိက်ခံ၍ မင်း၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် ဘေးတော်,ဘိုးတော်တို့ကျင့်ထုံးကို လက်သုံးစွဲယူ၍ ခမည်းတော်မှားသော အကျင့်များကို ပယ်ရှားစွန့်ပစ်လျက် မှူးကြီးမတ်ရာ စသည်တို့၏စကားကိုလိုက်နာ၍ မဟာမုနိရုပ်ရှင်တော်အား ညွတ်တွားရိုသေ ဆည်းကပ်ခြင်းအမှုကိုပြုပေ၏။ ဒါန,သီလ စသောကုသိုလ်တရားကို ကြိုးစားအားထုတ် ပြုလုပ်ဖြည့်ကျင့်တော်မူသောကြောင့် ဆန်းသောလကဲ့သို့ တောက်ပထွန်းလင်းတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၁၄၊ တဆဲ့လေးနှစ်။ နန်းစံ ၆၄၊ ခြောက်ဆဲ့လေးနှစ်။ နှစ်စုသက်တော် ၇၈၊ ခုနစ်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၂၁၄ ခုတွင် လူ့ပြည်ညီး၍ နတ်ပြည်စံတော်မူလေသည်။၅။

ထိုမင်း နတ်ပြည်စံတော်မူလေလျှင် သားတော်သူရိယစက္ကသည် တူမတော် ရစိတာနှင့် သက္ကရာဇ် ၂၁၄ တွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၄၄၊ လေးဆဲ့လေးနှစ်။ နှစ်စုသက်တော် ၇၄၊ ခုနစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၂၅၈တွင်လွန်တော်မူလေသည်။ ၆။ (ဤသူရိယစက္ကမင်းနှင့် ပါဋလိပုတ်ပြည့်ရှင် ဓမ္မာသောကမင်းပြိုင်သည်။)

ထိုမင်း လွန်တော်မူလေလျှင် သားတော် သူရိယနာထသည် ဝိသုဒ္ဓိဟူသော နမတော်ရင်းနှင့် သက္ကရာဇ် ၂၅၈တွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့်

၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၄၂၊ လေးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၉၊ ခြောက်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၃၀၀ ပြည့်တွင် လွန်တော်မူလေသည်။၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယဝံသသည် တူမတော်ရင်း ဝရသီရိနှင့် သက္ကရာဇ် ၃၀၀ ပြည့်တွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၄၀၊ လေးဆယ်။ နှစ်စုသက်တော် ၆၇၊ ခြောက်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၃၄၀ တွင် လွန်တော်မူလေသည်။ ၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယဗန္ဓသည် ဦးရီးတော်ရင်းသမီး ဝါသုလနန္ဒာနှင့် သက္ကရာဇ် ၃၄၀ တွင် မင်းမူတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၆၆။ ခြောက်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၃၆၆ တွင် လွန်တော်မူလေသည်။ ၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယကလျာဏသည် မျောက်သားတော်ရင်း သီရိကုမ္မာရီနှင့် သက္ကရာဇ် ၃၆၆ တွင် မင်း၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၃၈၊ သုံးဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၆၀၊ ခြောက်ဆယ်။ သက္ကရာဇ် ၄၀၄ တွင် လွန်တော်မူလေသည်။၁၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယမုခသည် ဘထွေးတော်ရင်းသမီး ကလျာဒေဝီနှင့် သက္ကရာဇ် ၄၀၄ တွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့်၃၁၊ သုံးဆဲ့တနှစ်။ နန်းစံ ၃၀၊ သုံးဆယ်။ နှစ်စုသက်တော် ၆၁၊ ခြောက်ဆဲ့တနှစ်။ သက္ကရာဇ် ၄၃၄ တွင် လွန်တော်မူလေသည်။၁၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယတေဇသည် ဝရဒေဝီဟူသော အရီးတော်သမီးနှင့် သက္ကရာဇ် ၄၃၄ တွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်၊ နန်းစံ ၅၀၊ ငါးဆယ်။ နှစ်စုသက်တော် ၇၀၊ ခုနစ်ဆယ်။ သက္ကရာဇ် ၄၈၄တွင် လွန်တော်မူလေသည်။ ၁၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယပုညသည် နမတော်ရေဟနီနှင့်သက္ကရာဇ် ၄၈၄ တွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၃၅၊ သုံးဆဲ့ငါးနှစ်။ နှစ်စုသက်တော် ၅၇၊ ငါးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၅၁၉ တွင် လွန်တော်မူလေသည်။ ၁၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယကုလသည် မင်းသမီးစိတြကလျာဏီနှင့် သက္ကရာဇ် ၅၁၉ တွင် ပြည်စည်းစိမ်ကို သိမ်းပိုက်စံစားတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၃၆ သုံးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၆၆၊ ခြောက်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၅၅၅ တွင် လွန်တော်မူလေသည်။၁၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယပဘာသည် နမတော်သုဝဏ္ဏာနှင့်သက္ကရာဇ် ၅၅၅တွင် မင်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်၊ နန်းစံ ၅၄၊ ငါးဆဲ့လေးနှစ်။ နှစ်စုသက်တော် ၇၉၊ ခုနစ်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၆၀၉ တွင် လွန်တော်မူလေသည်။ ၁၅။

(ဤ)သူရိယပဘာမင်း နန်းစံ ၅၄ နှစ်အဆုံး ၆၀၉၊ ခြောက်ရာ့ကိုးခု သက္ကရာဇ်ကို န၀,ခ,ဆ-ကိန်း ဟူသောအမည်ဖြင့် သာကမင်း အကြွင်း ၂ ခုထား၍ ဖြိုသည်နှင့်ပြိုင်လေသည်။ သာကမင်းဖြိုရာ၌ ပါဝင်သော ကလိယုဂ် ကပ်ဆန်းနှစ်ပေါင်းသည် န၀,သတ္တ,ဧက, တြိ-၃၁၇၉ နှစ်ဖြစ်လေသည်။ ထိုကလိယုဂ်ကပ်ဆန်း နှစ်ပေါင်း သက္ကရာဇ် ၃၁၇၉ ခုကိုလည်း သာကမင်းဖြို ကလိယုဂ် ကပ်ဆန်းနှစ်ပေါင်းဟူ၍ပင် ဆိုအပ်၏။ ထိုကလိယုဂ်ကပ်ဆန်းနှစ်ပေါင်း အရေအတွက်အကျဉ်းမှာ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံယူတော်မူသောနေ့သည် ကလိယုဂ်ကပ်ဆန်းနှစ်ပေါင်း ၂၅၇၀၊ နှစ်ထောင်ငါးရာခုနစ်ဆယ်ရှိလေပြီဟူ၍ ဂေါတမပူရာဏ်ကျမ်း၌ဆိုသည်။

ထိုတွင် ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် ၆၀၉၊ ခြောက်ရာ့ကိုးကိုရော ကလိယုဂ်ကပ်ဆန်း နှစ်ပေါင်း ၃၁၇၉ နှစ်ဖြစ်၏။ ဤကားအကျဉ်း။ အကျယ်မှာ ယခုဆန်းလျက်ရှိသော ကလိယုဂ်ကပ်အစ၌ မင်းမူသော ဓမ္မရာဇာမင်း သက္ကရာဇ် ၁၈၁၂၊ တထောင့်ရှစ်ရာ တဆဲ့နှစ်နှစ်။ နန္ဒမင်းသက္ကရာဇ် ၅၀၀၊ ငါးရာ။ ဂေါတမမင်း သက္ကရာဇ် ၄၀၀၊ လေးရာ။ မယူရမင်း သက္ကရာဇ် ၃၆၀၊ သုံးရာ့ခြောက်ဆယ်။ သောမပါလမင်း သက္ကရာဇ်၁၀၇၊ တရာ့ခုနစ်နှစ်၊ ၎င်းမင်းငါးပါးသက္ကရာဇ် ၃၁၇၉၊ သုံးထောင် တရာခုနစ်ဆဲ့ကိုးနှစ်ဖြစ်၏။ ၎င်းသက္ကရာဇ်ကို သာကမင်းဖြို့ သက္ကရာဇ်ဟူ၍ သူရိယသိဒ္ဓန္တ ကျမ်းတို့၌ ဆိုသည်။ သာကမင်းဖြို့ပြီးနောက် ခ,ဆ,ပဋ္ဌာ-စသော ကိန်းခန်းသက္ကရာဇ်ကိုလည်း သာကရာဇ်ဟူ၍ ခေါ်ကြလေသည်။ ကာလကြာသောကြောင့် သာကရာဇ်မှ ပြောင်း၍ သက္ကရာဇ်ခေါ်လေသည်ဟု ယူသင့်သည်။ ဤသို့ပြဆိုအပ်သော ဂေါတမပူရာဏ်ကျမ်း၊ သူရိယသိဒ္ဓန္တကျမ်း၊ သန္နိဋ္ဌလင်္ကာ၊ စိန္တာဘုတ္တိ စသည်တို့၌ သာကမင်းဖြို့သော နဝ, ခ,ဆ-ကိန်းတရပ်။ ပုဂံပြည် ပုပ္ပားစောရဟန် မင်းဖြို့သော ခ,ဆ,ပဋ္ဌာ ကိန်းတရပ်။ နှစ်ရပ်ပေါင်း နဝါ,ဆ, နှင့်၊ ဧက,ဧကာ၊ ၁၁၆၉ ဖြစ်၏။ ၎င်းတွင် မြတ်စွာဘုရားပရိနိဗ္ဗာန်စံယူတော်မူသောနေ့တိုင် ကလိယုဂ်ကပ်ဆန်း နှစ်ပေါင်း ၂၅၇၀ကိုရောသော် နဝါ, တြိ, သတ္တ, ဂ္ဂိ=၃၇၃၉ ဖြစ်၏။ သာသနာနှစ်ပေါင်း အတိတ်ဂတ်ကိုသိလိုမူ ယခုရောက်ဆဲ သက္ကရာဇ် ၁၂၉၁ ခုကိုတည်။ ကိန်းနှစ်ရပ်ကိုပေါင်း၊ နဝါ,ဆ-နှင့် ဧက,ဧကာ ၁၁၆၉ နော=၂၄၆၀၊ နှစ်ထောင်လေးရာ့ ခြောက်ဆယ်ဖြစ်၏။ ၎င်းသာသနာနှစ် အတိတ်ဂတ် ၂၄၆၀ ကိုတည် ပရိနိဗ္ဗာန်ယူသည့်တိုင်အောင် နှစ်ပေါင်း ၂၅၇၀ ကိုရော၊ ကလိယုဂ်ကပ်ဆန်း နှစ်ပေါင်း ၅၀၃၀၊ ငါးထောင့်သုံးဆယ်ဖြစ်၏။ အလွယ်မှတ်လိုမူ။

သာသနာနှစ်၊ တည်တုံလစ်၊ စင်စစ်မှန်သမုတ်။

သုည, သတ္တ၊ ဗျည်း,ဒွယ၊ နောထ ကလိယုဂ်။

ဟူသော လင်္ကာဖြင့်မှတ်သားလေ။ မြန်မာတို့၏ ရာဇဝင် စသောကျမ်းဂန်တို့၌ကား ပြည်မြို့ သမုန္ဒရိမင်းဖြို့ ဒေါ,ဒေါ,ရသ-ကိန်းတရပ်။ ပုဂံပြည်၊ ပုပ္ပားစောရဟန် မင်းဖြို့ ခ,ဆ,ပဋ္ဌာကိန်းတရပ်။ ၎င်းကိန်းနှစ်ရပ်ကိုပေါင်း၍ ဒွေး,အဋ္ဌ,ဧက, ဧကာနောလျက် သာသနာနှစ်အတိတ် ဂတ်ကိုယူကြလေသည်။ ယင်းသို့ယူခဲ့လျှင် ယခင်ပြအပ် သော ဂေါတမပူရာမ်ကျမ်း၊ သူရိယသိဒ္ဓန္တစသော ကျမ်းများအဆိုထက် တဆဲ့သုံးနှစ်ပိုလေသည်။ ပညာရှိ တို့ သတိထားရန်သင့်ပေကြောင်း။ (ဤကား အမှာစကား ချုပ်)။

ထိုသူရိယပဘာမင်း လွန်တော်မူလေလျှင် သားတော် သူရိယစိတြသည် ဘထွေးတော်၏သမီး သုဘဒ္ဒာနှင့် သက္ကရာဇ်တိုနှစ်ခုတွင် မင်း၏စည်းစိမ်ကို စိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်။ နန်းစံ ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၃၈ ခုတွင် လွန်တော်မူလေ သည်။ ၁၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယ ဓေဋ္ဌသည် မင်းသမီးဣန္ဒြာမယနှင့် သက္ကရာဇ် ၃၈ တွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၆၊ လေးဆဲ့ ခြောက်နှစ်၊ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၈၊ ခြောက်ဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၆၀ ပြည့်တွင် လွန်တော်မူလေသည်။၁၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဝိမလ သည် နမတော်ကေသရုံသီနှင့် သက္ကရာဇ်၆၀တွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၁၈၊ တဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၅၈။ ငါးဆဲ့ ရှစ်နှစ်။ သက္ကရာဇ် ၇၈ ခုတွင် လွန်တော် မူလေသည်။၁၈။

ထိုမင်းလွန်တော်မူလေလျှင် ညီတော်ဖြစ်သော သူရိယရေနုသည် မရီးတော် ကေသရုံသီမိဘုရားနှင့် သက္ကရာဇ် ၇၈ ခုတွင် မင်းစည်းစိမ်ကို စိုးစံတော်မူလေ၏။

ထို မင်းကားအိမ်နိမ့် ၃၈၊ သုံးဆဲ့ရှစ်နှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၀၊ ခြောက်ဆယ်၊ သက္ကရာဇ် ၁၀၀၊ တရာပြည့်တွင်လွန်တော်မူလေသည်။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယကံသသည် သုနန္ဒာဟူသော မရီးတော်အထွေးနှင့် သက္ကရာဇ် ၁၀၀ ပြည့်တွင် ပြည်၏စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်၊ နန်းစံ ၁၆၊ တဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၃၈၊ သုံးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၁၁၆ ခုတွင် လွန်တော်မူလေသည်။ ၂၀။ (ဤသူရိယ ကံသမင်းသည် ရာဇဝင်ဟောင်း၌ မပါ၊ ကျလေဟန်တူသည်)။

ထိုမင်း လွန်တော်မူလေလျှင် ဘထွေးတော် သူရိယသကျသည် သူရိယကံသ၏သမီး သမာဓိဟူသော မြေးတော်နှင့်သက္ကရာဇ် ၁၁၆ တွင် မင်းပြုတော်မူလေ၏။ ထို မင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ၈၊ ရှစ်နှစ်။ နှစ်စုသက်တော် ၄၈၊ လေးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၁၂၄ ခုတွင် လွန်တော်မူလေသည်။၂၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယသီရိသည် ဝရကလျာဏီဟူသော နှမတော်ရင်းနှင့် သက္ကရာဇ် ၁၂၄ တွင် ပြည်၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်။ နန်းစံ ၂၀၊ နှစ်ဆယ်။ နှစ်စုသက်တော် ၃၉၊ သုံးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၁၄၄ ခုတွင် လွန်တော်မူလေသည်။၂၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သူရိယကေသီသည် ပဥ္စကလျာဟူသော မင်းသမီးနှင့် သက္ကရာဇ် ၁၄၄ တွင် ခမည်းတော်ရိပ်ရာဖြစ်သော ထီးနန်းကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆဲ့တနှစ်၊ နန်းစံ ၁၉၊ တဆဲ့ကိုးနှစ်။ နှစ်စုသက်တော် ၄၀၊ လေးဆယ်။ သက္ကရာဇ် ၁၆၃ ခုတွင် လွန်တော်မူလေသည်။၂၃။

ထိုမင်း လွန်တော်မူလေလျှင် သားတော် သူရိယကုမ္ဘာသည် သုဂဏ္ဍာဒေဝီဟူသော မင်းသမီးနှင့် သက္ကရာဇ် ၁၆၃ တွင် ထီးနန်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၃၂၊ သုံးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ ကိုးနှစ်။ သက္ကရာဇ် ၁၉၅ ခုတွင် လွန်တော်မူလေသည်။၂၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သူရိယကေတုသည် သုဘာသီလဟူသော ခုနစ်နှစ်အရွယ်ရှိ နှမတော်ရင်းနှင့် ရတနာပုံထက် အဘိသိက်သွန်းစေလျက် သက္ကရာဇ် ၁၉၅ တွင် ရွှေထီးရွှေနန်း သိမ်းမြန်းစိုးစံတော်မူလေ၏။ ထိုမင်းဝယ် မောင်းမတသောင်းခြောက်ထောင် မြောက်ရှိကုန်၏။ မှူးမတ်အပေါင်း တသောင်းနှစ်ထောင်ရှိကုန်၏။ နွားလားသင်းစုခုနစ်ခု အမွေးအရေအတွက် တိုင်းနေပြည်သူရှိကုန်၏။ တိုင်းကားနိုင်ငံအလွန် သာယာစည်ပင်ဝပြောစွာ၏။ ဒါန၊ သီလအစရှိသောကုသိုလ် ကောင်းမှုတရားကို ကြိုးစားအားထုတ်ပြုလုပ် ကျင့်ဆောင်တော်မူ၏။ သဗ္ဗညုမြတ်စွာဘုရားကိုယ်စား ရုပ်ပွားတော်ဖြစ်သော မဟာမုနိရုပ်ရှင်တော်ကိုလည်း ရှေးဘေးလောင်းတော် ဘိုးလောင်းတော်တို့ကဲ့သို့ အလွန်ရိုသေလေးမြတ်ဆည်းကပ်ကိုးကွယ်တော်မူ၏။ ထိုမင်း၌ သားယောကျ်ား မရှိ၍ သားဆုတောင်းကြလေသော် ငှက်လင်းတတခုသည် သားတစ်ကိုချီ၍ နန်းတော်တွင်နားလာသည်။ ထိုနိမိတ်ကို ပြည်ရှင်မင်းကြီးမေးတော်မူရာ ပညာရှိအမျိုးစဉ်ဆက်လာခဲ့သော သောင်းတီးစား ဥတ္တမသီရိကျော် လျှောက်သည်ကား အရှင်မင်းမြတ်၊ ငှက်အမျိုးတွင် လင်းတငှက်သည် အသက်ရှိသော သတ္တဝါတို့၌ အသက်ကုန်မှ စားပါသည်။ ငှက်သူတော်မျိုးဖြစ်ပါသည်။ မိမိတို့သွားရာသို့လည်း အစာကိုချီယူပြန်သွားရိုးမရှိ။ မိဘတို့စားခဲ့သော အာဟာရနှင့်သာ ကြီးမြင့်အောင် ကျွေးမွေးပါသည်။ ထိုငှက်မျိုး သားတစ်ကိုချီလျက် နန်းတော်၌နား၍ သားတစ်ကိုချထားခဲ့သည့်အလို ဘုန်းပညာကျက်သရေနှင့် ပြည့်စုံတော်မူသော သားတော်ကို အရှင်မိဘုရား ဖွားမြင်တော်မူပါလိမ့်မည်ဟု လျှောက်လေသော် အဖိုးအနဋ္ဌ ထိုက်တန်သော ပတ္တမြားလက်စွပ်တကွင်း ဆုပေးတော်

မှုသည်။ ဤအမတ်ကြီးလျှောက်ခန်းကို ဓညဝတီအရေးတော်ပုံမှသွင်းလိုက်သည်။ နောက်များမကြာမီ ထိုမင်း၏မိဘုရားကြီး သုဘာသီလသည် ဧချမ်းငြိမ်သက်စွာဖြင့် အလိုပြည့်စုံသည်ဟူသော အိပ်မက်ကိုမြင်၍ ပဋိသန္ဓေယူလေလျှင် ကိုယ်ဝန်ရင့်လတ်သော် ဘုန်းပညာလက္ခဏာနှင့် ပြည့်စုံသောသားတော် ဖွားမြင်တော်မူ၏။ ထိုသို့မင်းသားကိုဖွားမြင်တော်မူသောအခါ၌ ဥက္ကာပျံခြင်း၊ မြေကြီးသည်းစွာ တုန်လှုပ်ခြင်းတို့ဖြင့် အံ့ဖွယ်သရဲတိတ်နိမိတ်တို့သည် ထင်မြင်လေသောကြောင့် ထိုမင်းသားကို မဟာစန္ဒရားဟူသောအမည်ကို မှည့်ပေ၏။ သက်တော် ကိုးနှစ်တိုင်ရောက်သောအခါ ဦးရီးတော်ရင်းသမီး သုပဘာဒေဝီနှင့် ထိမ်းမြားမင်္ဂလာပြုတော်မူ၍ အိမ်ရှေ့မင်းအဖြစ်ကို အပ်နှင်းတော်မူ၏။ ခမည်းတော်ဖြစ်သော သူရိယကေတုမင်းကား အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၅၄၊ ငါးဆဲ့လေးနှစ်။ နှစ်စုသက်တော် ၈၆၊ ရှစ်ဆဲ့ခြောက်နှစ်၊ သက္ကရာဇ် ၂၄၉ ခုတွင် လူ့ပြည်မှ ခွာ၍ နတ်ရွာသို့မြန်းတော်မူလေသည်။ ၂၅။ စန္ဒသူရိယမင်းအစ သူရိယကေတုအဆုံး မင်းဆက် ၂၅ ဆက်တို့၏ နန်းစံ နှစ်ပေါင်း ၉၀၆ နှစ်။

ဤသည်ကား ဒုတိယဓညဝတီမြို့တည် စန္ဒသူရိယမင်းအစ သူရိယကေတုအဆုံးရှိသော မင်း ၂၅ ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်းတည်း။ ဤမင်း ၂၅ ဆက်တို့၏အခန်း၌ ပြည့်စုံရေးဆိုသင့်သမျှ ရေးပြစီရင်ခဲ့ပေပြီဖြစ်၍ စီစစ်မျှော်ရှုသတိပြု၍ ကြည့်ရှုယူငင်ကြပါလေ-ပညာရှင်အပေါင်းတို့။ (ဤသည်ကား အမှာစကားချပ်)။

**၁၅၇။ ယခုအခါ၌ သူရိယကေတုသား ကန်သုံးဆင့်မြို့နှင့် ဝေသာလီကျောက်လှေကားမြို့တည် မဟာစန္ဒရားမင်းကြီးအစ ရှူဠစန္ဒရားသား ဝေ့ံမင်းအဆုံးရှိ မင်း ၁၀ ဆက်၊ မျိုးခြားမြို့မင်း–အမြကူ၊ ပဲဖြူ ၂ ဆက်၊ ပေါင်း ၁၂ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကိုရေးသားပြဆို အပ်သော အကြောင်း**

ခမည်းတော်မင်းကြီး သူရိယကေတု နတ်ရွာစံတော်မူလေလျှင်သားတော် မဟာစန္ဒရားမင်းသားသည် အိမ်ရှေ့မင်းဖြစ်ပြီးနောက် ၂၃၊ နှစ်ဆဲ့သုံးနှစ်မြောက်။ သက္ကရာဇ် ၂၄၉ ခုတွင် သုပဘာဒေဝီနှင့် ပြည်ကြီးစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်း၏ဘုန်းတန်ခိုးကြောင့် သိကြားမင်းသည် အရိန္ဒမာလှံပျံကို ဆက်သလာပေ၏။ ထိုအရိန္ဒမာလှံပျံ၏အရိုးသည် ရွှေဖြင့်ပြီး၏။ သုံးတောင်ရှည်၏။ အသွားစိန်ဖြင့်ပြီး၏။ အလျားသုံးမိုက်ရှည်၏။ မိုးကြိုးလက်ကောက် ငါးခြည်ဝတ်လျက်ပါ၏။ အခွေးလည်း မိုးကြိုးဖြင့်ပြီး၏။ အောက်မြီးပွင့်ကား အနီ၊ အောက်ခံကတော့ကား ပတ္တမြားဖြင့်ပြီး၏။ ဤသို့ အံ့ဖွယ်သရဲရှိသော အရိန္ဒမာလှံပျံကို ရတော်မူ၏။ အဘိသိက်လည်း ခံတော်မူ၏။ ရတနာမိုးလည်း ခုနစ်ကြိမ်ရွာပေလာ၏။ ဆင်ဖြူရတနာလည်း တဆဲ့နှစ်စီးရောက်ပေလာ၏။ ဇမ္ဗူဒိပ်မြေအပြင်ထက်တွင် ရှိကြကုန်သော မင်းအပေါင်းတို့ကိုလည်း အရိန္ဒမာရတနာလှံပျံကို စေလွှတ်တော်မူလျှင် ရွှေစက်တော်ထံမှောက်သို့ လာရောက် ကျိုးနွံဆုံးမခံလျက် အခွန်ဘဏ္ဍာ ဆက်သလာစေကုန်၏။ ထိုမင်းကား အလိုတော်ပြည့်၍ နှစ်မလည်ခင်ပင်လျှင် ဆင်ဖြူရတနာနှင့် မျောက်သားတော်မိဘုရားတို့ လွှန်ခဲ့ကြလေလျှင် ဗေဒင်တတ်ပုဏ္ဏားကျော်တို့အား မေးတော်မူလတ်သော် ဓညဝတီမြို့သည် ကိန်းခန်းကုန်ခဲ့သောအကြောင်းကို နားတော်လျှောက်ကြလေလျှင် ထိုဓညဝတီမြို့မှခွာ၍ စစ်အင်္ဂါလေးပါးနှင့်တကွ အစဉ်အတိုင်းထွက်ခဲ့၍ ကန်သုံးဆင့်မြို့ကိုတည်လာ၏။ ယင်းသို့တည်အပ်သော ကန်သုံးဆင့်မြို့သည် အရာအခန့်မသင့်သောကြောင့် ခုနစ်လအတွင်းဝယ် မှူးမတ်ဗိုလ်ပါဆင်မြင်း

တို့သည် သုံးသိန်းမက သေကြေပျက်စီးကြကုန်၏။ ထိုသို့ သေကြေပျက်စီးကြသောအကြောင်းကို ပညာရှိမှူးမတ် အပေါင်းတို့နှင့်တိုင်ပင်၍ မြေ၏သဏ္ဌာန်ကို တူးဖော်လျက် ကြည့်လတ်သော် ခုနစ်တောင်အစောက်ရှိသောမြေ၏ အောက်၌ ခြိပ်ရည်အဆင်းကဲ့သို့ ချင်းချင်းတွတ်တွတ် နီမြန်းသော မြေတခုသည် နဂါးရုပ်သဏ္ဌာန်ဖြင့် အထက် ကောင်းကင်သို့ မျှော်လျက်နေဟန်ကို မြင်ကြကုန်သော် အံ့ဖွယ်ကြီးစွဟုဆိုကြသည်ကိုအကြောင်းပြု၍ အံ့ကြီးဟု ယနေ့တိုင်အောင် ခေါ်ကြကုန်၏။ ထိုအခါ မင်းကြီးမှစ၍ မှူးမတ်ပြည်သူတို့နှင့် စည်းဝေးတိုင်ပင်ကြလျက် ကြီးစွာသော စိုးရိမ်သောကဖြစ်ကြသဖြင့် သိကြားမင်းနေရာ ပဏ္ဍုကမ္ဗလာသည် တင်းမာပူလောင်သောအခြင်းအရာ ဖြစ်၍ အိပ်မက်ဖြင့်ပြလာသောကြောင့် ကစ္ဆပနဒီမြစ်ကို စုန်လတ်၍ ရန္တနဒီမည်သော ရန်းချောင်း၏အညာဖြစ်သော သေလနဒီချောင်းနားဝယ် မြို့တော်ရာကိုနင်းလေသော် သိကြားမင်းသည် မြည်းအဟန်ဘန်ဆင်း၍ စက်ဝန်း လှည့်လျက် ပြလေလျှင် ထိုစက်ဝန်းလှည့်၍ပြသောနေရာ၌ တန့်ရပ်၍ မြို့တည်တော်မူ၏။ ထိုသို့ မြို့တည်သောအခါ၌ ပြည်ထောင်နီးချင်း မင်းအပေါင်းတို့သည် တာဝန်ခံ၍ လုပ်ကြလာပေ၏။ မြို့တော်၏အတွင်း မင်းသုံးရေကန် တို့ကိုတူးသောအခါ ထွက်အံ့သောရေကို နဂါးမှုတ်လေ၍ ထန်းခုနစ်ဆင့်နက်အောင်တူးမှ ကောင်းစွာသောရေသည် ဝှန်တက်လာပေ၏။ ဤသို့ စီရင်ရသောမြို့သည်ခုနစ်လ တွင်ပြီးမြောက်လေ၏။ ထိုမင်းလက်ထက်တော်အခါ၌ မြတ်စွာဘုရား၏ သာသနာတော်သည် နေမီးလရောင် ပမာထ တောက်ပထွန်းလင်း၏။ ပြည်သူလူခပ်သိမ်းတို့ လည်း ချမ်းငြိမ်းသာယာဝပြောစွာ ရှိကြကုန်၏။

ထိုမဟာစန္ဒရားမင်းကြီးသည် သားတော်သူရိယ စန္ဒရားနှင့် ပေးမြားရန် မင်းသမီးကိုမေးမြန်းတော်မူလေ သော် ပညာရှိအမတ် သောင်းတီးစား ဥတ္တမသိရိကျော် လျှောက်သည်ကား။ အရှင်မင်းမြတ်၊ ပတ္တမြားကျောက် ကောင်းတို့တွင် ဂေါပလ္လေစသော အနာရှိလျှင် မင်းတို့ မသုံးရ။ စိန်ကျောက်တို့တွင် ခလုပ်တောစာငယ်နှာ မစင်၊ တောကြောင်မွေးမင် စသော အပြစ်မကင်းလျှင် မင်းမသုံး ထိုက်။ မျိုးစပါးတို့မှာလည်း အရောရောပါလျှင် အပင်အသီးမညီ။ ရွှေ၌လည်း ကြေးနီ၊ ငွေ၊ သံမလွတ် လျှင် အရည်အသွေးမပြောင်။ ထိုအတူ သာကီဝင်မင်းတို့၌ လည်း နွယ်တော်ဝံသစင်မှ အမျိုးတူစွာ စဉ်လာကြီးမြင့်၊ အကျင့်မဖောက်စေလို၍ ရှေးဘေးလောင်းတော်၊ ဘီလောင်းတော်၊ ခမည်းတော် ထီးနန်းမင်းဆက် မောင်နှမ ရင်းချာ ပေးမြားတော်မူခဲ့ကြောင်း ထုံးဟောင်းနှင့် ဖြစ်ပါသည်။ သားတော်နှင့် သမီးတော်စောစန္ဒီကို ပေးမြား တော်မူလျှင် မြင့်မြတ်လှပါသည်ဟု လျှောက်လေသော် သားတော်သူရိယစန္ဒရားနှင့် သမီးတော်စောစန္ဒီကို မောင်နှမရင်းချာပေးမြားတော်မူ၍ ပညာရှိအမတ်ကို ငွေသပြာ ၁၀၀၀၊ တထောင်ဆုပေးတော်မူသည်။ (ဤအမတ်ကြီး လျှောက်ခန်းကို ဓညဝတီအရေးတော်ပုံမှ သွင်းလိုက်သည်။)။

ဤဝေသာလီကျောက်လှေကားမြို့ကို အစပြုစု တည်ထောင်တော်မူသော မဟာစန္ဒရားမင်းကြီးကား လူပျို အဖြစ် ၉ နှစ်၊ ကိုးနှစ်။ အိမ်ရှေ့မင်းအဖြစ် ၂၃၊ နှစ်ဆဲ့ သုံးနှစ်အားဖြင့် အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၅၇၊ ငါးဆဲ့ခုနစ်နှစ်။ နှစ်စုသက်တော် ၈၉၊ ရှစ်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၃၀၆ ခုတွင် နတ်ပြည်စံတော်မူလေသည်။ (ဤသည်ကား ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ဓညဝတီအရေးတော်ပုံတို့အလာကို သေချာထောက်ဆ ညှိသွင်း၍ပြအပ်သော မဟာစန္ဒရားမင်းကြီး၏ အကြောင်း တည်း။ ဆရာမည်ရာဇဝင်၊ ရာဇဝင်သစ်တို့၌ကား ဤမဟာစန္ဒရားမင်းကြီး နန်းတက်သက္ကရာဇ်ကို ၁၅၁၊ တရာငါးဆဲ့တခုဟူ၍ ဆိုကြလေ၏။ ယင်းသို့ဆိုကြသော ၁၅၁ သက္ကရာဇ်သည် ဏ၊ ဝ၊ စ၊ နွေ-ကိန်း။ ပဉ္စု၊ စတု၊ ရူပ-ကိန်း။ နဝ၊ ခ၊ ဆ-ကိန်း။ ခ၊ ဆ၊ ပဉ္စာ- ကိန်း။ ဤကိန်းလေးရပ်တွင် မည်သည့်ကိန်းကိုဖြို့ပြီး နောက် ဖြစ်ပွားလာသော သက္ကရာဇ်ဟူ၍ မပြဆိုလေ။

မိုးပေါ်ကျနတ်သားဆိုသကဲ့သို့ ၁၅၁ သက္ကရာဇ်တွင် နန်းတက်လေကြောင်းမျှသာဆိုသောကြောင့် မှတ်သိနာယူရန်ခက်လေသည်။ နောက်၌ပြဆိုလတ္တံ့သော မင်းတို့၏ နန်းတက်သက္ကရာဇ်၊ နန်းကျသက္ကရာဇ်များကို ထောက်ထားစာနာလျှင် အဆုံးသမ္မတမင်း နန်းကျသော သက္ကရာဇ် ၁၁၄၆၊ တထောင်တရာလေး ဆဲ့ခြောက်ခုတိုင်အောင် ကိန်းဖြုံခန်းမပါဘဲ အစဉ်တလျှောက်ဆိုသည်ကိုမြင်သဖြင့် ခ,ဆ,ပဉ္စာ-ကိန်းဖြိုပြီး နောက်မှဖြစ်လာသော သက္ကရာဇ်ဟူ၍ယူသင့်သည်။ ယင်းသို့ယူခဲ့လျှင် ယခင် နန်းတက်သက္ကရာဇ် ၁၅၁ ကိုတည်၊ န၀,ခ,ဆ-ကိန်းတရပ်၊ ခ,ဆ,ပဉ္စာ-ကိန်းတရပ်၊ နှစ်ရပ်ပေါင်း န၀၊ ဆ-နှင့် ၈က, ၈ကောဖြစ်၏။ ၁၅၁ နှင့် နှော= ၁၃၂၀ နှစ်ပေါင်းဖြစ်၏။ ၎င်းတထောင့်သုံးရာနှစ်ဆယ်သည် မြတ်စွာဘုရားပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် မဟာစန္ဒရားမင်း နန်းတက်သက္ကရာဇ်တိုင်အောင် နှစ်ပေါင်းဖြစ်၏။ ၎င်းနှစ်ပေါင်းတွင် မဟာစန္ဒရားမင်းနှင့် စန္ဒသူရိယမင်းကြီး နန်းတက်တိုင်အောင် ပဋိလောမနှစ်ပေါင်း ၉၀၇ နှစ်ကိုနှုတ်။ နှုတ်ကြွင်း ၄၁၃ နှစ်သည် မဟာစန္ဒသူရိယမင်းကြီးနှင့် မြတ်စွာဘုရားဝေးကွာသော နှစ်ပေါင်းဖြစ်သင့်ရာသောကြောင့် မဟာစန္ဒသူရိယမင်းကြီးသည် မြတ်စွာဘုရားနှင့် တွေ့ကြုံဖူးမြင်ရရန်အကြောင်းမရှိလေ။ ယင်းသို့မရှိလေသော် စန္ဒသူရိယမင်းလက်ထက် မြတ်စွာဘုရားကြွလာတော်မူ၍ ဖူးတွေ့တော်မူရလေလျှင် တောင်းပန်သဖြင့် ရုပ်ရှင်တော်မဟာမုနိကို သွန်းလုပ်တော်မူလေကြောင်း စသည်ဖြင့် မိမိတို့ရေးသားစီရင်အပ်သော ရာဇဝင်နှင့်ပုံပြင်ဝတ္ထုအစုစုအရပ်ရပ် ရေးမှတ်သီကုံးနွှန်းဖွဲ့ပြုပြင်အပ်သောစကားတို့သည် အလကားအချည်းနှီးဖြစ်သင့်ရာသောကြောင့် ၁၅၁ခု သက္ကရာဇ်ကို ခ,ဆ,ပဉ္စာ-ကိန်းဖြိုပြီးနောက် သက္ကရာဇ်ဟူ၍ မယူအပ်လေ။ ယင်းသို့မယူအပ်လျှင် န၀,ခ, ဆ-ကိန်းဖြိုပြီးနောက် သက္ကရာဇ်ဟူ၍ကား မယူအပ်ပါလောဟူအံ့။ မယူအပ်လေ။ အဘယ်ကြောင့်နည်းဟူမူ န၀,ခ,ဆ,-ကိန်းဖြိုပြီးနောက် ၁၅၁ ဟုယူချေသော် ရာဇဝင်ဟောင်းအလို စန္ဒရားမင်း ၁၂ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၄၉၁ နှစ်၊ ၎င်းနှင့်၁၅၁ကိုရောလျှင်=၆၄၂ နှစ်ဖြစ်၏။ ၎င်းကို ခ,ဆ, ပဉ္စာ-ဖြိုကြွင်း ၈၂ နှစ်ဖြစ်၏။ ၎င်းတွင် ဓေတ္တသင်မင်း ၁၅ ဆက်၊ နန်းစံနှစ်ပေါင်း ၂၈၅ ကို ရော=၃၆၇ နှစ်ဖြစ်၏။ ၎င်းသုံးရာခြောက်ဆဲ့ခုနစ်နှစ်သည် လက်ယာမင်းနန် နန်းတက်သက္ကရာဇ် ဖြစ်သင့်လေရကား နော်ရထာမင်းနှင့်သာ ပြိုင်ဆိုင်ရန်ရှိချေသည်။ အလောင်းစည်သူမင်းနှင့် ၉၈ နှစ်ကွာလေသောကြောင့် လက်ယာမင်းနန်ကို အလောင်း စည်သူမင်း နန်းတင်လာနိုင်ရန်အကြောင်း မရှိလေသောကြောင့်၎င်း။ ဆရာမေည် ရာဇဝင်အလို၌ စန္ဒရားမင်း ၁၂ ဆက်တို့၏နန်းစံနှစ်ပေါင်းကို ၂၂၉ နှစ်မျှ ပြဆိုလေသောကြောင့် ၁၅၁ နှစ်နှင့်ရောလျှင် ၃၈၀ သည် ဓေတ္တသင် နန်းတက်သက္ကရာဇ်ဖြစ်သင့်၏။ ၎င်းတွင် ဓေတ္တသင်မင်း ၁၅ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၈၅ ကိုရော၊ လက်ယာမင်းနန် နန်းတက်သက္ကရာဇ် ၄၆၅ ဖြစ်၏။ လက်ယာမင်းနန်နောက် မင်း ၂၁ ဆက်မြောက် ကမ္ဘာလောင်ကြီးမင်းနန်းစံ ၃ နှစ်တိုင်မှ နှစ်ပေါင်း ၅၆၀ ပြည့်၍ ခ,ဆ,ပဉ္စာ-ကိန်းဖြိုသင့်ရာ ညီလေရကား ခ,ဆ,ပဉ္စာ-ကိန်းဖြိုပြီးနောက် ၄၅၀ မှ နန်းတက်သော အလောင်းစည်သူမင်းသည် ခ,ဆ,ပဉ္စာ-ကိန်းမဖြိုမီ ၄၆၅ ခု သက္ကရာဇ်တွင် လက်ယာမင်းနန်ကို နန်းတင်လာနိုင်ရန် အကြောင်းမရှိသောကြောင့်၎င်း။ ရာဇဝင်သစ်မှာ စန္ဒရားမင်းနန်းတက် သက္ကရာဇ် ၁၅၁၊ ၎င်းမင်း ၁၂ ဆက်တို့၏ နန်းစံနှစ် ၂၀၂ နှစ်၊ ၎င်းနှင့်ရော၊ ဓေတ္တသင် နန်းတက်သက္ကရာဇ် ၃၅၃။ ၎င်းမင်း ၁၅ ဆက်တို့၏ နန်းစံနှစ်၂၂၀ ကိုရော၊ လက်ယာမင်းနန် နန်းတက် သက္ကရာဇ် ၅၇၃ နှစ်ဖြစ်သင့်သည်ကို ၄၆၂ ဖြစ်ကြောင်းနှင့် ဆိုလေသည်။ ယင်းသို့ဆိုအပ်သောစကားသည်လည်း ခ,ဆ,ပဉ္စာ-ကိန်းဖြိုပြီးနောက် ၁၅၁ခု သက္ကရာဇ်ဟူ၍ မယူသင့်လေ။ စင်စစ်မှတ်ယူရန်မှာ စန္ဒသူရိယမင်းအစ စန္ဒသူရိယကေတုအဆုံးရှိသော မင်း ၂၅ ဆက်တို့၏

နန်းစံနှစ်ပေါင်းကို အင်းစောက်ရာဇဝင်နှစ်စောင်လုံး၌ ၈၃၀ ဟုဆိုလေရာ ရာဇဝင်ဟောင်း၊ ဓညဝတီအရေးတော်ပုံတို့၌ လေးဆက်မြောက် သူရိယရူပမင်းနန်းစံကို ၆၅ နှစ်။ ၁၅ ဆက်မြောက် သူရိယပဘာမင်းနန်းစံကို ၅၄ နှစ်။ ဤသို့စသည်ဖြင့် ရသင့်သောအပိုနန်းစံနှစ်များနှင့် ရာဇဝင် ငါးရပ်ကိုညှိနှိုင်းယူဆလျှင် ၉၀၇ နှစ်အမှန်ဖြစ်လေရကား ၎င်းကိုးရာ့ခုနစ်နှစ်တွင် ပဿျု၊ စတု၊ ရူပ-ကိန်းကိုဖြုံရာ စန္ဒသူရိယမင်း သက်တော် ၅၁နှစ်ဝင်ပါလေသည်ဖြစ်၍ ငါးဆဲ့တခုနှုတ် ၈၅၆ ခုကြွင်း၏။ ၎င်းအကြွင်း ရှစ်ရာငါးဆဲ့ခြောက်ခုတွင် နဝ၊ခ၊ဆကိန်း ၆၀၉ နှင့်ဖြုံ၊ ဖြုံကြွင်း ၂၄၇ ဖြစ်၏။ ၎င်းနှစ်ရာလေးဆဲ့ခုနစ်တွင် ဖြုံကြွင်းကိန်း ၂ ခုကိုထပ်၍ရော၊ ၂၄၉ ခုသည်မဟာစန္ဒရားမင်း နန်းတက်သက္ကရာဇ်ဖြစ်၏ဟု မှတ်ရမည်။ တနည်းမှတ်သင့်ရန်အကြောင်းမှာ ရာဇဝင်ဟောင်းနောက်တွဲ ရမ်းပြည့်ကျွန်းကို ပြုစုတည်ထောင်ခန်းနှစ်စောင်လုံး "ဂံ"ချပ်၌ မဟာစန္ဒရားမင်းကြီးသည် သက္ကရာဇ် ၂၄၉ ခုတွင် အမတ်တော်လက်ဝဲမြန်နှင့် စစ်ကဲကြီးတို့အား ကျွန်တော် ဖြေနှင့်တကွ စေလွှတ်တော်မူ၍ ရေချမ်းကြီး၊ မင်းပြင်၊ သလူတောင် စသည်တို့ကို ပြုစုတည်ထောင်စေကြောင်းနှင့်ဆိုသည်။ ထိုကျွန်းတည်ခန်း၌ကား ၄၄၉ ခုဟူ၍ပင်ပါလေသည်။ သို့သော်လည်း အရေးမှားဟန်ရှိသည်။ ၂၄၉ ခုဟူ၍သာ အမှန်ယူရမည်။ ထို့ကြောင့် မဟာစန္ဒရားမင်းကြီးသည် နဝ၊ခ၊ဆ-ကိန်းကို ဖြုံပြီးနောက် ၂၄၉ ခု သက္ကရာဇ်တွင်သာ နန်းတက်သည်ဟု စင်စစ်မုချယူရမည်။

တကောင်းမင်းရိုး ကံရာဇာကြီးမှစ၍ဆိုသော ရာဇဝင်ကျောက်ရိုး၌ကား မဟာစန္ဒရားမင်းသည် အိမ်ရှေ့မင်းဖြစ်စဉ်ကပင် ခမည်းတော်ကိုလျှောက်၍ မဟာမုနိသိမ်တော်ကိုဖျက်၍ ဆောက်တော်မူ၏။ မဟာမုနိသိမ်တော်မပြီးခင်ပင် ခမည်းတော်လွန်တော်မူ၍ အစိုးရတော်မူ၏။ အလိုတော်ပြည့်သော တဆဲ့နှစ်စီးသော ဆင်ဖြူရတနာကိုရတော်မူ၏။ ထိုမင်းကြီးသည် အလွန်အားကြီးတော်မူ၏။ ဆင်ဖြူကို အမြီး၌ကိုင်၍ချုပ်ထားလျှင် မသွားနိုင်အောင် အားရှိ၏။ သိမ်တော်ကို အလိုမပြည့်မီ ဆောက်လုပ်သောအခါ၌လည်း အရုပ်တခုမျှမထည့် မရေးရပေ။ အထက်က ရွှေအတိလိမ်းကျံသည်။ အင်းမန္တန်လည်း နှလုံးလိုလွန့်မထည့်ကောင်း၊ အဟောင်းကိုလှစ်၍သာ ထည့်ကောင်းသည်။ ထည့်သော်လည်း တတ်သောသူကိုသာ ကောင်းအောင်ပြုလုပ်စေအပ်၏။ မလုပ်တတ်သော် ထမင်းငတ်တတ်သည်။ ရန်သူနှိပ်စက်၍ ပြည်ပျက်တတ်သည်။ အဟောင်းကိုသာထည့်စေ၊ တံတိုင်းကို အုတ်ဖြင့်သာလုပ်စေ၊ ကန်လည်းနှစ်ကန်တူးစေ၊ ဦးတော်ဆေးကန်မှာ ကြာဖြူမရောက်ကောင်း၊ ကြာနီသာရောက်ကောင်းသည်။ တံတိုင်းလေးထောင့်၌ ကျေးပင်လေးပင်စိုက်စေ၏။ ဤသို့တဖန် ကျမ်းဂန်လာသည့်အတိုင်း လုပ်ဆောင်စီရင်တော်မူ၍ မြတ်စွာဘုရားကိုယ်စား ရုပ်ပွားတော်မဟာမုနိကို တမုတ်ကြီးဖြင့်မြှင့်၍ထားတော်မူပြီးသော် ပလ္လင်တော်ကို မိမိသည် တနလာသားဖြစ်တော်မူ၍ ကြေးနှင့်ကျောက်ကိုပယ်၍ တနလာနံ=သစ်ကုံကော်-စသည်ကိုလည်းပယ်လျက် ခြောက်ရက် သားသစ်နံနှင့် ဆောက်လုပ်တော်မူစေ၏။ ပလ္လင်တော်ပြီးလျှင် ရုပ်ပွားတော်မဟာမုနိအား တမုတ်ကြီးကိုလျှော့၍ချစေသော် မကျနိုင်သောကြောင့် ငါသည် ကြေးနှင့်ကျောက်ကို=နံဖြစ်သည်ဟုမလုပ်စေ၊ သစ်သားနှင့်လုပ်မိ၍ဖြစ်သည်လောမသိဟု မင်းကြီးကြောင့်ကြတော်မူလေသော် မင်းကြီးမကြောင့်ကြလင့်၊ ယခုနေ့သည် မင်းကြီး နံရက်ဖြစ်သောကြောင့် ပလ္လင်တော်သို့ သက်တော်မမူသည်။ ယခုနေ့မှ ခုနစ်ရက်လွန်၍အင်္ဂါနေ့မှ သက်တော်မူလိမ့်မည်။ အရိန္ဒမာလှံပျံကိုလည်း ရလိမ့်မည်ဟု အိပ်မက်ပေး၏။ မင်းကြီးလည်း သီတင်းသီလဆောက်တည်၍ နေတော်မူ၏။ ညအိပ်မက်အတိုင်းလျှင် တန်ဆောင်မုန်းလပြည့် အင်္ဂါနေ့ တနာရီကျော်ဝယ် ပလ္လင်ပေါ်သို့ ဆင်းသက်တော်မူ၏။ ထိုနေ့မွန်းလွဲတွင် မိန်းမတယောက်သည် လှံပျံကိုကိုင်လျက် မင်းကြီး

ပေါင်တော်ကိုကျော်၍ သိမ်တော်ဂူထဲသို့ဝင်ပြီးလျှင် ပလ္လင်တော်ထက် လုံပျံကို ထောင်လျက်ထားခဲ့၍ ပျောက်သွားလေ၏။ မင်းကြီးလည်း သတိတော်မမူဘဲ ဂူထဲသို့ဝင်လေသော် တပြိုင်နက် မှောင်အတိမိုက်လေ၍ ရုပ်ပွားတော်ကို မမြင်သည်ဖြစ်၍ ထွက်တော်မူလတ်၍ သီတင်းသီလဆောက်တည်လျက် နေမြဲနေတော်မူ၏။ နောက်လေးရက်မြောက် သောကြာနေ့မှ ရုပ်ပွားတော်ကို မြင်တော်မူ၍ လုံပျံကိုလည်း လေးပဟိုရ်ရုပ်သိမ်း ခုနစ်နာရီ ကျော်ဝယ်ရတော်မူလေ၏။ လုံပျံအရိုးကား ရွှေ၊ အရှည် သုံးတောင်ရှည်၏။ မိုးကြိုးလက်ကောက် ငါးခြည်ဝတ်၍ ပါ၏။ အခွေးလည်း မိုးကြိုး၊ အသွားကား စိန်၊ သုံးမိုက် ရှည်၏။ အောက်မြီးပွင့်ကား အနီ၊ အောက်ခံကတော့ကား ပတ္တမြားဖြစ်၏။

ထိုမဟာစန္ဒရားမင်းကြီးလက်ထက်တော်၌ သီလဝန် ဂုဏဝန် မထေရ်မွန် မထေရ်ကြီးတို့သည် တသောင်းမြောက်မျှရှိကုန်၏။ ရဟန်းသံဃာ သာမဏေ အပေါင်းတို့သည်ကား သောင်းသိန်းမက များလှပေကုန်၏။ ထိုမင်းကြီးသည် ရုပ်ပွားတော်မဟာမုနိအား ဦးသျှောင်တော်မကိုဋ်ကို ရွှေဖြင့်လုပ်စေတော်မူပြီးသော် ပတ္တမြားစီလျက် ဝါတွင်းပတ်လုံး တင်လှူတော်မူ၏။ ဝါကျွတ်လျှင် ဦးသျှောင်တော်မကိုဋ်ကိုယူ၍ လက်စွပ်လုပ်စေတော်မူလျက် ယင်းလက်စွပ်တွင် ယခင်ပတ္တမြားကို ခြယ်လှယ်စေ၍ ပြည်ထောင်ချင်းမင်းတို့အား ပို့ဆက်စေ၏။ ထိုမင်းတို့သည် ဆင်ဝတ်သုံးဆောင်တော်မူလျှင် ဘုန်းတန်ခိုးအာနုဘော် ညှိုးလေကုန်၏။ ထိုမင်းကြီးသည် မင်းအဖြစ်သို့ရောက်တော်မူ၍ နှစ်မလည်ခင် ဓညဝတီမြို့မှ ပြောင်း၍ကန်သုံးဆင့်မြို့ကို တည်ရာအခန့်မသင့်သော ကြောင့် ရွှေ့ပြောင်းလျက် ဝေသာလီမည်သော ကျောက်လှေကားမြို့ကို တည်တော်မူလေသည်။ တည်ပြီးသောနေ့ ညတွင်းလွန်၍ မိုးသောက်တနင်္ဂနွေနေ့ နံနက်ကသည် ညမိုက်သည်တိုင်အောင် ရတနာမိုး ခုနစ်ကြိမ်ရွာ၏။ ထိုအကြောင်းကို မင်းကြီးအား လျှောက်ကြားလေသော်

မုနိမာတင်ဟူသော ဆင်ဖြူကိုစီး၍ကြည့်တော်မူပြီးသော် ထိုရတနာတို့ကို ခုနစ်ယောက်ရွက်ယူစေ၍ မဟာမုနိအား ပူဇော်စေပြီးမှ၊ တိုက်ခုနစ်ဆယ်ဆောက်၍ ပြည့်စေပြီးမှ ကြွင်းသောရတနာတို့ကို ပြည်သူပြည်သားတို့အား ကောက်ယူစေတော်မူစေသဖြင့် မရေတွက်နိုင်အောင် ဥစ္စာရတနာတို့ကိုရကြလေကုန်၏။ ထိုရတနာမိုးရွာ၍ ရအပ်သော ဥစ္စာရတနာတို့သည် တသောင်းသော သင်္ဘောတို့ဖြင့်လာရောက်၍ ကုန်ပြုလာသော်လည်း မကုန်နိုင်လေရာ။ ပြည်ထောင်ချင်း မင်းတို့သည် သတင်းစကားကျော်ကြားကုန်သည်ဖြစ်၍ မင်းစေတမန်လွှတ်၍ စူးစမ်းလာကြကုန်၏။ ရောက်လာကုန်သော မင်းစေတမန်တို့အား ရတနာရွှေငွေနှင့်တကွ ရတနာလုံပျံ၊ ဆင်ဖြူတော်တို့ကို ပြစေပြီးလျှင် သင်တို့အရှင်မင်းတို့အား လျှောက်လေဟု မိန့်တော်မူ၍ လျှောက်ပတ်သောရတနာတို့ကို ပေးတော်မူလိုက်၏။ တမန်တို့သည် ပြန်သွားဆက်သ လျှောက်ထားကြလေလျှင် အချို့သောမင်းတို့သည် အားရဝမ်းမြောက် နှစ်သက်ကုန်သည်ဖြစ်၍ ငါတို့နှင့်မတူကုန်ဟု သမီးကညာ ရတနာ လက်ဆောင်တော်စသည်ဖြင့် ညွတ်ခလာရောက် ဆက်သ ဖူးမြင်လာကုန်သည်။ အချို့သောမင်းတို့သည်ကား ပုန်ကန်သောင်းကြမ်းလေကုန်၏။ ထိုပုန်ကန် သောင်းကြမ်းသောမင်းတို့အား လုံပျံဝယ်စာခွေဆွဲ၍ စေလွှတ်တော်မူမှ ကြောက်ရွံ့ရှိသေစွာပဏ္ဏာကာရတို့ဖြင့် ဆက်သကျိုးနွံလာကုန်သည်ဟူ၍ငင်း၊ လုံပျံကို မင်းကြီးတယောက်၊ ပုဂံရှင်ရွှေတယောက်၊ နံပုရှင်ယောင် တယောက်၊ ဤသုံးယောက်တို့သာ ထိုးမြောက်နိုင်ကုန်သည်ဟူ၍ငင်း။ မဟာမုနိသိမ်တော်နှင့် ပလ္လင်တော်ကို ရွှေပြားခပ်၍ အမျက်ကိုးပါးစီချယ်လျက် ဆောက်လုပ်လှူဒါန်းတော်မူသည်ဟူ၍ငင်း။ နောင်လာလတ္တံ့သော မင်းတို့သည် ငါ့နှယ်ဖြစ်လတ္တံ့မည်လောဟု ဟူးရားတတ်တို့ကိုမေးတော်မူလျှင် ရခိုင်ပြည်ကိုစောင့်သော နဂါးတို့သည် အရှင်မင်းကြီးနောက် အနှစ်လေးဆယ်စောင့်ပါလိမ့်မည်။ ငါးဆယ်လွန်မှအိပ်ပါလိမ့်မည်။ ထိုအခါ

မင်းတို့သည် မင်းညံ့သာဖြစ်ပါလိမ့်မည်ဟူ၍၎င်း။ အရှင်မင်းကြီးအနွယ်ဝယ် တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး သုံးရက်တွင် တရက်ရက်သား မင်းတို့ဖြစ်သောအခါ သက္ကရာဇ် ၅၆၀ ကို ဖြိုပါလိမ့်မည်။ ဖြိုပြီးလျှင် မဟာမုနိ သိမ်တော်ကိုပြာသာဒ်ဆောက်၍ လှူပါလိမ့်မည်။ ဆင်ဖြူရတနာနှင့် လှံပျံရတနာလည်း ရပါလိမ့်မည်။ အရှေ့တရိုး အနောက်တရိုးတို့သည် ထိတ်လန့် ကြောက်ရွံ့ ပါလိမ့်မည်။ ရခိုင်ပြည် ထိုအခါ သာယာပါလိမ့်မည်။ ဆင်ပေါက်တထောင် မြောက်ပါလိမ့်မည် စသည်ဖြင့် လျှောက်ကြားကြကုန်သည်ဟူ၍၎င်း၊ အကျယ်တဝင့် ဆိုသည်။ လိုရာကိုရေးပြထုတ်ဆောင်လိုက်ပေသည်။ အလိုရှိမူ ၎င်း၌ယူလေ။ ဆရာငမည် ရာဇဝင်နှင့် ရာဇဝင်သစ်တို့ကား မဟာစန္ဒရားမင်းသည် ၁၅၁ ခုတွင် နန်းတက်တော်မူကြောင်း။ ဝေသာလီမြို့ဟောင်း ရာကိုနင်းရာ သိကြားမင်း ဗျိုင်းငှက်အဟန် ဘန်ဆင်း၍ ပျံပြကြောင်း။ ရာဇဝင်ဆက်၌ပြည်အဟန်ဘန်ဆင်း၍ပြ ကြောင်း။ မြို့တည်ပြီးမှ လှံပျံကိုရပေကြောင်း။ ၎င်းလှံပျံ၌ မိုးကြိုးလက်ကောက်သုံးခြည်သာပါကြောင်း။ အောင်းသွား တခုဖွဲ့လျက်ပါကြောင်း စသည်တို့နှင့်ဆိုလေသည်။ ရာဇဝင်ဟောင်းတို့ကိုထောက်၍ ဆင်ခြင်လေ။ ဤမဟာ စန္ဒရားမင်း စသည်ကို မဟာတိုင်း စန္ဒရားမင်း၊ စူဠတိုင်း စန္ဒရားမင်း စသည်ဖြင့် ရေးသားကြလေသည်။ မဟန္တ စန္ဒရားဟူသည်ကိုထောက်၍ မဟာစန္ဒရား၊ စူဠန္တစန္ဒရား ဟူသည်ကိုထောက်၍ စူဠစန္ဒရားဟူ၍သာ ရေးသား ရမည်။ တိုင်းစန္ဒရားဟူ၍ မရေးသင့်ပေ။ ဤသည်ကား အမှာစကားချပ်)။

ထိုမဟာစန္ဒရားမင်းကြီး နတ်ပြည်စံတော်မူလျှင် နေလနှစ်ပါး ထင်ရှားမြင်ခိုက်တွင် ဖွားမြင်တော်မူသော ကြောင့် သူရိယစန္ဒရားအမည်ရှိသော သားတော်သည် နှမတော်ရင်းဖြစ်သော မိဘုရားစောစန္ဒီနှင့်သက္ကရာဇ် ၁၀၆ ခုတွင် ပြည်ကြီးစည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ သိကြားပေးဆက်သောလှံပျံကိုလည်း ရတော်မူ၏။ ဇမ္ဗူဒိပ်မြေပြင်ထက် မင်းအပေါင်းတို့သည် အတုတ်အခွန် မပြတ် ပို့ဆက်လာကုန်၏။ ပြည်သူတို့လည်း အလွန် သာယာငြိမ်းချမ်းဝပြောကုန်၏။ ရတနာမိုးလည်း သုံးကြိမ် စေ့အောင် ရွာသွန်းပေလာ၏။ ဆင်အား မြင်းအားလည်း များပြားပြည့်စုံပေ၏။ လှေယာဉ်တော် ကိုးသောင်းမြောက် ရှိပေ၏။ မင်းကြီးမှစ၍ ပြည်သူပြည်သားအပေါင်းတို့သည် ဒါန, သီလစသော ကုသိုလ်တရားကို ပွားများအားထုတ် ပြုလုပ်ကြိုးစားကြကုန်၏။ ထိုသူရိယစန္ဒရားမင်းကြီးကား အိမ်နိမ့်၂၉၊ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ၄၉၊ လေးဆဲ့ကိုးနှစ်၊ နှစ်စုသက်တော် ၇၈၊ ခုနှစ်ဆဲ့ရှစ်နှစ်၊ သက္ကရာဇ် ၃၅၅ ခုတွင် နတ်ပြည်စံတော်မူ လေသည်။၂။

(ရာဇဝင်ကျောက်ရိုး၌ကား သားတော်သူရိယ စန္ဒရားသည် အလိုတော်ပြည့်လေလျှင် ခမည်းတော်ပိုင် သော အရိန္ဒမာလှံပျံကိုလည်းရတော်မူ၏။ ခမည်းတော် မင်းကြီးလက်ထက် သိမ်တော်ကိုမီးလောင်ခဲ့၍ ဗိသုကာ ကျမ်းနှင့်ညီအောင် အင်းဟောင်းတို့ကိုမချာဲ အသစ်ချစေ ပြီးသော် သိမ်ဟောင်းထက် သံတောင်တတောင်စီဖြတ်၍ ကျွန်းသစ်နှင့် ဇေတဝန်ငါးဆင့်ဆောက်လုပ်တော်မူ၏။ ထုပ်ကိုတမိုက်၊ လျော့ကိုတတောင်ဖြတ်၍ လုပ်စေတော် မူ၏။ ပလ္လင်ကိုမီးလောင်ခဲ့သောကြောင့် ကျောက်ဖြင့် လုပ်စေ၏။ ဂူတော်ကိုဖျက်ပြီးသော် အကြီးလုပ်စေ၏။ စုလစ်မွမ်းချွန်နှင့်၊ သည်တိုင်တို့မှာလည်း ကြေးပြားခံစေ၏။ သိမ်တော်ပြီးလျှင် နတ်တော်လပြည့်နေ့တွင် အလှူ ပေးတော်မူသည်။ ထိုအခါ အရှေ့ပြည်သီဟိုဠ်ကျွန်းတိုင် အောင် သံဃာတော်များကိုပင့်ဖိတ်၍ လှူတော်မူသည်။ ထိုအလှူတော်ပြုရာသို့ ထီးဖြူဆောင်းသော မင်းပေါင်း ငါးကျိပ်သုံးယောက်ရောက်လာကုန်၏။ အလှူတော်ပြီး လျှင် ရတနာဆယ်ပါးနှင့် သင်္ဘောနှစ်စင်းရောက်လာ၏။ သင်္ဘောသားတို့သည် ပျောက်သွားလေ၏။ ယိုးဒယား မင်းက ဆင်ဖြူတစီးဆက်လာပေ၏။ ထိုအခါ ပဋိက္ကရား မင်းမလာသောကြောင့် အမျက်တော်ရှိ၍ လှံပျံကိုစေလိုက် ရာ ဦးခေါင်း၌စူး၍သေလေ၏။ လှံပျံသည် အမျက်တော်

မရှိဘဲ လွတ်လိုက်လျှင် မင်းရင်ပြင်၌ကျ၏။ အမျက်တော်ရှိ၍ လွတ်လိုက်လျှင် ဦးခေါင်း၌စူးလေ၏။ မင်းကြီးသည် ရောက်လာသောမင်းအပေါင်းတို့အား ငါ၏ဘုန်းအစွမ်းကို ကြည့်ကြကုန်လောဟု မိန့်တော်မူပြီးလျှင် မဟာမုနိ သိမ်တော်အရှေ့ဘက်ကွင်းပြင်၌ မြင်းတော်ကိုစီး၍ လှံပျံကို ကိုင်ပြီးသော် စိစွတ်သောအဝတ်တော်ကိုဝတ်ဆင်လျက် စိုင်း၍ပြတော်မူ၏။ မြင်းတော်လျင်မြန်သောကြောင့် စိစွတ်သောအဝတ်တော်သည် တခဏချင်းသွေ့လေ၏။ မင်းများအပေါင်းတို့သည် ဤသို့ဘုန်းတန်ခိုး အာနုဘော်ကို မြင်ကြလေလျှင် အလွန်တရာကြောက်ထိတ်လန့်ခြင်းဖြစ်ကြကုန်၏။ ဤမင်းကြီးလက်ထက်ပွဲတော်သည် ခမည်းတော်လက်ထက် ပွဲတော်ထက်ကြီးကျယ်၏။ သဘော်လည်းရောက်၏။ သုံးနှစ်တွင် ရတနာမိုးလည်း သုံးကြိမ်ရွာ၏ဟူ၍ဆိုလေသည်)

ထိုမင်း နတ်ပြည်စံတော်မူလေလျှင် သားတော် မောလစန္ဒရားသည် သုနန္ဒီဟူသောမင်းသမီးနှင့် သက္ကရာဇ် ၃၅၅၃ တွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ နတ်လှံလက်နက်ကိုလည်း ရတော်မူ၏။ ရုပ်ရှင်တော် မဟာမုနိအစရှိသော မွေတော်ဓာတ်တော်တို့ကို ကောင်းစွာရိုသေ လေးမြတ်ဆည်းကပ်ကိုးကွယ်တော်မူ၏။ ဒါန,သီလ စသောတရားတို့ကို ကြိုးစားအားထုတ်တော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၃၆၊သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၄၈၊ လေးဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၈၄၊ရှစ်ဆဲ့ လေးနှစ်။ သက္ကရာဇ် ၄၀၃ ခုတွင်လွန်တော်မူလေသည်။၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ပေါလ စန္ဒရားသည် မြောက်သားတော် ရောဟနီနှင့်သက္ကရာဇ် ၄၀၃ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းလည်း လှံပျံရတနာကိုရတော်မူ၏။ ပြည်ထောင်ချင်း မင်းတို့သည် အတုတ်အခွန်ကိုဆက်သလာကုန်၏။ ရတနာ သုံးပါးကိုလည်း မပြတ်ဆည်းကပ်ကိုးကပ်တော်မူ၏။ သူတော်ကောင်းနှင့် ပေါင်းဘော်လေ့ရှိတော်မူ၏။ ထိုမင်း လက်ထက်လည်း ရတနာမိုးငါးကြိမ်ရွာပေ၏။ ထိုမင်းကား အိမ်နိမ့် ၃၁၊ သုံးဆဲ့တနှစ်။ နန်းစံ ၄၆၊ လေးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၇၇၊ ခုနစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၄၄၉ ခုတွင် လွန်တော်မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကာလ စန္ဒရားမင်းသည် မိဘုရားနန္ဒာဒေဝီနှင့် သက္ကရာဇ် ၄၄၉ ခု တွင် ပြည်၏စည်းစိမ်ကို ချမ်းငြိမ်းစိုးစံတော်မူလေ၏။ မည်းနက်သောအဆင်းရှိသောကြောင့် ကာလစန္ဒရားဟူ၍ ခေါ်ကြလေ၏။ ထိုမင်းမိဘုရားမောင်နှံတို့သည် မညီညွတ်သော စိတ်နှလုံးဖြင့် ရတနာသုံးပါးတို့၌ လျစ်လျူရှိ၏။ အလျှုသီတင်း၌မေ့လျော့၏။ ပြည်ရွာစီးပွားကား ပြန့်ပြော၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၄၉၊ လေးဆဲ့ကိုးနှစ်။ နှစ်စုသက်တော် ၇၂၊ ခုနစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၄၉၈ ခုတွင်လွန်တော်မူလေသည်။ ၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ထူလစန္ဒရားမင်းသည် ရူပိနီမည်သောမင်းသမီးနှင့် သက္ကရာဇ် ၄၉၈ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အထူးထူးသောအရသာကို စားတတ်သောကြောင့် အစွမ်းခွန်အားကြီးလှ၏။ ထိုကြောင့် ထူလစန္ဒရားဟူ၍ခေါ်ကြကုန်၏။ လက်နက်လှံပျံကိုလည်း ရတော်မူ၏။ စည်,စောင်း,ငြင်း, ပတ်သာ တူရိယာတီးမှုတ်ခြင်း၊ ကခြင်း၊ သီခြင်းတို့ကိုလည်း အားထုတ်လေ့ရှိတော်မူ၏။ သူတော်ကောင်းတို့၏အဆုံးအမ၌ မတည်။ ရတနာသုံးပါး၊ ဒါန၊ သီလ စသည်တို့၌လျစ်လျူရှိ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၁၉၊ တဆဲ့ ကိုးနှစ်။ နှစ်စုသက်တော် ၄၁၊ လေးဆဲ့တနှစ်၊ သက္ကရာဇ် ၅၁၇ ခုတွင် လွန်တော်မူလေသည်။၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သီရိစန္ဒရားမင်းသည် နှမတော်ကဥ္စနမာလာနှင့် သက္ကရာဇ် ၅၁၇ ခုတွင် မင်းပြုတော်မူ၏။ ရတနာလှံပျံကိုလည်း ရတော်မူ၏။ ထိုသီရိစန္ဒရားမင်းကြီးသည် သားတော် သီဂ်စန္ဒရားနှင့် သမီးတော်တဆဲ့သုံးနှစ်ရွယ်ရှိ သုဝဏ္ဏ ဒေဝီကို မောင်နှမရင်းချာ ထိမ်းမြားတော်မူ၍ အိမ်ရှေ့အရာ

ကို ပေးအပ်တော်မူသည်။ အိမ်ရှေ့မင်းအဖြစ်၌ သုံးနှစ်စံတော်မူစဉ်အခါဝယ် အနောက်သူရတန်ပြည် ကုလားပဆာမင်းသည် အခွန်ဆက်မြဲမဆက် ပုန်ကန်ခြားနားပြုလေသော် သိရိစန္ဒရားမင်းကြီးသည် သားတော်အိမ်ရှေ့မင်း သိဂီစန္ဒရားကို စစ်သည်သူရဲများစွာ အမတ်တထောင်နှင့် ချီတက်သိမ်းယူတော်မူစေသည်တွင် သူရတန်မင်းသည် ကြောက်ရွံ့ထိတ်လန့်ခြင်းရှိသည်ဖြစ်၍ သမီးတော်ဒံရမာဇာလီ၊ ဒူရဘီ နှစ်ယောက်တို့နှင့်တကွ ရွှေ၊ ငွေ ဘဏ္ဍာ ပဏ္ဍာလက်ဆောင် ဆက်သလျက် ကျွန်တော်အဖြစ်ခံလာသည်။ ထိုအခါ သိဂီစန္ဒရား အိမ်ရှေ့မင်းသည် မောက်သူစာမြို့၌ သူရတန်မင်းသမီး ဒံရမာဇာလီ၊ ဒူရဘီတို့နှင့် မွေ့လျော်စံပျော်တော်မူ၍ သုံးနှစ်မြောက်ခန့်ကြာလေသည်ဖြစ်၍ မျောက်သားတော် မင်းသမီးသုဝဏ္ဏဒေဝီက မေတ္တာစာရကန်သုံးပိုဒ် ရေးသား စီရင်ပေးပို့တော်မူလိုက်သည်။ ယင်းသို့ပေးပို့တော်မူလိုက်သော ရကန်သုံးပိုဒ်ကား ဤသို့တည်း။

(၁) သိန်ကန်မိန်တွင်၊ ဆွဲနှစ်ခွင်ကို၊ လွမ်းပင်စည်မြင့်၊ ကြာရှည်တာအကူး၊ တပေါင်းမင်းလွှင်၊ ရွက်ကျင်တောင်လေမြူးက၊ ပြတ်ဖွယ်နူးစီးသွယ်ဖြာ၊ မတတ်သာချေ၊ ဤထွေထွေကို၊ ကြည့်လေသမျှသာတည့်၊ ပင်တိုင်းမှာ ညှာရွက်ကြွေ၊ လေပြင်းခပ်လစ်၊ ပုရစ်ဝေဝေနှင့်၊ ငှက်ရွှေမောင်နှံစုံ၊ ရွှလည်းချင်းရှက်၊ ပန်းနှစ်ခက်ကို၊ ယူလျက် နှုတ်ဝယ်ငုံ၍၊ စာခွံတုံ့ရှုင်နှစ်လို့၊ တထူးထွေလာ၊ ဘာသာလှလို၊ မ,ကို နှုတ်နှင့်တို့၍။ ဤသို့ချစ်ဖွယ်ဆင်၊ ရာသီခွင်ဆွဲနှစ်လမ်း၊ ငြမ်းလိုအညီ၊ မိဂသီပင်၊ ရွှေဆီမြင်သော်၊ စက်ခွင်မှာ ယောင်ယမ်းခဲ့၊ ထောက်လှမ်းမစာနာ၊ ပညာအထု၊ မြတ်သူကြည့်မှန်၊ ကြာလေဟန်မူ၊ သူရတန်မင်း၏သွေး၊ ဒံရမာဇာလီ၊ ဒူရဘီနှင့်၊ ချစ်ညီတူကြရေးကို၊ နောက်မေးမလျှောက်လို၊ နေလည်းနှစ်ဆင့်၊ နှစ်ပွင့်စုံညီ၊ မဒ္ဒီရွေးအဟိုတို့၊ တောင်ကျွန်းညီလောကဓာတ်၊ တိုင်းမရှိမာ၊ ယင်းကဖြာသည်၊ ရာဇမျိုးရိုးမြတ်၏။ ဆက်မပြတ်သိမ်းယူစံ၊ ဘီကအဆက်၊ နှယ်မပျက်သည်၊ ကနက်ဖြန့်ကာစံ၏။ ရှစ်တန်ပလ္လင်ရိုး၊ ဘိုးကဆက်ခံ၊ ဘုန်နှန်းစံသည်၊ နန်းရံတို့အမျိုးတည့်၊ ကတိုးအနံ့လို၊ သင်းပျံ့မွှေးကြိုင်၊ ရှစ်ရပ်လှိုင်သည်၊ မဏ္ဍိုင်ချက်မြုပ်သို့ထက်၊ ပြည်နဂိုရ်ဝေသာလီ၊ ညေနှစ်ခန်း၊ နှစ်ပြည်မှန်းသည်၊ ထီးနန်းအလီလီတည့်၊ မျိုးသာကီစဉ်မပျက်၊ နှစ်ပေါင်းရှည်ကြာ၊ မဟာနွယ်ရိုးတက်၏၊ မရှက်မနောပြီ၊ ရှစ်သောင်းအချာ၊ ဆက်ကာစိုးစံ၊ နန်းရံမွဲဌာနီသို့၊ ရာသီမစွန်းခင်၊ အောင်စည်ရွှမ်း၍၊ စက်ဝန်းဖြန့်စေချင်သည်။ နောက်ခွင်ကြာလွန်းစွတကားလည်း။

(၂) နောက်ခွင်ကြာလွန်း၊ ရာသီစွန်းလျှင်၊ ရစ်သန်းလှည့်ကာ၊ ရှစ်ဖြာအံ့လာကြိုး၊ အာကာတိမ်ညွတ်၊ ပြိုလတ်ဘိသွင်၊ မယ်လျှင်လက်ကိုမိုး၍၊ ကြောက်စနိုးညှိုးမျက်နှာ၊ လက်ရွှေဖြန့်ထား၊ သိကြားကိုလျှောက်မှာ၏။ တောင်ညာ မဟော့သွေး၊ နှစ်ပါးမောင်စုံ၊ ဘုန်းရိပ်လှုံသည်၊ ပဒုံကြာနံ့မွှေး၏၊ ချစ်ကြွေးမတင်ခင်၊ ဆွဲသုံးနှစ်ဝယ်၊ ငယ်ရွယ်တုန်းကပင်တည့်၊ ဘနတ်ရှင်လောင်းဘုရား၊ ခြားဝမ်းမကွာ၊ ရင်းချာမောင်နှစ်ပါးကို၊ ပေးမြားစုလျားတင်၊ လက်ထပ်ရေသွန်း၊ ဆွဲနှစ်ခန်းမူ၊ ထူးဆန်းသဘင်ဆင်၍၊ ချစ်ကြိုးမျှင်ခွေရစ်ပတ်၊ နဝရတ်စီ၊ သီဂီအိမ်ရှေ့နတ်နှင့်၊ စိန်ခြယ်သတ်အလယ်တွင်၊ မောင်းမများမြောင်၊ တထောင်မက၊ စံကြတုန်းကိုပင်တည်း၊ သုံးနှစ်ဝင်ရာသီမှာ၊ ကုလားနေပြန်၊ သူရတန်က၊ အားအန်ပြတုံ့လာ၍၊ ခွန်ဘဏ္ဍာဆက်မသွင်း၊ ဥပရာဇ်ရှင်၊ မယ့်ထိပ်တင်ကို၊ အလျင်ချီစေလျှင်းဟု၊ သောင်းတွင်းဖမ့်ပိုင်၊ အာဏာမိန့်မြွက်၊ ဘခင်နတ်က၊ အမတ်တထောင်၊ များမြောင်လက်နက်ကိုင်နှင့်၊ တောင်မဏ္ဍိုင်ပြို ခမန်း၊ ဆင်မြင်းစစ်ခြေ၊ ပုံတင်ဝေသည်၊ ဤမြေသိမ့်သိမ့်ကျန်းမျှ၊ အိမ်ရှေ့နန်းသခင်၊ နံတော်ကမူ၊ စတုရပါဒ်၊ နက္ခတ်အထွန်း၊ ကျိုးကန်းတာရာ၊ ဟသ်ာအထွက်၊ စစ်တက်ချီသည်လျှင်တည့်၊ နောက်ခွင်မောက်သူစာ၊ ခရိုင်တလွှား၊ အပိုင်စားသည်၊ စကားသုံကြိမ်ကြာခဲ့၊ တောင်တာကို ခြင့်တွက်ပြန်၊ မယ်တို့စံမြန်နန်းရွှေဘုံနန်းနှင့်၊ ဂဏန်းသချာ၊ ယူနောမှု၊

နဝါဒသမှန်၏။ လျှင်မြန်ပြန်စေကြောင်း၊ ဆုတောင်းဆုယူ၊ သိမ့်သိမ့်ဆူသည်၊ ရှင်လူများအပေါင်းတည်း။ နန်းလောင်းမယ့်သခင်၊ အောင်ပန်းစိုက်ထောင်၊ ဘုန်းခေါင်ပြန့်စေချင်သည်။ လျှောက်တင်ခါ ပန်းစွတကားလည်း။

(၃) လျှောက်တင်ခါပန်း၊ ရာသီဆန်းလျှင်၊ နန်းမြင့်အောင်မြေ၊ ဆဲ့နှစ်ထွေ ရစ်သန်းမြူး၊ မောက်သူဇာသည်၊ ဒါကာဆိပ်ကမ်းဦးမှ၊ ကျေးဖူးဂုဏ်ရှစ်တန်၊ အမတ်လိမ္မာ၊ ထိုမြို့ရွာတွင်၊ အာဏာသုံးခဲ့ပြန်မှ၊ ပြောင်ဆဒ္ဒန်မာတင်ရိုး၊ ထွက်လျှင်မပြန်၊ မလုန်တို့မင်းမျိုးတည်း၊ ဆိုးကောင်းနှစ်ပါးတွင်၊ ရိပ်ခြည်အပြင်၊ သခင်သိရင်းပင်ဟု၊ ပညာရှင်ထိန်းအုပ်မှ၊ မြို့ပြကျေးရွာ၊ သာယာစည်ကားလှ၏။ မင်းယောက်ျားမွေတာ၊ ပညာမှဲ့နက်၊ ဉာဏ်ကစက်သော်၊ ပြည်ထက်မထားရာတည်း။ ရေးကျမ်းလာထုံးစာဟောင်း၊ ကျိုးကြောင်းသိပြန်၊ ဘွဲ့မှန်အမတ်ကောင်းကို၊ နောက်တကြောင်း ကုလားရွာ၊ အပိုင်အပ်ပြီး၊ စစ်သူကြီးဟု၊ စောထီးထားခဲ့မှာ၏။ ဘုရာဇာမိန့်တော်မြွက်၊ ဦးထိပ်ရွက်ပန်၊ နန်းရံအိမ်ရှေ့နတ်ကို၊ ရှိသွတ်လျှောက်ထားတင်၊ ရာသီပြောင်း၍၊ မိုးနှောင်းဝါလ၊ ဆောင်းစအကူးတွင်၌၊ မျှားဖျင်စစ်မိုလ်ခြေ၊ ထိုမြေတဝက်၊ လက်နက်ထားခဲ့စေဟု၊ မြောက်လေဖျူးလာလျှင်၊ ဘုရာဇာမိန့်တော်အင်၊ ဦးထက်ပန်ရွက်ဆင်၍၊ ရှေ့လာလျှင်နောက်ငင်၊ လုံးပေါင်းရှုမျှော်၊ ဉာဏ်တော်သာအကြောင်းတည်း။ မင်းလောင်းဥပရာ၊ ကြည်းရေတင်းကျမ်း၊ မြစ်လမ်း နှစ်ဖက်မှာလည်း၊ နေ့မခြားအထပ်ထပ်၊ ရက်စပ်စေကျွန်၊ ရောက်လာပြန်သော်၊ အမှန်မယုံလတ်ခဲ့၊ နောက်ရပ်ပိုင် သခင်၊ ပေမန်အကူး၊ ရဲမှူးစစ်အောင်မြင်သည်၊ ရောက်တင်ကြာနန်းက တကားလည်း။ ဟူသော ဤရကန်သုံးပိုဒ်ကို ရေးသားပေးပို့တော်မူလိုက်သည်။ မေတ္တာစာရောက်၍ ကြည့်ရှုဆင်ခြင်တော်မူပြီးလျှင် မောက်သူဇာမြို့၌ စစ်သူကြီးကို ရဲမက်မိုလ်ပါတဝက်နှင့် အစောင့်ထားတော်မူ၍ ပြန်တော်မူမည်ကြံစည်တော်မူသောအခါဝယ် သူရတန်မင်းသမီး ဒံရမာဇာလီ၊ ဒူရဘီတို့က သောင်းတိနတ်အား လူလေးထောင်လျှဒါန်းချင်ပါကြောင်းနှင့် လျှောက်တောင်းပန်ကြလေရာ ဟာမတူကျွန်းသား ဆားချက်ကုလားလေးထောင်တို့ကို ပေးတော်မူ၍ ဒံရမာဇာလီ၊ ဒူရဘီတို့အား လျှဒါန်းတော်မူစေပြီးလျှင် နေပြည်တော် ဝေသာလီသို့ ကြွချီပြန်လည်တော်မူခဲ့၍ ရောက်တော်မူလာလျှင် ချမ်းသာပျော်မွေ့အိမ်ရှေ့မိဘုရားနှင့် စံစားတော်မူကြလေသတည်း။

(ဤအရာတွင် အစိုးရတို့ ထုတ်ဝေအပ်သော မြန်မာစာညွန့်ပေါင်းကျမ်း၌ မဟာစန္ဒရားမင်းကြီးသား အိမ်ရှေ့မင်းဟူ၍ဆိုသည်။ ဓညဝတီအရေးတော်ပုံ၊ မင်းပေါကြီးခန်း ၅၉ နံပါတ်တွင် သီရိစန္ဒရား၏ သားတော် သိဂ်ီစန္ဒရား အိမ်ရှေ့မင်းဖြစ်ကြောင်းနှင့်သာ ဆိုသောကြောင့်ငှင်း။ ဒုတိယပိုဒ်ရကန်၌ နဝရတ်စီ၊ သီဂီအိမ်ရှေ့နတ်နှင့်ဟူ၍ သိဂ်ီစန္ဒရားမင်းသားကိုပင်ရည်၍ ဆိုဟန်တူသောကြောင့်ငှင်း သီရိစန္ဒရား၏ သားတော် သိဂ်ီစန္ဒရား အိမ်ရှေ့မင်းဟူ၍ ရေးလိုက်ပေသည်။ ဤကား အမှာစကားချုပ်)။

ထိုသီရိစန္ဒရားမင်းကား အလွန်အဆင်းလှ၏။ ခွန်အားနှင့်လည်း ပြည့်စုံ၏။ ဘုန်းတန်ခိုးကျက်သရေ တောက်ပတော်မူ၏။ အမျိုးလေးပါးတို့၏ စီးပွားချမ်းသာကို ရှုက်ဆောင်တော်မူ၏။ သနားမေတ္တာကရုဏာ တရားရှိတော်မူ၏။ ရတနာသုံးပါးကို အလွန်ရိုသေမြတ်နိုးဆည်းကပ်၏။ အလှူသီတင်းကျင့်သုံးခြင်း၌ အလွန်မွေ့လျော်၏။ ဤသို့သော ဂုဏ်ကျေးဇူးအပေါင်းတို့နှင့် ပြည့်စုံတော်မူသောကြောင့် လူနတ်အပေါင်းတို့သည် ကောင်းစွာ ချစ်မြတ်နိုးကုန်၏။ နတ်အပေါင်းတို့သည် ကောင်းစွာစောင်မ ကြည့်ရှုတော်မူကုန်၏။ ထိုမင်းလက်ထက် သက်တော် ၄၃၊ လေးဆဲ့သုံးနှစ်တိုင် ရောက်လေလျှင် သက္ကရာဇ် ၅၆၀၊ ခ,ဆ, ပဉ္စာကိန်းပြည့်လေသည်ဖြစ်၍ ဘေးတော်မဟာစန္ဒရားမင်းကြီးအား အရှင်မင်းကြီး၏အနွယ်တော်၌ ဘုန်းတန်းခိုးကြီးသော မင်းသည် ၅၆၀ သက္ကရာဇ်ကိုဖြိုပါလိမ့်မည်ဟု လျှောက်ထားဖူးသည့်အတိုင်း ၂ ခုအစွန်းထား၍ ဖြိုတော်

မူလေသည်။ ထိုမင်းကြီးသည် အိမ်နိမ့် ၁၇၊ တဆဲ့ခုနစ်နှစ်၊ နန်းစံ ၇၂၊ ခုနစ်ဆဲ့နှစ်နှစ်၊ နှစ်စုသက်တော် ၈၉၊ ရှစ်ဆဲ့ကိုးနှစ်၊ သက္ကရာဇ်ဖြိုကြွင်း ၂၉ ခုတွင် နတ်ပြည်စံတော်မူလေသည်။၇။

(သက္ကရာဇ်ဖြိုသောမင်းတို့သည် အသက်မရှည်ဟု ဆိုကြကုန်၏။ ယင်းသို့ဆိုကြသောစကားကို အမှန်မယူသာ။ အဇာတသတ်မင်း ၁၄၈ ခု သက္ကရာဇ်ကို ဖြိုပြီးနောက် ၂၄၊ နှစ်ဆဲ့လေးနှစ် နန်းစံရသေးသည်ဆိုသော ပါရာဇိကဏ် အဋ္ဌကထာကိုထောက်။ ဤကား အမှာစကားချပ်။)

ထိုမင်းနတ်ပြည်စံတော်မူလေလျှင် သားတော် အိမ်ရှေ့မင်း သိင်္ဂစန္ဒရားသည် အိမ်ရှေ့မိဘုရား နှမတော် သုဝဏ္ဏာဒေဝီနှင့် ဖြိုကြွင်းသက္ကရာဇ် ၂၉ ခုတွင် ဘိသိက်ခံ၍ ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေသည်။ ထိုမင်းကား အရောင်အဆင်းနှင့်ပြည့်စုံတော်မူသောကြောင့် သိင်္ဂစန္ဒရားဟူသောအမည်ကို မှည့်တော်မူ၏။ မိဘဆရာ ရတနာသုံးပါးတို့ကို ညွတ်တွားကျိုးနွံလျက် အလွန်အကျူး အထူးကြည်လင်စွာ သဒ္ဓါနှစ်လိုရှိသေခြင်းရှိ၏။ အရိယာသူတော်ကောင်းတို့အား အလွန်မြတ်နိုးရှိသေ၏။ ရတနာမိုးလည်း များစွာရွာ၏။ တိုင်းနိုင်ငံဝပြောစည်ပင်၏။ ထိုမင်းကား အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၆၆၊ ခြောက်ဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၈၄၊ ရှစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၉၅ ခုတွင် နတ်ရွာစံတော်မူလေသည်။ ၈။ (ရာဇဝင်ကျောက်ရိုး၌ကား ရတနာမိုးတကြိမ်သာ ရွာကြောင်း၊ အရှေ့ပြည်က မစွလုံဟူသော အမတ်တယောက်၊ ဘောသကဟူသော အမတ်တယောက်၊ ဤနှစ်ယောက်တို့လာရောက်လှည့်ပတ် လျှောက်ထားတိုင်း မဟာမုနိသိမ်တော်ဂူကို နှိမ့်၍လုပ်တော်မူသည်။ တံခါးတိုင်ကိုလည်း ခမောင်းသားကိုဆောက်လုပ်စေ၏။ ခြောက်လရှိလျှင် မင်းကြီးဦးတော်ကို ရေနွေးဖြင့် ဆေးကောင်းသည်ဟုဆို၍ ဆေးမိ၏။ ထိုကြောင့် ကာလမရှည်လွန်တော်မူလေကြောင်းနှင့်ဆိုသည်။)

ထိုမင်း နတ်ရွာစံတော်မူလေလျှင် သားတော်စုဋ္ဌစန္ဒရားသည် စန္ဒာဒေဝီမည်သောမိဘုရားနှင့် သက္ကရာဇ် ၉၅ခု တွင်အဘိသိက်ခံ၍ မင်းပြုတော်မူလေ၏။ ထိုမင်းကား အဆင်းအဝါ အစွမ်းခွန်အား ဘုန်းလက်ရုံးတန်ခိုးနှင့် ပြည့်စုံ၏။ ရတနာသုံးပါး၌ အလွန်မြတ်နိုးရှိသေ၏။ ရတနာမိုးလေးကြိမ်ရွာ၏။ လှံ့ရှင်လက်နက်လည်းရတော်မူ၏။ လှံ့ရှင်လက်နက်ဖြင့် ပြည်ထောင်ချင်းမင်းတို့ကို ရှိညွတ်စေလျက် ထိုမင်း၌မရေမတွက်နိုင်သော ရဲမက်မိုလ်ပါတို့နှင့်တကွ ပြည်နေသူအပေါင်း ဖွားလားသင်းစုခုနစ်ခုသော အမွေးအရေအတွက်ရှိ၏။ ကိုးသောင်းသော လှေကြီးတို့ဖြင့် ခြံရံလျက် တိုင်းခွင်လှည့်အံ့ဟု အနောက်သူရတန်ပြည်သို့ ချီတော်မူလေသော် စစ်တကောင်းသို့ ရောက်လေလျှင် မှူးတော်မတ်တော် စသောပညာရှိတို့သည် ဤဇမ္ဗူဒိပ်မြေပြင်ထက် အရှင်မင်းကြီးအား စစ်မက်ပြုဝံ့အံ့သော မင်းသည် မရှိရာဖြစ်သောကြောင့် စစ်မက်ဆင်တော်မမူကောင်း။ အရိန္ဒမာလှံ့ရှင်ကိုသာ လွှတ်တော်မူသင့်ကောင်းသည်ဟု လျှောက်ကြလေလျှင် အရိန္ဒမာလှံ့ရှင်ကိုစေလွှတ်တော်မူလျက် သူရတန်မင်းစသော ထိုထိုသောမင်းအပေါင်းတို့သည် လက်ဆောင်ပဏ္ဏာကာရများစွာနှင့် ကျွန်တော်ခံလာကြကုန်၏။ ကန်ကြီးလည်း တူးတော်မူ၏။ ကျောက်စာတိုင်လည်း စိုက်ထူထားတော်မူခဲ့၏။ ဤသို့မင်းကြီးအား စစ်မဆင် မတိုက်ကောင်းဟု လျှောက်သောစကားကိုအကြောင်းပြု၍ စစ်တကောင်းဟု ယခုတိုင်တွင်၏။ ယင်း စစ်တကောင်း အရပ်မှသည်ပြန်ခဲ့၍ အမျိုးလေးပါးတို့၏ စီးပွားကို ဆောင်တော်မူပြီးသော် မင်း၏အဖြစ်ဖြင့် စံပျော်တော်မူ၏။ သက်တော် ၅၆ နှစ်တွင် ဦးကြပ်အနာ မင်းကြီးတွင် စွဲတော်မူလေ၍ မှူးမတ်ပညာရှိအပေါင်းတို့အား မေးတော်မူလေလျှင် ထိုမင်းဘုန်းတန်းခိုးကြောင့်ဖြစ်သော နတ်မျက်စိအမြင်ကိုရသော ဟူးရားတတ်တို့သည် ပဉ္စာလရစ် သင်းတွဲပြည်တွင် ခွေးငယ်တကောင်ဖြစ်ဘူးသော အခါ ခွေးငယ်သေလေသော် ဦးခေါင်းခွံကို တခုသော

ညောင်ပင်ခွကြား၌ ကြပ်ထားကြလေ၏။ ကာလရှည်လတ်သော် ထိုညောင်ပင်သည်မျိုးလေ၍ လေခပ်လတ်လျှင် ညောင်ပင် လှုပ်သောကြောင့် ယခုလူမင်းဖြစ်သောအခါဝယ် ဦးကြပ်အနာ ဖြစ်တော်မူပါသည်ဟုလျှောက်ပေသော် မင်းကြီးသည် သင်းတွဲပြည်သို့ ချီတော်မူလိုသော နှလုံးတော်ရှိလတ်၍ ငါချီတော်မူလတ္တံ့ဟု ကမ္ဗည်းစာစောင်ကိုဆွဲ၍ လုံ့ရှင်ကို စေလွှတ်တော်မူလိုက်၏။ ထိုအရိန္ဒမာလုံ့ရှင်သည်ကား နှစ်လခရီးကို တခဏချင်း ရောက်လေ၏။ မိုးကြိုးသံကဲ့သို့ ခြိမ်းသံဖြစ်စေလျက် မင်းရင်ပြင်ဝယ်ကျလေသော် အမတ်ပြည်စိုးစသော စစ်သူကြီးအိမ်ရှေ့မင်းတို့ ကောက်ချေသော်လည်း မရနိုင်သောကြောင့် မင်းကိုယ်တိုင်ကောက်ရလေ၏။ ကမ္ဗည်းစာကိုကြည့်လေသော် သင်းတွဲမင်းသည် ကြောက်ရွံ့စွာလျက် အရှင့်နိုင်ငံတော်ဖြစ်သော သင်းတွဲပြည်သို့ ခြေတော်စုံကြွပါဟု ကမ္ဗည်းရွှေစာလက်ဆောင်ရေး လိုက်ပြီးလျှင် ပေါက်ပေါက်တန်ဆောင် ဆီမီးပန်းနံ့သာတို့ဖြင့် ပူဇော်၍ လွှတ်လိုက်၏။ အရိန္ဒမာလုံ့ရှင်ပြန်ရောက်၍ လက်ဆောင်ရွှေစာကိုမြင်တော်မူလေသော် အလွန်ဝမ်းမြောက်စွာ ဥတ္တမစော၊ ဝသီတေဇဟူသောဟူးရားဖြူ၊ ဟူးရားညိုတို့အား ကြွတော်မူအံ့သောအခါကို မေးတော်မူလေသော် ဤနှစ်ဝယ်ကြွတော်မူချေသော် ပြန်တော်မူရအံ့သောကျိန်းမရှိပါဟု နားတော်လျှောက်ကြလေသော် ထိုစကားကို နားတော်မမူ၍ မင်း၏မာန်ဖြင့်နေတော်မူလေလျှင် မင်း၏အလိုကိုလိုက်၍ ဟူးရားဖြူ ဟူးရားညိုတို့က ကြွတော်မူလိုလျှင်လည်း ကြွတော်မူသင့်ပါ၏ဟု အစီရင်ခံ လျှောက်ကြလေသော် ကိုယ်ဝန်သုံးလနှင့်တကွသော စန္ဒာဒေဝီမိဘုရားအား သိကြားပေးအပ်သော ပတ္တမြားလက်စွပ်ကို ပေးတော်မူ၍ ဤသို့မှာတော်မူခဲ့၏။ မိဘုရား၊ ငါသည်ကား ဝေးရပ်မြေခေါင်သို့ ကြွတော်မူရလေသော် မျောက်သားတော်သည်ကား ဒါန,သီလကို မြဲမြံစွာ ဆောက်တည်လျက် ပြည်တိုင်းကားကို အုပ်ကွပ်နှင့်ပေ။ ငါသည်ကား သမုဒ္ဒရာခရီးသည် ဘေးဥပဒ်များစွာသောကြောင့် မပြန်မရောက်ရှိခဲ့သော် ဤလက်စွပ်နှင့်တိုင်း၍ တန်သောသူတို့ကို မင်းပြုရစ်စေဟူ၍ အမိန့်တော်ပေးထားခဲ့ပြီးမှ ရွှေလှေဖောင်တော် ပြာသာဒ်ထက်စီးတော်မူ၍ ကိုးသောင်းသောလှေတော်ရံတို့နှင့်တကွ သမုဒ္ဒရာပင်လယ်ခရီးဖြင့် လှည့်ကြွတော်မူသောအခါ မင်းကြီးစားတော်ကွမ်းဖတ်ပစ်သဖြင့် နဂါးမင်းသမီးရလေလျှင် ရေးခုနစ်ဘဝက လင်ဖြစ်ဘူးသော ဝါသနာကံကြောင့် အလွန်တက်မက်မောသည်ဖြစ်၍ အဘနဂါးမင်းကြီး အားရလိုကြောင်းနှင့် တောင်းလေသော် ယခုမရနိုင်သေး၊ ပြန်ခါမှ ငါရအောင်ယူပေးမည်ဟု သမီးအားဝန်ခံလေ၏။ စူဠစန္ဒရားမင်းကြီးလည်း ဟံသာဝတီမည်သော ပဲခိုးပြည်ဝယ် ပဲခိုးမင်းတို့၏လက်ဆောင်ပဏ္ဏာကိုယူတော်မူပြီးမှ ဧရာဝတီမြစ်ကြောင်းကို ဆန်တက်လေ၍ ပုဂံပြည့်ရှင်မင်းတို့ အဖူးအမြင်လက်ဆောင်ကိုခံယူပြီးမှ အထက်သို့ဆန်တက်လေ၏။ (ဤအရာတွင် ရာဇဝင်ဟောင်း၊ ဆရာငမည်ရာဇဝင်တို့၌ ပဲခိုးပြည်ဝယ် သထုံမင်းတို့ဟူ၍၎င်း၊ သရေခေတ္တရာပြည်ရှင်တို့ဟူ၍၎င်း ဆိုကြလေသည်။ ပဲခိုးပြည်ဝယ် ပဲခိုးမင်းသာယူသင့်သည်။ သရေခေတ္တရာတွင်လည်း ထိုအခါ မင်းမရှိပြီ။ ပုဂံပြည်တွင်သာ ခ,ဆ, ပဥ္စာကိန်းကို ဖြိုပြီးနောက် သက္ကရာဇ် ၁၂၄ နှစ်ဝယ် နန်းတက်သော ရွှေမျောက်မင်း နန်းစံခုနစ်နှစ်တွင် ကြုံသင့်သည်။ ဤကား အမှာစကားချပ်)။

မိုးကောင်း၊ မိုးညှင်း၊ အုန်းပေါင်၊ မိုးနဲ၊ မိုးထွေ၊ မိုးလောင်း စသော မြစ်ညာမင်းတို့သည် များစွာသော လက်ဆောင် ပဏ္ဏာတို့ဖြင့် ကြိုဆိုဆက်သဖူးမြင်ကြကုန်၏။ အစဉ်အတိုင်း ဆန်တက်လေသော် သင်းတွဲတကောင်းပြည်သို့ ရောက်တော်မူလေ၏။ သင်းတွဲတကောင်းမင်းလည်း စစ်အင်္ဂါလေးပါးခင်းကျင်းလျက် မှူးမတ်အပေါင်းခြံရံ၍ ဆီးကြိုပြီးလျှင် သမီးရတနာလက်ဆောင်ဘဏ္ဍာတို့ဖြင့် ဆက်သဖူးမြင်လာပေ၏။ စူဠစန္ဒရားမင်းကြီးလည်း ထိုညောင်ပင်ကိုရအောင်ရှာ၍ရလေလျှင် မီးတိုက်ပြီးမှ ထိုညောင်ပင်အရာ၌ စေတီကြီးစွာတည်စေတော်မူ၍

မဏ္ဍပ်ကနားကြီးစွာဆောက်စေတော်မူလျက် ခြောက်သိန်းသော ရွှေစင်တို့ဖြင့် အလှူကြီးပေးတော်မူ၏။ စူဠစန္ဒရားမင်းကြီးသည် အဆင်းအရောင်နှင့်ပြည့်စုံသော မင်းသမီးကညာတို့ဖြင့် မင်း၏စည်းစိမ်ကိုခံစားမွေ့လျော်တော်မူလျက် သုံးလတိုင်အောင်ပျော်ပါး၍ နေတော်မူလေသည်ကို မှူးတော်မတ်တော်အပေါင်းတို့က မလျှောက်ဝံ့ကြသည်ဖြစ်၍ စောင်းညင်းဖြင့် နှေညမပြတ် တီးမှုတ်ကြကုန်၏။ (ဤအရာတွင် ရာဇဝင်ဟောင်း၌ သုံးနှစ်ပတ်လုံး ပျော်ပါးမေ့လျော့နေကြောင်းနှင့်ဆိုသည်။ သက်တော် ၅၆ နှစ်တွင် ကြွတော်မူ၍အပြန် ၅၆ တွင်ပင် လွန်တော်မူကြောင်းနှင့်ဆိုလေသည်ကိုထောက်၍ သုံးလဟူ၍ရေးလိုက်သည်။ ဤကား အမှာစကားချုပ်)။

ဤသို့ တီးမှုတ်ကြသောအသံကို မင်းကြီးကြားလေသော် ဤအသံကား အဘယ်အသံလျှင်တို့နည်းဟု မေးတော်မူလေသော် ရွှေဖဝါးတော်အောက်၊ ဤပြည်သည် အရှင့်ပြည်တော်မဟုတ်ပါ။ မွေးဒိပ်မြေအပြင်ထက် တရှုတစင်း ထီးဆောင်းမင်းတို့၏ ခွန်သွင်းဆက်သတော်မူရာ ဝေသာလီမည်သော ပြည်သည်သာ အရှင်မင်းကြီး၏ ပြည်ဖြစ်ပါသည်။ ပြည်တော်သို့ ပြန်အံ့သောအချိန်အခါ တန်ပါ ပြီဟု လျှောက်အံ့သောငှာ တီးမှုတ်ပါကုန်သည်ဟု လျှောက်ကြပြီးမှ ပြန်ကြွတော်မူလိုသောစိတ်ရှိတော်မူ၍ ရွှေဖောင်တော်ပြာသာဒ်စီးလျက် ပြန်တော်မူခဲ့သော် သမုဒ္ဒရာပင်လယ်ခွင်သို့ ရောက်တော်မူလေလျှင် မော်တင်အလှည့်၌ နဂါးမင်းသည် တန်းခိုးကြီးစွာဖြင့်ဖန်ဆင်း၍ လိုက်လတ်လေသော် စီးတိုင်းစီးတိုင်းသောလှေတို့ကို မီးအလျှံပြောင်ပြောင်ဖွဲလာသည်ကို သူငယ်တို့လျှောက်လေလျှင် ဟူးရားဖြူ ဟူးရားညိုတို့အား အကြောင်းကို မေးတော်မူလေသော် အရှင်မင်းကြီးပြန်၍ကြည့်တော်မမူပါလင့်ဟု လျှောက်ကြကုန်၏။ နဂါးမီးလျှံလည်း အစဉ်အတိုင်းလောင်၍ ဖောင်တော်ကိုစွဲလာသော် မောင်းမတို့ ကြွေးကြော်သောကြောင့် ပြန်၍ကြည့်တော်မူလေလျှင် ရှစ်သောင်းသောလှေရဲတို့နှင့်တကွ နစ်မြုပ်တော်မူလေ၏။ ယင်းသို့နစ်မြုပ်လေသည်ကိုအကြောင်းပြု၍ နဂါးရစ်ဟုယနေ့တိုင်အောင် တွင်လေ၏။ ရှေးဦးတင်သောအမတ်ကြီး ဓမ္မဓေယျသည်ကား တသောင်းသောလှေရဲတို့နှင့် မပျက်မစီးပြန်လတ်သည်ကို စန္ဒာဒေဝီမိဘုရားကြားလေလျှင် ငါ့လင်ကိုပုန်ကန်၍ မင်းပြုမည်လာလတ်သည်ဟု မှတ်လျက် ကိုယ်တိုင်တော်ထွက်၍ ရမ်းတားနှင့်သည်ကို အကြောင်းပြု၍ ရမ်းဝဟု ယနေ့တိုင်အောင် တွင်လေ၏။ ထိုအမတ်ကြီး ဓမ္မဓေယျသည် ကစ္ဆပနဒီမြစ်လျှောက်ဆန်တက်လေ၍ ဂူဝအထက်၊ ကကာံတောင်ဝယ် မြို့ရွာတည်၍ နေလေသည်ကို ထိုအရပ်ဝယ် မနေရအောင် လိုက်၍ နှင်ပြန်လေလျှင် မနေသာ၍ အရှင်မကို မတရစ်ဟု မြစ်ဖျားသို့ဆန်တက်ပြန်လေ၏။ နေခဲ့သောအရပ်ကိုလည်း ဥတ္တရစ်ဟု ယနေ့တိုင်အောင်ခေါ်ဝေါ်ကုန်၏။ ထိုအမတ်ကြီးလည်း ခြွေရံသင်းပင်းနှင့်တကွ ယွမနော သုံးဆယ်မကသောအရပ်သို့သွားလေ၍ ပြည်ကြီးတည်လေသည်ကို ကုလားဘာသာဖြင့် သူပုန်တို့နေရာ အရပ်ဖြစ်သည်ဟု ထိုပြည်ကိုဟစ်ရှံ့ပြည်ဟုခေါ်ကြကုန်၏။ ထိုအမတ်ကြီးသွားလေသောအခါ မလိုက်ပဲ ခွဲ၍နေရစ်သော ရဲမက်ငါးရာတို့ကား မြို့ရွာတည်ထောင်၍ နေကြလေကုန်၏။ ထိုသူတို့ကို မြဟ္မဘာသာဖြင့် မြုံဟု ခေါ်ဝေါ်ကြကုန်၏။ ချောင်းသုံးခွဝယ် သုံးရွာတည်သောကြောင့် ကဏ္ဍုလပြည်ဟု သမုတ်ခေါ်ဝေါ်ကြကုန်၏။ ဤဝေသာလီဟူသော ကျောက်လှေကားမြို့ကို အစတည်ထောင်တော်မူသော မဟာစန္ဒရားမင်းကြီး၏ အနွယ်တော် ကိုးဆက်မြောက်တွင် စူဠစန္ဒရားမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၅၆၊ ငါးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၁၃၁ ခုတွင် နဂါးနှစ်၍ လွန်တော်မူလေသည်။၉။ ဤကား ရာဇဝင်ဟောင်း၊ ရာဇဝင်ကျောက်ရိုး၊ ဆရာမည် ရာဇဝင်တို့၌ ပြဆိုအပ်သော စူဠစန္ဒရားမင်း၏အကြောင်းတည်း။

(ဓညဝတီအရေးတော်ပုံ၌ကား စူဠစန္ဒရားမင်းသည် ကုလားမင်းကဆက်သော ကုလားမင်းသမီး၊

ပြူမင်းကဆက်သော ပြူမင်းသမီးတို့စကားကိုသာ နားထောင်လျက် တောတောင်အနှံ့ လှည့်ပတ်ပျော်ရွှင် ပညာမဲ့မှူးမတ်တို့နှင့်သာ ပေါင်းဖက်နေလေရာ ရှေးပညာရှိတို့၏ အမျိုးစဉ်ဆက်လာသော စစ်တကောင်းမြို့စား ဝိရူရအမတ်လျှောက်သည်ကား အရှင်မင်းမြတ်၊ ရှေးရှေးဘိတော်ဘေးတော် ခမည်းတော်တို့ထုံးကို ဖျက်သင့်သည်မဟုတ်ပါ။ အများသနင်းမင်းစဉ်ဖြစ်လျက် အပျက်အချော်သရော်ကြမ်းတမ်း သော့သွမ်းသောအမှုကို မလေ့လာရာ၊ မင်းတို့ကား အမှားထွက်ဝင်၊ ဆိုချေလျှင်မူ၊ ပြည်သူရိပါး၊ စစ်မက်များသည်။ အပျော်အရွှင်၊ သဘင်ပြွမ်းသော်၊ လူသွမ်းသည်။ အမှုတကာ၊ ယုတ္တာယုတ္တိ၊ မင်းမညီလျှင်၊ ပြည်ရိသည်။ ချောပစ်စကား၊ မင်းပါးအမတ်၊ တင်လျှောက်လတ်သော်၊ ရိပ္ပတ်သတ္တဝါ၊ မြို့ရွာကျေးကျွန်၊ မုသားထွန်းသည်၊ ဥတုရာသီ၊ မညီနေလ၊ အာကာသဓာတ်၊ နက္ခတ်ဂြိုဟ်သွား၊ မတရားလျှင်၊ နာဖျားလည်းထူ၊ ခိုးသူနှောက်ရှက်၊ မိုးလည်းဖျက်သည်။ ထိုသို့ရှေးထုံးအထွက်နှင့် လျှောက်ထားလေသော် ထိုမင်းအမျိုးအရိုးမှန်လျက် သူပျက်တို့စကားကိုနာမိလေ၍ လှည့်ပတ်ရာအရပ်၌ ရေနစ်၍သေလေသည်ဟု ရာဇဝင်ဟောင်းတို့၌ မလာပဲလျက်လောင်း စွက်၍ဆိုလေသည်။ ဤသို့ ဓညဝတီအရေးတော်ပုံ၌လာသည်ကို အချို့ရာဇဝင်သစ်၌ စစ်တွေမြို့အနီး မောင်နီပြင်ရွာရှိ အင်္ဂလိပ်မင်းပိုင်စက ဟူးရားတတ် ဆရာမည်ရေးသားအပ်သောရာဇဝင်ကို ရာဇဝင်ဟောင်း ဓညဝတီအရေးတော်ပုံကို လေးဆဲ့ရှစ်အင်္ဂါရှိပြည်၏ရာဇဝင်ကြီးမှ ထုတ်နုတ်စီရင်သည်ဟုဆိုသည်ကိုထောက်၍ လေးဆဲ့ရှစ်အင်္ဂါရှိသော ပြည်၏ရာဇဝင်ကြီးပြု၍ ထိုရာဇဝင်ကြီး၌ကား စူဠစန္ဒရားမင်းကြီးသည် ရေနစ်၍သေလေသည်ဟုဆိုပြီးလျှင် ယခင်ဓညဝတီအရေးတော်ပုံစကားအတိုင်း ရေးသားလေသည်။ ပညာရှိတို့ သတိထား၍စဉ်းစားဆင်ခြင်ပါလေ။ ယခုငါတို့အမှီပြုအပ်သော ရာဇဝင်ဟောင်းသည်သာလျှင် သက္ကရာဇ် ၁၁၂၆ ခုနှစ်၊ နန်းတက်တော်မူသော အဘယ မဟာရာဇာမင်း၏ အမတ်စာတတ် ဦးဒိုးဝေ ရေးသားအပ်သော လေးဆဲ့ရှစ်အင်္ဂါရှိ ပြည်၏ရာဇဝင်ကြီးနှင့် တူသည်။ အဘယ်ကြောင့်ဟူမူ ရာဇဝင်ရာဇပုံအခန်း၌ ကျွမ်းကျင်လိမ္မာတော်မူသော သံချောင်းဆရာတော်ကြီး၏ လက်ကိုင်မူတော်ဖြစ်သောကြောင့်၎င်း၊ ရာဇဝင် အခန်း၊ မြို့တည်ခန်း၊ ကျွန်းတည်ခန်း၊ ဓာတ်တည်ခန်း၊ အရပ်ရပ်တို့နှင့်သော် လေးဆဲ့ရှစ်အင်္ဂါနီးရှိသောကြောင့်၎င်း၊ ရေးပုံသားပုံသည် ရိုးရိုးဖြောင့်ဖြောင့် အပိုအလွန် များစွာမပါဘဲ ရေးသားပါရှိသည်ကို မြင်သဖြင့်၎င်း ပြည်၏ရာဇဝင်ကြီးဟူ၍ပင် ထင်ပေသည်။ ရေးသူနာမည်ကား မပါလေ။ ဤသည်ကား အမှာစကားချပ်။

ထိုအခါ၌ ဝေသာလီကျောက်လှေကားမြို့ဝယ် ကြွင်းကျန်ရစ်သော မှူးတော်မတ်တော်တို့နှင့် စန္ဒာဒေဝီမိဘုရားသည် တိုင်ပင်တော်မူကြလျှင် ဤပတ္တမြားလက်စွပ်သည် လက်ဝယ်တန်သောသူကို မင်းပြုရစ်စေဟု မှာထားတော်မူသည့်အတိုင်း မင်းကြီးတူဖြစ်သော စန္ဒကူးမင်းသား မင်းမျိုးမင်းနွယ်တို့၏လက်၌ ဝတ်စေသော်လည်းကောင်း၊ အမတ်ကြီး၊ စစ်သူကြီး၊ ပြည်စိုး၊ ဘဏ္ဍာစိုး၊ မြို့ကွပ်၊ ကလန် သံပျင်တို့၏လက်၌ ဝတ်စေသော်လည်းကောင်း၊ အယုတ်အလတ်အမြတ်မရွေး တိုင်းပြည်ခရိုင်နိုင်ငံသူတို့၏လက်၌ ဝတ်စေသော်လည်းကောင်း မတန်လေ သောကြောင့် ချောင်းဖျား မြောင်းဖျား တောတောင်အနှံ့ ရှာကြလေသော် မီး၏အဖျား၊ သပဟူချောင်းဖျား၌ အဆင်းအဝါ အစွမ်းခွန်အားနှင့်ပြည့်စုံသော မြို့သင်းကြီးညီနောင် သားအဘသုံးယောက်တို့သည် ကွန်စွန့်၍ တွေ့လေလျှင် လက်စွပ်ကိုဝတ်စေ၍ တန်လတ်သော် သုံးယောက်လုံးကို ဝေသာလီပြည်သို့ဆောင်ယူခဲ့၍ ထိုမြို့သုံးယောက်တွင် အစ်ကိုအမြတ္တူကို စန္ဒဒေဝီမိဘုရားနှင့် သက္ကရာဇ် ၁၃၁ ခုတွင် မင်းအဖြစ်တင်မြှောက်ကြလေ၏။ ညီအမြကူကိုကား အိမ်ရှေ့အရာအပ်နှင်းပေ၏။ သားပဲမြူကိုကား မြောက်ဥပဟူသောရွာကိုနှင်းပေ၏။ ကျက်သရေတောင်ထက်ဝယ် ပြဦးတိုင်အိမ်ဆောက်၍နေလေ၏။

ထိုအခါ၌ နတ်လုံ့ရှင်လက်နက်သည် စူဠစန္ဒရားမင်းဝယ် ပါလေသောကြောင့် တိုင်းနိုင်ငံသည် ရှေးမင်းတို့ စိုးစံတော်မူသောအခါကဲ့သို့ မဖြစ်လေ။ တိုင်းပြည်၌ကား ဝပြော သာယာ စည်ပင်စွာရှိ၏။ ထိုမြို့မင်း အမြတ္တူ မင်းပြု၍ ခြောက်နှစ်ရှိလတ်သော် မိဘုရားစန္ဒာဒေဝီသည် လင်ဖြစ်သူ အမြတ္တူမင်းကိုထက် မတ်ဖြစ်သော အိမ်ရှေ့မင်းအမြကူ သည် အရောင်အဆင်း အရည်အသွေး ခွန်အားလက်ရုံးနှင့် ပြည့်စုံသောကြောင့် တပ်မက်ခြင်းဖြစ်၍ မှားယွင်းလွန်ကျူး ကြလေလျှင် လင်အမြတ္တူမင်းကိုပယ်လျက် မတ်အမြကူ အိမ်ရှေ့မင်းနှင့် မင်းပြုအံ့ဟု ကြံသောအဖြစ်ကို မြို့သင်းကြီး အမြတ္တူသိလေသော် မိဘုရားနှင့် ငါ့ညီတို့ အကြံထက် ငါလျှင်အောင်ကြံရစေဟု တရုံသောအခါဝယ် ညဥ့် သန်းခေါင်အချိန်၌ ယောင်ယမ်း "ကွဲပြု၏။ မိဘုရားလည်း အကြောင်းကိုမေးလတ်သော မြို့မင်းကြီးက ညီအိမ်ရှေ့မင်း ကိုခေါ်၍ ဤသို့ဆိုတော်မူ၏။ ငါတို့ကား ရှေးကောင်းမှုကံ ကြောင့်သာလျှင် မရမာမင်းအဖြစ်ရ၏။ ငါတို့အမျိုး ခုနစ်ဆက်ကား တောင်ထက်တောထဲကြီးသား မြို့ဖြစ်၏။ အနွယ်ဖြစ်သော တောစောင့်တောင်စောင့်နတ်တို့သည် များစွာလာကုန်လျက် သံလုံ့တံတောင့်လေးဖြင့် ခြိမ်းခြောက် လာ၍ ငါလန့်ဖျပ်ယောင်ယမ်းသတည်းဟု ပြန်ပြောလေသော် စန္ဒာဒေဝီမိဘုရားနှင့် ညီအိမ်ရှေ့မင်းက ရှေးကျင့်ရိုး ကျင့်စဉ်ကို ကျင့်တော်မူပါဟုဆိုပေသော် နွားနောက်၊ ကျွဲဖြူများစွာယူလျက် မြို့တို့၏ဝတ်မဲ့ဖြစ်သော ကြိမ်နွယ် ကြွေပေါက်ဦးဖွဲ့-စသည်ကိုဝတ်လျက် တောင့်လေးမြားကို ကိုင်၍ ညီအားကျွဲကြိုး၊ နွားကြိုးကိုင်ငင်စေ၍ ရှေ့က သွားစေ၏။ မြို့မင်းကြီးကား တောင့်လေးမြားလွှားကို ကိုင်လျက် နောက်မှလိုက်လေ၍ တောင်တူရှုသို့ ထွက်လေ လျှင် အိမ်ရာများသောကြောင့် မပစ်သာ၍ အစဉ်အတိုင်း သွားလေသော် လဆုတ်ကာလဖြစ်သောကြောင့် ညသန်ခေါင်လွဲလျှင် လထွက်လတ်၍ တောင်တခုထက်၌ သစ်ပင်ပြိုင်းပြိုင်းကိုမြင်လတ်လျှင် မိုးသောက်လှူပြီတကား ဟု ညီဖြစ်သောအိမ်ရှေ့မင်းကို အဆိပ်လူးသောမြားဖြင့် ပစ်လေ၏။ ယင်းသို့မြားဖြင့်ပစ်သတ်သောချောင်းငယ်ကို လျှောက်ချောင်းဟု ခေါ်ဝေါ်ကုန်၏။ မိုးသောက်လှူပြီဖြစ်၍ သစ်ပင်ပြိုင်းပြိုင်းမြင်သည့်အရပ်ကို ပြိုင်းတောင်ဟု ခေါ်ဝေါ်ကုန်၏။ ညီအလောင်းကို ချောင်းငယ်ဖျားဝယ် ဖုက်ဖုံး၍ထားခဲ့သည်ကို ဖုက်ဖုံးဟု ယနေ့တိုင်အောင် ခေါ်ကြကုန်၏။ ထိုအမြတ္တူမင်းကြီးကား နန်းတော်သို့ ပြန်လေ၍ ကျွဲဖြူ ငါ့ညီကိုခတ်၍ သေလေသည်ဟု ငိုယိုမှု ပြု၏။ အိမ်ရှေ့အမြကူ ညီသား၊ ပဲဖြူလည်း အဘကို သတ်လေသည်ကိုသိ၍ ငိုကြွေး၍နေလေ၏။ မြို့မင်းကြီး ကား ငါမင်းဖြစ်ပြီဖြစ်သောကြောင့် ငါ့ဆွေငါ့မျိုးတို့သည် မြို့ရိုင်း၊ ချင်းရိုင်းတို့နှင့် ရောစပ်ခြင်းမဖြစ်စေကောင်းဟု မီးချောင်းဖျားဝယ်ရှိသော အလုံးစုံသော မြို့တို့ကို ချခေါ် စေ၍ ဖိုးခေါင်တောင်ရိုး၌ တည်ထားလေ၏။ ထိုမြို့တို့ သည် ငါတို့မင်းမျိုးမင်းနွယ်ဟု မြို့အဝတ်တန်ဆာတို့ကို မသုံးဆောင်ကြပြီ။ ဦးဖွဲ့ကို ဖိုးခေါင်တောင်၌ထားခဲ့၍ အရှေ့ပြည်သားတို့၏ အဝတ်တန်ဆာ အဆောင်အယောင် တို့ကို မြဲစွာဝတ်ဆင်လေ၏။ ဦးဖွဲ့အားလုံးကို ဆွဲထားခဲ့ သည်ကိုအကြောင်းပြု၍ ထိုအရပ်ကိုဦးဖွဲ့တောင်ဟု ခေါ်ကြကုန်၏။ ထိုအခါတွင် အရှေ့ပြည်၌ ကာလရှည်မြင့် လတ်သော် အရှေ့ဘက်မြေအပြင်သို့သက်လေ၍ လယ်ချောင်း လုပ်စားကြလေ၏။ အရှေ့ပုဂံပြည်သို့ နှံ့စပ် လေ၏။ အောက်အရပ်သို့သက်၍ နေလေသည်ကို အောက်သားဟုခေါ်ကုန်၏။

ထိုအခါ၌ အရှေ့ပုဂံပြည်ကို အစိုးရသော ရွှေမှောက်အမည်ရှိသော ပြူမင်းသည် စူဠစန္ဒရားမင်းကို နဂါးနှစ်လေသောကြောင့် ဝေသာလီပြည်၌ မြို့ညီနောင် သားအဖသုံးယောက်တို့သည် မင်းပြုကြသည်ဟုကြားလေ သော် အကြောင်းကိုသိ၍ ကိုးသောင်းသောပြူတို့နှင့် စစ်မက်ပြုအံ့ဟု ဖိုးခေါင်တောင်ကိုကျော်၍ ပြိုင်းတိုင် တောင်ခြေရင်းဝယ်ရောက်လာသော် မြို့ပဲဖြူမင်းသားသည် ထိုအကြောင်းကိုသိလေလျှင် ပြူမင်းထံသို့သွားလေ၍ ဤသို့လျှောက်ပေ၏။ အကျွန်ုပ်ဘကြီးမင်းသည် အကျွန်ုပ်

အဘကိုသတ်လေသောကြောင့် အကျွန်ုပ်သည် အကျွန်ုပ်တို့၏ မြို့ဘသာဖြင့် ခေါင်းဘိုးဆပ်မည်ဟု အရှင်မင်းကြီးထံ အကျွန်ုပ်လာပါသည်။ အကျွန်ုပ်လျှင် သတ်ပါမည်။ ဤအဋ္ဌနနဒီမြစ်ကိုလည်း အကျွန်ုပ်လျှင် ကူးတို့တင်ပါမည်ဟု လျှောက်လေသော် ပြူမင်းလည်း ဝမ်းမြောက်ဝမ်းသာ ဖြစ်လေ၏။ ပဲဖြူမင်းသားသည် ဤသို့ ဝန်ခံလျှောက်ထားပြီးလျှင် ရှိသေစွာ နတ်တို့အား တိုင်တန်း၍ မိဌာန်သစ္စာပြုပေ၏။ ငါသည် အကယ်၍ ဤပြူမင်းချီလာသော ရန်စစ်ကို ပယ်လှစ်ခွင်းဖျက်နိုင်မည် မှန်လျှင် ခုနစ်ရက်ပတ်လုံး မှောင်အတိမိုက်စေသော၊ ဒါးလှံလက်နက်နှင့်တကွ လှေလှော်ကားနစ်စင်းကို လူနှင့်တကွ ရပါစေသောဟု မိဌာန်သစ္စာပြုလေလျှင် ကုသိုလ်ကံကြီးသောသူဖြစ်၍ နတ်တို့သည် မနေပိုင်သောကြောင့် လူသုံးကျိပ်အယောင် ဘန်ဆင်းလျက် လှေလှော်ကား နှစ်စင်းတွင်တင်၍ ဒါးလှံ လက်နက်အစုံနှင့် ရောက်လာပေ၏။ ခုနစ်ရက်ပတ်လုံးလည်း မှောင်အတိမိုက်လေ၏။ ပဲဖြူမင်းသားသည် ထိုလှေလှော်ကားဝယ်တင်၍ ကူးတို့ ပို့ဟန်အသွင်ဖြင့် တောင်ကြီးတခုသို့ယူပြီးလျှင် ရဲမက် ဗိုလ်ပါများကိုသတ်လေ၍ ခုနစ်ရက်တိုင်လျှင် လင်းလေ၏။ ကြွင်းသော ပြူရဲမက်ဗိုလ်ပါတို့သည် ပြိုင်တိုင်းတောင် ထက်သို့တက်၍ ငါတို့ ရဲမက်ဗိုလ်ပါတို့သည်ကား အဘယ်အရပ်ဝယ် စုဆောင်းလေသနည်းဟု ကြည့်လတ်သော် တောင်ကြီးတလုံးဝယ် ပြူတို့၏အကောင်ကို မြင်လေလျှင် ဤမြို့ကျွန်သားကား ဉပါယ်တံမျဉ်ဖြင့် ရဲမက်ဗိုလ်ပါ များကိုခိုး၍ သတ်လေပြီဟု ကြောက်လန့်စွာဖြစ်လျက် ပြန်သွားကြလေကုန်၏။ ထိုသို့ ခိုးသတ်လေသည်ကို အကြောင်းပြု၍ သတ်ခိုးတောင်ဟုတွင်လေ၏။ ယင်းသို့ ပြန်သွားလေသော် ပြူမင်းနှင့် ရဲမက်ဗိုလ်ပါတို့ကို မြို့မင်းသားပဲဖြူသည် လိုက်၍တိုက်ခိုက်ရာဝယ် ဦးလည်ကိုဖြတ်ပြီးသော် သဲစုကဲ့သို့ စုထားရာအရပ်သည် ဝသဲအရပ်ဟုတွင်လေ၏။ ထိုပြူမင်းလည်းကြွင်းကျန်သော ရဲမက်ဗိုလ်ပါနှင့်တကွ ပြန်သွားလေ၏။ ပြူတို့တွင် ရလိုက်သောရွှေငွေတို့ကို စုသောတောင်တို့ကား ရွှေတောင်၊ ငွေတောင်ဟု တွင်လေ၏။ ထိုအခါ ပဲဖြူမင်းသား၏ ဘကြီးဖြစ်သော အမြတ္တူသည်ကား ပဲဖြူမင်းသားသည် ဘုန်းတန်းခိုးလက်ရုံး မြောက်မြားသောအဖြစ်ကို သိလေလျှင် သင့်အဘကို ငါသတ်သောအငြိုးဖြင့် ငါ့ကို ခေါင်းဖိုးဆပ်လတ္တံ့သတည်းဟု ထိတ်လန့်ကြောက်ရွံ့စွာ လျက် ထိုမြို့မင်း အမြတ္တူကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်ရု သက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၁၃၈ ခုတွင် သွေးအန်၍ လွန်တော်မူလေသည်။၁။

(ဤအရာတွင် ရာဇဝင်ဟောင်း၌ အရှေ့ပြည်ကို အစိုးရသော ပြူမင်းဟူ၍သာဆိုသည်။ မည်သည့်ပြည်က ဟု မဆိုလေ။ ရာဇဝင်လင်္ကာ၊ ဆရာငမည် ရာဇဝင်တို့၌ သရေခေတ္တရာပြည်က ပြူမင်းဟူ၍ဆိုကြကုန်၏။ သရေခေတ္တရာ ရသေ့ပြည်သည် ဒေါ,ဒေါ,ရသ-ကိန်းကိုဖြိုပြီး နောက် သက္ကရာဇ် ၁၆ ခုရောက်သောအခါ သုပညာနဂရ ဆိပ္ပမင်းနန်းစံ ၁၁ တွင် ပျက်စီးလေကြောင်းနှင့် မြန်မာတို့၏ မှန်နန်းရာဇဝင်စသည်တို့၌ ဆိုသောကြောင့် သရေခေတ္တရာ ရသေ့ပြည်ဝယ် မင်းမရှိပြီဟုသာ မှတ်ရမည်။ ပျက်စီးသော အကြောင်းသည် ငါတို့ရခိုင်ရာဇဝင်နှင့်လည်း အနည်းငယ် စပ်လျဉ်းသည်ဖြစ်၍ ထည့်သွင်းလျက် ပြဆိုလိုက်ဦးအံ့။

သက္ကရာဇ်တိုင်ါးခုတွင် သုပညာနဂရဆိပ္ပမင်း သည် မင်းပြု၏။ ထိုအခါ သံတွဲကမ်းရံပြည်ကို တိုက်ခိုက် အောင်မြင်လေလျှင် ထိုသံတွဲပြည်တွင် မဇ္ဈိမပုရိသ အတောင်နှင့် ရှစ်ဆဲ့ရှစ်တောင်ရှိ ရွှေဆင်းတုတပါးကို မြင်တော်မူလေသော် ဘုရားရှင်ကိုယ်တော်မြတ်ကို ဖူးတွေ့ရဘိသကဲ့သို့ အလွန်သဒ္ဓါတော်မူသည်ဖြစ်၍ ညနံ့နက်မပြတ်ဝတ်ပြုတော်မူ၏။ ထိုသို့ ရွှေဗိဿာ ဆယ်ရာ ကုဋေမကသော အရိမေတ္တယျဘုရားရှင်သဏ္ဌာန်နှင့် တူသော ရုပ်တုတော်၌ သုံးနှစ်တိုင်တိုင်ခွာ၍ မသွားရက် သော အားဖြင့် နေတော်မူ၏။ မျုးတော်မတ်တော်တို့လည်း ဘုန်းကြီးသောအရှင်၊ ဆင်မြင်းဗိုလ်ပါ ညောင်းညာကြပြီ။

နေပြည်တော်သို့ အလျင်ပြန်တော်မူပါလောဟု နားတော်လျှောက်ကြလေ၏။ မင်းကြီးလည်း ဤသို့မိန့်တော်မူ၏။ ငါသည် ဤဘုရားရှင် ရုပ်တုတော်ကိုခွာ၍သွားအံ့သောငှာ မတတ်နိုင်။ ဤဘုရားရှင်ရုပ်တုတော်ကို ရတနာဖောင်ကြီး စီရင်၍ ဖောင်ထက်တင်ပြီးသော် နဂါးရစ်တောင် မော်တင်ကိုလှည့်၍ မဟာသမုဒ္ဒရာဖြင့် သရေခေတ္တရာ နေပြည်တော်သို့ ဆောင်ယူမည်ဟူ၍မိန့်တော်မူ၏။ အမတ်မိုလ်ပါတို့လည်း မင်းကြီးသည် မဖြစ်နိုင်ရာသော အကြံတော်ကိုကြံဘိသည်။ ဤသို့ကြံတော်မူသည်ရှိသော် ငါတို့သားမယားတို့ကို မတွေ့မမြင်ရပြီဟူ၍ နှလုံးမကြည်ရှိကြကုန်၏။ အမတ်မိုလ်ပါတို့လည်း တိုင်ပင်ကြ၍ ဘုရားရှင်ရုပ်တုတော်အောက်၌ ဥမင်တူးလေ၏။ ရုပ်တုတော်သည်လည်း ရွှေအတိသွန်းသည်ဖြစ်၍ လေးသောကြောင့် လဲတော်မူလေ၏။ မင်းကြီးလည်း ဘုရားရှင် ရုပ်တုတော်လဲသည်ကိုမြင်တော်မူလျှင် အမတ်တို့ အဘယ်ကြောင့် ဘုရားရှင်ရုပ်တုတော်လဲဘိသနည်းဟု မေးတော်မူ၏။ အမတ်မိုလ်ပါတို့လည်း ဆရာတော်ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူသည်ဟု နားတော်လျှောက်ပေ၏။ မင်းကြီးသည် ထိုစကားကိုကြားတော်မူသော် နှလုံးမသာမယာရှိ၍ ခပ်မဆိတ်နေတော်မူလေ၏။ မှူးမတ်မိုလ်ပါတို့လည်း ထင်းတယောက်တချောင်း၊ မီးသွေးတယောက် တဆုပ်စီထည့်ကြ၍ မီးတိုက်လေ၏။ ထိုသို့မီးတိုက်သောအဖြစ်ကို မင်းကြီးမြင်တော်မူလျှင် ဤသို့မေးတော်မူပြန်၏။ အမတ်တို့၊ အဘယ်ကြောင့် ဘုရားရှင်ရုပ်တုတော်ကို မီးတိုက် ဘိသနည်းဟုမိန့်တော်မူ၏။ အမတ်တို့လည်း ဘုရားရှင်ပရိနိဗ္ဗာန်ဝင်တော်မူ၍ နတ်တို့သင်္ဂြိုဟ်လေသည်ဟုနားတော် လျှောက်ကုန်၏။ မင်းကြီးလည်း မဟုတ်သောစကားကိုလျှောက်သည်ဟု နှလုံးမသာဖြစ်၍ ဆိတ်ဆိတ်နေတော်မူ၏။ အမတ်မိုလ်ပါတို့လည်း မင်းကြီးအား အမျက်ထွက်လတ္တံ့သည်ကို ကြောက်သဖြင့် ထက်ဝယ်တော် တတောင်ပြည့်ရှိသော အင္ဂဝိသ-နှစ်ကျိပ်ရှစ်ဆူသော ဘုရားရှင်ရုပ်တုတော်ကို ရွှေစင်အတိဖြင့်သွန်း၍ မင်းကြီးအားဆက်လေ၏။ ရွှေသန့်လျက်လည်းသွန်းလုပ်၍ဆက်ကြလေ၏။ မှူးမတ်မိုလ်ပါတို့လည်း များစွာယူကြလေကုန်၏။ ထိုဥစ္စာတို့ကို ပြည်သူတို့သုံးဖွဲ၍ အနှံ့အပြားဖြစ်သောအခါ ရသေ့၊ သိကြားစသော သူမြတ်ခုနစ်ယောက်တည်သော သရေခေတ္တရာပြည်သည် စနောင့်စနင်းရှိသည်ဖြစ်၍ လုစားယက်စား ခိုးသား ဒါးပြထူထပ်သောအားဖြင့် ကွပ်ညှပ်မနိုင်ရှိခဲ့၏။ ထိုအခါ လေပွေကြီးလာ၍ စံကောလွင့်သည်ကို စံကောရှင်မိန်းမသည် ငါ့စကော ငါ့စကောဟူ၍ လိုက်လေသည်ကိုအစပြု၍ ငါ့စကောစစ်လာသည်ဟူ၍ တပြည်လုံးထိတ်လန့်သောအားဖြင့် ထိုပြည်၌နေကုန်သော ပြူ၊ ကမ်းရံ၊ မြန်မာလူမျိုးသုံးဦးတို့သည် သွေးနီရာစုပေါင်း၍ သုံးစုကွဲသဖြင့် ပျက်စီးလေကြောင်းနှင့် မှန်နန်းရာဇဝင် ၁၈၉ နံပါတ်တို့၌ဆိုသည်။

ရာဇောဝါဒကျမ်း၌ကား။ မေတ္တယျရုပ်တု၊ ရွှေဆင်းတုပြောင်ပြောင်၊ အတောင်ရှစ်ဆယ်၊ ကြီးကျယ်နှင့်နှင့်၊ လွှားလွှားမြင့်ကို၊ ဖိုကျင့်ထိုး၍၊ ရသေ့မြို့အလုံး၊ ယူကြသုံးသဖြင့်၊ ဆုံးဘူးသည်တဝဟူ၍ အတောင် ၈၀၊ ရှစ်ဆယ်သာမြင့်ကြောင်းနှင့်ဆိုလေသည်။ ဤသို့ပြဆိုအပ်သော ရာဇဝင်ပုံပြင်စကားတို့ကို ထောက်ထားမျှော်ဆလျှင် စန္ဒသူရိယမင်းလက်ထက် မြတ်စွာဘုရား ဝါ ၂၀၊ နှစ်ဆယ်မြောက်တွင် ကြွရောက်တော်မူ၍ စန္ဒသူရိယမင်း တောင်းပန်အပ်သောကြောင့် သိကြားတောင်ရတနာမဏ္ဍပ်အတွင်း တကုဋေသော ရွှေငွေရတနာတို့ဖြင့် သိကြားဝိသကြုံတို့ ဧစုံညီညွတ်သွန်းလုပ်အပ်သော မဟာမုနိရုပ်တုဖြစ်၍ ထိုရုပ်တုတော်ကို စံနမူနာယူ၍ အတုအပသွန်းလုပ်ကိုးကွယ်ပူဇော်ကြလေသောကြောင့် ကမ်းရံပြည်ဟုခေါ်အပ်သော သံတွဲပြည်သူပြည်သားတို့သည် မေတ္တယျဘုရားရုပ်တုတော်သဏ္ဌာန် အတောင်၈၀၊ ရှစ်ဆယ်။ တနည်း ၈၈၊ ရှစ်ဆဲ့ ရှစ်တောင်အရပ်အမြင့်တော်ရှိသော ရွှေဆင်းတုတော်ကြီးကို သွန်းလုပ်ကိုးကွယ်ကြလေသည်နှင့် ၎င်းဆင်းတုတော်ကို ဖိုကျင့်ထိုး၍

ရသေ့မြို့ သရေခေတ္တရာပြည်သားတို့ ယူဆောင်သုံးစားသောကြောင့် ပျက်ပြားလေသည်ဟု ယူရန်ရှိပေသည်။ ဤသည်လျှင် သရေခေတ္တရာပြည် ပျက်စီးခြင်းအကြောင်း တည်း။

ဤသည့်သာဓကကို ထောက်၍၎င်း၊ ရာဇဝင်ဟောင်း၌ နောက်တကြိမ်တုံလည်း ပုဂံပြည်ကို အစိုးရသော နော်ရထာမင်းကြီး ရောက်လာကြောင်းနှင့် ဆိုသည်ကိုထောက်၍၎င်း၊ အင်းစောက်ရာဇဝင်၌ မြို့မင်းတို့လက်ထက် ပုဂံပြည် ထီးလိုင်မင်းရောက်လာကြောင်းနှင့် ဆိုသည်ကိုထောက်၍၎င်း၊ မြို့တည်ခန်း "ဝါ"ချပ်တွင် အရှေ့ပြည်က အောက်သား သျှမ်းတို့လာရောက်သည်ဟူ၍ ဆိုသည်။ ပြူနှင့်မြန်မာကို အောက်သားဟု ငါတို့ရခိုင်က ခေါ်သောကြောင့်၎င်း ပုဂံပြည်ကိုအစိုးရသော ရွှေမှောက်အမည်ရှိသော ပြူမင်းဟုရေးလိုက်သည်။ ဤကားစကားချပ်)။

ထိုမြို့မင်းကြီးအမြတ္တူလွန်လေလျှင် ညီဖြစ်သူအမြကူ၏သား ပဲဖြူမင်းသားကို မှူးမတ်ပြည်သူတို့သည် ညီညွတ်ပြီးသော် စန္ဒာဒေဝီမိဘုရားနှင့်သက္ကရာဇ် ၁၃၈ တွင် နန်းတင်လေကုန်၏။ ပဲဖြူမင်းသားမင်းဖြစ်လေလျှင် ဤဝေသာလီပြည်သည် ကိန်းခန်းကုန်ပြီးဖြစ်သောကြောင့် ငါရှေးဦးစွာနေခဲ့၍ မြောက်မြားကြီးကျယ်ခြင်းသို့ ရောက်ရာ အရပ်ဝယ် မြို့တည်အံ့ဟုတည်ထောင်၍နေသော မြို့သည် မြောက်ဦးမြို့ဟုတွင်လေ၏။ ထိုမြောက်ဦးမြို့ဝယ် ပဲဖြူမင်းနှင့် စန္ဒာဒေဝီမိဘုရားတို့သည် ၁၇၊ တဆဲ့ခုနစ်နှစ်နေပြီးမှ ကိုးသိန်းသောသျှမ်းတို့သည် လေးမြို့ဖျားကသက်လတ်၍ အခွနနဒီမြစ်လျှောက် စုန်ဆင်းလျက် စစ်မက်ကြီးစွာ တက်လာသော် ပဲဖြူမင်းသည် ခွန်အားမတန်သောကြောင့် မိဘုရားမောင်းမမိသံ့ ပါရန်သင့်သရွေ့ ရဲမက်ဗိုလ်ပါတို့နှင့် ယိုးချောင်းဖျား သပိတ်တောင်ဝယ် မြို့တည်၍နေလေရာ များမကြာမီ ပဲဖြူမင်းသည် အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၁၇၊ တဆဲ့ခုနစ်နှစ်။ နှစ်စုသက်တော် ၄၄၊ လေးဆဲ့လေးနှစ်။ သက္ကရာဇ် ၁၅၆ ခုတွင် လွန်တော်မူသည်။၂။

ကျန်ရစ်သောလူသူများတို့ကို သျှမ်းစစ်သည်တို့သည် ဖမ်းယူလေ၏။ ထိုအခါ မြောက်ဦးမြို့ပျက်စီး၍ မင်းမရှိသည်ဖြစ်၍ ကြားတနှစ်ပြတ်လေ၏။ ရမ်းပြည့်ကျွန်းကိုလည်း သျှမ်းဖျက်ဆီး၍ လူသူများစွာယူပြီးလျှင် အရှေ့ပြည် စစ်ကိုင်းအရပ်၌ ရွာတည်ထားလေ၏။ သံတွဲမြို့ကိုလည်း တလိုင်းတို့ပိုင်လေ၏။ ယင်းသို့ မင်းမရှိပဲ ကြားတနှစ်လွန်ပြီးနောက် အထက်စူဠစန္ဒရားမင်းကြီးသည် သင်းတွဲပြည်သို့ ချီတော်မူသောအခါ၌ မိဘုရားစန္ဒာဒေဝီဝမ်းဝယ် သန္ဓေသုံးလနှင့်ကျန်ရစ်သော သားတော်သည် မြို့မင်းကြီး အမြတ္တူမင်းပြုစဉ် မွေးဖွားတော်မူလေလျှင် ချစ်ခင်လေးမြတ်သောသူတို့ ယူဆောင်လျက် သိန်းတန်းဖျား သက်လူမျိုးတို့၏ နေရာဖြစ်သော စစ်တန်းတင်မြို့၌ ဝှက်ထားလေရာ သက်လူမျိုးတို့က ငါတို့မင်းဟုခေါ်သည်ကိုအကြောင်းပြု၍ ငတုံမင်းတွင်သော မင်းသားသည် သက်တော် ၂၃၊ နှစ်ဆဲ့သုံးနှစ်မြောက်တွင် စစ်တန်းတင်မြို့မှ ရဲမက်ဗိုလ်ပါတို့နှင့်တကွ ချီလာ၍ သက္ကရာဇ် ၁၅၆ ခုတွင် စမ္ဗဝက်မြို့ကို တည်ထောင်၍ သီရိဒေဝီမိဘုရားနှင့် မင်းပြုတော်မူလာ၏။ ထိုငတုံမင်း၏ ဘုန်းတန်းခိုးကြောင့် မိုးကြိုးကန်ဝယ် နဂါးတဦးနေလာ၏။ ထိုနဂါးတန်းခိုးကြောင့် မိုးလည်းအလွန်ကောင်း၏။ တိုင်းပြည်၊ ခရိုင်၊ နိုင်ငံအလုံး ဝပြောသာယာရှိ၏။ ရန်သူခပ်သိမ်းလည်း ကင်းငြိမ်းပျောက်ပျက်တိမ်မြုပ်လေ၏။ သိကြားဝိသုကြံ့တို့ စုအုံ မ,စ စီရင်၍ ပေးအပ်သော ပိတောက်စည်တော်ကို ရတော်မူ၏။ ထိုပိတောက်စည်တော်ကိုတီးလျှင် အရှေ့ပုဂံပြည်သည် တနေ့သုံးကြိမ် လန့်ဖျပ်၍ ပြိုလေ၏။ ထိုအကြောင်းကို ပုဂံပြည့်ရှင် စောခင်နှစ်မင်းသိလေလျှင် ဗေဒင်ယတြာတတ်သော ပညာရှိတို့နှင့်တိုင်ပင်၍ ဥပါယ်တံမျဉ်ဖြင့် နဂါးမင်းလွင့်သွားလေအောင်၊ ပိတောက်စည်ကိုလည်း လှီးဖြတ်ရအောင်၊ အကျိုးရှိသည်ကို အပြစ်ဖြစ်အောင် ကြံဆောင်စီမံလျက် သိုက်ပြန်ပဟူးရားကျမ်းကို ပြုပြီးသော်

ထိုသိုက်ပြန်ဟူးရားတတ်သော သူလျှိုတို့ကို အပြစ်ရှိ၍ နှင်လိုက်ဟန်ပြုပြီးလျှင် လွှတ်လိုက်သည်ဖြစ်၍ စမ္ပဝက်မြို့သို့ ရောက်လာ၏။ ရောက်ပြီးလျှင် မင်းထံဝင်၍ ယုံကြည်အောင် လျှောက်ထားလျက် ခစားနေထိုင်ခြင်းပြုပြီးမှ ထိုသိုက်ပြန်ဟူးရားကျမ်းကိုပြ၍ သူတပါးမသိအောင် သိုဝှက်မြှုပ်ထားသော ရွှေအိုးတို့ကိုညွှန်ပြလေလျှင် ရလေချည်သည်းဖြစ်၍ မင်းမှစ၍ မှူးမတ်ပြည်သူတို့သည် ဤဟူးရားကျမ်းသည် မှန်လှပေသည်ဟု ယုံကြည်ကြလေ၏။ မိုးကြိုးကန်တွင်လည်း အချိန်လေးပိဿာရှိသော ရွှေဟင်္သာရုပ်ကို သူတပါးမသိရအောင် ပစ်ထားပြီးမှ ဤမိုးကြိုးကန်တွင်လည်း အချိန်လေးပိဿာရှိ ရွှေဟင်္သာရုပ် ရှိပါသည်။ နဂါးကိုမနေစေကောင်းဟု ကမ်းနားဝန်းကျင်ရှိ အုတ်ကျောက်များစွာတို့နှင့်၎င်း၊ သံတွေ သံခဲရဲရဲညီးညီးတို့နှင့်၎င်း၊ ကန်တွင်းသို့ ပစ်စေ၏။ ကန်လယ်၌ဖောင်ဖွဲ့လျက် အုဋ်ကျောက်များစွာ သံတွေ သံခဲရဲရဲတို့ကို တနေ့မပြတ်ပစ်လေလျှင် ရေကန်သည် ကျိုက်ကျိုက်ဆူလေ၍ နဂါးမနေနိုင်သောကြောင့် ကန်ကိုထွင်းလျက် ထွက်လေသောအရပ်ကို ကန်ထွင်းဟူ၍ ခေါ်လေ၏။ ထိုမှသည် အဋ္ဌနနဒီမြစ်သို့သက်၍ ဆန်လေသော် နဂါးတွန့်ခဲ့သောအရပ်ကို နဂါးတွန့်အရပ်ဟု ခေါ်ကြလေ၏။ ထိုမှတဖန် ဆန်တက်ပြန်သော် နေအုံသောအရပ်ကို ဝပ်၍ကြည့်လေ၏။ ထိုအရပ်ကို နဂါးဝပ်-ဟုခေါ်ကြလေ၏။ ထိုမှသည် ချောင်းဖျားသို့ဆန်တက်၍ တခုသော အိုင်ဝယ်အသိုက်ပြု၍နေလေ၏။ ထိုအရပ်ကို ယခုတိုင်အောင် သိုက်ဝ-ဟုခေါ်ကြလေ၏။ ထိုအိုင်၌ ကျဉ်းမြောင်းနိုး၍ ပြန်ဆင်းလာပြီးသော် ချောင်းတခုတွင် ဝပ်၍နေလာ၏။ ထိုအရပ်ကို ဤနေ့တိုင်အောင် ဝပ်ချောင်း-ဟုခေါ်ကြလေ၏။ ထိုအိုင်၌ ဝပ်၍နေလာသောနဂါးကို လွင့်သွားစိမ့်သောငှာ တော်သလင်းလတွင် မင်းတို့သည် ငါးတန်သဘင်ကို ပိုက်ကွန်များယူလျက် ထွက်၍ကစားမြဲဖြစ်ပါသည်ဟု မင်းအားလျှောက်ပြီးလျှင် ထိုအရပ်သို့ မင်းကိုယ်တိုင်ထွက်၍ ပိုက်ကွန်တန်းလျက် ငါးတန်ထိုးကြလေလျှင် နဂါးမင်းသည်မနေနိုင်၍ မာန်အောင်ကျွန်းသို့ ထွက်ပြေးလေပြီးလျှင် ထိုနဂါးမင်းသည် မာန်အောင်ကျွန်း၌ တန်းခိုးပြာဋိဟာ အထူးထူးအပြားပြားပြ၍ ပြည်သူတို့၏ အစီးအပွားကိုဆောင်လျက် နေလေ၏။ ယင်းသို့နဂါးမင်းကို နှင်ပြီးသော် ဝိတောက်စည်ကိုလည်း တဖက်လေးလက်သစ်စီဖြတ်စေ၏။ ထိုသို့ပြုပြီးမှ ကြီးကြီးငယ်ငယ် ပြုဖွယ်ယတြာတို့ကိုပြုခဲ့၍ သိုက်ပြန်တတ်သူလျှိုတို့သည် ပုဂံပြည်သို့ ပြေးခဲ့လေကုန်၏။

ထိုအခါ၌ စမ္ပဝက်မြို့သည် စနောင့်စနင်းဖြစ်လေလျှင် ပုဂံပြည်ကိုအစိုးရသော စောခင်နှစ်အမည်ရှိသော မင်းသည် ချီလတ်၍ ငတုံမင်းကိုတိုက်သဖြင့် ရလေသော် ဦးခေါင်းကိုဖြတ်၍ ယူလေ၏။ ထိုငတုံမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်၊ နန်းစံ ၂၄၊ နှစ်ဆဲ့လေးနှစ်၊ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၁၈၀ ပြည့်တွင် လွန်တော်မူလေသည်။၁၀။

သူရိယကေတုသား ကန်သုံးဆင့်မြို့နှင့် ဝေသာလီကျောက်လှေကားမြို့တည် မဟာစန္ဒရားမင်းအစ ဇူဠစန္ဒရားသား ငတုံမင်းအဆုံးရှိသော စန္ဒရားမင်းနွယ် ၁၀၊ မျိုးခြား မြို့မင်း အမြတ္တူ၊ ပဲဖြူ ၂ ဆက်၊ ပေါင်း ၁၂ဆက်တို့၏ နန်းစံ နှစ်ပေါင်း ၄၉၁နှစ်။

ဤသည်ကား သူရိယကေတုသား ကန်သုံးဆင့်မြို့နှင့် ဝေသာလီကျောက်လှေကားမြို့တည် မဟာစန္ဒရားမင်းအစ ဇူဠစန္ဒရားမင်းသား ငတုံမင်းအဆုံးရှိသော စန္ဒရားမင်းနွယ် ၁၀ ဆက်၊ မျိုးခြားမြို့မင်း အမြတ္တူ၊ ပဲဖြူပေါင်း ၁၂ ဆက်သောမင်းတို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်းတည်း။

(ဤမဟာစန္ဒရားမင်းကြီး၏ အနွယ်တော်ဝင်မင်းတဆဲ့နှစ်ဆက်တို့၏အမည် အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ် စသည်တို့၏အကြောင်းကို ရေး၌ပြဆိုအပ်ပြီးသော မဟာစန္ဒရားမင်းအခန်း၌ကဲ့သို့ ရာဇဝင်အရပ်ရပ်တို့သည် ညီညွတ်ခြင်းမရှိ။ အတိခလိတ-ချွတ်ယွင်းလျက်

ရှိကြသည်မှာ ဆရာမေည်-ရာဇဝင်၌ မဟာစန္ဒရား ၂၁၊ သူရိယစန္ဒရား ၂၀၊ မောလစန္ဒရား ၁၉၊ ပေါလစန္ဒရား ၂၆၊ ကာလစန္ဒရား ၉၊ ထူလစန္ဒရား ၁၉၊ သီရိစန္ဒရား ၃၂၊ သိင်္ဂစန္ဒရား ၁၆၊ စူဠစန္ဒရား ၆၊ အမြတူ ၇၊ ပဲဖြူ ၁၂၊ ကြား ၁၈၊ ငတုံ ၂၄၊ စုစုပေါင်း ၂၂၉ နှစ်ဟူ၍ နန်းစံကိုပြဆိုလျက် နန်းတက်သက္ကရာဇ်များကိုလည်း သူ့နှစ်နှင့်ကိုက်ညီအောင် လျှော့လေသည်။ ထိုတွင် ကိုးဆက်မြောက် စူဠစန္ဒရား နန်းတက်သက္ကရာဇ် ၃၁၃၊ အမြတူ နန်းတက်သက္ကရာဇ် ၃၁၉၊ ပဲဖြူနန်းတက် ၃၂၆၊ သပိတ်တောင်သို့ ပြေးထွက်သည့် သက္ကရာဇ် ၃၃၈၊ ကြား ၁၈၊ ၎င်းနောက် ငတုံမင်းနန်းတက် သက္ကရာဇ် ၃၅၆ ခု ဖြစ်ကြောင်းတို့နှင့်ဆိုသည်။ ရာဇဝင်သစ်အလိုမှာ နန်းစံနှစ်ပေါင်း ၂၀၂ သာဖြစ်၍ ပဲဖြူနန်းတက် ၃၃၀၊ ငတုံနန်းတက် ၃၅၃ နှစ်၊ ခေတ္တသင်နန်းတက် ၃၇၇ နှစ်သာဖြစ်သောကြောင့် ၃၂၆ တွင် ပဲဖြူနန်းတက်ကြောင်း၊ ၃၇၆ တွင် ငတုံမင်းနန်းတက်ကြောင်းကို ဆိုလတ္တံ့သော မိမိစကားနှင့်ပင် မညီလေ။ ထိုစကားရပ်တွင် ငတုံမင်းသည် ပုဂံပြည်ရှင် နော်ရထာလာရောက်၍ ပြန်သွားပြီးနောက် ၃၅၆ သက္ကရာဇ်ဖြစ်ကြောင်းနှင့် ဆိုလေသည့် အချက်၌ ပုဂံပြည်ဝယ် နော်ရထာမင်းသည် ခ,ဆ, ပဥ္စကိန်းကို ဖြိုပြီးနောက် ဆိန့်, သာ, လေး-နော်ရထာ ဟူသော သမန္တစက္ခုဒီပနီကျမ်းအလို ၃၆၄ ခုနှစ်မှသာ မင်းဖြစ်တော်မူသောကြောင့် ၃၅၆ တွင် နော်ရထာမင်းမှ မဖြစ်သေးရကား နော်ရထာမင်းပြန်ပြီးနောက် ၃၅၆ သက္ကရာဇ်တွင် ငတုံမင်းဖြစ်သည်ဟူသော စကားသည် ယုတ္တိမရလေ။ မှန်နန်းရာဇဝင်အလိုမူကား နော်ရထာမင်းသည် ၃၇၉ ခုမှ မင်းဖြစ်သည်ဆိုသောကြောင့် သာ၍ပင် ဝေးကွာလေသည်ဖြစ်၍ မှတ်ယူသင့်ရာစကားဟု မထင်ချေ။ ပဲဖြူမင်းနန်းစံ ၁၂၊ ကြား ၁၈ ဟု ပြဆိုရေးသားအပ်သောအရာသည်လည်း ရာဇဝင်ဟောင်းမှာ နန်းစံ ၁၂ ရှိပြီးနောက် သပိတ်တောင်မြို့သို့ ထွက်သွားနေထိုင်လေသည်ဆိုပြီး နောက် ၁၈ နှစ်ရှိလျှင် ပုဂံပြည်နော်ရထာမင်းလာ၍အပြန် ၄၅၆ သက္ကရာဇ်တွင် ငတုံမင်းဖြစ်ကြောင်းနှင့် ဆိုသည်ကိုထောက်၍ ရေးသားဟန်ရှိသည်။ သို့သော်လည်း ရာဇဝင်ဟောင်းအဆိုအောက်အနှစ်တရာလျော့လေသည်။ ရာဇဝင်ဟောင်းစကားကိုလည်း။

ကြိန်း,နော,သဏ္ဍာ၊ ဥပရာဇာ စောလူး ၃၉၇။
ဝိုက်,ကျူး,ညွန်၊ ကျန်စစ်မှတ် ၄၂၃။
လှများနတ်၊ စည်သူလောင်း ၄၅၀။

ဟူသော သမန္တစက္ခုဒီပနီနှင့်ထောက်လျှင် နော်ရထာမင်းနောက် သုံးဆက်မြောက် အလောင်းစည်သူ နန်းစံ ၆ နှစ်တွင်သာ ကြုံသင့်သောကြောင့် အခိုင်အမာ မယူသာချေ။ မှန်နန်းရာဇဝင်အလိုမူ အလောင်းစည်သူ နန်းစံ နှစ်နှစ်နှင့်ကြုံလေသည်ဖြစ်၍ အထောက်မရသာချေ။ ငါတို့ညိုနှိုင်း ရေးပြအပ်သော ရာဇဝင်သစ်စကားသည်။

မြောက်ဦးမြို့တည်၊ စံမြန်းသည်နှင့်၊ အရှည်ကာလ၊ သတ္တဒသာ၊ ရောက်သောခါလျှင်၊ မိစ္ဆာစွဲလမ်း၊ ကိုးသိန်းသျှမ်းတို့၊ ပြမ်းပြမ်းစစ်ဘက်၊ ချီတက်ဝန်းရံ၊ တိုက်လေပြန်သော်၊ မခံနိုင်လျှင်း၊ ပဲဖြူမင်းလည်း၊ နန်းတွင်းခြံရံ၊ မိဿံမောင်းမ၊ စသည်မိဘုရားမျိုး မတ်များကို၊ ပါအားသမျှ၊ လက်ရသိမ်းယူ၊ ပြေးတော်မူသည်၊ ပဲဖြူမင်း၏အခန်းတည်း။

ဟူသော ရာဇဝင်လင်္ကာကိုထောက်၍ ပဲဖြူမင်းနန်းစံကို ၁၇ ဟုရေးလိုက်သည်။ ကြားတနှစ်ဟု ရေးလိုက်ခြင်းသည် ရာဇဝင်ဟောင်း၌ ၁၈ ရှိလျှင်ဟူသောစကားသည် ပဲဖြူမင်းနန်းစံ ၁၇ နှင့်ပေါင်း၍ ၁၈ နှစ်ဆိုသောအရာသာဖြစ်သည်ဟုယူ၍ ဆိုလိုက်ပေသည်။ ငတုံမင်းနန်းတက် ၁၅၆ ဆိုလိုက်သည်မှာ ရာဇဝင်ဟောင်း၊ ရာဇဝင်လင်္ကာတို့၌ ၄၅၆ ဟုပါလေခြင်းသည် အရေးအသားမှား၍ သုံးရာပိုလေသည်။ စင်စစ်မှာ ၁၅၆ သာ ဖြစ်သင့်၏ဟုယူပေသည်။ ယင်းသို့ ၁၅၆ ယူမှနောက်၌ ဆိုလတ္တံ့သော လက်ယာမင်းနန် နန်းတက်သက္ကရာဇ် ၄၆၅ ဖြစ်သည်နှင့်၎င်း။ အလောမာဖြူမင်း လောင်းကြက်မြို့

တည် သက္ကရာဇ် ၆၁၃ ဖြစ်သည်နှင့်၎င်း၊ စောမွန်မင်း နန်းတက်သက္ကရာဇ် ၇၆၆ ဖြစ်သည်နှင့်၎င်း ညီညွတ် တိုက်ဆိုင်ရသောကြောင့် ငတုံမင်းနန်းတက် သက္ကရာဇ်ကို ၁၅၆ ခုဟူ၍သာ ယူရမည်။ ထိုမင်း၏ ဘုန်းကံ ပိတောက်စည်ကြောင့် ပုဂံပြည် တနေ့သုံးကြိမ်လန့်သည် ဖြစ်၍ ပုဂံမင်းတို့က သိုက်ပြန်ဟူးရားတတ်တို့ကို စေလွှတ် ဖျက်စေသည့်အရာတွင် မည်သည့်မင်းဟူ၍ ရာဇဝင် ဟောင်း၊ ဆရာမေည်-ရာဇဝင်၊ ရာဇဝင်သစ်တို့၌ မဆိုလေ။ ရာဇဝင်လင်္ကာ၌ အနော်ရထာမင်းက စေသည်ဟု ဆိုလေသည်။ ထိုစကားလည်း ယုတ္တိမရှိလေ။ သိုက်ပြန် ဟူးရားကျမ်းကိုလည်း ဆရာမေည်ရာဇဝင်သစ်၌ သစ်ကြန်ကျမ်းဟုဆိုလေသည်။ ရာဇဝင်သစ်၌ကား ဟူးရားတွက်သစ်ပျံကျမ်းဟူ၍ အထူးဆိုလေသည်။ နောက်ငတုံမင်းကို သတ်လာသောမင်းကို ရာဇဝင်ဟောင်း က ဇောမိသေရိမင်းဟူ၍ဆိုသည်။ ဆရာမေည်-ရာဇဝင် နှင့် ရာဇဝင်သစ်တွင် ဇောရိသေရိအမည်ရှိသော အလောင်း စည်သူမင်းကြီးသည် နော်ရထာမင်းအပြန် ၃၅၆ တွင် နန်းတက်၍ နှစ်ဆဲ့လေးနှစ်နန်းစံသော ငတုံမင်းကို ၃၈၀ တွင် သတ်၍ ခေတ္တသင်မင်းကို စမွဝက်မြို့တွင် နန်းတင်ခဲ့ ကြောင်းနှင့်ဆိုကြလေသည်။ ယင်းသို့ဆိုကြရာ၌ နော်ရထာ မင်းနောက် သုံးဆက်မြောက် နှစ်ပေါင်း ၉၄ နှစ်အကွာ ၄၅၀ တွင်မှ နန်းတက်သော အလောင်းစည်သူမင်းကြီး သည် ငတုံမင်းကိုသတ်၍ ခေတ္တသင်မင်းကို နန်းတင် နိုင်ရန် အကြောင်းမဟုတ်လေရကား တိမ်းယိမ်းသော စကားဟူ၍ သာ မှတ်သားနှလုံးမူရမည်။ ဤသည်ကား စကားချပ်)

ဤသည်ကား သူရိယကေတုသား ကန်သုံးဆင့် မြို့နှင့် ဝေသာလီကျောက်လှေကားမြို့တည် မဟာစန္ဒရား မင်းအစ စူဠစန္ဒရားမင်း၏သား ငတုံမင်းအဆုံးရှိသော မင်း ၁၂ ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆို အပ်သောအကြောင်းတည်း။

**၁၅၈။ ယခုအခါ၌ စူဠစန္ဒရား၏တူ စန္ဒကူးမင်း ၏သား၊ ပဉ္စာမြို့တည်၊ ခေတ္တသင် ၁၊ စန္ဒသင်အနွယ် ၁၀။ မျိုးခြားစည်သဘင် ၁။ ဝရောင်းငှက်စနည်းမင်းအနွယ် ၃ ဆက်။ ပေါင်း ၁၅ ဆက်သောမင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကိုရေးပြ ဆိုအပ်သောအကြောင်း**

ထိုငတုံမင်းလွန်လေလျှင် စမွဝက်မြို့သည် ပျက်စီးခြင်းသို့ရောက်၍ စနောင့်စနင်းဖြစ်သောအခါ စမွဝက်မြို့တွင် ပြည်သူမှူးမတ်တို့သည် ငါတို့ပြည်၌ မင်းဆက်မကုန် မပြတ်သေးဖြစ်သည်။ အဘယ်သို့ မပြတ် သနည်းဟူမူ စူဠစန္ဒရားမင်း၏တူတော်ဖြစ်သော စန္ဒကူးမင်း နှင့် အရီးတော်ဖြစ်သူ စန္ဒဒေဝီမိဘုရားသင့်နေ၍ ခေတ္တသင်၊ စန္ဒသင်ဟူသော သားတော်နှစ်ယောက်၊ သီရိကုမ္မာရီဟူသော သမီးတော်တယောက်၊ ဤမောင်နှမ သုံးယောက်တို့ကို ဖွားမြင်တော်မူပြီးမှ ခမည်းတော်၊ မယ်တော်တို့ လွန်ခဲ့လေလျှင်၊ ထိုမောင်နှမ သုံးယောက် တို့သည် သပိတ်တောင်မြို့မှထွက်ခွာခဲ့၍ ခြိပ်ချောင်းဖျား ဝယ် ငါးရံ့ချောင်း၌ရှိလေသည်ဟု သတင်းကြားသိရပေ သည်။ ယင်းသို့ သိရသည်ဖြစ်သောကြောင့် မင်းဆက် မပြတ်သေးကြောင်း သိရသည်။ ထိုမင်းသားညီနောင် မောင်နှမတို့ကို ယူဆောင်လျက် မင်းပြုစေရလျှင် ကောင်းမည်ဟု ကြံစည်တိုင်ပင်၍ မင်းညီနောင် မောင်နှမ တို့ကိုယူဆောင်ပြီးလျှင် ခေတ္တသင်ဟူသော မင်းသားနှင့် နှမတော်သီရိကုမ္မာရီကို အဘိသိက်သွန်းပြီးလျှင် သက္ကရာဇ် ၁၈၀ တွင် မင်းမြှောက်တော်မူကြလေသည်။ ညီတော် စန္ဒသင်ကို အိမ်ရှေ့အရာ၌ အပ်နှင်းကြလေကုန်၏။ ထိုခေတ္တသင်မင်းကား စမွဝက်မြို့သည် ကိန်းခန်းကုန်လေ ပြီဟူ၍ စမွဝက်မြို့မှထွက်ပြီးလျှင် တောင်ဘက်၌ ပဉ္စာမြို့ကိုတည်၍ ထီးနန်းစိုးစံတော်မူလေသည်။ ထိုမင်းကား အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၁၀၊

ဆယ်နှစ်။ နှစ်စုသက်တော် ၃၅၊ သုံးဆဲ့ငါးနှစ်။ သက္ကရာဇ် ၁၉၀ ပြည့်တွင် လွှန်တော်မူလေသည်။ ၁။

ထိုမင်းလွှန်တော်မူလေလျှင် ညီတော်ဖြစ်သူ စန္ဒသင်မင်းသားသည် မရီးတော်သီရိကုမ္မာရီမိဘုရားနှင့် သက္ကရာဇ် ၁၉၀ ပြည့်တွင် နန်းတက်စိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၃၊ သုံးဆဲ့သုံးနှစ်။ နန်းစံ ၁၅၊ တဆဲ့ငါးနှစ်၊ နှစ်စုသက်တော် ၄၈၊ လေးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၂၀၅ ခုတွင် လွှန်တော်မူလေသည်။ ၁။

ထိုမင်းလွှန်တော်မူလေလျှင် သားတော် မင်းယင်ဖြူသည် မှောက်သားတော် စောမုခီနှင့် သက္ကရာဇ် ၂၀၅ ခုတွင် ခမည်းတော်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၃၀၊ သုံးဆယ်၊ နှစ်စုသက်တော် ၅၈၊ ငါးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၂၃၅ ခုတွင် လွှန်တော်မူလေသည်။ ၂။

ထိုမင်းလွှန်တော်မူလေလျှင် သားတော် နာဂ သူရိယသည် မှောက်သားတော်စောလှမင်းနှင့် သက္ကရာဇ် ၂၃၅ခု တွင် ခမည်းတော်ထီးနန်းကို သိမ်းမြန်းစိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆဲ့တနှစ်။ နန်းစံ ၃၁၊ သုံးဆဲ့တနှစ်။ နှစ်စုသက်တော် ၅၂၊ ငါးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၂၆၆ ခုတွင်လွှန်တော်မူလေသည်။၃။

ထိုမင်းလွှန်တော်မူလေလျှင် သားတော် သူရိယ ရာဇာသည် မှောက်သားတော် စောမင်းဖွားနှင့်သက္ကရာဇ် ၂၆၆ခု တွင် ခမည်းတော်ရိပ်ရာကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၃၂၊ သုံးဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၂၉၈ ခုတွင် လွှန်တော်မူလေသည်။၄။

ထိုမင်းလွှန်တော်မူလေလျှင် သားတော် ပုဏ္ဏက မင်းသားသည် မှောက်သားတော် ရှင်မဖြူနှင့်သက္ကရာဇ် ၂၉၈ ခုတွင် မင်းပြုတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်၊ နန်းစံ ၃၃၊ သုံးဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၅၅၊ ငါးဆဲ့ငါးနှစ်၊ သက္ကရာဇ် ၃၃၁ ခုတွင် လွှန်တော်မူလေသည်။၅။

(ဤသည်ကား ရာဇဝင်ဟောင်းအလာတည်း။ ရာဇဝင်ကျောက်ရိုး၌ကား ထိုပုဏ္ဏက မင်းလက်ထက် အရိမဒ္ဒနပြည် ပုဂံမင်းက သုံးရာမျှလောက်သော သူလျှို ရှင်ယောင်တို့ကိုလွှတ်လိုက်၍ မဟာမုနိသိမ်တော်ကို မီးတိုက်လာစေသောကြောင့် ဖမ်း၍သတ်လေသည်။ ထိုရှင်ယောင်တို့တွင် သီလရှိသောသူမြတ်သုံးယောက် ပါလေသည်ဖြစ်၍ ပုဏ္ဏကမင်းကြီး ကိုယ်တော်၌ယားယံ၍ အနာပေါက်တော်မူသည်။ အနာပေါက်လတ်သည့် အကြောင်းကို အဘယ်ကြောင့် အနာပေါက်လေသနည်းဟု စူးစမ်းထောက်လှမ်းသည်ရှိသော် သတ်လေသော ရှင်ယောင်သုံးရာတွင် သီလရှိသော သူမြတ်သုံးယောက် ပါလေသောကြောင့်ဖြစ်ရသည်ဟု လျှောက်ကြလေသော် မရွေးမချယ်ဘဲသတ်လေသည်။ ရှုံးသလောဟုဆိုတော်မူ၍ ထိုအမတ်တို့ကို လည်ကိုဖြတ်၍ တောင်ပို့တခုဝယ် မြှုပ်လေသောကြောင့် ထိုမြှုပ်သော တောင်ပို့ကို ငရှုံးတောင်ပို့ဟု ခေါ်ဝေါ်ကြကုန်၏။ ကာလကြာ၍ ငရုပ်တောင်ဟု ယခုခေါ်ကြလေသည်။

ဤရာဇဝင်ကျောက်ရိုးအဆိုကိုထောက်လျှင် အရိမဒ္ဒနမည်သော ပုဂံပြည်၌ သက္ကရာဇ် ၂၉၃ ခုတွင် မင်းဖြစ်သော ညောင်ဦးစောရဟန်မင်းလက်ထက် သမထီးအရပ်ရှိအရည်းကြီး ရှင်ယောင်တို့၏အယူကိုသာ ညောင်ဦး စောရဟန်မင်းနှင့်တကွတပြည်လုံးယူကြလေသည်ဟု မှန်နန်းရာဇဝင် ၂၂၈ နံပါတ်၌ဆိုသောကြောင့် ညောင်ဦး စောရဟန်မင်းကပင် လွှတ်လိုက်ဟန်တူသည်ဟု ယူသင့်သည်။

ထိုပြည်တွင် မင်းအဆက်ဆက်တို့သည် သမထီး အရပ်၌ သီတင်းသုံးနေသော အရည်းကြီး ရှင်ယောင်သုံး ကျိပ်နှင့် တပည့်ခြောက်သောင်းတို့ အဆုံးအမကိုခံ၍များ သောအယူ၌ တည်ကြကုန်၏။ ထိုအရည်းရဟန်းတို့အယူ ကား ဘုရားရှင် ဟောတော်မူသောတရားကိုပယ်၍ မိမိတို့ အယူဖြင့် အသီးသီးယူကြကုန်၏။ မိမိဆန္ဒနှင့်လျော်စွာ ကျမ်းဂန်ပြု၍ လူတို့အားလှည့်ပတ်ဖြားယောင်း၏။ ထိုသူတို့

ဟောသောတရားကား သူ့အသက်ကိုသတ်မိသော သူသည် ဤပရိတ်ကိုရွတ်သော် ကမ္မပထမှလွတ်၏။ မိဘကိုသတ်သောသူသည် ဤပရိတ်ကိုရွတ်သော် ကမ္မပထမှ လွတ်၏။ ဤသို့ အစရှိသော မဟုတ်မတရား အစမ္မကို ဓမ္မဟူ၍ဟောကြား၏။ ထိုမှတပါးလည်း မင်းအစရှိသော အမျုးအမတ် ကလန်သံပျင် သူဌေး သူကြွယ် ပြည်သူသားသမီးကို ထိမ်းမြားမင်္ဂလာပြုအံ့သော အခါ ဆရာတို့အား ပန်းဦးလျှုလွှတ်သည်ဟူ၍ ညဥ့်ဦးက ထိုသူတို့ထံသို့ပို့ရ၏။ မိုးသောက်၍ လွှတ်လိုက်မှ ထိမ်းမြားရ၏။ ပန်းဦးမလှူဘဲ ထိမ်းမြားပချေသော် အမျိုးကိုဖျက်သည်ဟု ကြီးစွာသော မင်းပြစ်ကိုခံရ၏။ ဤသို့ခံရခြင်းသည် နော်ရထာမင်းလက်ထက်တိုင်အောင် ရှိသေးကြောင်းနှင့် မှန်နန်းရာဇဝင်၂၄၁ နံပါတ်၌ဆိုသော ကြောင့်လည်း နော်ရထာမင်းသည် ဆိုလတ္တံ့သော မင်းန လက်ထက်မှရောက်သည်ဟု ယူသင့်သည်။ ဤကား စကားချပ်)။

ထိုမင်းလွှန်တော်မူလေလျှင် သားတော်ဖြစ်သော မင်းကြီးဖြူသည် မျောက်သားတော် စောဘုန်းခေါင်နှင့် သက္ကရာဇ် ၃၃၁ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကြီးဖြူ၌ မင်းနဟူသော သားတော်တ ယောက်၊ ရှင်မကြီးဟူသောသမီးတော်တယောက်အားဖြင့် နှစ်ယောက်ရှိတော်မူ၏။ ထိုမင်းကြီးဖြူသည် နန်းတက် တော်မူ၍ ၁၅၊ တဆဲ့ငါးနှစ်မြောက်ရှိလျှင် အမတ် စည်သာင်ပုန်စားသဖြင့် အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်၊ နန်းစံ ၁၅၊ တဆဲ့ငါးနှစ်၊ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်၊ သက္ကရာဇ် ၃၄၆ ခုတွင် လွှန်တော်မူလေသည်။ ၆။

ထိုမင်းလွှန်တော်မူလေလျှင် အမတ်စည်သာင် သည် သက္ကရာဇ် ၃၄၆ ခုတွင် မင်းမူလေ၏။ ထိုအမတ် စည်သာင်သည် နန်းတက်၍နှစ်နှစ်မြောက်ရှိသောအခါ၌ အမတ်ကြီးမဟာနာဂသည် စည်သာင်မင်းကိုသတ်၍ နန်းစံ ၂၊ နှစ် နှစ်၊ သက္ကရာဇ် ၃၄၈ ခုတွင် စည်သာင်မင်း လွှန်လေသည်။၁။

ထိုစည်သာင်မင်းလွှန်လေလျှင် အမတ်ကြီး မဟာနာဂသည် မင်းကြီးဖြူ၏သားတော်မင်းနနှင့် နှမတော် ရှင်မကြီးကိုစုံဖက်၍ သက္ကရာဇ် ၃၄၈ ခုတွင် နန်းတင် လေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုး၊ နန်းစံ ၂၈၊ နှစ်ဆဲ့ရှစ်နှစ်၊ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်၊ သက္ကရာဇ် ၃၇၆ ခုတွင် လွှန်တော်မူလေသည်။ ၇။

(ဤမင်းနလက်ထက် နန်းစံ ၂၈၊ နှစ်ဆဲ့ရှစ်နှစ် မြောက်၊ သက္ကရာဇ် ၃၇၆ ခုတွင် ပုဂံပြည်ကိုအစိုးရသော အနော်ရထာမင်းကြီးသည် မဟာမုနိကိုယ်စားတော်ကို ပင့်မည်ဟု ဗိုလ်ပါရဲမက်တသိန်းမကနှင့် ဖူးရွက်မည်းလမ်း က ချီတက်လတ်၍ရောက်လာလျှင် မဟာမုနိကိုယ်စား တော်ကို ပင့်တော်မူလေ၏။ ထိုသို့ပင့်တော်မူသည်တွင် ငါ့နောင်တော် မြတ်စွာဘုရားကြွလာတော်မူမှ ငါ့ကို ပင့်၍ရမည်ဟု မင်းကြီးအား အိပ်မက်ပေးတော်မူသည်နှင့် ပင့်၍မရနိုင်အံ့သောအကြောင်းကိုသိ၍ မဟာမုနိသိမ်တော် တွင် ရှေးမဟာစန္ဒရားမင်းတို့က အရပ်လေးမျက်နှာမှ လာသော ရန်သူတို့သည် မနှိပ်နင်းနိုင်အောင် အင်းကောင်း မန္တန်မြှုပ်နှံ၍ထားခဲ့သည်များကို ကြေးပြားတွင်အသစ်ချ၍ မြှုပ်ခဲ့ပြီးမှ သိမ်တော်အဟောင်းကို နုတ်ပယ်လျက် အသစ်တန်းဆောင်း ဆောက်လုပ်တော်မူ၍ သိမ်တော်ကို ဆောက်လုပ်စေပြီးလျှင် သင်းကျပ်တော်ခတ်ကိုပင့်အံ့ဟု လာလတ်သည်တွင် မွေးရှင်သင်းကျပ်တော်သည် ကောင်းကင်သို့ ထန်းသုံးဆင့်ပျံတက်တော်မူ၍ တန်းခိုး ပြာဋိဟာပြလျက်နေတော်မူလေသည်။ ထိုသို့တန်းခိုး ပြာဋိဟာပြ၍နေတော်မူသည်ကို အနော်ရထာမင်းကြီး မြင်လေလျှင် အလွှန်နှစ်သက်မြတ်နိုး စုံမက်တော်မူ၍ တောင်းပန်လျက် သုံးရက်ပတ်လုံးရှိလေ၏။ ထိုအကြောင်း ကို သိကြားမင်းသိ၍ ကိုယ်တိုင်ဆင်းလာပြီးသော် သင်းကျပ်တော်စစ်ကိုကား သိုထားလျက် သင်းကျပ်တော် ပွားတဆူ ဘန်ဆင်း၍ နော်ရထာမင်းကြီးအားပေးအပ်တော် မူလေသည်ကို ပင့်ယူတော်မူလျက် သက္ကရာဇ် ၃၇၆ ခုတွင် နော်ရထာမင်းကြီး ပြန်တော်မူလေသည်။ ဤသည်ကား

သက္ကရာဇ်ကိန်းခန်းနန်းတက် နန်းစံတို့နှင့်ထောက်ဆ၍ ရေးပြလိုက်သည့် ဇော်ရထာမင်းကြွလာသည့် အခန်းတည်း၊ ရာဇဝင်ဟောင်းက ၄၅၆ ခုတွင် ကြွလာသည်ဆိုသော သက္ကရာဇ်သည် မှားယွင်းဟန်ရှိသည်။ ၃၇၆ ယူမှ နန်းတက်သက္ကရာဇ် စသည်နှင့်ညီညွတ်မည်။ ဤသည်ကား ရာဇဝင်အစောင်စောင်တို့၌ ဇော်ရထာမင်းကြွလာ၍ မဟာမုနိရုပ်ရှင်တော်ကို ပင့်လာသည်ဟုဆိုကြလေသောကြောင့်ကြွသင့်ရန် သက္ကရာဇ်နှင့် စိစစ်ထောက်ဆရေးပြလိုက်သည့်အချက်။ ဤကား စကားချပ်)။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းလာတော်သည် မင်းသမီးစောဘီလူးနှင့် သက္ကရာဇ် ၃၇၆ ခုတွင် ရွှေထီးရွှေနန်းသိမ်းမြန်းစိုးစံတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၂၀၊ နှစ်ဆယ်၊ နှစ်စုသက်တော် ၄၆၊ လေးဆဲ့ခြောက်နှစ်၊ သက္ကရာဇ် ၃၉၆ ခုတွင် လွန်တော်မူလေသည်။၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းကုလားသည် မျောက်သားတော် ရှင်စောဖြူနှင့် သက္ကရာဇ် ၃၉၆ခု တွင် ထီးနန်းတိုင်းပြည်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်။ နန်းစံ ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၄၂၄ ခုတွင်လွန်တော်မူလေသည်။ ၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းဘီလူးသည် မိဘုရားစောစစ်နှင့် သက္ကရာဇ် ၄၂၄ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းဘီလူး၌ မင်းရဲဘာယဟူသော သားတော်လည်း တယောက်၊ စောပေါက်ညိုဟူသော သမီးတော်လည်း တယောက်အားဖြင့် နှစ်ယောက်ရှိ၏။ ထိုသားတော်နှင့် သမီးတော်ကိုထိမ်းမြား၍ အိမ်ရှေ့အရာနှင်းတော်မူ၏။ ထိုမင်းဘီလူးအိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၆၊ ခြောက်နှစ်ရှိသောအခါတွင် အမတ်အသင်္ခယာသည် အရှင်ဖြစ်သော မင်းဘီလူးကို ပုန်စားအံ့သောအခါကာလကိုရှု၍ စနည်းနာလေသော် ဝရောင်းငှက်တခုသည် အခြေအရုံနှင့် တင့်တယ်စွာနေသည်ကိုမြင်၍ ဝရောင်းငှက်စနည်းနာ၍ အမတ်အသင်္ခယာပုန်စားလေ၏။ မင်းဘီလူးသား မင်းရဲဘာယသည် နှမတော် စောပေါက်ညိုနှင့် ပုဂံပြည် အလောင်းစည်သူ ဘိုးတော်ဖြစ်သော ကျန်စစ်မင်းထံသို့ ပြေးဝင်၍နေလေ၏။ မင်းရဲဘာယ ခမည်းတော် မင်းဘီလူးသည်ကား အမတ်အသင်္ခယာပုန်စားလေ၍ အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၆၊ ခြောက်နှစ်။ နန်းကျ ၃၅၊ သုံးဆဲ့ငါးနှစ်။ သုံးစုသက်တော် ၇၁၊ ခုနစ်ဆဲ့တနှစ်။ သက္ကရာဇ် ၄၃၀ ပြည့်တွင် လွန်တော်မူလေသည်။၁၀။

(ဤ၌ သက္ကရာဇ် ၄၃၀ တွင် ထွက်ပြေးသော မင်းရဲဘာယသည် သက္ကရာဇ် ၄၂၆ တွင် နန်းတက်သော ကျန်စစ်မင်း နန်းစံ ၄ တွင် ကြုံသောကြောင့် နောက်ဆိုလတ္တံ့သော မင်းနန်ကို ၄၅၄ တွင် နန်းတက်သော အလောင်းစည်သူမင်းကြီး နန်းစံ ၁၁၊ သက္ကရာဇ် ၄၆၅ ခုတွင် နန်းတင်လာသည်ဟု ယူသင့်သည်။ စူဠစန္ဒရားမင်း၏ အနွယ်အဆက် ၁၁ ဆက်တွင် ခေတ္တသင်မှ မဆင်းသက်။ စန္ဒသင်မှဆင်းသက်သောမင်း ၁၀ ဆက်မြောက် မင်းဘီလူးကို အမတ်သင်္ခယာပုန်စား၍ မင်းဆက်ပြတ်လေသည်)။

ထိုမင်းဘီလူးလွန်လေလျှင် ဝရောင်းငှက်စနည်းသည် သက္ကရာဇ် ၄၃၀ပြည့်တွင် ရွှေနန်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုဝရောင်းငှက်စနည်းနန်းတက်၍ ၈၊ ရှစ်နှစ် မြောက်သက္ကရာဇ် ၄၃၈ ခုတွင် လွန်တော်မူလေသည်။၁၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းဘုန်းသံသည် မျောက်သားတော် မျိုးရှင်စည်နှင့် သက္ကရာဇ် ၄၃၈ခု တွင် ထီးနန်းကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၄၂၊ လေးဆဲ့နှစ်နှစ်။ နန်းစံ ၁၄၊ တဆဲ့လေးနှစ်၊ နှစ်စုသက်တော် ၅၆၊ ငါးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၄၅၂ ခုတွင် လွန်တော်မူလေသည်။၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းပတိသည် မျောက်သားတော် ယောင်သုံးဆယ်နှင့် သက္ကရာဇ်

၄၅၂ ခု တွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။

ဝရောင်းငှက်စနည်း ပုန်စားလေသည်ကာလ မင်းဘီလူးသား မင်းရဲဘာယသည် ပုဂံပြည် အလောင်းစည်သူမင်းကြီး၏ ဘိုးတော်ဖြစ်သော ကျန်စစ်မင်းကြီးထံ ပြေးဝင်၍ နေလေရာဝယ် လက်ယာမင်းနန်ဟူသော သားငယ်တယောက်၊ ရွှေဂူသာဟူသော သမီးတော်တယောက်အားဖြင့် နှစ်ယောက်ဖွားမြင်တော်မူ၏။ ထိုမင်းရဲဘာယကား အလောင်းစည်သူမင်းကြီး ဘိုးတော်ဖြစ်သော ထီးလှိုင်ဘုရားဒါယကာ ကျန်စစ်မင်း နန်းစံလေးနှစ်ကသည် အလောင်းစည်သူ မင်းကြီးလက်ထက်တိုင်အောင် ခစားပါသော်လည်း မိဘတိုင်းပြည်ဖြစ်သော ရခိုင်ပြည်ကို ပြန်၍မရပါသောကြောင့် လွမ်းစွာဝမ်းနည်းလျက် ကာလမြင့်စွာ နှစ်ပေါင်း ၃၅ နီးခန့်ရှိလေ၏။ တရံရောအခါ၌ မင်းရဲဘာယသည် သေအံ့သောအနာသည်းလတ်လျှင် သားတော်လက်ယာမင်းနန်ကို ခေါ်တော်မူ၍ ငါတို့ကား မိရပ်ဘရွာကိုရပါမည်ဟု ဤမင်းကြီး၏ ဘိုးတော်ကျန်စစ် မင်းကြီးကသည် ဤမင်းကြီး လက်ထက်တိုင်အောင် ခစားဆည်းကပ်ပါသည်။ အလိုသို့မရောက်ဘဲ ငါကား သေရလိမ့်မည်။ ငါ့သားကား ဤအလောင်းစည်သူမင်းကြီး လက်ထက်တွင် ပြန်ရအောင်ကြိုးစားပါလေ။ ဤမင်းလက်ထက် မပြန်ရသော် နောက်နောက်သော မင်းတို့လက်ထက် မပြန်ရပြီ။ အဘယ်ကြောင့်နည်းဟူမူကား ဤမင်းသည် ဆင်၊ မြင်း အလုံးအရင်း သူရဲဗိုလ်ပါ မြောက်မြား၍ လုပ်ရေး ကြံရေးလည်း ရှိသည်။ ဘုန်းတန်းခိုး အာနုဘော်လည်း ကြီးမြင့်သည်။ ထို့ကြောင့် ဤမင်းကြီး အားထုတ်သင့်အောင်လျှင် အမောင်ကြံဆောင်လေ။ အဘယ်သို့ ကြံဆောင်ရမည်နည်းဟူမူကား ဤမင်းကြီးသည် ဦးဆေးမင်္ဂလာပြုတော်မူသောအခါ၌ ငါတို့ ရခိုင်ဓလေ့ နောက်ဆံထုံးထုံး၍ မင်းကြီး မြင်အောင် ခစားဆည်းကပ်လေဟု မှာတော်မူလျက် မင်းရဲဘာယ လွန်တော်မူလေလျှင် သားတော် လက်ယာမင်းနန်လည်း အလောင်းစည်သူမင်းကြီး ဦးဆေးမင်္ဂလာ ပြုတော်မူသောအခါ၌ ခမည်းတော်မှာခဲ့သည့်အတိုင်း နောက်ဆံထုံး ထုံးလျက် မင်းကြီးမြင်အောင် ရှေ့တော်ပါးဝယ်၊ ခစားလေ၍၊ အလောင်းစည်သူမင်းကြီး မြင်တော်မူလေလျှင်၊ ငါသည် မြင့်မြတ်သော ဦးဆေးမင်္ဂလာ ပြုတော်မူသောအခါ၌၊ မင်္ဂလာမဲ့ဖြစ်သော၊ နောက်ဆံထုံးနှင့် ရှေ့တော်တွင် နေရာအံ့သလောဟု အမျက်တော်ထွက်၍၊ လက်ယာမင်းနန်ကို သတ်လေဟူ၍ အမိန့်ပေးတော်မူလေ၏။ လက်ယာမင်းနန်လည်း၊ ဤသို့ လျှောက်ပေ၏။ အရှင်မင်းကြီး၊ သတ်တော်မူလျှင် သေရပါမည်။ အကြောင်းကို လျှောက်ရပါစေဟု သံတော်ဦးတင်လေလျှင်။ အဘယ်သို့နည်းဟု မေးတော်မူလေသော်။ အကျွန်ုပ်ဘခင်သည် သေအံ့သောအခါ၌ မှာခဲ့ပါသည်။ ဤမင်းကြီး ဘိုးတော်လက်ထက်ကပင်၊ ဤမင်းကြီး လက်ထက်တိုင်အောင် ခစားဆည်းကပ်ပါလျက်၊ မိရပ်ဘရွာကို မပြန်ရ မစိုးရဖြစ်၍၊ ငါလွန်လျှင်၊ ဤမင်းကြီး မေ့လျော့တော်မူသော်လည်း ငါတို့ရခိုင်ဓလေ့၊ နောက်ဆံထုံး ထုံး၍ မင်းကြီး ဦးဆေးမင်္ဂလာပြုတော်မူသောအခါဝယ် ဖူးမြင်ခစားလေဟု မှာတော်မူသည့်အတိုင်း၊ နောက်ဆံထုံး ထုံး၍ ဖူးမြင်ခစားပါသည်ဟု လျှောက်လေလျှင်၊ အလောင်းစည်သူမင်းကြီးသည် အလွန်သနားကရုဏာရှိတော်မူ၍ ချမ်းသာပေးတော်မူလျက် အမတ်လက်ယာကို ဗိုလ်မှူးခန့်တော်မူ၍ သိန်းပစ္စည်းနှင့် စစ်သည်မြန်မာတသိန်းတို့ကို အုပ်ချုပ်၍ ကြည်းကြောင်း ချီတော်မူစေ၏။ သမိန့်ဖြတ်စကို ဗိုလ်မှူးခန့်တော်မူ၍ တလိုင်းစစ်သည်တသိန်းကို အုပ်ချုပ်၍ လက်ယာမင်းနန်နှင့် ရေကြောင်းချီတော်မူစေလျက် လက်ယာမင်းနန်ကို နန်းတင်ချေဟု စေတော်မူလိုက်၏။

ချီလာကြောင်းကို ဝရောင်းငှက်စနည်းမင်း၏မြေး မင်းပတိကြားလေလျှင် ပဋိက္ကရားတောင်ညိုကဆီး၍ တိုက်လေသော် ရေကြောင်းချီလာသော တလိုင်းတို့ တပ်ပျက်လေ၏။ တလိုင်းတို့ ရေတပ်ပျက်လေလျှင် ကြည်းကြောင်းချီလာသော မြန်မာတပ်တို့သည်လည်း

ပြန်လေကုန်၏။ ထိုအကြောင်းကို အလောင်းစည်သူ မင်းကြီး ကြားတော်မူလေလျှင် အမျက်တော်ထွက်၍ ရဲမက်မိုလ်ပါ လေ့တက်ထပ်လောင်းပေးတော်မူလျက် ချီတက်တော်မူစေ၍ တိုက်လေစေလျှင် မင်းပတိကို နန်းထက်၌သတ်လေ၏။ ထိုမင်းပတိကား အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်၊ နန်းစံ ၁၃၊ တဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၄၉၊ လေးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၄၆၅ ခုတွင် လွန်တော်မူသည်။၃။

ဤသည်ကား ရာဇဝင်ဟောင်း၊ အင်းစောက် ရာဇဝင်၊ သမန္တစက္ခုဒီပနီ၊ မှန်နန်းရာဇဝင်တို့ကို ဆင်ခြင်ထောက်ထား၍ ရေးသားပြဆိုအပ်သော လက်ယာမင်းနန်၏ အကြောင်းတည်း။ စူဠစန္ဒရားမင်း၏တူ၊ စန္ဒကူးမင်း၏သား၊ ပဉ္စာမြို့တည် ခေတ္တသင် ၁၊ တစ်။ စန္ဒသင်အနွယ် ၁၀၊ တဆယ်။ မျိုးခြားစည်သဘင် ၁၊ တစ်။ ဝရောင်းငှက်စနည်းအနွယ် ၃၊ သုံး။ ပေါင်း ၁၅ ဆက်သောမင်းတို့၏ နန်းစံနှစ်ပေါင်း ၂၈၅ နှစ်တည်း။

ဤသည်ကား စူဠစန္ဒရားမင်း၏တူ၊ စန္ဒကူးမင်း၏သား ပဉ္စာမြို့တည်ခေတ္တသင် ၁၊ တစ်။ စန္ဒသင်အနွယ် ၁၀၊ တဆယ်။ မျိုးခြားစည်သဘင် ၁၊ တစ်။ ဝရောင်းငှက်စနည်းအနွယ် ၃၊ သုံး။ ပေါင်း ၁၅ ဆက်သောမင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်းတည်း။

(ဤမင်း၁၅ဆက်တွင် ခေတ္တသင်မှစ၍ ရေတွက်လျှင် စန္ဒကူးအနွယ်တော် ၁၁ ဆက်ဟုယူသင့်သည်။ စန္ဒသင်မှစ၍ရေတွက်လျှင် စန္ဒသင်အနွယ် ၁၀ ဆက်ဟု ယူသင့်သည်။ ယင်းသို့ယူလေသည်ကို လက်ယာမင်းနန် ခန်း၌ ဆိုလတ္တံ့။ ထို ၁၅ ယောက်မင်းတို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားညွှန်ပြစီရင်ကြသော ရာဇဝင် အရပ်ရပ်တို့သည် မညီညွတ် မစေ့စပ်နိုင်အောင် ရှိကြပေသည်။ အထူးမှာ ဆရာငမည်ရာဇဝင်နှင့် ရာဇဝင်သစ်တို့ သည်ပင် မညီမညွတ်များလေသည်။ များကြောင်း အထူးမှာ-

ဆရာငမည်ရာဇဝင်၌ မင်းဘီလူးသည် သက္ကရာဇ် ၄၃၇ ခုတွင်နန်းတက်၍ အိမ်နိမ့် ၃၀၊ နန်းစံ ၃ နှစ်၊ နှစ်စုသက်တော် ၃၃ နှစ်တွင် အမတ်သခ်ယာ ပုန်စား၍လွန်လေကြောင်းဆိုသည်။ အမတ်သခ်ယာ ဝရောင်းငှက်စနည်း နန်းစံ၁၄နှစ်။ ၎င်းသားတော် မင်းပတိ နန်းစံ ၃ နှစ်။ ပေါင်း ၂၅ နှစ်မျှဆိုပြီးလျှင် လက်ယာ မင်းနန်အား နန်းတင်လာသောမင်းကို အလောင်းစည်သူ မင်းကြီးဟုမယူဘဲ အလောင်းစည်သူငယ်ဟူ၍ ခေါ်အပ်သော နရပတိစည်သူကိုယူလေသည်။ ၎င်းနရပတိစည်သူမင်းသည် (ပွင့်ငုံသစ်၊ နရပတိစိုး)ဟူ၍ သမန္တစက္ခုဒီပနီတွင်ဆိုသောကြောင့် ၅၂၆၊ ငါးရာ့နှစ်ဆဲ့ ခြောက်နှစ်မှ နန်းတက်မည့်သူ၊ နရပတိမင်းသည် ၆၁ နှစ်၊ မှန်နန်း ရာဇဝင်အလိုသော် ၇၁ နှစ် ဝေးကွာနောက်ကျလျက် လက်ယာမင်းနန်အား ၄၆၅ တွင် နန်းတင်လာကြောင်းနှင့် ဆိုသောအချက်။ မင်းရာဇာကြီးသည် အိမ်နိမ့် ၁၆၊ နန်းစံ ၂၊ နှစ်စုပေါင်း ၁၈နှစ်မျှဆိုပြီးလျှင် ၎င်းသားတော် သကျဝင်ကြီးသည် အိမ်နိမ့် ၂၀၊ နန်းစံ ၃၊ နှစ်စုပေါင်း ၂၃ တွင် လွန်ကြောင်းနှင့်ဆိုလေသည်။ အဘမင်းရာဇာ ကြီးထက် သားတော် သကျဝင်မင်းသည် ၂ နှစ်ကြီး ဆိုသောအချက်။ ရာဇဝင်သစ်၌ ဝရောင်းငှက်စနည်း ၁၄ နှစ်၊ မင်းဘုန်းသန် ၈ နှစ်၊ မင်းပတိနန်းစံမပါ။ ပေါင်း ၂၂နှစ်ရှိကြောင်းကို မိမိပြဆိုပြီးဖြစ်လျက် မင်းပတိနန်းတက် သက္ကရာဇ်ကို ၄၆၂၊ လက်ယာမင်းနန် နန်းတင်သက္ကရာဇ်ကို ဧဉ္စဝတီအရေးတော်ပုံအရ ၄၈၀ ဖြစ်ကြောင်းနှင့်ဆိုလေရကား ၁၈ နှစ်သာ ကွာလေသောကြောင့် ၂၂ နှင့် မကိုက်သောအချက်။ ၁၈ နှစ်ဖြစ်စေ၊ ၂၂ နှစ်ဖြစ်စေ၊ ဝရောင်းငှက်စနည်းနှင့် လက်ယာမင်းနန် ကွာကြောင်းကို မိမိပြဆိုအပ်သည်ဖြစ်လျက် ဝရောင်းငှက် စနည်းပုန်စား၍ မင်းရဲဘယ ထွက်ပြေးလေရာ ပုဂံပြည်တွင် မွေးဖွားသောလက်ယာမင်းနန် အသက် ၄၈ နှစ် မရှိသင့်ဟု ခြင့်တွက်စနာခြင်းမရှိသည့်အချက်။ ရာဇဝင်

ဟောင်းက အလောင်းစည်သူ၏ ဘိုးတော် ကျန်စစ်မင်းလက်ထက်ကပင် အလောင်းစည်သူမင်းကြီးလက်ထက်ရောက် မင်းရဲဘာယတို့ ပုဂံပြည်၌နေရသော နှစ်ပေါင်းသည် ၃၅ နှစ်နီးခန့်သာ ကြာကြောင်းနှင့်ပြဆိုအပ်သော စကားများသည် ထင်ရှားလောက်သည်ဖြစ်လျက် အလောင်းစည်သူမင်းကြီးနောက် ၄ ဆက်မြောက် ၅၆ နှစ်အကွာ မြေးတော်နရပတိစည်သူငယ်ကိုယူလေသော အချက်၊ ရာဇဝင်ဟောင်းတွင် ခေတ္တသင်အစ မင်းပတိအဆုံးရှိ မင်း ၁၅ ဆက်တို့၏ နန်းစံနှစ်ပေါင်းကို ၂၈၅ နှစ်ပြဆိုလေသည်။ ဆရာမည်ရာဇဝင်၌ ၈၅ နှစ်မျှဆိုလေသည်ဖြစ်၍ ရာဇဝင်ဟောင်းအဆိုနှင့် ၂၀၀ ကွာလေသည်။ ရာဇဝင်သစ်မှာ ခေတ္တသင် နန်းတက်သက္ကရာဇ် ၃၈၀ ဟုဆိုပြီးနောက် မင်းဘီလူးနန်းတက် သက္ကရာဇ်ကို ၄၃၇ ခု၊ မင်းပတိနန်း တက်သက္ကရာဇ်ကို ၄၆၂ ခု၊ မင်းပတိနန်းစံကိုမဆိုလေ။ လက်ယာမင်းနန် နန်းတက်ကို ဓညဝတီအရေးတော်ပုံအရ ၄၈၀ဟု ဆိုလေသည်။ နန်းစံနှစ်ပေါင်းကို အင်းဖယားအရ ရေတွက်ကြည့်ရာ မင်းပတိနန်းစံမပါဘဲ ၂၂၀ ရသောကြောင့် ရာဇဝင်ဟောင်းနှင့် ၆၅ နှစ်ကွာလေသည်။ ယခင်တွက်ရ နန်းစံနှစ်ပေါင်း ၂၂၀ နှင့် ခေတ္တသင်နန်းတက်သက္ကရာဇ် ၃၈၈ တွင်ရောသော် ၆၀၀ မှ လက်ယာမင်းနန် နန်းတက်ရန်ရှိသောကြောင့် ယုတ္တိမရလွန်းဖြစ်လေသည်အချက်။ ဤသို့မညီညွတ်သောအချက် ယွင်းပျက်ထွေးရှုပ် အယုတ်အပိုဖြစ်ရခြင်းအလိုမှာ ကိန်းပြိုခန်းဆင် ရာဇဝင်ကျမ်းဂန်ပုံစံဝတ္ထုအစုစုတို့ကို ထောက်ရှုနှိုင်းညှိရေးသားခြင်းမရှိသောကြောင့် ယုတ္တိမတန် အလွန်အမှားဖြစ်လေသည့် စကားဟု ပယ်ရှားစွန့်ခွာ၍ ကျမ်းလာသာဓက အရပ်ရပ်မျှော်ဆ၍ ရေးပြသည့်အရာကိုသာ သေချာမှတ်သားနှလုံး၌ထားရမည် နောက်သားရှင်လူအပေါင်းတို့။ (ဤသည်ကား အမှာစကားချုပ်)။

**၁၅၉။ ယခုအခါ၌ ပထမ ပရိန်မြို့တည် မင်းဘီလူးမြေး လက်ယာမင်းနန်အစ ကောလိယ မင်းအဆုံးရှိသော မင်းခြောက်ဆယ်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း။ မိဘုရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်း**

ထိုမင်းပတိ လွန်လေလျှင် နန်းရိုးနန်းဆက်ဖြစ်သော လက်ယာမင်းနန်ကို နမတော်ရွှေဂူသာနှင့် သက္ကရာဇ် ၄၆၅ ခုတွင် နန်းတင်ကြကုန်၏။ ထိုလက်ယာမင်းနန်ကို နန်းတင်လာကြကုန်သော မြန်မာနှင့်တလိုင်းတို့သည် မြတ်စွာဘုရားကိုယ်စားတော် မဟာမုနိရှိတော်မူရာကို စူးစမ်းမေးမြန်းရှာကြလေသော် သိရိဂုတ်တောင်သိမ်တော်အတွင်းတွေ့လေလျှင် နောင်တော်သဗ္ဗညုမြတ်စွာဘုရားသည် မာန်အောင်ကျွန်း၌ပြုတော်မူခဲ့ဖူးသော နှစ်ပါးသော ဝိပါက်တော်ကို ငါ့ညီတော်ခံရစ်လေဟု ဗျာဒိတ်စကားမှာထားတော်မူခဲ့သည့်အတိုင်း မြန်မာတို့က ဖိုကျင့်တထောင်ထိုး၍ ရတနာအတိပြီးသော နောက်တော်ကြောသားကိုယူကြလေသည်။ တလိုင်းတို့မူကား ပေါင်တော်ကိုဖြတ်၍ ယူကြလေသည်။ ယူကြပြီးလျှင် လှေဖြင့်တင်၍စုန်ဆင်းကြလေသော် ရန်းဝသို့ရောက်လေလျှင် နဂါးတို့သည်တက်လတ်၍ မြစ်ရေကို ခနောင်းဝဲဖြင့် ဆူပွက်စေလျှင် တလိုင်းတို့ လှေနစ်လေ၏။ ပေါင်တော်ကို နဂါးတို့ရလေ၏။ ထိုလှေနစ်ရာအရပ်ကို ရန်းဝခနောင်းကြီးဟု ခေါ်ဝေါ်ကုန်၏။ မြတ်စွာဘုရားကိုယ်စားတော် မဟာမုနိကို ဖျက်ဆီး၍ ယူဆောင်ကြလေသော တလိုင်းမြန်မာတို့သည် နှုနာဝဲနာဖြစ်ကြလေကုန်၏။

မြန်မာတလိုင်းတို့ နန်းတင်ခဲ့သော လက်ယာမင်းနန်သည် ပဥ္စာမြို့ကိုနန်းခန့်ကုန်ပြီဟု သဘောရတော်မူ၍ အဠနနဒီလေးမြို့ချောင်းကိုကူး၍ အနောက်ဘက်ကျွန်း၌ မြို့ရာရှာလေသော် ထက်ဝန်းကျင်ရေပတ်ရံလျက်ရှိသော ကျွန်းတခုကိုမြင်၍ ဤအရပ်ကား မြို့လောင်းမြို့ရာလျှင်မှန်၏ဟု ကြံတို့ကြက်ဘီသကဲ့သို့ မြို့တည်လေသည်ကို

အကြောင်းပြု၍ လောင်းကြက်မြို့ဟု ယခုတိုင်အောင်တွင်လေ၏။ ထိုလက်ယာမင်းနန်သည် လောင်းကြက်မြို့ကိုတည်၍ နှစ်မစေ့ခင် သမီးတော်လည်းသေခဲ့၏။ ဆင်, မြင်း လူသူတို့လည်း ဖျားနာသေပျောက်များကြကုန်၏။

ထိုသို့ သေပျောက်ဖျားနာကြသောကြောင့် လောင်းကြက်မြို့၏ မြောက်ဘက်ချောင်းကိုကူး၍ မြို့ရာရှာလေသော် စည်မျက်နှာကဲ့သို့ ညီညာစွာရှိသော မြေပြင်ကိုမြင်လေ၍ ဤအရပ်ဝယ် မြို့တည်သော်ကောင်းအံ့၊ ဖြစ်ပွားအံ့ဟု သုခ်သင်ပျှင်ဆင်လေသော် ဆားအိုင်အနီး၌ ပဉ္စောင်ပင်ကိုစောင့်သောနတ်သည် ကုလားကြီးအယောင်ဖြင့် ထွက်လတ်၍ ပါးရိန့်ပါးရိန့်ဟုဆိုသောစကားကို အကြောင်းပြု၍ ဤအရပ်ဝယ်သင့်စွဟု မြို့တည်လေ၏။ ထိုမြို့ကို အစတည်၍ နန်းစံသော လက်ယာမင်းနန်ကား အိမ်နိမ့် ၃၅၊ သုံးဆဲ့ငါးနှစ်။ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၄၁၊ လေးဆဲ့တနှစ်။ သက္ကရာဇ် ၄၇၁ ခုတွင် လွှန်တော်မူလေသည်။၁။

ယင်းသို့ လက်ယာမင်းနန်ကို နန်းတင်လာသော အကြောင်းကို လက်ယာမင်းနန် ၄၇ နှစ်ဆက်မြောက် သက္ကရာဇ် ၈၂၀တွင် နန်းတက်သော မင်းခရီမည်သော အလီခင်မင်း၏သားတော် ဘစောဖြူမင်းလက်ထက် အမတ်ကြီးအဒူမင်းညိုဖွဲ့ဆိုစီရင်အပ်သော ထိုမင်း၏ သမီးခြင်းတွင်။

ဧဧလျှက်ပုံ့ပျူး၊ ရိုက်ကာကျူးဝိမ့်၊ ပေါ်ဦးကမ္ဘာ၊ ကြာငါးပွင့်လိုက်၊ ရောင်မြိုက်ဥာဏ်ဖြူ၊ ငါးဆူသျှင်နည်း၊ ပွင့်မည်ချည်းတွင်၊ မေတ္တေည်းမရောက်။ *သုံးပါးနောက်ဝယ်၊ ငါးထောက်ထောင်တာ၊ သာသနာတွင်း၊ ငါးစင်းအမြတ်၊ နဝတတ်ရေကျ၊ ငါးရာရသား၊ ကစ္ဆပနဒီ၊ ဤသည်ညာမှန်၊ ယဉ်ထန်တာဘက်၊ ပင်လယ်ထွက်မှ၊ နှစ်ဖက်ကမ်းပြီ၊ ဖြားရေ-မိုဝယ်၊ ရေဆီပြဖွာ၊ အာကာမိုနိုင်း၊ တောင်ပြိုင်းပြိုင်း၌၊ ဆိုင်းဆိုင်းမဏ္ဍိုင်၊ ရခိုင်ညွန့်ဖူး၊ မွန်ကြည်မြူးဘို့၊ မြောက်ဦးရွှေနန်း၊ တည်လတ်ထွန်းသည်၊ ဤကျွန်းဗမ္ဗူထူးတည့်လေ၊ ထူးတည့်မှောက်တော်၊ ဟုတ်တည့်ဩော်၊ ကျော်သည်တသူ၊ ဗမ္ဗူဒီပ၊ ကျွန်းလုံးခသည်။ မင်းတရာ့တည့်သွေး၊ မှောက်တော်ထွေး။ ဧလည်းယင်ယင်ဧ။ ဟူ၍ဆိုသည်။

(*မေတ္တေည်းမရောက်၊ သုံးပါးနောက်ဝယ်၌လည်း၊ လေးပါးနောက်ဟုပါလေသည်။ ဤကားစကားချပ်။)

ဤခြင်းနိဒါန်းတွင် ဘစောဖြူမင်း နန်းတက် ၈၁၇ ခုဖြစ်ကြောင်းနှင့် ဓညဝတီအရေးတော်ပုံကိုမှီ၍ မြန်မာစာညွှန့်ပေါင်းကျမ်း ၂၀ နံပါတ်၌ဆိုသည်။ ယင်းသို့ ဆိုသော်လည်း အလီခင်မင်း ၇၉၅ ခုမှ နန်းတက်ကြောင်းကို ရာဇဝင်ဟောင်းတို့၌ဆိုလေရကား နန်းစံ ၂၅ ကို ထည့်လျှင် သားတော် ဘစောဖြူနန်းတက်သက္ကရာဇ်သည် ၈၂၀ အမှန်ဟူ၍ ယူရမည်။

ဤသို့ခြင်းအစ ပထမစာပိုဒ်ကို ချီးကျူးပြီးနောက် မာရယုအဆက်၊ ကံရာဇာအဆက်၊ စန္ဒသူရိယအဆက်၊ စန္ဒရားအဆက်၊ ခေတ္တသင်နောက် စန္ဒသင်အဆက်တွင်-

ဧသည်တချက်၊ စမ္ပဝက်၌၊ ဘုန်း *ခက်စည်းဖြိုး၊ ဆယ်ယောက်ကြီးတွင်၊ အဆုံးစွန့်မျိုး၊ မင်းဘီလူးကို၊ ကြဲထူးလှည့်ပတ်၊ ပုန်ကန်သတ်၍၊ မတ်သခ်ယာ၊ မည်သာတချက်၊ ဝရောင်းငှက်လျှင်၊ သုံးဆက်၍သာ၊ ပဥ္စာမြို့ဟောင်း၊ ကျိန်းပြီးနှောင်းမှ၊ မင်းကောင်း သွေးခဲ၊ မင်းရဲဘာယ၊ ပေါက်ညိုမြနှင့်၊ ကြွခဲ့*ရှေ့ပြည်၊ ဆွေနှစ်မည်တွင်၊ မြင်သည်သည်းချာ၊ ရွှေဂူသာနှင့်၊ လက်ယာမင်းနန်၊ နန်းရိုးမှန်လျှင်၊ တဖန်လည်းကောင်း၊ လောင်းစည်သူခိုင်း၊ အယူလှိုင်း၍၊ တလိုင်းတာသိန်း၊ ပြူတာသိန်းနှင့်၊ အောင်ကိန်းခါချိန်၊ ပြက္ခဒိန်လျောက်၊ ပရိန့်မြို့သစ်၊ ထောင်လာလစ်သည်။ ချစ်နှစ်ပြည်သူ ယူသတည်းလေ။ ဟူ၍စပ်ဆိုလေသည်။

ဤခြင်း၌*ဘုန်းခက်စည်ဖြိုးကို၊ ဘုန်းဆက်စည်ဖြိုးဟု ပါလေသည်။

ကြွခဲ့*ရှေ့ပြည်ကို၊ ရွှေပြည်ဟု ပါလေသည်။

ဆယ်ယောက်ကြုံးတွင်ဟူသော ခြေင်းအရကို စန္ဒသင်မင်းမှ မင်းဘီလူးကျအောင် ဆယ်ဆက်ယူလေ။ (ဤသည်ကား အမှာစကားချုပ်)။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သီဟပါ မင်းသားသည် မျောက်သားတော် သမ္ဗူလနှင့် သက္ကရာဇ် ၄၇၁ ခုတွင် ခမည်းတော် အရိုက်အရာကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၃၄၊ သုံးဆဲ့လေးနှစ်။ နန်းစံ ၁၊ တနှစ်။ နှစ်စုသက်တော် ၃၅၊ သုံးဆဲ့ငါးနှစ်။ သက္ကရာဇ် ၄၇၂ ခုတွင် လွန်တော်မူလေ၏။၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းရာဇာကြီးသည် မင်းသမီးစောစန္ဒီနှင့် သက္ကရာဇ် ၄၇၂ ခုတွင် ထီးနန်းကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၈၊ နှစ်ဆဲ့ရှစ်နှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၃၁၊ သုံးဆဲ့တနှစ်။ သက္ကရာဇ် ၄၇၅ ခုတွင် လွန်တော်မူလေသည်။၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သကျဝင်ကြီးသည် မျောက်သားတော် စောလှပျိုနှင့် သက္ကရာဇ် ၄၇၅ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၄၇၇ခုတွင် လွန်တော်မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် သကျဝင်ငယ်သည် မျောက်သားတော် စောလှကြီးနှင့် သက္ကရာဇ် ၄၇၇ခုတွင် ပြည်၏စည်းစိမ်ကို ခံစားတော်မူလေ၏။ ထိုအခါ၌ မိဘုရားကြီးစောလှကြီးသည် ညဥ့်သန်းခေါင်ယံဝယ် သံရှင်ဖြင့်ပြီးသော လှံ၊ ဒါး၊ သန်လျက်များကို အရောင်အဝါနှင့်တကွ အပ်နှင်းလာသည်ဟု မြင်မက်တော်မူ၏။ ယင်းသို့ မြင်မက်သော အချိန်၌ပင် ကိုယ်ဝန်တည်တော်မူလေသည်။ ကိုယ်ဝန်ရင့်၍ အချိန်စေ့လျှင် သားတော် ယောက်ကျားဖွားမြင်တော်မူ၏။ ဖွားမြင်တော်မူလေလျှင် အိမ်မက်မြင်သည်ကို အစွဲပြု၍ ကောလိယမင်းသားဟု အမည်ပေးတော်မူ၏။ ထိုကောလိယမင်းသားကား တဆဲ့သုံးနှစ်မြောက်လတ်လျှင် ဆင်အတတ်၊ မြင်းအတတ်ကို တတ်ကျွမ်းလိမ္မာတော်မူ၏။ အရောင်အဆင်း၊ ခွန်အားဗလနှင့် ပြည့်စုံတော်မူ၏။ အရီးတော်ထွေးသမီး ကုမ္မာရီနှင့်ထိမ်းမြား၍ အိမ်ရှေ့အရာနှင်းအပ်တော်မူ၏။ ထိုကောလိယမင်း၏ ခမည်းတော် သကျဝင်ငယ်သည် အိမ်နိမ့် ၁၉။ တဆဲ့ကိုးနှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၄၈၀ တွင်လွန်တော်မူလေသည်။၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကောလိယမင်းသားသည် မိဘုရားကုမ္မာရီနှင့် သက္ကရာဇ် ၄၈၀ တွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုကောလိယမင်း၌ ဆင်,မြင်း, ရဲမက်ဗိုလ်ပါ, လှေတက်၊ လက်နက်ကိရိယာတို့သည် အလွန်များပြားစွာသောကြောင့် အရပ်ရှစ်မျက်နှာ ခပ်သိမ်းသောရန်သူတို့သည် တုပပြိုင်ဆိုင်ခြင်းငှာမဝံ့စွာ၍ ထိုထိုသို့သော ပြည်ထောင်မင်းတို့သည် အခွန်ဘဏ္ဍာ ဆက်သလာကုန်၏။

ထိုမင်း၏နိုင်ငံတော်ကား အနောက်သို့ သူရတန်ပြည်တိုင်အောင် ပိုင်တော်မူ၏။ မြောက်အရပ်သို့ မြံပြည်၊ သက်ပြည်တို့ကို ပိုင်တော်မူ၏။ အရှေ့မြောက်ထောင့်အရပ်သို့လည်း မိုးညင်း၊ မိုးကောင်း၊ ကသည်းပြည်တို့ကို ပိုင်တော်မူ၏။ အရှေ့တောင်ထောင့်ဘက်သို့လည်း တလိုင်းပြည်ကစ၍ ဓင်းမယ်ပြည်၊ ယွန်းပြည်၊ ယိုးဒယားပြည်တိုင်အောင် ပိုင်တော်မူ၏။

ထိုကောလိယမင်းကား အလိုတော်ပြည့်တော်မူလေလျှင် ကောင်းမှုတော်ဘုရား တည်ထားကိုးကွယ်တော်မူအံ့ဟု နေရာကိုရှာတော်မူလတ်သော် မြို့တော်နှင့် မနီးမဝေးအရပ်ဝယ် စန္ဒပဗ္ဗတမည်သောတောင်ကို အလှယ်တကူရလေလျှင် မင်းကြီးက အထူးထူးသော ရတနာတို့ကို ကောက်၍ရသည်ထက်လည်း အလွန်ဝမ်းမြောက်၏ ဟူသော စကားကိုအကြောင်းပြု၍ ငါရကောက်ဟူ၍ ယနေ့တိုင်အောင်တွင်လေ၏။ ထိုသို့ အလှယ်တကူရသော

စန္ဒပဗ္ဗတတောင်ဝယ် ဘုရားရုပ်တုတဆူ တည်တော်မူလေ၏။ တည်တော်မူသောအခါ ပိုင်တော်မူသော ပြည်အပေါင်းက မင်းအပေါင်းတို့ကို စုရုံးခေါ်ဆောင်လျက် တာဝန်းချ၍ လုပ်စေတော်မူ၏။ လုပ်စေသောမင်းတို့ကား ကလေးမင်း၊ မိုးညင်းမင်း၊ မိုးကောင်းမင်း၊ ကသည်းမင်း၊ အုန်းပေါင်မင်း၊ ယွန်းမင်း၊ တလိုင်းမင်း၊ ဗင်းမယ်မင်း၊ သူရတန်မင်း၊ ဟစ်ရုံမင်းတို့ပေတည်း။ ထိုမင်းတို့ တာဝန်ခံ၍ လုပ်ကြသောအကြောင်းအရာကို သမိုင်းမော်ကွန်းစိုက်ထူလျက် ထိုဘုရားတံတိုင်း၌ ယခုတိုင်ရှေ့ရှိပေ၏။ ထိုဘုရားကို ယခုအခါ မဟာထီးဘုရားဟူ၍ ခေါ်ဝေါ်ကြလေ၏။ ထိုကောလိယမင်းကား အိမ်နိမ့် ၁၆၊ တဆဲ့ခြောက်။ နန်းစံ၅၊ ငါး။ နှစ်စုသက်တော် ၂၁၊ နှစ်ဆဲ့တနှစ်။ သက္ကရာဇ် ၄၈၅ခုတွင် နတ်ပြည်စံတော်မူလေသည်။ ၆။

ပထမပရိန်မြို့တည် မင်းဘီလူးမြေး လက်ယာမင်းနန်အစ ကောလိယမင်းအဆုံးရှိ မင်း၆၊ ခြောက်ဆက်တို့၏ နန်းစံနှစ်ပေါင်း ၂၀ တည်း။

ဤသည်ကား ပထမပရိန်မြို့တည် မင်းဘီလူးမြေး လက်ယာမင်းနန်အစ ကောလိယမင်းအဆုံးရှိသော မင်း ၆ ဆက်တို့၏အမည်၊ အိမ်နိမ်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်းတည်း။

(ဤမင်း ၆ ဆက်တို့၏ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ နှစ်ပေါင်းသည် အရေးတော်ပုံ၌ ၁၄၁ နှစ်၊ ရာဇဝင်ဟောင်း၌ ၁၆၄ နှစ်ရသောကြောင့် အရေးတော်ပုံအလိုဖြင့် ၆၂၆ နှစ်မှ ဒသရာဇာနန်းတက်ရာသည်။ ရာဇဝင်ဟောင်းအလိုဖြင့် ၆၄၉ ခုနှစ်မှ ဒသရာဇာမင်းနန်းတက်ရသောကြောင့် လွန်စွာပိုလေသည်။ ဆရာမေည်ရာဇဝင်နှင့် ရာဇဝင်သစ်တို့၌ အိမ်နိမ့်၊ နန်းစံ၊ သက်တော်များကိုသက္ကရာဇ်နှင့် ညီအောင်လျှော့၍ကားဆိုကြလေ၏။ ယင်းသို့ဆိုကြရာ၌ လက်ယာမင်းနန်မှ ၃ဆက်မြောက်သကျဝင်ကြီးနှစ်စုသက်တော် ၁၈ နှစ်ဟုဆိုပေလျက် သားဖြစ်သူ သကျဝင်ငယ်၏ အိမ်နိမ့်ကို ၂၀ ဟူ၍ဆိုလေသဖြင့် အဖထက်သား ၂ နှစ်ကြီးလေသည်။ ဤသို့စသည်ဖြင့် မညီမညွတ်များစွာပါလေသည်။ ယခု ငါတို့ ရေးပြလိုက်သော အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်တို့သည်ကား ငါတို့ရခိုင်ရာဇဝင် အစောင်စောင်၊ မြန်မာတို့၏ မှန်နန်းရာဇဝင်၊ သမန္တစက္ခုဒီပနီ စသည်တို့နှင့် ထောက်ထားနှိုင်းစံ၍ လျော်ကန်အောင် ရေးပြလိုက်သော အရာဖြစ်ပေသည်။ ပညာရှိတို့သတိထားတော်မူကြပါလေ။ ဤသည်ကား စကားချပ်)။

**၁၆၀။ ယခုအခါ၌ ဒုတိယပရိန်မြို့တည် ကောလိယမင်း၏သားဒသရာဇာမင်းအစ ငနုလုံးမင်း အဆုံးရှိသော မင်း ၂၂ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်း**

ကောလိယမင်းကြီး နတ်ပြည်စံတော်မူလေလျှင် သားတော် ဒသရာဇာမင်းသည် မှောက်သားတော် ရာမာဒေဝီနှင့် သက္ကရာဇ် ၄၈၅ တွင် ခမည်းတော်စည်းစိမ်ဖြစ်သော ထီးနန်းတိုင်းပြည်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ဘုန်းလက်ရုံး ထွန်းတောက်ပလျက် ခမည်းတော်ထက် တိုင်းခရိုင်နိုင်ငံ ပြန့်ပြောကြီးကျယ်စွာဖြစ်တော်မူ၏။ ထိုမင်းသည် ဒသရာဇာဟူသော အမည်ကိုရတော်မူသည်မှာ ရခိုင်ပြည်၌ စန္ဒရားမင်းကိုးဆက်လည်း အရိန္ဒမာလုံပျံရတော်မူသည်။ ဤဒသရာဇာမင်းလည်း လေးလက်နက်ကိုရလေရကား ဆယ်ဆက်မြောက် လေးလက်နက်ရသော မင်းဖြစ်သောကြောင့် ဒသရာဇာဟူသော အမည်ကိုရတော်မူ၏။ အမတ်ပေါင်း တထောင့်ခြောက်ရာရှိတော်မူ၏။ ဆင်,မြင်း, လက်နက်၊ ရဲမက်ဗိုလ်ပါလည်း ခမည်းတော်ထက် များပြားစွာရှိတော်မူ၏။ စွန့်ကြဲပေးကမ်းလှူဒါန်းခြင်း၌လည်း

ရတနာမိုးရှာသကဲ့သို့နှံ့စပ်အောင် ဖြန့်ဖြူးဝေငှပေး ကမ်းလှူဒါန်းစွန့်ကြဲတော်မူ၏။ မိမိနိုင်ငံအတွင်းရှိ အမျိုးလေးပါးတို့အား မိမိရင်တော်ဖြစ်သားကဲ့သို့ သနားကြင်နာစုံမက်တော်မူ၏။ သူခပ်သိမ်းတို့ကား သီတာရေဖြင့်ဖြန်းဆွတ်ဘိသကဲ့သို့ အလွန်ချမ်းငြိမ်းကုန်သည်ဖြစ်၍မိဘကဲ့သို့ မျက်ကွယ်မျက်မြင် ချင်ခင်မြတ်နိုးကုန်၏။ ဈေးခွန်၊ ရေခွန်၊ ကင်းခွန်၊ လယ်ခွန်စသည်တို့ကိုလည်း အရာအထူးကိုကြည့်၍ လျော့ညှံ့ကောက်ခံတော်မူသောကြောင့် ပြည်သူ ပြည်သားတို့သည် ကြွယ်ဝချမ်းသာ ဖြစ်ကုန်၏။ သူဌေး သူကြွယ်တို့ များပြားကုန်၏။ ကျီကြဘဏ္ဍာ ရတနာတို့သည်လည်း အလွန်များစွာကုန်၏။

တရံရောအခါ ထိုမင်းကြီးသည် ငါ၏ ဘေးလောင်းတော်ဖြစ်သော မဟာစန္ဒသူရိယမင်းကြီးသည် မျှောက်သားတော် မိဘုရားမှူးမတ်ပြည်သူအပေါင်းနှင့် တောင်းပန်အပ်သည်ဖြစ်၍ သိကြား၊ ဝိသုကြံ့တို့ကို ခေါ်တော်မူ၍ မြတ်စွာဘုရားသွန်းလုပ်တော်မူစေသော မဟာမုနိရုပ်တုတော်သည် အဘယ်အရပ်၌ရှိတော်မူလေသနည်းဟု တထောင့်ခြောက်ရာသောအမတ်အပေါင်းတို့အား မေးတော်မူလေသော် အမတ်အပေါင်းတို့က ဘေးလောင်းတော် မဟာစန္ဒသူရိယမင်းကြီးတို့ တောင်းပန်အပ်သည်ဖြစ်၍ သွန်းလုပ်တော်မူစေသော ရုပ်တုတော် မဟာမုနိသည် ဓညဝတီမြို့၏အရှေ့ဘက်အရပ်၊ သီရိဂုတ်တောင် သိမ်တော်အတွင်းရှိတော်မူပါသည်ဟု လျှောက်ကြလေလျှင် မင်းကြီးလည်း အလွန်ဝမ်းမြောက်စွာဖြစ်၍ အမတ်ကြီး လက်ယာကို သုံးသိန်းသောသူတို့နှင့် ဆုလာဘ်များစွာပေးတော်မူ၍ စေလွှတ်တော်မူလိုက်၏။ ထိုအမတ်ကြီး လက်ယာသည် သုံးသိန်းသောသူတို့နှင့် ထိုအရပ်ကိုသွား၍ ရှာဖွေလေသော်မရ မတွေ့သောကြောင့် မရမတွေ့ပါကြောင်းနှင့် ပြန်လျှောက်သံတော်ဦးတင်လေသော် မင်းကြီးလည်း အလွန်ပူပန်သောကဖြစ်၍ ဝတ်ဆင်တော်မူသော ပတ္တမြားလက်ကောက်နှင့် ဆင်၊မြင်း၊ အထူးထူးသော ရွှေငွေရတနာတို့ကိုပေးတော်မူပြီးသော် ချောင်းဖျား မြောင်းဖျား၌နေသော မြို့ခွေးမွေးစသောသူတို့သည် ရုပ်တုတော်မဟာမုနိကို ဤအရပ်တွင်ရှိသည်ဟု ပြသနိုင်မူ ထိုသူတို့အား ငါ ဝတ်ဆင်တော်မူအပ်သော ဤပတ္တမြားလက်ကောက်ကိုပေးလေဟူ၍ မှာထားတော်မူလျက် စေလိုက်သော တမန်တို့ရောက်လေလျှင် အမတ်လက်ယာကြီးသည် ချောင်းဖျား မြစ်စွန်၌နေသော ခွေးမွေးတို့ကို မေးမြန်းလေလျှင် မြို့သင်းကြီး ရဟောင်လာ၊ အပေါင်လာဟူသော မြို့နှစ်ယောက်တို့သည် ကျွန်တော်တို့ သိမြင်ပါ၏။ မချွတ်ပြအံ့ဟုဆိုလတ်သော် ဝတ်ဆင်တော်မူသော ပတ္တမြားလက်ကောက်ကို တယောက်လျှင် တရံစီပေးလေ၏။ စီးတော်မူသော ဆင်၊မြင်းတို့ကိုလည်း တယောက်လျှင် တစီးကျဆုပေးလေ၏။

ထိုမြို့တို့သည် ခရီးဆောင်ပြု၍ ညွှန်ပြလေသော် သီရိဂုတ်တောင်၌ ရုပ်တုတော်ကို ဘေးတော်လက်ယာမင်းနန့်အား နန်းတင်လာသောအခါ မြန်မာ-တလိုင်းတို့ ကြောသားနှင့် ပေါင်တော်ကိုယူလေသော် ရုပ်တုတော် မဟာမုနိသည်ပလ္လင်တော်မှကျ၍ လည်တော်တိုင်အောင် မြေဖုံး၍ရှိလေသည်ကို မြို့သင်းကြီး ရဟောင်လာနှင့် အပေါင်လာတို့ပြလာလျှင် အမတ်ကြီးလက်ယာလည်း အရှင်ဖြစ်သော ဒသရာဇာမင်းကြီးအား လျှောက်ကြားလေသည်ကို ကြားတော်မူလျှင် အလွန်ဝမ်းမြောက်ခြင်း ရှိသည်ဖြစ်၍ မိဘုရားစသော မောင်းမမိဿံပြည်သူပြည်သားအပေါင်းတို့နှင့်ကြွတော်မူ၍ ချောင်းဖျားယယ်တခုသို့ တင်တော်မူလေလျှင် ရုပ်တုတော်မဟာမုနိကိုမြင်၍ ပန်း၊ ပေါက်ပေါက်တို့ဖြင့် ပူဇော်ပြီးသော် မြေမှုန့် အညစ်အကြေးတို့ကို ပယ်ရှင်းသုတ်သင်စေလျက် ထိုချောင်းဖျားယယ်မှ ရထားဖြင့် ထုတ်ဆောင်တော်မူစေ၏။ ထိုသို့ထုတ်ယူခဲ့သည်ကို အကြောင်းပြု၍ ထိုချောင်းယယ်ကို သင်းထုတ်ချောင်းဟုခေါ်ကြလေ၏။ ယင်းအရပ်မှ ထုတ်ဆောင်တော်မူခဲ့၍ ညောင်းနေတော်မူခဲ့သောချောင်းသည် ညောင်းချောင်းဟု တွင်၏။ ယခုကာလ ညောင်ချောင်းဟုတွင်လေသည်။

ထိုအရပ်မှသည် အစဉ်အတိုင်း ပင့်ဆောင်တော်မူ၍ ဓညဝတီမြို့ဟောင်း၏အထက်အနီးဝယ် ကတညုတတောင်၌ တည်အုံ့ဟူ၍ စီရင်တော်မူလေသည်။

(ဤအရာတွင် ဓညဝတီမြို့၏အထဲဝယ် ကတညုတတောင်၌ဟုပါရှိလေ၏။ အရေးအသားများဟန်ရှိသည်။ အထက်အနီးဝယ်ဟူ၍သာယူသင့်သည်။ အဘယ်ကြောင့်နည်းဟူမူ ဓညဝတီမြို့၏ အရှေ့ဘက် သီရိဂုတ်တောင်မှပင့်ဆောင်ခဲ့သည်ဟု ရှေး၌ဆိုအပ်သောကြောင့် ၎င်း။ ညောင်ချောင်း၌ ညောင်းနေတော်မူခဲ့သည်ဟုဆိုအပ်လေသောကြောင့်၎င်း။ ဓညဝတီမြို့၏ အနောက်မြောက်ဘက် သီရိမာနဒီမြစ်ကို ထောက်၍ အထက်အနီးဝယ် ကတညုတတောင်၌ တည်အုံ့ဟု စီရင်တော်မူလေသည်ယူသင့်သည်။ ဤရာဇဝင်ဟောင်းတို့စကားကို ထောက်ထားစာနာလျှင် မဟာစန္ဒသူရိယမင်းကြီး ပထမသွန်းလုပ်တည်ထား ကိုးကွယ်တော်မူခဲ့သော သီရိဂုတ်တောင်သည် ယခုတည်ရှိသော မဟာမုနိ သိမ်တော်မှ အရှေ့ဘက်အရပ် ကံရာဇာမင်းကြီး ပထမမြို့တည်ခဲ့သော သီရိဂုတ်အရပ်၊ သီရိဂုတ်တောင်၌ ဖြစ်သင့်သည်။ ယခုတည်ရှိသော သိမ်တော်သည် မာရယုမင်း၊ ကံရာဇာမင်းကြီးတို့ တည်ထောင်ပြုစုစီးစံတော်မူခဲ့သော ဓညဝတီမြို့ဟောင်းရာ၏ အနောက်မြောက်အရပ် ကတညုတတောင်၌ ဖြစ်သင့်သည်။ ဓညဝတီမြို့ဟောင်းရာသည် ယခုညောင်ချောင်းရွာ အရှေ့အရပ်ဒေသမျက်နှာတွင် ဖြစ်သင့်သည်။ ယင်းသို့ ဖြစ်ခဲ့သော် ဆရာမည် ရာဇဝင် ၁၁၄ နံပါတ်၌ ဓညဝတီမြို့ကြီးထဲဝယ် ကတညုတတောင်၌ သိမ်တော်ဆောက်ရန် စီမံလေကြောင်းနှင့်ဆိုသည်ကို ရာဇဝင်သစ် ၁၁၇ နံပါတ်၌ ရုပ်တုတော်ကို ပင့်ဆောင်ယူခဲ့ပြီးလျှင် အထက်စန္ဒသူရိယမင်း ကိုးကွယ်တော်မူခဲ့ရင်းအရပ် ကတညုတတောင်ဟူ၍ ဆိုလေသည်။ ဆင်ခြင်လေ။ ဤသည်ကား အမှာစကားချပ်)

ထိုကတညုတတောင်ကို လေးထောင့်စတုရန်း ကောင်းမွန်စွာတူးစေ၍ ကျောက်သပ်ပြီးသော် ထိုအတွင်းဝယ် သာကီဝင်မင်းပေါင်းရှစ်သောင်းတို့၏ အရုပ်တို့ကို ထည့်စေ၍ တရာ့တပါး သောမင်းတို့၏အရုပ်ကိုလည်း မင်းမြောက် တန်ဆာငါးပါးတို့နှင့်တကွ ထည့်စေ၏။ ထိုသို့ ထည့်စေပြီးလျှင် ကျောက်တို့ဖြင့်ပိတ်၍ ဘုရားရုပ်တုတော်ကိုတင်အုံ့သော ပလ္လင်တော်နှင့်တကွ တံတိုင်းမီးတားကိုလုပ်အုံ့ဟု စီရင်တော်မူ၏။

ထိုအခါ အရပ်လေးမျက်နှာရှိ မင်းအပေါင်းတို့သည် တာဝန်ခံ၍ လုပ်လာရကုန်၏။ အရှေ့အရပ်မျက်နှာကိုကား အုန်းပေါင်၊ မိုးညင်း၊ ကလေး၊ မိုးကောင်းမင်းတို့လုပ်လာရကုန်၏။ တောင်မျက်နှာကိုကား တလိုင်း၊ သျှမ်း၊ ယိုးဒယား၊ လင်းဇင်းမင်းတို့ လုပ်လာရကုန်၏။ အနောက်မျက်နှာကိုကား သူရတန်၊ သက်၊ ကျေးမင်းတို့ လုပ်လာရကုန်၏။ မြောက်မျက်နှာကိုကား မြုံမင်း၊ သက်မင်း၊ ကန်တုပ်မင်း၊ ဟစ်ရုံမင်းတို့ လုပ်လာရကုန်၏။ ထိုမင်းများတို့သည် အညီအညွတ် ဝမ်းမြောက်ဝမ်းသာ အသီးအသီးတာဝန်ခံ၍ လုပ်ကြလေကုန်လျှင် နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ဘုမ္မစိုး၊ ရက္ခစိုးနတ်အပေါင်းတို့သည်လည်း ကူညီ၍လုပ်ကြလာကုန်သောကြောင့် ပလ္လင်တော်နှင့် တံတိုင်းမီးတားတို့သည် ခုနစ်ရက်အတွင်း၌ ပြီးစီးလေ၏။ ဘုရားရုပ်တုတော်ကို ပလ္လင်တော်ထက်သို့တင်သော အခါဝယ် (စတုမဟာရာဇ် နတ်မင်းကြီးလေးဦးနှင့်တကွ ခြောက်ထပ်သော) နတ်အပေါင်းတို့သည် ကောင်းစွာ ပူဇော်လာကုန်၏။ ထိုသို့ ပလ္လင်တော်ထက်သို့တင်တော်မူပြီးလျှင် ခပ်သိမ်းသော ရန်မာန်အပေါင်းတို့လည်း မပြုထွက်စိမ့်သောငှာ ရှစ်မျက်နှာအရပ်၌ အကာကြီး စံကားပန်းပင်၊ စံကားဝါ၊ စံကားစိမ်း၊ နံ့သင့်သူ ဆရာစိုက်စေသည်ကား ဆရာရှစ်ယောက်တည်း။ ထိုဆရာရှစ်ယောက်တို့၏အမည်ကား အရှေ့ဆရာကား ဝေက်ချေ၊ အရှေ့တောင်ထောင့် ဆရာကား ရွှေတောင်၊ တောင်က ဆရာကား သေင်းတိုင်း၊ အနောက်တောင်ထောင့်

ဆရာကား ငဝေရစ်၊ အနောက်က ဆရာကား ဥတ္တက။ အနောက်မြောက်ထောင့် ဆရာကား ပေင်၊ မြောက်က ဆရာကား ပြေုစင်၊ အရှေ့မြောက်ထောင့် ဆရာကား ရှင်လှ။ ဤဆရာရှစ်ယောက်တို့သည် ကောင်းစွာစီရင် ပြုလုပ်ကြပေ၏။ စီရင်၍ပြီးသော် မဟာစန္ဒသူရိယ မင်းကြီးသည် ရဟန္တာအရိယာတို့ကို ကပ်လျှု၍ လက်မခံ လိုသော် မြတ်စွာဘုရားရုပ်တု ပလ္လင်တော် အောက်ဝယ် မြှုပ်ထားခဲ့သော ရတနာ ရွှေ ငွေ ရှစ်ကုဋေတို့ကိုလည်း ထိုအရပ်မှ ထုတ်ယူခဲ့စေ၍ မြတ်စွာဘုရား ရုပ်ထုတော်၏ ကျိန်းစက်တော်မူရာ ကတညုတတောင်၌ အရှေ့မြောက်ထောင့်အရပ်ဝယ် မြှုပ်ပြီးသော် လူတယောက်မျှ မချီမငင်နိုင်သော ကျောက်ဖျာကြီးကိုပိတ်၍ ထားစေတော်မူ၏။

ထိုသို့စီရင် ခင်းကျင်းပြီးနောက် မြို့တို့ကိုလည်း လေးလလျှင် လူတယောက်စီ တံမြက်ခတ်၊ အမှိုက်လှည်း ထားတော်မူပေ၏။ ယခင်တာဝန်ခံ၍လုပ်ခဲ့သော ကမ္ပည်းစာများသည် ထိုမင်းတို့လုပ်ခဲ့သော တံတိုင်းဝယ် ယခုတိုင်ရှိပေ၏။ ထိုသို့စီမံပြီးမှ ဒသရာဇာမင်းကြီးသည် များစွာသော ပူဇော်သကာတို့ဖြင့် လှူဒါန်းပူဇော်ခြင်း၊ မြတ်စွာဘုရား ရုပ်တုတော် မဟာမုနိအား ကံသုံးပါးတို့ဖြင့် ညွတ်တွားရိုကျိုး ရှိခိုးပူဇော်ဖူးမြော် မာန်လျှော့ကန်တော့ ခြင်းကိုပြု၍ ပရိန်မြို့နန်းတော်သို့ ပြန်တော်မူလေသည်။ ထိုဒသရာဇာ မင်းကြီးကား အိမ်နိမ့် ၁၅၊ တဆဲ့ငါးနှစ်။ နန်းစံ ၆၊ တဆဲ့ခြောက်နှစ်၊ နှစ်စုသက်တော် ၃၁၊ သုံးဆဲ့ တနှစ်။ သက္ကရာဇ် ၅၀၁ ခုတွင် နတ်ပြည်စံတော်မူလေ သည်။၁။

(ဤသည်ကား ရာဇဝင်ဟောင်းအဆိုတည်း။ ဥဿဝတီအရေးတော်ပုံ၌ကား လက်ယာမင်းနန်နောက် ၅ ဆက်အဆုံး ကောလိယမင်း သားတော်အိမ်ရှေ့ ကုမ္မာ ဘယသည် သက်တော်ဆယ်နှစ်တွင် ထီးနန်းတက်တော် မူ၍ ဒသရာဇာအမည်ကိုခံတော်မူလေသည်။ သက်တော် ၁၅နှစ်တွင် အဘိသိက်ခံတော်မူမည် အမိန့်တော်ရှိသော အခါ အဘိသိက်ခံသော ကိရိယာအင်္ဂါစုံအပ်သော အကြောင်းကို ရှေးပညာရှိအမျိုး၊ အမတ်ကဝိကျော် လျှောက်သောထုံးမှုကား။ ။ နွယ်မြစ်စဉ်လာ၊ မြတ်ရာဇာတို့၊ စကြာရောက်ရာအကြောင်းပေ။ ပရမေဘုန်းသမ္ဘာ၊ မဟာဇေနိန်၊ သာကိန်ကေရာဇာတို့၊ ကြီးကျယ်စွာ မင်းတံဆိပ်၊ ဘိသိက်တော်ခံ၊ တိုင်းနိုင်ငံကို၊ စိုးစံကွပ်ညှပ် နှိပ်၍၊ လူတို့ထိပ် ရှေးစဉ်လာ၊ ဘိသိက် သွန်းရိုး၊ မော်ကွန်းထိုးသည်၊ မင်းမျိုးမြတ်ကညာနှင့်၊ လက်ယာရစ် ခရုသင်း၊ မင်းတို့သုံးရ၊ ဗြာဟ္မဏလည်း၊ မူလသိက္ခာ၊ ကျမ်းအမှာကို၊ မှီစွာကျင့်ရိုး၊ ဘေးဘိုး ဆင်းသက်၊ ဘိသိက်ဆက် မှန်ရာ၏။ ဂင်္ဂါငါးရပ်ရေ၊ စီးထွေမပြန်၊ ဝဋ္ဋံကြာမျိုး၊ မညိုးပန်းသပြေနှင့်၊ ညွန့်ဝေ မြက်မြေဇာ၊ ရေသဘန်းပျဉ်၊ ယှဉ်သည်နံ့သင့်ရာ၌၊ ပန်းစုံစွာသစ်လေးပင်၊ တောင်မြောက်လေးရပ်၊ တင့်အပ် စိုက်ထားကျင်မှ၊ စစ်အင်္ဂါလေးပါးခင်း၊ ပုဏ္ဏားငါးရာ၊ ဖြူစွာခရုသင်းနှင့်၊ သဲတလင်းညီညွတ်ရာ၊ ဂင်္ဂါမြစ်ကမ်း၊ ပွဲလမ်းမပြတ်၊ မဏ္ဍပ်သုံးဆောင်မှာလည်း၊ ဖြူ၊ ဝါ၊ နီ၊ ဆင်စရိုး၊ ငှက်ပျော၊ ကြံ၊ အုန်း၊ ပင်လုံးသီးပင်၊ ဝန်းကျင်ရေ ပြည့်အိုးနှင့်၊ မညိုးသပြေ ရွက်ပေ၊ ဒန်းဆတ် သွားတည့်၊ ချရားခက်ဆိုင်၊ စံကားလှိုင်၍ သင်းကြိုင် စေကြောင်းထားမှ၊ ဖြောင့်မမှားသည်၊ တရား၌လိမ္မာ၊ အမတ်၊ သေဋ္ဌေး၊ ဘီ၊ ဘေးရိုးမှန်စွာနှင့်၊ မင်္ဂလာအခါ နက္ခတ်ကောင်း၊ ပညာမြော်မြင်၊ ရေမြေ့ရှင်လည်း၊ ဂုဏ်လျှင်အသိ၊ ဂတိလေးပါး၊ တရားတည်စေကြောင်း တည်း။ ရှေးထုံးဟောင်းကျမ်းအလာ၊ မညီယုတ်တက်၊ ပေါ့ဖျက်မရှိသာခဲ့၊ ကြီးတော့ဇာကျွန်းလုံးမိုး၊ ဘိသိက်ခံပြီး သစ္စာကြီးသည်၊ စောထီးမင်းကောင်းမျိုးတို့၊ ဆိုရိုးရှေးအမှာ၊ ကိုယ်၏အသက်၊ ပုရွက်၊ ခြပုံး၊ နှလုံးမခြားသာတည်း၊ သတ္တဝါကို၊ မေတ္တာထုံခွေရစ်၊ ညွန့်သစ်တက်လေ၊ ကြက်သရေကြောင့်၊ ဖြိုးဝေလူ၊ နတ်ချစ်၏။ လေးပါး အပြစ်ရှင်းရှင်းကွာ၊ ပြည်သူလုပ်ခွန်၊ မလွန်စားတို့ရာသည်၊ မဟာနွယ်မြစ်ဘုန်းပွင့်သစ်။ ။ ရဟန်း=သိက္ခာ၊ မင်းမှာ=

ဘိသိက်၊ သူတော်စိတ်သည်၊ မဘိတ်ကျင့်ရိုး၊ မြတ်အကျိုး။ ။ ဟူ၍ ရေးထုံးဟောင်းစာတမ်းဖြင့် လျှောက်ထားလေသည်။

ယင်းသို့လျှောက်ထားအပ်သော ရေးထုံးဟောင်း စာတမ်းနှင့်အညီ ပြည့်စုံစွာ ဒသရာဇာမင်းခံတော်မူသော ရာဇဘိသေက အခန်းကား၊

ရှေးဘေးလောင်းတော် ဘိုးလောင်းတော် ခမည်းတော် တို့ခံတော်မူသည့်ဘိသိက်နည်း။ နှစ်ဦးအပေါ် ကဆုန်လဆန်း ၁၅ ရက်နေ့၌၎င်း၊ မြေမနာ၊ နေ, လ, နက္ခတ်မပုပ်သောနှစ်၌၎င်း၊ နက္ခတ် မပြိုသောနှစ်၌၎င်း၊ ဘိသိက်ခံမဏ္ဍပ်သုံးဆောင် ဆောက်ရာ ဂင်္ဂါမြစ်နား၌ မြေဖြူ, မြေနီရှိသော သေလောဒကမြေ၌၎င်း၊ ဘုရားကျောင်းမြေလွတ်သော အရပ်၌၎င်း ယင်းသို့သော မင်္ဂလာရှိရာ အဋ္ဌနနဒီမြစ်နား၊ ပရိန်မြို့မှ အရှေ့တောင် ကြက်သရေမင်္ဂလာရှိသော ဂြဟပတိ အရပ်ဝယ်။ (ဤအရာ၌ အဋ္ဌနနဒီဖြစ်ကြောင်း၊ ကြက်သရေရှိသော ဘုမ္မိအရပ်ဝယ်ဟူ၍ အရေးတော်ပုံ၌ ပါသော်လည်း အရေးမှား၍ဖြစ်သည်။ အဋ္ဌနနဒီမြစ်နား၊ ပရိန်မြို့မှ အရှေ့တောင်၊ ဂြဟပတိအရပ်တွင်သာ မင်္ဂလာဘိသိက်ခံ မဏ္ဍပ်ကို ဆောက်သင့်သည်။ မြို့အရှေ့ဘက် ဘုမ္မိ သင်္ချိုင်းအရပ်မှာ ဆောက်လိမ့်မည်မဟုတ်ဖြစ်သောကြောင့် ဂြဟပတိအရပ်ဟု ပျင်ရေးလိုက်သည်။ ဤကား အမှာ)။

မင်္ဂလာပြုမဏ္ဍပ်သုံးဆောင်ဆောက်ရာအရပ်၌ ကလိန်တောင်မြေ၊ အမရာတောင်မြေ၊ အောင်သာမြို့မြေ၊ သိရိဂုတ်တောင်မြေ၊ ကတည္ဗုတောင်မြေ၊ နီလာတောင် မြေ၊ မောရပဗ္ဗတောင်မြေတို့ကိုဆောင်ယူ၍ထားရပေ၏။ မင်္ဂလာဆောက်ရန် သစ်, ဝါး, ကြိမ်တို့ကိုအသည်သားတို့ က ရင်းဖျား မမှားစေရ၊ မှတ်သားခုတ်ယူ၍ ပေးရလေ၏။ အမိုးအရံမှာ ကန့်လန့်ကာ၊ ရွက်ဖျင်တို့ကို တလိုင်း မြောက်စည်သားတို့က ပေးရလေ၏။ ယင်းသို့ သစ်, ဝါး, ကြိမ်နွယ်၊ အမိုးအကာ စုံလင်လတ်လေသော် မင်္ဂလာ ဆောက်ရာအရပ်၌ ရွှေထွန်၊ ငွေထွန်၊ သံထွန်သုံးရပ်တွင် ရွှေထွန်မှာ အမျိုးအရိုးသူဌေးမှန်သူ၏သားသည် ဝါမောင်း သောတန်ဆာကိုဆင်လျက် ထွန်ရလေ၏။ ငွေထွန်မှာ အမျိုးစဉ်ဆက်သူကြွယ်မှန်သော သူ၏သားသည် နီမောင်း သောတန်ဆာကိုဆင်လျက် ထွန်ရလေ၏။ သံထွန်မှာ အမျိုးစဉ်ဆက်ကြီးသော တောင်သူကြီး၏သားသည် စိမ်းသောတန်ဆာကိုဆင်၍ ထွန်ရလေ၏။ ထိုသုံးရပ်သော ထွန်တို့၌သော်ကား နွားလားဥသဘနှင့်ချည်း ထွန်ရလေ ၏။ ယင်းသို့ထွန်၍ပြီးလတ်မူကား နွားနို့ရည်ကို အန့်ဖြန်းရ လေ၏။ ယင်းသို့ ဖြန်းလတ်ပြီးသော် နွားချေးမှုန့်ဖြင့် အန့်ဖျူးရလေ၏။ ယင်းသို့ ဖျူးလတ်ပြီးသော် မုယော, နှမ်း, ပြောင်း, ပဲ, စပါးတို့ကို ကြဲပြန့်ရလေ၏။ ထိုသို့ ကြဲပြန့်ပြီးလျှင် ထောင့်ခြံလုံချုံစွာကာလျက် ဟုန်းနတ်ပူဇော် သော ပုဏ္ဏားတို့က စန္ဒီ, ပရမိသွာ, ပိဿနိုးစသော နတ်တို့ကို လှည်းရထားဖြင့်တင်၍ရာဇမတ္တဏ်ကျမ်းလာ ဂါထာမန္တန်တို့ကို ရွတ်ဘတ်ရလေ၏။ ယင်းသို့ရွတ်လတ် ပြီးသော် ပုရောဟိတ်တဆဲ့နှစ်ပါးအပြည့်၊ ဘုမိစာလ စသောအောင်ခြင်း ရှစ်ပါးအစုံ၊ မင်္ဂလာသုတ်,ရတနသုတ် စသောပရိတ်တို့ကို ရွတ်ရလေ၏။သံဃာတော် တဆဲ့ နှစ်ပါးတို့က ကမ္မဝါစာလည်း ဘတ်ရလေ၏။ ယင်းသို့ ပြုပြီးသော် နတ်ပူဇော်ပုဏ္ဏားတို့က သရဏာသရိရှိန္ဒ ဘုမိစာလ ဂါထာကိုရွတ်လျက် ခရုသင်းသံပေးရလေ၏။ ယင်းသို့ပြီးလတ်မူ မင်္ဂလာမဏ္ဍပ်ဆောက်ရန်၊ သစ်၊ ဝါး၊ ကြိမ်၊ အမိုးအရံ ကန့်လန့်ကာတို့၌ ပရိတ်တော်ရေ ခရုခင်းရေတို့ဖြင့် ဖြန်းစေရ၏။ ယင်းသို့ပြီးမှ ဟူးရားသွေး ပုဏ္ဏားလေးယောက်တို့နှင့် ဟူးရားတတ် ပုဏ္ဏား တရာ့ရှစ်ယောက်တို့သည် ဖြူစင်သောတန်ဆာကို ဆင်လျက် ပနက်ချအခါကိုစောင့်ရ၏။

ပနက်ချသောသူမှာ သဘော်သားတို့ ညီသော တန်ဆာကိုဆင်လျက် ရွှေပနက်ကိုကိုင်ရသည်။ ပရိတ်ရွတ် ပုဏ္ဏားတို့မှာ နီသောတန်ဆာကိုဆင်၍ ငွေပနက်ကိုကိုင်ရ သည်။ လယ်သူကြီးတို့မှာ ပြာသောတန်ဆာကိုဆင်၍ သံပနက်ကို ကိုင်ရသည်။ ထိုသို့စုံလင်စွာနှင့် နေလင့်၍

အခါနာရီညီလျှက် ကောင်းသောအခါ နက္ခတ်ရောက်လတ်သော် မီးပေါက်ခုနစ်လုံးကို ခုနစ်ကြိမ်ပစ်ဖောက်၍ မောင်း၊ ကြေးနှင်း၊ ခွက်ခွင်း၊ ဒုံမင်း၊ ခရုသင်းအသံတို့ဖြင့် တပြိုင်နက်တည်း ချရလေသည်။

ဆောက်သောအခါမူကား အသည်မျိုးသားတို့က ဆောက်လုပ်မိုးကာရသည်။ မဏ္ဍပ်သုံးဆောင်သော်ကား သီဟာသနမဏ္ဍပ်၊ ဂဇာသနမဏ္ဍပ်၊ မောရာသနမဏ္ဍပ်၊ ဟူ၍ သုံးဆောင်တည်း။ သီဟာသနမဏ္ဍပ်၌ ဖြူမောင်းသော တန်ဆာကိုချယ်ရသည်။ ဂဇာသနမဏ္ဍပ်၌ နီမောင်းသော တန်ဆာကိုချယ်ရသည်။ မောရာသနမဏ္ဍပ်၌ ညိုမောင်းသော တန်ဆာကိုချယ်ရသည်။ ယင်းသို့ဆင်ပြီးသောအခါ သီဟာသနမဏ္ဍပ်မှာ ပရိတ်ရွတ်ပုဏ္ဏားတို့က စောင့်ရသည်။ ဂဇာသနမဏ္ဍပ်မှာ သဘော်သားတို့က စောင့်ရသည်။ မောရာသနမဏ္ဍပ်မှာ အသည်သားတို့က စောင့်ရသည်။

ဘိသိက်သွန်းရန်ရေမှာ ဘာဂီရနဒီဂင်္ဂါမြစ်ရေကို ဒါဂါစားက ရွှေအိုးခုနစ်လုံးတို့နှင့်ထည့်၍ ပွဲလမ်းသဘင်အစုံတီးမှုတ်လျှက် ပို့ဆက်လာရသည်။ သတ္တာကောဋိဂင်္ဂါမြစ်ရေကို မောက်သူဇာစားက ထိုနည်းပွဲလမ်းသဘင်နှင့် ပို့ဆက်လာရသည်။ သလ္လာနဒီ ဂင်္ဂါမြစ်ရေကို စစ်တကောင်းစားက ထိုနည်းပွဲလမ်းသဘင်နှင့် ပို့ဆက်လာရသည်။ အရဏဝတီမြေမှာ မြို့သစ်စားက ထိုနည်းပွဲလမ်းသဘင်နှင့် ပို့ဆက်လာရသည်။ ရွက်မညီးပန်းမှာ စိန်တင်စားက ထိုနည်းပွဲလမ်းသဘင်နှင့် ပို့ဆက်လာရသည်။ ဥတ္တရမစု အောင်သာမြို့မြေမှာ မိုးစဲစားက ထိုနည်းပွဲလမ်းသဘင်နှင့် ပို့ဆက်လာရသည်။

ကစ္ဆပနဒီမြစ်ရေ၊ အဉ္ဇနနဒီမြစ်ရေတို့ကိုခပ်မည့်အခါ ကောင်းသောနက္ခတ်ရောက်လတ်သော် အမျိုးအစဉ်နန်းရိုးမှန်သော မင်းသမီးရှစ်ယောက်၊ အမျိုးအရိုးမှန်သော ဘိသိက်မင်္ဂလာမှန်သော ပုဏ္ဏားသမီးရှစ်ယောက်၊ အမျိုးအရိုးမှန်သော အမတ်သမီးရှစ်ယောက်၊ အမျိုးအရိုးမှန်သော သေဌေးသမီးရှစ်ယောက်၊ အမျိုးအရိုးမှန်သော သူကြွယ်သမီး ရှစ်ယောက်တို့သည် ဆန်းကြယ်သော အဝတ်တန်ဆာတို့ကိုဝတ်ဆင်လျက် မင်းသမီးတို့မှာ ရွှေအိုး၊ ပုဏ္ဏားသမီးတို့မှာ မြေအိုး၊ အမတ်သမီးတို့မှာ ငွေအိုး၊ သေဌေးသမီးတို့မှာကြေးအိုး၊ သူကြွယ်သမီးတို့မှာ သံအိုးတို့ကို အစုံအစုံကိုင်လျက် ဘိသိက်ဆက်မင်္ဂလာတော် ပုဏ္ဏားရှစ်ယောက်နှင့် စကြဝတေးလေးယောက်၊ အမတ်ရှစ်ယောက်၊ သေဌေးသူကြွယ်၊ တောင်သူကြီး၊ သင်းတော်မှူး ရှစ်ယောက်စီတူရိယာအစုံအလင်နှင့် သွားလေ၍ မြစ်ဆိပ်သို့ရောက်လေသော် မင်းသမီးတို့သော်ကား ငှက်ဆင်လှေတော်မှာ စီးရသည်။ ပုဏ္ဏားသမီးတို့သော်ကား ရွှေလောင်းလှေတော်မှာစီးရသည်။ သေဌေးသမီးတို့သော်ကား ဗားမဲ့လှေတော်မှာစီးရသည်။ သူကြွယ်သမီးတို့သော်ကား ရှူးကျောင်းလှေတော်မှာစီးရသည်။ ဘိသိက်မင်္ဂလာ ပုဏ္ဏားတို့သော်ကား သတ္တဒါန်လှေတော်မှာ စီးရသည်။ အမတ်ရှစ်ယောက်တို့သော်ကား အားလပ်သော လှေတော်မှာစီးရသည်။ သေဌေး သူကြွယ်တို့သော်ကား ဂျတ်လှေတော်မှာ စီးရသည်။ တောင်သူကြီး၊ သင်းမှူးတို့သော်ကား သရေလှေတော်မှာစီးရသည်။ ယင်းသို့စီရင်ခင်းကျင်းပြီး၍ လှေတော်ထွက်သောအခါ မီးပေါက်ခုနစ်လုံး သုံးချက်စီ ပစ်ဖောက်ရလေသည်။

နတ်ပူဇော်သော ပုဏ္ဏားတို့သည်လည်း ခရုသင်းမှုတ်လျက် လိုက်ရသည်။ စောင်းတီးပုဏ္ဏားတို့သည်လည်း စောင်းတီးလျက် လိုက်ရသည်။ ရေခပ်ယူမည့်အခါ ကောင်းသော နက္ခတ်တိုင်လတ်လျှင် မီးပေါက် ၇ လုံး ၇ ခါ ပစ်ဖောက်၍ အသံဆယ်ပါး တစ်ပြိုင်နက် တီးမှုတ်ကြော်ငြာစေ၍ ခပ်ယူလေသည်။ ခပ်ယူပြီးနောက် ကမ်းသို့ ပြန်လည်ဆိုက်လာလျှင်လည်း မီးပေါက် ၇ လုံး ၃ ချက်စီ ပစ်ဖောက်ပြီးမှ လာရင်းအစဉ်အတိုင်း စီနင်း ဆောင်ရွက်၍ မင်္ဂလာမဏ္ဍပ်သို့ ရောက်လတ်သော် ပန်းတင်ပုဏ္ဏားတို့က ပန်းတို့ကို လမ်းအပြည့်ကြဲ၍ ထားနှင့်ရသည်။ စီရီ ရေခပ်သားတို့ကလည်း ရေဖြင့် လမ်းတစ်လျှောက် ဖြန်းဆွတ်ရလေသည်။ ပရိတ်ရွတ်

ပုဏ္ဏားတို့ကလည်း ပရိတ်ရွတ်၍ နေနှင့်ရသည်။ သီဟာသနမဏ္ဍပ်၌ မင်းသမီးနှင့် ပုဏ္ဏားသမီး ခပ်သောရေ၊ ဂဇာသနမဏ္ဍပ်၌ အမတ်သမီး ခပ်သောရေ၊ မောရာသနမဏ္ဍပ်၌ သူဌေးသမီး သူကြွယ်သမီး ခပ်သောရေတို့ကို တစ်ပြိုင်နက် တည်ထားသောအခါလည်း မီးပေါက် ၇ လုံး ၇ ချက် ပစ်ဖောက်ရလေသည်။

ထိုသို့စီရင်ခင်းကျင်းပြီးလတ်သော် နန်းတော်ကလည်း မင်္ဂလာမဏ္ဍပ်ရောက် နေပြောက်မထိုး ရွှေဖျင်ငွေဖျင်တို့ဖြင့် မိုးကာရ၏။ ထိုလမ်းတလျှောက် လက်ဝဲလက်ယာမှာလည်း ကြံပင်၊ ငှက်ပျောပင်၊ အုန်းပင်တို့ကို စိုက်ရလေသည်။ မင်္ဂလာမဏ္ဍပ်တွင် သီးမျိုးစုံ၊ ပန်းမျိုးစုံတို့ကိုဆွဲရလေ၏။ ငှက်ပျော၊ ကြံ၊ အုန်း၊ ဒန်း၊ ဆတ်သွားပင်၊ သပြေ၊ ထိမ်၊ ကုက္ကို၊ လက်ပံပင်များကိုလည်း မညှိုးမနွမ်းစေရ၊ စိုက်ရလေ၏၊ မြို့တွင်းမြို့ပြင်လမ်းတို့၌လည်း ငှက်ပျော၊ ကြံ၊ အုန်း၊ ဆတ်သွားပင်များကို အသီးအပြည့်နှင့်စိုက်ရလေ၏။ ရေအိုးပြည့်တည်ထားရလေ၏။ နတ်ကြီးရှစ်ပါးကိုလည်း နတ်ဝင်တို့အချိုးပွဲဖြင့် ခင်းကျင်း၍ပွဲပြုရလေ၏။

ယင်းသို့ အလုံးစုံပြီးကုန်လတ်သော် ပြည့်ရှင်မင်းကြီးသည်ကား ဗြဟ္မာမင်းတို့ တန်ဆာကိုဆင်တော်မူ၍ မိဘုရားသော်ကား နတ်မင်းမိဘုရားကဲ့သို့ နတ်တန်ဆာကိုဆင်တော်မူလျက် ဆင်စီး၊ မြင်းစီးတို့မှာလည်း စစ်ဝတ်တန်ဆာကိုဝတ်ဆင်၍ ရှေ့တပ် ၁၂ တပ်မှာ လက်ဝဲအမတ်၊ လက်ယာအမတ် အစဉ်အတိုင်း ရှေ့ဝင်းမှူး၊ လက်ဝဲဝင်းမှူးတို့လိုက်ရသည်။ နောက်ထပ် ၁၂ တပ်မှာလည်း အနောက်မျက်နှာ မှူးမတ်၊ လက်ဝဲ လက်ယာ ဝင်းမှူးတို့လိုက်ရသည်။ အစဉ်အတိုင်း စစ်အင်္ဂါလေးပါးစုံစွာနှင့် မင်းနှင့်မိဘုရားသွားတော်မူသော ပလ္လက်ကြောင်းလမ်း အမိုးတွင်လိုက်ရသည်ကား မင်းကြီးရှေ့လက်ဝဲလက်ယာ ဘိသိက်သွန်းမင်္ဂလာတော် ပုဏ္ဏားအမျိုး ၁၀၀ မှာ လက်ဝဲက စကြဝတေး ၂ ယောက်၊ လက်ယာက စကြဝတေး ၂ ယောက်၊ ပုရောဟိတ်ပုဏ္ဏားအကြီးမှာ နဝရတ်စီသောခရုသင်းကို ရွှေပန်းတောင်းနှင့်ထည့်၍ လက်နှစ်ဖက်စုံလျက် ကောင်းစွာကိုင်၍လိုက်ရသည်။ ဟူးရားတိုင်လေးယောက်နှင့် ဟူးရားတတ်ပုဏ္ဏား ၁၀၀၊ နတ်ပူဇော်ပုဏ္ဏား ၁၀၀၊ စောင်းတီးပုဏ္ဏား ၁၀၀၊ ပရိတ်ရွတ်ပုဏ္ဏား ၁၀၀၊ ပန်းတင်ပုဏ္ဏား ၁၀၀၊ ထိုပုဏ္ဏား ၅၀၀ တို့မှာ ခရုသင်းမှုတ်၍လိုက်ရသည်။ ဘိသိက်သွန်းမင်းသမီးရှစ်ယောက်၊ ပုဏ္ဏားသမီး၊ သေဋ္ဌေးသမီး၊ သူကြွယ်သမီးတို့သည်လည်း ရှစ်ယောက်စီလိုက်ရသည်။ ကောင်းသောအခါ နက္ခတ်ရောက်လတ်လျှင် မြောက်စည်၊ ဒုန်မင်း၊ မောင်း၊ ကြေး နင်း၊ ခွက်ခွင်း၊ ပတ်သာ၊ ခရုသင်း၊ စောင်း၊ ညင်းစသော အသံဆယ်ပါးဖြင့် မြောက်လျှင်စေ၍ မီးပေါက် ၁၅ လုံး၊ ၇ ကြိမ် ပစ်ဖောက်ပြီးသောအခါ၌ နဝရတ်ကိုးပါးစီချယ်ပြီးသော် ရတနာထမ်းစင်၌ မိဘုရားကြီးနှင့်အတူ စီးတော်မူလျက် ထွက်တော်မူလေသည်။

မင်္ဂလာမဏ္ဍပ်သို့ ရောက်တော်မူလျှင်လည်း ထိုနည်းပစ်ဖောက်ရသည်။ ယင်းသောအခါ ပုရောဟိတ်ပုဏ္ဏား ၁၂ ပါးတို့သည် မြတ်စွာဘုရားဟောတော်မူခဲ့သော ပိဋကတ်တော်ကိုဆောင်ယူလာခဲ့၍ သီဟာသနမဏ္ဍပ်၌ ထားရလေ၏။ ဝိနည်းဓိုရ်သံဃာတော်တို့သည် နန်းတော်သို့ဝင်၍ နန်းတော်စွန်းတွင် သံဃာတော် ၁၀၈ ပါးတို့ ပရိတ်တော်ကိုရွတ်လေ၍ နန်းကို ပြည်စိုးကြီးအမတ်က ဆေးရလေသည်။ ပြည့်ရှင်မင်းကြီးလည်း မောရာသနမဏ္ဍပ်၌ ရေချိုးတော်မူ၍ ဂဇာသနမဏ္ဍပ်တွင် ခေါင်းဆေးတော်မူပြီးမှ-

ဗုဒ္ဓဥ္စ ဓမ္မဥ္စ သံဃဥ္စ၊ သရဏံ ဂတော ဥပါသတ္တံ။ မံ ဒေဝ သကျပုတ္တ သာသနေ၊ သဒါ သရဏ မုပေမိ တိ။

ဟူသောဂါထာကို မင်းကြီးရွတ်ဖတ်တော်မူ၍ သီဟာသနမဏ္ဍပ်အလယ်၌ ရွှေအင်းပျဉ်ဖြင့်ပြီးသော ရေသဖန်းပျဉ်ဝယ် ထိုင်တော်မူလေ၏။

ယင်းသို့ထိုင်တော်မူသောအခါ မင်းသမီး ရှစ်ယောက်တို့သည် ဆန်းကြယ်သောတန်ဆာကို ဆင်ကြလျက် မင်းရှေ့တူရူနေ၍ နဝရတ်စီသော လက်ယာရစ်ခရုသင်းကိုကိုင်ပြီးသော် ဂင်္ဂါရေကိုစုံစွာထည့်လျက် လက်နှစ်ဖက်စုံ၍ ကောင်းမွန်ရှိသေစွာ မင်းကြီးဦးခေါင်း၌ စိုက်ရလေ၏။ အရှင်မင်းကြီး၊ ရှေးဦးကမ္ဘာအစ၌ဖြစ်သော မဟာသမ္မတမင်းကောင်း မင်းမြတ်တို့ ကျင့်တော်မူအပ်သော တရားတော်ကို မြဲစွာကျင့်ဆောက်တည်တော်မူပါလော။ အရှင်မင်းကြီး ခပ်သိမ်းသော ပြည်ထောင်မင်းတို့ကို အမျက်မလွန်စေခြင်း၊ ခပ်သိမ်းသောသူတို့ကို ကောင်းချီးမြှောက်စေခြင်း၊ ခပ်သိမ်းသောသူတို့အား ရင်တော်သားအမျှချစ်သနားခြင်း၊ ခပ်သိမ်းသောသူတို့ စီးပွားကိုစောင့်ခြင်း၊ ခပ်သိမ်းသော သူတို့၏အသက်ကို ကိုယ်တော်၏အသက်ကဲ့သို့ ထင်မှတ်ခြင်းပြုတော်မူပါလော။ အရှင်မင်းကြီး လောဘ၊ ဒေါသ၊ မောဟတို့၏ ဝိတ်ပင်ခြင်းကိုကင်းစေ၍ အဝိဇ္ဇာမိုက်မဲသော မောဟတရားကို လင်းတော်မူပါလော။ အရှင်မင်းကြီး ကြက်သရေရှိသောအမှုကိုသာပြုတော်မူခြင်း၊ ကြက်သရေရှိသော စကားကိုသာဆိုတော်မူခြင်း၊ ကြက်သရေရှိသော လုံ့လအကြံကိုသာ ကြံခြင်းတို့ကိုပြုတော်မူပါလော။ ယင်းသို့ စကားကို မင်းသမီးရှစ်ယောက်တို့ဆိုလေ၍ မင်းကြီးထိပ်ထက်၌ ဘိသိက်ရေကို သွန်းကုန်လေ၏။

ထို့နောက်တဖန် ဘိသိက်မင်္ဂလာတော်ရ အမျိုးမွန်သော ပုဏ္ဏားရှစ်ယောက်တို့သည် ဂင်္ဂါရေကို လက်ယာရစ်ခရုသင်း၌ထည့်ပြန်၍လက်နှစ်ဖက်ကိုစုံလျက် ကောင်းမွန်ရှိသေစွာ မင်းကြီးဦးခေါင်း၌စိုက်ပြန်ရလေ၏။ ဣတိပိသော ဘဂဝါစသော ဘုရားဂုဏ်တော်၊ သွာက္ခာတောစသော တရားတော်၏ဂုဏ်တော်၊ သုပ္ပဋိပန္နောစသော သံဃာဂုဏ်တော်တို့ကိုအာရုံပြု၍ သာသနာထွန်းလင်းအောင်ပြုတော်မူပါလော။ အရှင်မင်းကြီး၊ ခပ်သိမ်းသော သတ္တဝါအပေါင်းတို့အား ကိုယ့်သားနှင့်အမျှ ချစ်ခင်ခြင်း၊ ပြည်သူတို့၏ အကျိုးစီးပွားကို ကိုယ်တော်၏ စီးပွားကဲ့သို့ ထောက်ထားစောင့်ရှောက်တော်မူပါလော။ ခပ်သိမ်းသောသတ္တဝါတို့၏ ဇီဝိတိန္ဒြေအသက်ကို ကိုယ်တော်၏ အသက်ကဲ့သို့ စောင့်ရှောက်တော်မူပါလော။ အရှင်မင်းကြီး၊ ခပ်သိမ်းသော ပြည်ထောင်မင်းတို့အား အမျက်မလွန်ခြင်း၊ တရား၌စောင့်ခြင်း၊ ပညာရှိစကားကို နာလွယ်ခြင်း၊ အမျိုးစောင့်ခြင်းများကို အမြဲစောင့်ထိန်းတော်မူပါလော။ ဤသို့သောစကားကို ပုဏ္ဏားတို့ဆိုပြီးသော် မင်းကြီးထိပ်ထက်၌ ဘိသိက်ရေကိုသွန်းလေ၏။

ထို့နောင်မှ အမျိုးအရိုးမွန်သော သူဌေးသူကြွယ် ရှစ်ယောက်စီတို့သည် ခရုသင်း၌ ဂင်္ဂါရေကို ထည့်ပြန်၍ လက်နှစ်ဖက်ကိုစုံလျက်ကောင်းမွန်ရှိသေစွာ မင်းကြီးဦးခေါင်း၌ စိုက်ပြန်လေ၏။ အရှင်မင်းကြီး၊ ခပ်သိမ်းသောသူတို့အား ကိုယ်တော်၏အသက်ကို စောင့်သကဲ့သို့ စောင့်တော်မူပါလော။ အရှင်မင်းကြီး၊ ခပ်သိမ်းသောသူတို့၏ စီးပွားဥစ္စာကို ကိုယ်တော်၏စီးပွားဥစ္စာကဲ့သို့ ထိန်းသိမ်းစောင့်တော်မူခြင်း၊ ပြည်ထောင်မင်းတို့အား အမျက်ကိုမလွန်စေခြင်း၊ ပြည်သူတို့၏ဥစ္စာကို အခွန်ဘဏ္ဍာခံယူရာ၌ တရားတော်နှင့် လျော်ညီအောင် ခံယူတော်မူခြင်း၊ တရားမသိ ပြိန်ဖျင်းမိုက်မဲ သော့သွမ်းကြမ်းကြုတ်သောသူတို့ကို ကြဉ်ရှောင်ခြင်း၊ ပညာရှိသူတော်ကောင်းတို့၏စကားကို နာလွယ်ခြင်းများကို ပြုတော်မူပါလော။ ဤသို့သောစကားကို ဆိုပြီးသော် မင်းကြီးထိပ်ထက်၌ ဘိသိက်ရေကိုသွန်းလေ၏။

ယင်းသို့သွန်းပြီးနောင်မှ သူဌေးသူကြွယ်တို့ ဆိုပြန်သည်ကား အရှင်မင်းကြီး အကျွန်ုပ်တို့သွန်းလောင်းသော ရေစက်ကိုခံတော်မူ၍ အကျွန်ုပ်တို့ဆိုသောစကား အတိုင်း ကျင့်ဆောင်တော်မူ၍ ပြည်သူတို့၏လုပ်ခွန်ဆယ်ဖို့တဖို့ ခံယူစားသုံးတော်မူ၍ မင်း၏စည်းစိမ်ကိုဝန်ခံပြီးသော် ပြည်ကို တရားသဖြင့်စောင့်တော်မူပါလော။ အရှင်မင်းကြီး၊ အကျွန်ုပ်တို့ဆိုသောစကားအတိုင်း ကျင့်တော်မူပါသော်ကား ပစ္စုပ္ပန်၊ သံသရာ၊ နှစ်ဖြာအကျိုး၊ တက်တိုးလေလျက်၊ တက်သစ်သော-နေ၊ ဆန်းသစ်သောလကဲ့သို့၊

တန္ခေတပါး၊ ကြက်သရေတော်ပွင့်လင်း၍၊ ပြည်ထောင်မင်းအပေါင်း၊ ဦးခေါင်းညွတ်လာ၊ သဒ္ဓါပြည့်ဖြိုး၊ သူနိုးဒါးပြ၊ မထချမ်းသာ၊ သာသနာလည်း၊ ကောင်းစွာတည်ပေ၊ စားရေ မရှား၊ မင်းအားပြည်သူ၊ တောင်းဆုယူလျက်၊ အသက်ရာကျော်၊ စံတော်မူရသည်ဖြစ်ပါစေသော။ ။ ယင်းသို့မဟုတ် အကျွန်ုပ်တို့၏စကားအတိုင်းမတည်၊ မင်းကောင်းမင်းမြတ်တို့ဝန်ခံအပ်သော ဘိသိက်သစ္စာပျက်ခဲ့ပါသော် ကမ္ဘာဆူဝေ၊ လေမုန်တိုင်းဆင်၊ ငလျင်တော်လဲ၊ မြေကြီးကွဲ၍၊ ငရဲမီးလျှံ၊ အဝှန်ပြောင်ပြောင်၊ တောက်လောင်ကြေညက်၊ သူပျက်သူလှောင်၊ ထောင်ထောင်ထားထား၊ ခိုးသားတလှော၊ စသည်ထွေထွေ၊ နေ့လတံခွန်၊ ငှက်ပျံငှက်ယုတ်၊ စုန်းဖုတ်တစ္ဆေ၊ နန်းထက်နေ၍၊ မွှေမွှေလှန့်ခြောက်၊ မြွေဟောက် ငန်းကျားတက်၍ စားသည်ဖြစ်စေသော၊ ဤသို့ဆိုလတ်သော် ပြည့်ရှင်မင်းကြီးကလည်း သာသနာတော် အညစ်အကြေးမှတပါး ပြည်သူသတ္တဝါတို့အား အသက်ဇီဝိတ်ခြွေကို ခွင့်ပေးတော်မူရလေသည်။ ယင်းသို့ပြုဖျင်စီရင်ပြီးသော် လာတော်မူရင်းအတိုင်း အစီအစဉ်နှင့် ဝင်တော်မူခဲ့လေသည်။ မဏ္ဍပ်သုံးဆောင်ကိုမူကား တစမကျန် အဋ္ဌနနဒီမြစ်သို့ ချမျှောလိုက်ရလေသည်။

ထိုသို့ ကြီးကျယ်ခမ်းနားစွာဖြင့် ရှေးဘေးလောင်းတော်၊ ဘိုးလောင်းတော်၊ ခမည်းတော်စသော မင်းကောင်းမင်းမြတ်တို့၏ ဘိသိက်ခံတော်မူသော နည်းလမ်းအတိုင်း ဘိသိက်ခံတော်မူ၍ ငါးလရှိသောအခါ ဖျားကြီးတအုံသည် အနောက်အရပ်ကပျံလာ၍ ရာဇပလ္လင်၌မြောက်ဘက်နားက စွဲလေသည်။ ထိုပျားရည်ရင့်လတ်သော် အရည်ကိုမစုပ်ဘဲထားခဲ့လျက် မြောက်သို့ပျံလေရာ ထိုနိမိတ်ကို အမတ် မောက်သူဇာမြို့စား ကဝိကျော်လျှောက်သော ထုံးသော်ကား။ အရှင်မင်းမြတ်၊ ဘေးတော် စန္ဒသူရိယမင်းမြတ်လက်ထက် မြတ်စွာဘုရား မဇ္ဈိမဒေသက ကောင်းကင်ခရီးဖြင့်ကြွတော်မူ၍ မဟာမုနိရုပ်ရှင်တော်ကို သွန်းလုပ်ပါသည်။ ကောဇာသက္ကရာဇ် ၄၆၅ တွင် ပုဂံပြည်မင်း အလောင်းစည်သူက ဘီတော်လက်ယာမင်းနန်ကို နန်းတင်လာသော ပြုတလိုင်းတို့ပင့်၍မရသော် ဖိုကျင့်ထိုးလေရာ ရုပ်ရှင်တော်ကွယ်လေ၍ မင်းငါးဆက်မြောက်ကွယ်ပျောက်ရှိပါသည်။ ယခုအရှင် မင်းမြတ် ဘုန်းပညာကြက်သရေ တရားသီလဂုဏ်တော်ကြောင့် ပျားတို့သည် ပန်းဝတ်၌ရှိသော အချိုအရသာမြတ်ကိုဆောင်ယူဆက်သ၍ မြောက်သို့ပျံလေသည်မှာ ပျားညွှန်ရာအရပ်၌ ရုပ်ရှင်တော်မဟာမုနိရှိသည်အမှန်ဖြစ်ပါသည်။ လျှောက်လေသော် ပြည့်ရှင်မင်းက အမတ်ကြီး ဆင်ကဲနှင့် ဒါးပိုင်ကြီး နှစ်ယောက်ကိုစေတော်မူ၍ရှာစေသော် ရုပ်ရှင်တော်ကို မြောက်အရပ်၌တွေ့လေ၍ ပင့်ဆောင်ယူခဲ့ပြီးလျှင် အထက်စန္ဒသူရိယမင်း ကိုးကွယ်တော်မူခဲ့ရင်းဖြစ်သော ကတညုတတောင်တွင် ကောင်းမွန်စွာ ရတနာခုနစ်ပါးဖြင့်ချယ်၍ သိမ်တော်ဆောက်လုပ်ပြီးမှ နဝရတ်ကိုးပါးဖြင့် စီချယ်သောပလ္လင်တော်၌ တင်ထားတော်မူ၍ အရန်ကျောင်း ၁၀၀ ဆောက်လုပ်တော်မူသည်။ ခေါင်းဆေးတော်ကန်၊ လက်ဆေးတော်ကန်၊ မဟာရံတံတိုင်းသုံးထပ်၊ တံခါးလေးရပ်၊ အစောင့်အနေ၊ ဆွမ်းတင်စေတီ၊ မျက်နှာကော်သုတ်၊ တံခွန်ဆွဲ၊ တံမြက်ခတ်၊ ကျီးနှင်၊ စာခြောက်၊ ပြု ၁၀၀၀၊ မြံု ၅၀၀၊ ချင်း ၅၀၀၊ လူပေါင်း လေးထောင်ကို အသီးသီးစားမြေ၊ နေမြေ၊ ပေးချေတော်မူ၍ မော်ကွန်းကျောက်စာထိုးလျက် ရွှေကရားနှင့် ရေစက်သွန်းချ လှူတော်မူသည်။

ထိုမင်းသက်တော် ၂၀ တွင် အနောက်ဘင်္ဂါကုလား ၁၂ မြို့တို့သည် သက်နှင့်ပေါင်းလျက် သောင်းကြမ်းလေရာ အမတ်ကိုယ်ရံကြီး ဖေယျမိုလ်ကို ချီစေသည်ကာလတပ်ဦးတွင် ကြိုးကြာငှက်သည် သရေတခုချီ၍ ပျံဝဲလာရာငှက်နှင့်သရေကို ဖမ်းမိ၍ရလေလျှင် မင်းထံဆက်လာသည်။ ထိုနိမိတ်ကို အမတ်ပညာရှိ ကဝိကျော်လျှောက်ထုံးသော်ကား။ တပ်ဦးတွင်မြင်သော နိမိတ်၊ တိတ်ရအလို၊ ထိုငှက်ကြိုးကြာ၊ နံမှာကုလား၊ မှောက်မှားရှောချက်၊ သက်ကား-သရေ၊ မိတ်ဆွေပြု

လျက်၊ ခြားနားချက်မှာ၊ တိတ်အလာပေ၊ သရေနှင့်ငှက်၊ ပျိုလျက်မလွတ်၊ ကိုင်းညွှတ်တုံလာ၊ ချင်းအစာလည်း၊ မကွာစုံဖက်၊ ပို့ဆက်လာပြန်၊ ထိုကျွန်နှစ်ပါး၊ ကုလားနှင့်သက်၊ ငှက်နှင့်သရေ၊ အနေမယွင်း၊ ချက်ချင်းမကြာ၊ အောင်မြင်ပါမည်။ လျှောက်လေသော် အမတ်ကြီးသို့ ဆင်ပေါက်တစီး ဆုပေးတော်မူလေသည်။

ထိုမင်း အသက် ၃၁ နှစ်ရောက်သောအခါ မဟာမုနိဘုရားမှာ ချွေးထွက်တော်မူသည်။ အချို့မဟုတ်မိုးရွာစွေ၍ မြစ်ရေကြီးသည်။ မိုးကြိုးနန်းမှာကျသည်။ ယင်းသို့ တိတ်နိမိတ်မြင်လတ်ရာ ပညာရှိပုရောဟိတ်ပုဏ္ဏားရာဇဂုရု လျှောက်သောထုံးသော်ကား အရှင်မင်းမြတ် တိတ်ထုံမှတ်စု၊ ဣဿူအမှာ၊ စူဠာမုနိ၊ အသီတိကျမ်း၊ ဓာတ်ဆန်းဓာတ်ပျက်၊ နရစက်နှင့်၊ ဂြိုဟ်ပျက်ဒသာ၊ ဒွါဒရာရုပ်၊ ဥစ်ကသစ်ဘက်၊ စန်းလက်မလျော်၊ ဓာတာတော်လည်း၊ နံပေါ်ကိန်းစု၊ ရာဟုမရဏ၊ အထွက်ကကြုံ၊ နဝင်းတုံလည်း၊ ကုံသို့အလှမ်း၊ အာယုစန်းမူ၊ ကူးသန်းနင်းပြန်၊ သတ္တန်ထောင့်ခပ်၊ သမာသတ်ခွင်၊ လက်တွင်နံနေ၊ ဂြိုဟ်ရှစ်ထွေလည်း၊ အနေမလှ၊ အာကာသက၊ ပြသည့်အကြောင်း၊ ဂြိုဟ်ပြောင်းလည်းကြိမ်၊ စည်းစိမ်တော်မြတ်၊ နန်းပြသာဒ်နှင့်၊ ဥပဒ်ကြီးဘိ၊ အနိဝဏ္ဏ၊ ကိန်းကအတွေ့၊ မလွေ့ကြိုက်တုံ၊ နယုန်ဆန်းတက်၊ ဆဲ့တရက်တွင်၊ ဂြိုဟ်ပျက်အကူး၊ စန်းဦးအပြတ်၊ နဝရတ်ရွှေဘုံ၊ ကွာကိန်းကြုံပါသည်ဟူ၍ ရှေးပညာရှိများထားခဲ့သောဒဏ္ဍာနီကာယ်ကျမ်းထွက်ရှိပါကြောင်းနှင့် ပုရောဟိတ်ပုဏ္ဏားလျှောက်ထား သံတော်ဦးတင်လေသော် ပုဏ္ဏားတော်သို့ သပြာတထောင် ဆုပေးတော်မူလေသည်ဟူ၍ ဆိုလေသည်။

(ဤသည်ကား ဓညဝတီအရေးတော်ပုံ၌လာသော ဒသရာဇာမင်းအကြောင်းတည်း။ ဤဓညဝတီအရေးတော်ပုံ၌ ဆယ်နှစ်တွင်ထီးနန်းတက်၍ ဒသရာဇာအမည်ခံ ကြောင်းမျှသာဆိုသည်။ နန်းတက်သက္ကရာဇ်တို့ကို မဆိုလေ။ သက်တော် ၄၅ နှစ်တွင် လွန်တော်မူဟန်ဆိုသည်။ ရာဟုမရဏအထွက်ကကြုံဟူသည်ကို ထောက်လျှင် ၃၁ တွင် ကြာသပတေးသားဖြစ်၍ ရာဟုမရဏဂြိုဟ်အထွက်ကို လွန်တော်မူသည်ဟု ယူသင့်သည်။ သက္ကရာဇ် ၄၈၀ တွင် ပုဂံပြည်ရှင် အလောင်းစည်သူက ဘီတော်မင်းနန်ကို နန်းတင်စေလာသော ပြူတလိုင်းတို့ ဖိုကျင့်ထိုး၍ မဟာမုနိရုပ်ရှင်တော်ကွယ်ပျောက်၍ မင်း ၅ ဆက်တိုင်အောင်ရှာလေသည်။ ရှာဖွေလျက်စန္ဒသူရိယမင်း ကိုးကွယ်ရင်းအရပ် ကတည္တတောင်တွင် ထပ်မံတည်ထား ကိုးကွယ်ကြောင်းနှင့် ဆိုသောအချက်သည် ရာဇဝင်ဟောင်းတို့နှင့် မညီလေ။ ဤသည်ကား စကားချပ်)။

ထိုဒသရာဇာမင်း နတ်ရွာစံတော်မူလေလျှင် သားတော် အနန္တသီရိသည် မျောက်သားတော် သမာဓိနှင့် သက္ကရာဇ် ၅၀၁ ခုတွင် ထီးနန်းစည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းသည် ဘိုးတော်၊ ခမည်းတော်တို့၏ တိုင်းနိုင်ငံကျယ်ဝန်းသဖြင့် အာသဘမြောက်သည်ကို အကြောင်းပြု၍ ခပ်သိမ်းသောတိုင်းနိုင်ငံသူတို့အား နှိပ်စက်ခြင်းကိုပြု၍ ရေခွန်၊ ဆိပ်ခွန်တို့ကိုလည်း အလွန်ကောက်ခံခြင်းပြု၏။ ဘိုးဘတို့လက်ထက်ပိုင်လေသော မင်းတို့ကိုလည်း သိမ်းမြန်းပိုက်ထုပ်ခြင်းမတတ်၍ ပျက်ပြားကွဲပြိုလေသည်။ ထိုသို့ပျက်ပြားကွဲပြိုလေသည်ကို စစ်မက်ပြုချေသော်လည်း ပြည်သူရွာသားတို့ကို နှိပ်နင်းကလူပြုခြင်းကြောင့် မညီမညွတ်ကြ၍ မင်းအမူကို ကြိုးပမ်း၍ မထမ်းကုန်ကြလိုသည်ဖြစ်၍ စစ်မက်ပျက်ပြားချေသည်သာဖြစ်၍ တိုင်းကားနိုင်ငံအလုံးတို့သည် တပြည်မကြွင်းလက်လွတ်လေကုန်၏။ နောင်သံသရာအဘို့ကိုလည်း မဆည်းပူး၊ ရှင်မြူးပျော်ပါး၍ သာနေသည်ဖြစ်သောကြောင့် ပြည်သူတို့ကား ထိပ်ထက် မီးစုသကဲ့သို့ ထင်ကုန်၏။ ထိုမင်းကားအိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော်၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၅၀၄ ခုတွင် မှူးမတ်ပြည်သူတို့နှင့် ညီညွတ်လျက် အမတ်သေ်တိုင်လုပ်ကြံ၍လွန်တော်မူလေသည်။ ၂။

ထိုမင်းလွန်တော်မူလေလျှင် ပြည်သူမှူးမတ်တို့ ညီညွတ်၍ ထိုမင်း၏ညီတော် မင်းဖုန်းစားကို မရီးတော် သမာဓိနှင့်ပင် သက္ကရာဇ် ၅၀၄ ခုတွင် ဘိသိက်သွန်း၍ မင်းအဖြစ်ကိုအပ်နှင်းကြသဖြင့် နောင်တော်၏စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် မင်းဖုန်းစားဟူ၍ တွင်သည်မှာကား နောင်တော်အနန္တသီရိသည် မကောင်းစွာ ကျင့်၍နေသည်ကို ကြောက်လှသောကြောင့် စည်းစိမ်းချမ်းသာကိုပစ်ပြီးသော် သင်းပိုင်သင်္ကန်းကိုဝတ်၍ တောင်းရမ်း လျက်စားနေလေသောကြောင့် မင်းဖုန်းစား ဟုတွင်သတည်း။ ထိုမင်းကား ပရိန်မြို့သည် သုဦးလတ် ပြီဟု ထိုမြို့မှခွာ၍ ခြိပ်ရှောင်းဖျားဦခြိပ်မြို့ကိုတည်လေ၏။ ထိုမင်းကား နောင်တော်အနန္တသီရိသည်မကောင်းသဖြင့် ပြည်သူတို့ကို နှိပ်စက်ညှင်းဆဲခြင်းကိုသိသောကြောင့် ပြည်သူတို့အား ရင်တော်သားကဲ့သို့ ကြင်နာစုံမက်သိမ်းမြန်း စိုးအုပ်တော်မူလေ၏။ ပြည်သူတို့၏ အတုတ်အခွန်တို့ကို လည်း လျော့ညံ့စွာညှာတာ၍ ကောက်ခံတော်မူ၏။ ပြည်သူပြည်သား ဝပြောသာယာရှိသည်ဖြစ်၍ အလွန် မြတ်နိုး ချစ်ခင်ကြကုန်၏။

ထိုမင်းလက်ထက်ဝယ် တောင်သူနောကြီးသည် ခရီးညွန့်ပြုလျက် သုံးသိန်းသောသျှမ်းတို့နှင့် စစ်ပြုအံ့ဟု လာသည်ကိုကြားလေလျှင် ထိုမင်းဖုန်းစားသည် များမြောင်စွာသော မိုလ်ပါရဲမက်တို့နှင့် အဥ္စနနဒီမြစ်ကို ဆန်လေ၍ တောင်ကြီးတလုံးထက်တက်လေ၍ တိုက်နှင် လေသော် ထိုသျှမ်းသုံးသိန်းတို့ကရောက်ကပါး ပျက်ပြား လေကုန်၏။ ယင်းတောင်ကို သျှမ်းတောင်ဟု ယနေ့တိုင် အောင်ခေါ်လေ၏။

ထိုမင်းသည် သျှမ်းပြည်တိုင်အောင် လိုက်လေ ၏။ ကလေး၊ မိုးညှင်း၊ မိုးကောင်း၊ ဤသုံးမြို့ကိုလည်း ရချေ၏။ မင်းဆွေမင်းသားစသော ပြည်သူတို့ကို ကြဉ်းဆောင်၍ယူခဲ့ရာဝယ် ကြွင်းကျန်သည့်သျှမ်းတို့ကား အကြည်ကဆီး၍ တိုက်ပြန်လေ၏။ သုံးစုနှစ်စုသော သျှမ်းတို့သည် လွတ်ပြန်လေ၏။ တစုကားပါလတ်၏။ ထိုပါလာသော သျှမ်းတစုကို ရွာတည်၍ပေးလေလျှင် သိမ်း၍ပါလာသောကြောင့် ယင်းရွာကို သိမ်းကပါရွာဟု ခေါ်လေ၏။ မင်းမစ၍တည်သောရွာကို မင်းမရွာဟု ခေါ်လေ၏။ ထိုမင်းကား အိမ်နိမ့် ၂၅၊ နှစ်ဆုံ ငါးနှစ်၊ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၃၂၊ သုံးဆုံ နှစ်နှစ်။ သက္ကရာဇ် ၅၁၁ တွင်လွန်တော်မူလေ၏။ ၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ပဥ္စကာလစက်သည် မင်းစည်ဖြူဟူသော မင်းသမီးနှင့် သက္ကရာဇ် ၅၁၁ တွင် ခမည်းတော်ရိပ်ရာဖြစ်သော ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ပြည်၏စီးပွားကို ရှက်ဆောင်တော်မူ၏။ ဒါန,သီလ, စာဂနှင့်လည်း ပြည့်စုံတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆုံခြောက်နှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၈၊ နှစ်ဆုံရှစ်နှစ်။ သက္ကရာဇ် ၅၁၃တွင် လွန်တော် မူလေသည်။၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ခနရွှေပေါ် မင်းသည် မင်းသမီးကလျာပုံနှင့် သက္ကရာဇ် ၅၁၃ တွင် တိုင်းပြည်ထီးနန်းကို စိုးအုပ်တော်မူလေ၏။ ထိုမင်းလည်း ပြည်သူစီးပွားချမ်းသာကို ရှက်ဆောင်တော်မူ၏။ ဒါန, သီလ, စာဂတရားတို့၌ များစွာအားထုတ်မွေ့လျော် တော်မူ၏။ ထိုမင်းတွင် ပုဏ္ဏသင်ဟူသော သားတော် လည်းတယောက်၊ မဥ္ဇုသင်ဟူသော သားတော်လည်း တယောက်၊ ရွှေစင်ပြောင်ဟူသော သမီးတော်လည်း တယောက်အားဖြင့် သုံးယောက်ရှိတော်မူ၏။ ထိုခနရွှေပေါ် မင်းသည် ခြိပ်မြို့တွင် သုံးနှစ်ခန့်ရှိလျှင် ဆင်မြင်းမိုလ်ပါတို့ ဖျားနာသေပျောက်ကြသည်ဖြစ်၍ ခြိပ်မြို့ကိန်းခန်းကုန်ပြီဟု ထွက်ခွာခဲ့၍ စမ္ပဝက်မြို့ကိုသက္ကရာဇ် ၅၁၆ တွင် တည်ထောင်ပြုစုလေ၏။ တည်ထောင်ပြုစုနေပြီးနောက် ခြောက်နှစ်မြောက်လျှင် အမတ်စလင်္ကာမိုလ်ပုန်ကန်၍ အိမ်နိမ့် ၂၂၊ နှစ်ဆုံနှစ်နှစ်။ နန်းစံ ၉၊ ကိုးနှစ်၊ နှစ်စု သက်တော် ၃၁၊ သုံးဆုံတနှစ်။ သက္ကရာဇ် ၅၂၂ တွင် လွန်တော်မူလေသည်။၅။

ထိုမင်းလွန်တော်မူလေလျှင် အမတ်စလကာံဗိုလ်သည် မင်းမှု၍မကြာမြင့်ခင်လျှင် ပြည်သူတို့အား အကောက်အခွန်ကို သစ်တပင်မျှမလွတ်ရအောင် ကောက်ယူလေသောကြောင့်၎င်း၊ တိုင်းပြည်တွင် သက်ကြီးမိဘ စသောသူတို့ကို ညှင်းပန်းကလူပြုသောကြောင့်၎င်း၊ မှူးမတ်ပြည်သူတို့သည် ညီညွတ်လျက် နန်းတက်၍တနှစ်အတွင်း ပုန်စား၍လွန်လေသည်။၁။

ထိုစလကာံဗိုလ်မင်း လွန်လေလျှင် မှူးမတ်ပြည်သူတို့သည် ညီညွတ်လျက် ဓနရူပေါမင်း၏ နန်းရိုးသားတော်မဥ္ဇူသင်ကို နမတော်ရွှေစင်ပြောင်နှင့် သက္ကရာဇ် ၅၂၃ ခုတွင် နန်းတင်တော်မူကြလေ၏။ ထိုမင်းကို တိုင်းသူပြည်သားတို့ ချစ်ခင်မြတ်နိုးသည်ဖြစ်၍ တိုင်းချစ်မင်းဟူ၍ ခေါ်ကြလေကုန်၏။ ထိုတိုင်းချစ်မင်းသည် စမ္မဝက်မြို့ကား ပျက်စီးဖန်များလေပြီဟု သက္ကရာဇ် ၅၂၅ ခုတွင် စမ္မဝက်မြို့မှထွက်ခဲ့၍ မြို့ဟောင်းတောင်ငူ၌ ဝါးတပ်မြို့ပြုလုပ်၍ နေတော်မူလာ၏။ ထိုမင်းကား လက်ရုံးဘုန်းတန်ခိုးတို့သည် တောက်ပစွာ၏။ အမတ်တထောင်မြောက်၏။ ထိုသို့ဖြစ်၍ နိုင်ငံချဲ့လေရာဝယ် ရန်သူမည်သည်မရှိ။ ရန်မူသဖြင့် ခံလင့်သောသူတို့သည် မီးတွင်ဖယောင်းကျဘိသကဲ့သို့ဖြစ်လေကုန်၏။ အရှေ့၊ အနောက်၊ တောင်၊ မြောက်တို့၌ များစွာသော နိုင်ငံတို့သည် ထိုမင်း၏လက်ဝင်ဖြစ်ကုန်၏။ အရှေ့ဘက်၌ မိုးညင်း၊ အုန်းဘောင်၊ ရပ်စောက်၊ ညောင်ရွှေတိုင်အောင် ပိုင်လေ၏။ တောင်ဘက်သို့လည်း တလိုင်းပြည်၊ ယွန်းပြည်၊ ယိုးဒယားပြည်၊ လင်းဇင်းပြည်တိုင်အောင် ပိုင်လေ၏။ အနောက်ဘက်သို့လည်း သူရတန်ပြည်ထိ အနောက်တရိုးကိုပိုင်လေ၏။ မြောက်အရပ်သို့လည်း မြို့ပြည်၊ သက်ပြည်၊ ဟစ်ရုံပြည်တိုင်အောင်ပိုင်လေ၏။ ထိုမင်းပိုင်တော်မူသော နိုင်ငံတော်အတွင်း၌ ဘုရားစေတီ၊ ပုထိုး၊ ရေတွင်း၊ ရေကန်၊ စကြံ၊ တံတားတို့ကိုလည်း တည်ထား ပြုလုပ်တော်မူစေ၏။

ထိုသို့ တည်ထားပြုလုပ်စေတော်မူသောကောင်းမှုကို ရခိုင်မင်းကောင်းမှုဟူ၍ ကမ္ဘည်းကျောက်စာ တည်ထား စိုက်ထိုးတော်မူစေ၏။ ထိုမင်း၏လက်ဝင်ဖြစ်သော မင်းတို့သည် လက်ဆောင်ပဏ္ဏာ သမီးကညာ ရတနာဆင်မြင်း ပေးသွင်းဆက်သရကုန်၏။ ထိုမင်းကား ဒါန၊ သီလ၊ စာဂတရား၌ပြန့်ပွားစွာဖြစ်တော်မူလျက် မဟာမုနိရုပ်ပွားတော်မြတ်အား မပြတ်ဆည်းကပ်ကိုးကွယ်လျက် ဓာတ်တော်မွေတော်အပေါင်းတို့ကို ကောင်းမြတ်သောစေတနာဖြင့် သဒ္ဓါမြတ်နိုးခြင်းလည်း ရှိတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်၊ နန်းစံ ၅၊ ငါးနှစ်၊ နှစ်စုသက်တော် ၃၁၊ သုံးဆဲ့တနှစ်၊ သက္ကရာဇ် ၅၂၈ ခုတွင် လွန်တော်မူလေသည်။ ၆။

ထိုမင်းလွန်တော်မူလေလျှင် သားတော်ဂရမ်မင်းသည် နမတော်ဂဏ္ဍာဒေဝီနှင့် သက္ကရာဇ် ၅၂၈ ခုတွင်ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်း၏နိုင်ငံတော်သည်လည်း ခမည်းတော်လက်ထက် တိုင်းနိုင်ငံကဲ့သို့ ကျယ်ဝန်းလေ၏။ ထိုမင်းသည် အစွမ်းခွန်အားနှင့်လည်း ပြည့်စုံ၏။ ဆင်စီး မြင်းစီးအတတ်၌လည်းလေ့လာ၏။ ရတနာသုံးပါး၌လည်း ကြည်ညိုစွာ၏ ဘုရားရုပ်ပွားတော်၊ ဆင်းတုတော်၊ ရေတွင်း၊ ရေကန်တို့ကိုလည်း တည်ထား ပြုစုလုပ်ဆောင်တော်မူ၏။ ပြည်သူပြည်သား စီးပွား ချမ်းသာကိုလည်းမမေ့မလျော့ ရှာမှီးရွက်ဆောင်တော်မူ၏။ ရဟန်းသံဃာတို့အားလည်း အလှူဒါနနိစ္စမပြတ် ပေးလှူစွန့်ကြဲတော်မူ၏။ ဤသို့ပေးလှူစွန့်ကြဲခြင်း၊ ရိုသေမြတ်နိုးခြင်းတို့၌ မမေ့လျော့တတ်သောကြောင့် ဂရမ်ဟူ၍ တွင်ပေ၏။ ထိုမင်းကားအိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၅၃၀ တွင် လွန်တော်မူလေသည်။ ၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းပုဂံသည် မျောက်သားတော်ရောင်လှမယ်နှင့် သက္ကရာဇ် ၅၃၀တွင် အာဘစည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ ထိုမင်းကား သန်လျက်၊ လေး၊ မြားအတတ်ကို လေ့လာ

တော်မူ၏။ အစွမ်းခွန်အားနှင့် လည်းပြည့်စုံ၏။ ခမည်းတော်၊ မယ်တော်တို့သည် ပုဂံချောင်းနားသို့ တောကစားသွားရာတွင် ဖွားမြင်တော်မူသောကြောင့် မင်းပုဂံဟုတွင်၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့ နှစ်နှစ်။ သက္ကရာဇ် ၅၃၂ ခုတွင်လွန်တော်မူလေသည်။ ၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဧရကျွိုင်မင်းသည် မိဘုရားရောင်ဆင်းနနှင့် သက္ကရာဇ် ၅၃၂ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်း၏ ခမည်းတော် မယ်တော်တို့သည် ရကျွိုက်တောင်သို့ တောကစားသွားရာတွင် ဖွားမြင်တော်မူသောကြောင့် ဧရကျွိုင်မင်းဟု တွင်၏။ ထိုမင်းအိမ်နိမ့် ၁၆၊ တဆဲ့ခြောက်နှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၁၉၊ တဆဲ့ကိုးနှစ်။ သက္ကရာဇ် ၅၃၅ ခုတွင် လွန်တော်မူလေသည်။၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် မင်းကြေှုသည် စောသမ္ဘာဟူသော မိဘုရားနှင့် သက္ကရာဇ် ၅၃၅ တွင် မင်းစည်းစိမ်ကိုခံစားတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၃၊ တဆဲ့သုံးနှစ်။ နန်းစံ ၁၂၊ တဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၅၄၇ တွင် လွန်တော်မူလေသည်။ ၁၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းဆူသည် မျောက်သားတော် ရွှေအိမ်ရှင်နှင့်သက္ကရာဇ် ၅၄၇ တွင် မင်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ရတနာသုံးပါးကို အလွန်ကြည်ညို၏။ လေးမျက်နှာ၌ အမတ်လေးပါးကို အမှုထား၍ မဏ္ဍပ်ကနားနှင့် တစ်နေ့လျှင် လေးထောင်စီလှူဒါန်းတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တစ်ဆဲ့ကိုးနှစ်။ နန်းစံ ၅၊ ငါးနှစ်။ နန်းစု ၂၄၊ နှစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၅၅၂ ခုတွင် လွန်တော်မူ၏။၁၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ငရွှေသင်သည် မျောက်သားတော် သီရိမာနှင့် သက္ကရာဇ် ၅၅၂ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူ၏။ ထိုမင်းကား ကခြင်း၊ သီခြင်း၊ စည်၊ စောင်း၊ ငြင်းနှင့် သာ ပျော်မြူး၍ ကုသိုလ်ကောင်းမှု၌ မေ့လျော့လေ၏။ ပြည်သူတို့၏ စည်းစိမ်ကို မစောင့်ရှောက်။ ရှေးမင်းရိုးမင်းကောင်းတို့ အသုံးအစွဲပြုအပ်သော မွေသတ်ကျမ်းကို အပပြု၍ ရေခွန်၊ ဆိပ်ခွန်၊ ကင်းခွန်တို့ကိုလည်း ရှေးမင်းတို့ထက် တိုးကဲ၍ ကောက်ယူတော်မူ၏။ ထိုသို့ ကောက်ယူခြင်းကြောင့် ပြည်သူတကာတို့သည် မျက်ကွယ် မျက်မြင် ဆဲရေး မုန်းတားမျက်လိုကုန်သောကြောင့် ပြည်ကိုစောင့်သော နတ်တို့လည်း မုန်းတားကုန်သည်ဖြစ်၍ ပြည်ရွာ စနှောင့် စနင်းဖြစ်လေ၏။ ထိုမင်းကား အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၂၁၊ နှစ်ဆဲ့တနှစ်။ သက္ကရာဇ် ၅၅၅ ခုတွင် လွန်တော်မူလေသည်။ ၁၂။

ထိုမင်းလွန်တော်မူလေလျှင် ညီတော်ဖြစ်သော မင်းခေါင်ကြီးသည် မျောက်သားတော် စောပျို့နှင့် သက္ကရာဇ် ၅၅၅ ခုတွင် တိုင်းပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ရတနာသုံးပါးသို့မဆည်းကပ်။ ကောင်းမှုကုသိုလ်ကိုလည်းမပြု။ လူပျက်လူလေနှင့်သာ ပေါင်းဘော်၍ သားငါးလိုက်ခြင်းနှင့်သာမွေ့လျော်၏။ အမျက်စောင်မာန်လည်း ကြီး၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်၊ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၅၆၁ ခုတွင် လွန်တော်မူလေ၏။၁၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းခေါင်ငယ်သည် မိဘုရားဥဇျိုင်းဖြူနှင့် သက္ကရာဇ် ၅၆၁ ခုတွင် ထီးနန်းစည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ ထိုမင်းလည်း ရတနာသုံးပါး၌ ကြည်ညိုခြင်းမရှိ။ ကြမ်းကြုတ်ခက်ထန်စွာရှိ၏။ သေစာကြူး၏။ ပြည်သူစီးပွားကိုဆောင်မည်ထားဘိ၊ မင်းနေမြို့တော်မှစ၍ ရွာကြီးရွာငယ်တို့တွင် သူဌေးသူကြွယ်တို့ကို ဖျက်ဆီးဖြုတ်ထိမ်၍ ပစ္စည်းဥစ္စာတို့ကို သိမ်းယူလျက် သူ့သမီး၊ သူ့မယားတို့ကို မတရား

သဖြင့် သိမ်းယူလေ၏။ အရောင်အဆင်းနှင့်ပြည့်စုံသော သူမယား သူ့သမီးတို့ကိုလည်း ယူငင်သိမ်းပိုက်လေ၏။ ရုပ်တု တော်, စေတီတော်, ပုထိုးတော်စသည်တို့ကိုရင်း၊ ရဟန်းသံဃာ အရိယာသူတော်ကောင်းတို့ကိုရင်း၊ မရှိမသေ မချီးမမြှောက်သောကြောင့် သာသနာတော်အရောင်သည် အလွန်ညှိုးလေ၏။ ထိုမင်းကို မှူးမတ်ပြည်သူတို့သည် အဆိပ်ထန်သော မြွေနဂါးကိုကဲ့သို့ ကြောက်ရွံ့တုန်လှုပ်ကြကုန်၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၅၊ ငါးနှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၅၆၆ ခုတွင် လွန်တော်မူလေသည်။၁၄။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကမ္ဘာလောင်ကြီးသည် မိဘုရားရှင်လှကြီးနှင့် သက္ကရာဇ် ၅၆၆ ခုတွင် ပြည်စည်းစိမ်ကိုအုပ်စိုးတော်မူလေ၏။ ထိုမင်းသည် အမျက်စောင်မာန်ခက်ထန်၏။ ကြမ်းကြုတ်စွာ၏။ ပြည်သူပြည်သားတို့ကို ညှင်းပန်းနှိပ်စက်ပြု၏။ ရတနာသုံးပါးကိုလည်း မကြည်ညို၊ အလှူသီတင်းလည်းကင်း၏။ ပြည်သူတို့၏ တုတ်ခွန်ကိုလည်း ညှာတာခြင်းမရှိ၊ ကောက်ယူ၏။ ပြည်သူတို့သည်ထိပ်ထက်၌ မီးကျဘိသကဲ့သို့ ရှိကုန်၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်၊ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၅၇၂ ခုတွင်လွန်တော်မူလေ၏။၁၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ကမ္ဘာလောင်ငယ်သည် မိဘုရားစောစစ်ညိုနှင့် သက္ကရာဇ် ၅၇၂ ခုတွင် ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းလည်းရတနာသုံးပါးကို မမြတ်နိုး။ အလှူကောင်းမှု၌လည်း မမွေ့လျော်၊ မငြိမ်မဝပ်သောအကျင့်ရှိသော သူယုတ်သူလေတို့ကိုသာ ချီးမြှောက်၏။ သူတော်ကောင်းတို့ကိုကား နှိပ်စက်ညှင်းပန်း၏။ ပြည်သူတို့သည် မငြိမ်းမချမ်း စနောင့်စနင်း ဖရိုဖရဲဖြစ်အောင်ကျင့်၏။ ထိုသို့ မတင့်မလျောက်ပတ်သော အကျင့်တို့ကို မင်းလေးဆက်တိုင်အောင် ကျင့်လေသောကြောင့် ဝါတဝလာဟက နတ်သား၊ ဝဿဝလာဟက နတ်သားတို့သည် မရှုလို၍ လေလည်းကောင်းစွာမထ၊ မိုးလည်းကောင်းစွာ မရွာ၊ အပူအချမ်းလည်း ကောင်းစွာမမျှသောကြောင့် မြေဩဇာအောက်သို့ ငုပ်လေ၏။ ကောက်ပဲအသီးအနှံတို့သည် မပြန့်မပွားသည်ဖြစ်၍ ဆေးဝါးတို့သည်လည်း မြေဩဇာပျက်ခဲ့၍ ဆေးဝါးကုသသော်လည်း မလွတ်လိုပဲလျှင်ဖြစ်လေ၏။ ထိုကောက်ပဲအသီးအနှံတို့ကို စားလျှင် ဝမ်းနာဝမ်းကျရောဂါချည်းသာဖြစ်၏။ သစ်သီးသစ်ရွက် သစ်ခွံတို့သည်လည်း ဆေးဝါးဖက်၍ကုသသော် မလွတ်မကင်းပဲသာဖြစ်၏။ ထိုသို့မင်းတို့ မတရားကျင့်ခြင်းကြောင့် ပြည်ဝယ်စောင့်သောနတ်တို့သည် ရှောင်လေကုန်၏။ မိစ္ဆာဒိဋ္ဌိနတ်တို့သည် ပြန့်ပွားကုန်၏။ လူတို့နှလုံးဝယ် မကောင်းသောအကျင့်၊ မကောင်းသောအကြံတို့ကိုသာ ကြံဟုတိုက်တွန်း၍ အချင်းချင်းတို့သည် ချစ်မြတ်နိုးခြင်းမရှိလေရာ အားရှိအားမဲ့ နိုင်ထက်ကလူပြုကြကုန်၏။ မုဒိမ်းတန္တခိုးသူတို့သည် များကုန်၏။ စနောင့်စနင်းဖြစ်ဘိ၏။ မဆုံးမ မကွပ်ညှပ်သောကြောင့် ထိုမင်း၏ အမတ်ဖေယျာဘတ္တရာသည် ပုန်ကန်လေ၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်။ နန်းစံ ၁၀၊ ဆယ်နှစ်။ နှစ်စုသက်တော် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၅၈၂ ခုတွင် လွန်တော်မူလေသည်။၁၆။

ထိုမင်းလွန်တော်မူလေလျှင် အမတ်ဖေယျာဘတ္တရာ သည် ပြည်သူအပေါင်းတို့နှင့် ညီညွတ်ပြီးသော် ထိုကမ္ဘာလောင်ငယ်မင်း၏ သားတော်ဖြစ်သော သကျဝင်ကြီးကို နမတော် စောရွှေချမ်းနှင့် သက္ကရာဇ် ၅၈၂ ခုတွင် ဘိသိက် သွန်း၍တရားသဖြင့် ဆုံးမပြီးသော် ပြည်စည်းစိမ်းကို အပ်နှင်းကြလေ၏။

ထိုမင်းကား လွန်လေပြီးသော ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်တို့အကျင့်ကို အလွန်ရွံရှာသည်ဖြစ်၍ တရားစောင့်သောမင်းတို့၏ ကျင့်ထုံးကျင့်နည်းကိုသာလျှင် ဆောင်၍ သမ္မုတိမွေ့သတ်စသော ကာမန္တရီနီတိကျမ်းဂန်ကိုလည်း အခါခပ်သိမ်းလေ့လာပွန်းတီးရှိ၏။ ရတနာသုံးပါးအားလည်း အလွန်လျှင်ကြည်ညိုတော်မူ၏။

မှူးဟောင်း၊ မတ်ဟောင်း၊ ကောင်းသောအလေ့အလာရှိသော သူတော်ကောင်းပညာရှိတို့ကို အလွန်လျှင် မြတ်နိုးစွာ၏။ ပြည်သူ ပြည်သားတို့၏ ချမ်းသာစီးပွားကိုလည်း လွန်လျှင် စောင့်ရှောက်တော်မူ၏။ ပြည်တုတ် ပြည်ခွန်ကိုလည်း ညှာတာလျှော့ညှဲ၍ ကောက်၏။ ယခင်ဘေးတော်စသော မင်းတို့ကောက်ခွန်ခွဲပြုသော ကင်းခွန်၊ ဆိပ်ခွန်၊ ရေခွန်ကိုလည်း ဖျောက်ဖျက်လေ၏။ ပျက်စီးလေသောရွာကြီး၊ ရွာငယ်တို့ကို မစ၍တည်ထောင်ပြုစုပေး၏။ မပျက်မစီး ကြွင်းကျန်သော ရွာတို့ကိုလည်း အားရှိအားမဲ့ ညှင်းဆဲကလူမရှိရအောင် သိမ်းပိုက်အုပ်ချုပ် မစတော်မူ၏။ ခိုးသူမုဒိမ်းတို့ကိုလည်း နှိပ်စက်သတ်ဖြတ်နှင်လွှတ်ပေ၏။ အင်္ဂါကြီးငယ်ကိုဖြတ်ခြင်းကိုပြုလျက် တရားသဖြင့် သုံးကြိမ်စေအောင်ဆုံးမ၍ မနိုင်မှ နိုင်ငံမှနှင်လွှတ်လိုက်၏။ ဤသို့ကောင်းစွာကျင့်သောကြောင့် ပြည်ရွာတိုင်းကားတို့သည် ထိုမင်းစိုးစံသောနေ့မှစ၍ ဆန်းသောလကဲ့သို့ တရွေ့ရွေ့တနေ့တပါး ပြန့်ပွားစည်ပင်လေသတည်း။ ငြိမ်းချမ်းခြင်းတို့သည် ဖြစ်ကုန်၏။

ပြည်သူရွာသားတို့ကား မွေးမြင်သောမိဘကိုကဲ့သို့ မျက်ကွယ်မျက်မြင် ချစ်ခင်စုံမက် မြတ်နိုးခြင်းတို့သည် ဖြစ်ကုန်၏။ ဆင်လုံးမြင်းရံ၊ သူရဲဗိုလ်ပါတို့သည်လည်း များမြောင်စွာရှိကုန်၏။ ပြန့်ပွားစည်ပင်၏။ ထိုမင်းကား အိမ်နိမ့်၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၅၉၄ ခုတွင် လွန်တော်မူလေသည်။၁၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သကျဝင်ငယ်သည် မျောက်သားတော် စောပျို့ရွှေနှင့် သက္ကရာဇ် ၅၉၄ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် ခမည်းတော်မင်းကြီးကျင့်ထုံးကျင့်နည်းကို နှလုံးသွင်း၍ ကျင့်သောကြောင့် တရားနှင့်ညီညွတ်သော မင်းကောင်း မင်းမြတ်ဖြစ်သဖြင့် ရုပ်ရှင်တော်မဟာမုနိမှစ၍ ဓာတ်တော် မွေတော်အပေါင်းတို့ကိုလည်း ကောင်းစွာရှိညွတ် ဆည်းကပ်ကိုးကွယ်၏။ တရားတော်ဖြစ်သော ပိဋကတ်ကျမ်းဂန်ကိုလည်း များမြောင်စွာ ပြန့်ပွားလေအောင် ကြံဆောင်ချီးမြှောက် လှူဒါန်းပေး၏။ ရဟန်းသံဃာအရိယာ သူတော် သူမြတ်တို့ကိုလည်း ပစ္စည်းလေးပါးတို့ဖြင့် ကောင်းမွန်စွာ လုပ်ကျွေးတော်မူ၏။ ဘုရား, ဆင်းတု, စေတီ, ပုထိုး, သိမ်, ကျောင်း, စကြံ, ရေကန်, ရေတွင်းတို့ကိုလည်း များမြောင်စွာ ပြုစုတည်တော်မူပေ၏။ ပြည်သူပြည်သားတို့သည် ရေချမ်းအိုးကိုပိုက်ရဘိသကဲ့သို့ အလွန်ငြိမ်းချမ်းသည်ဖြစ်၍ ပြန့်ပြောသာယာစည်ပင်ဝပြောသောကြောင့် သာသနာတော်လည်း မီးကဲ့သို့တောက်ပတော်မူ၏။ ထိုမင်းကား အိမ့်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်။ နန်းစံ ၁၀၊ ဆယ်နှစ်။ နှစ်စုသက်တော် ၂၉၊ နှစ်ဆဲ့ ကိုးနှစ်။ သက္ကရာဇ် ၅၉၄ ခုတွင် လွန်တော်မူလေသည်။၁၈။

ထိုမင်းလွန်တော်မူလေလျှင် သားတော်သနပင်ဖြူမင်းသည် မင်းသမီးစန္ဒာနန္ဒီနှင့် သက္ကရာဇ် ၅၉၄ ခုတွင် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုသနပင်ဖြူမင်းသည် ဓား၊ သန်လျက်အတတ်၌လည်း လေ့လာ ပွန်းတီး၏။ လူတို့၏ အရည်အသွေးကိုလည်း သိတတ်၏။ သိသည့်အလျောက် အရာအထူးတို့ကို ထိုက်လျောက်အောင် သဂြိုဟ်ချီးမြှောက်တော်မူ၏။ ပစ္စည်း ဥစ္စာမရှိ၊ အရည်အသွေးသာရှိသော သူတို့ကိုလည်း ပစ္စည်းဥစ္စာရှိအောင် မ,စ ချီးမြှောက်တော်မူ၏။ ပစ္စည်းဥစ္စာရှိသောသူကိုလည်း တိုး၍ရှိအောင် မ,စတော်မူသည် များသောကြောင့် သူဌေး သူကြွယ် ဘဏ္ဍာကျီကြတို့သည် အလွန်ဖြစ်ထွန်း ပွားများကုန်၏။ ဆင်လုံးမြင်းရံ ရဲမက် ဗိုလ်ပါတို့သည်လည်း များစွာရှိကုန်၏။ ရတနာသုံးပါးကိုလည်း အလွန်ကြည်ညို၏။ သာသနာတော်လည်း နေကဲ့သို့ တောက်ပထွန်းလင်း၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၅၉၇ ခုတွင် လွန်တော်မူသည်။၁၉။

ထိုမင်းလွန်တော်မူလေလျှင် သားတော် နယ်သိမ်းမင်းသည် နှမတော် စောစံနှင့် သက္ကရာဇ် ၅၉၇ ခုတွင် ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား သိမ်းစွန်နှင့်အတူ ပညာလျင်လျှားသည်ဖြစ်၍ မကြားစဘူး မမြင်စဘူးသောအတတ်တို့ကို သိစွမ်းလိမ္မာတတ်သိတော်မူသောကြောင့် နယ်သိမ်းမင်းဟူ၍တွင်၏။ ထိုမင်းလည်း အရာခပ်သိမ်းတို့၌ ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်တို့ကဲ့သို့ ကျင့်ရိုးကျင့်စဉ်ကိုမှီ၍ ကျင့်တော်မူပေ၏။ ထိုကြောင့် မျက်ကွယ်မျက်မြင် ချစ်ခင်မြတ်နိုးကြကုန်လျက် ပြည်သူပြည်သားတို့သည် ညွတ်တွားရိုသေကုန်၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၁၁၊ တဆဲ့တနှစ်။ နှစ်စုသက်တော် ၃၁၊ သုံးဆဲ့တနှစ်။ သက္ကရာဇ် ၆၀၈ ခုတွင် လွန်တော်မူလေသည်။ ၂၀။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ငနှလုံးသည် နှမတော်စောရွှေနန်းနှင့် သက္ကရာဇ် ၆၀၈ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ပညာနှလုံးပြည့်စုံတော်မူပေသောကြောင့် "ငနှလုံးမင်း" ဟူ၍တွင်၏။ ထိုမင်းလည်း ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်တို့ ကျင့်ထုံးကိုလက်ကသုံးပြု၍ကျင့်သုံးတော်မူ၏။ ပြည်သူရွာသားတို့သည် နှောင့်ယှက်ခြင်းကင်းကုန်၏။ အလွန်တရာချမ်းသာဝပြောကုန်၏။ ထိုမင်းကားအိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်၊ နန်းစံ ၄၊ လေးနှစ်။ နှစ်စုသက်တော် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၆၁၂ ခုတွင် လွန်တော်မူလေသည်။၂၁။

(ဆရာငမည် ရာဇဝင်၌ကား သက္ကရာဇ်ဖြိုမည်ဟူ၍ ဟူးရားတတ်ကိုမေးကြောင်း စသည်ဖြင့်ဆိုလေသည်။ ရာဇဝင်ဟောင်း၌ မလာသောကြောင့် သွင်းပြကာ မရေးလိုက်ပြီ။ ဓညဝတီအရေးတော်ပုံ၌ကား ငနှလုံးမင်း လက်ထက် ကုလားနှင့်သက်၊ ပေါင်းဘက်ဆိုးသွမ်းရာ။ ပြည်စိုးကြီး ဓမ္မဖေယျကို ရဲမက်ငါးသောင်းပေးတော်မူ၍ စစ်သူကြီး အင်္ဂါလေးပါးနှင့်ပြည့်စုံသော အမတ်ဆင်ကဲကြီးတို့ကို ချီတက်စေသောကာလ၊ တပ်ဦးတွင် ကျိုးကန်းနှင့် ဗျိုင်းခွပ်ကြ၍ ကျိုးအတောင်ကျိုးလျက် ဖမ်း၍ရသောအကြောင်းကို မင်းထံလျှောက်လေသောအခါ ရှေးပညာရှိအမျိုးဖြစ်သော သားစဉ်မြေးဆက်လာခဲ့သော အမတ်ပညာရှိဝိဇိလ လျှောက်သောထုံးသော်ကား၊ အရှင်မင်းမြတ်၊ ကျိုးနံကုလား၊ ဗျိုင်းကား မြန်မာ၊ နံမှာအလို၊ နဂိုယာယီ၊ ကိန်းနှစ်လီတွင်၊ ယာယီကျိုးကန်း၊ ပင်ပန်းကုလား၊ ထွားထွားကြေညက်၊ ပျက်မည်အကြောင်း၊ လုံးပေါင်းပြီးစီး၊ ခရီးမကြာ၊ အောင်မြင်ပါမည်ဟုလျှောက်လေလျှင် အမတ်စစ်သူကြီးတို့လည်း မရပ်မဆိုင်း ချီတက်လေသော် ကုလားစစ်သည်တို့ စစ်တကောင်းမြို့က ဖြိုးခိုင်စွာ ခံနှင့်သည်ကို ချုံချုံဖိစီးတိုက်လေလျှင် ငါးရက်နှင့် ကုလားတို့ ဆုတ်သွား၍ ဒါကာမြို့က ကုလားအိမ်ရှေ့မင်း ခံနေနှင့်လေရာ အမတ်ကြီးလည်း လောက်ချေးပူရာတိုင်အောင် စွဲရပ်ပြီးလျှင် ကုလားမင်းသားက ဗလဝါဟူသောဆင်ကို စီး၍ အမတ်စစ်သူကြီး ဓမ္မဖေယျသည် နတ်ယာဉ်ပျံဟူသော ဆင်ကိုစီး၍စစ်ရေးပြိုင်ကြရာ ဆင်နှစ်စီးချွန်းဖွင့်ကြလျှင် စွန်ရဲထိုးသကဲ့သို့ တဟုန်တည်း အစွယ်ယှက်ကြသည်တွင် နတ်ယာဉ်ပျံက ကုလားဆင်ဗလဝါကို ပြင်းစွာ ဒဏ်ပေးဦးလေသောကြောင့် ဗလဝါဆင်ခေါင်းအလှည့်တွင် စစ်သူကြီးဓမ္မဖေယျထိုးလိုက်သော လှံချက်သည် ကုလားအိမ်ရှေ့မင်းမှာနာကျင်စွာထိ၍ ဆင်ပေါ်ကကျရာ ဖမ်းမိသည်။ ကုလားမှူးမတ်စစ်သည်တို့လည်း ပျက်ပြို၍ ပြေးကြလေသည်။ စစ်သူကြီးလည်း မောက်သူဇာမြို့တွင် ချရပ်၍ ဒီလီပဆာမင်းကိုတိုက်လေလျှင် ပဆာမင်းလည်း ရုံပြည်သို့ဝင်၍ ပြေးလေသည်။ ကုလားမင်းသားနှင့် ကုလားဘဏ္ဍာလက်နက်များကို ပို့ဆက်စေရာ ငနှလုံးမင်းက ကုလားပြည်တွင်အမတ်ဆင်ကဲကြီးကိုထားခဲ့၍ စစ်သူကြီးဓမ္မဖေယျမှာ ကုလားမြို့များက အိမ်ထောင်မပျက်မကွဲစေရ၊ ကုလားတဝက်ကို သိမ်းယူခေါ်ဆောင်၍ ပြန်လာခဲ့ရမည် အမိန့်တော်ရောက်လျှင် မောက်သူဇာမြို့တွင် အမတ်ဆင်ကဲကြီးကိုထားခဲ့၍ ကုလားတဝက်ကို သိမ်းယူခေါ်ပြီးလျှင် အမတ်ကြီးဓမ္မဖေယျ ပြန်လာခဲ့

သတည်း။ ပြန်လာ၍ရောက်သောအခါ မဟာဝေဿဝဏ္ဏ ဟူသော အမည်ကိုပေးတော်မူလေသည်။ ကုလားအိမ်ရှေ့ မင်းသားကိုလည်း ဆေးကုမတော်ဟူ၍ ပျောက်လေလျှင် စစ်တွေမြို့ကို စားကျေးပေးတော်မူလေသည်။

ကုလားအမတ်နှစ်ရာမှာ တန်ဆာကိုသိမ်းစေ၍ အတွင်းမိန်းမသုံးမော်လိပ်အစုမှာ ဖွဲ့တော်မူလေသည်။ ကုလားမင်းသား၏ ကျေးကျွန်ပါရင်းလူ ငါးရာကိုလည်း ပါရင်းအတိုင်းပေးသနားတော်မူသည်။ ဘီတော်ဒသရာဇာမင်းဖွဲ့တော်မူခဲ့သည့်အစုသား တလိုင်း၊ ပြူ၊ ကမ်းရံတို့မှာ ဆင်အစု၊ ပန်းထိမ်အစု၊ သဘင်အစု၊ မြှောက်စည်အစုသားတို့ကို ရှိမြဲရှိစေ၊ ထို့ပြင် အစုသားတို့မှာ မြန်မာဖြစ်စေ၊ အစုနုတ်၍ မြန်မာတို့ကဲ့သို့ အသည်ကာလ အမှုကိုထမ်းစေ။ အမိန့်တော်ပညတ်၍ အသည်ကာလဖြစ်စေသည်။ အသည်သားတို့က အမှုထမ်းလူပေါင်း တသိန်းကို လက်ယာသင်း ငါးသောင်း၊ လက်ဝဲ သင်းငါးသောင်း ၄င်းလူတို့ကို လက်ယာလက်ဝဲနံများမှာ ခြသေ့ံရုပ်ထိုးစေ၍ ကိုယ်ရံတော်ဖွဲ့တော်မူသည်။ တလိုင်းကမ်းရံတို့အစားကုလားကို ဒိုင်းဝင်းကာ အစို့ဖွဲ့တော်မူသည်။ ကုလားတသောင်း၊ ဆင်စာ၊ မြင်းစာရိတ်အစု ကုလားနှစ်ထောင်။ သစ်ခုတ် ဝါးခုတ်ဟရာအစုဖွဲ့တော်မူသည် ကုလားတထောင်၊ လယ်လုပ်မင်းတရားကျွန် ဖွဲ့တော်မူသည်။ အစုသားကုလားတသောင်း။ ဟင်းသီးဟင်းရွက်၊ ငရုတ်၊ ကြက်သွန်၊ ကွမ်းဆက်ဖွဲ့တော်မူသည်။ အစုသားကုလားနှစ်ထောင်၊ နန်းတော်မှစ၍ မိဘုရားသားတော်သမီးတော်မှူးတော်မတ်တော်တို့အိမ်တွင် ရေခပ်စေရန် အစုသားကုလားနှစ်ထောင်၊ လေးကိုင်ကမံ အစုသားကုလားတထောင်၊ ရက်ကန်းရက်စေသည်၊ အစုသားကုလားတထောင်။ ထမ်းစင်ထမ်း၊ ယာဉ်ထမ်းစော်တလီ အစုသားကုလားနှစ်ရာ။ ကြိမ်ခွဲ ကြိမ်ကိုင် ဆပ်ကျာအစုသား ကုလားတထောင်။ ဆားချက်အစုသား ကုလားတထောင်၊ အစေခံအစုသား ကုလားနှစ်ရာ။ တံငါပိုက်သည်ဖွဲ့သည်အစုသား ကုလားတထောင်။ မြို့တွင်းမြို့ပြင် မသန့်မစင်ရှိသမျှကို ယူ၍ပစ်ရသည် ဟရီအစုသားကုလားတထောင်။ လူသတ်ပရဝါ အစုသား ကုလားငါးရာ။ လက်သမား အစုသားကုလားငါးရာ။ ပန်းထိမ်ပန်းပဲ အစုသားကုလား တထောင်။ လွှတိုက်လက်သမားအစုသားကုလား တထောင်။ ဖောင်ထိန်းဖောင်ဖွဲ့ ခရီအစုသားကုလား သုံးထောင်။ ဒင်္ဂါးခတ်စောပန်စင်အစုသား ကုလားငါးရာ။ အရပ်ရပ်ကုလားပေါင်း ၄၇၅၀၀၊ လေးသောင်းခုနစ်ထောင်ငါးရာကို နောင်အစဉ်ဖြစ်အောင် မော်ကွန်းထိုးတော်မူသည်။ မင်းသုံး၊ မိဘုရားသုံး၊ မင်းသား မင်းသမီးသုံး၊ မှူးမတ်သုံးအသီးအသီးအစုနှင့် ခွဲဝေပေးဖွဲ့ တော်မူသည်ဟူ၍ ဆိုလေသည်။ ဤသည်ကား ဓညဝတီ အရေးတော်ပုံ၌လာသော ငနှလုံးမင်း၏အကြောင်းတည်း။

ဒုတိယပရိန်မြို့တည် ကောလိယမင်းသား ဒသရာဇာမင်းအစ ငနှလုံးမင်းအဆုံးရှိသော ၂၂ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၁၂၇ နှစ်။

ဤသည်ကား ဒုတိယပရိန္နမြို့တည် ကောလိယမင်း၏သား ဒသရာဇာမင်းအစ ငနှလုံးမင်းအဆုံးရှိသော မင်းနှစ်ဆဲ့နှစ်ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်းတည်း။

ဤဒသရာဇာမင်းအစ ငနှလုံးမင်းအဆုံးရှိသော မင်းနှစ်ဆဲ့နှစ်ဆက်တို့၏ နန်းတက်၊ နန်းကျ သက္ကရာဇ်တို့ကို ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ဓညဝတီ အရေးတော်ပုံ တို့၌မဆိုကြလေ။ အိမ်နိမ့်၊ နန်းစံ၊ သက်တော်မျှကိုသာလျှင် ဆိုတော်မူကြလေသည်။

အလောမာဖြူမင်း လောင်းကြက်မြို့တည် သက္ကရာဇ်ကို ၆၁၃၊ ခြောက်ရာ့တဆဲ့သုံးဖြစ်ကြောင်းနှင့် ဆိုလေသည်။ ယင်းသို့ဆိုရာ၌ ထောက်စာ၍ပြမူ လက်ယာမင်းနန် နန်းတက်သက္ကရာဇ်ကို ၄၆၅ အမှန်ထား၍ ၎င်းမင်းအစ ကောလိယမင်းအဆုံး မင်းခြောက်ဆက်တို့၏ နန်းစံနှစ်ပေါင်းသည် ၁၆၄ နှစ်ရသောကြောင့် ဒသရာဇာ

မင်းသည် ၆၂၃ နှစ်မှ နန်းတက်ရန်ရှိချေသည်။ ဒသရာဇာမင်းအစ နေလုံးမင်းအဆုံး မင်း ၂၂ ဆက်သောမင်းတို့၏ နန်းစံနှစ်ပေါင်းသည် ၅၄၄ ရသောကြောင့် အလောမာဖြူမင်းသည် ၁၁၇ နှစ်မှ နန်းတက်ရန်ရှိချေသည်။

ဓညဝတီအရေးတော်ပုံအလိုဖြင့် အလောမာဖြူမင်းသည် ၁၀၁၄ နှစ်မှာ နန်းတက်ရန်ရှိချေသည်။ ထိုကြောင့် ၎င်းရာဇဝင်ဟောင်း ဓညဝတီအရေးတော်ပုံ နန်းစံနှစ်ပေါင်းများသည် အရေးအသားမှားဟန်ထင်ပေကြောင်း။ ယင်းသို့ အရေးအသား မှားယွင်းပိုလွန်သည့်အရာကို စာနာထောက်ရှု၍ ရေးပြုစီရင်လိုက်သည့်အတိုင်း ဒသရာဇမင်း နန်းတက်သက္ကရာဇ်ကို ၄၈၅၊ အလောမာဖြူမင်း နန်းတက်သက္ကရာဇ်ကို ၆၁၂ ခုဟူ၍သာ အမှန်ယူရမည်။ ပညာရှိတို့ သတိထားတော်မူပါလေ။ (ဤသည်ကား စကားချပ်)။

**၁၆၁။ ယခုအခါ၌ နေလုံးမင်း၏သား ပထမလောင်းကြက်မြို့တည် အလောမာဖြူမင်းအစ သိင်္ဂသူမင်းအဆုံး ရှိသောမင်း ၁၆ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်း**

ထိုနေလုံးမင်း လွန်တော်မူလေလျှင် သားတော် အလောမာဖြူမင်းသည် မျောက်သားတော် စောရွှေသစ်နှင့် သက္ကရာဇ် ၆၁၂ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းသည် အလောမာဖြူဟူ၍ တွင်သည်မှာ မျက်မွေးသည် လက်သုံးသစ်ရှည်၏။ လက်မွေး ခြေမွေးတို့သည် လက်နှစ်သစ်ရှည်၏။ ထိုအမွေးတို့သည် ဖြူသောကြောင့် "အလောမာဖြူမင်း"ဟူ၍တွင်၏။

ထိုအလောမာဖြူမင်းသည် မြို့ဟောင်းတောင်ငူမြို့တွင် တနှစ်စံပြီးသော် ဘေးဘိုးမိဘတို့ စိုးစံတော်မူသော ဤမြို့ဟောင်းတောင်ငူမြို့သည် ကိန်းခန်းကုန်ခဲ့ပြီး ဤမြို့တွင်နေတော်မမူသင့်ပါ။ ပြောင်းရွှေ့တော်မူပါလျှင် သက်တော်ရှည်၍ ပြည်သူတို့၏စီးပွားချမ်းသာ တိုးတက်အံ့။ ပြည်သူပြည်သားတို့ ငြိမ်းချမ်းသာယာအံ့ဟု ဟူးရားတတ်တို့ လျှောက်လေလျှင် အလောမာဖြူမင်းသည် မြို့ဟောင်းတောင်ငူမြို့ကိုစွန့်၍ စစ်အင်္ဂါလေးပါးနှင့်တကွ အဠနန္ဒအနောက်ဘက်သို့ကူးလေ၍ လောင်းကြက်မြို့ကို သက္ကရာဇ် ၆၁၃၊ နံယုန်လဆန်း ၂ ရက်၊ စနေနေ့ ရတနာကျိန်းမြှောက်၍ ကန်စန်းကန်လက်နှင့် တည်တော်မူလေ၏။ မြို့တည်၍ နှစ်နှစ်မြောက်ရှိလေလျှင် မင်းကိုယ်တိုင်ချီပြီးသော် အရှေ့ဘက်သို့ စစ်ထိုးလေသည်တွင် ထိုမင်း၏ ဘုန်းလက်ရုံးကြောင့်မခံနိုင်၍ ကသည်း၊ ကလေး၊ မိုးညင်း၊ မိုးကောင်း၊ ယွန်း၊ ထီးလိုင်တို့ကို နှိမ်နင်းအောင်မြင်တော်မူသည်ဖြစ်၍ သမီးကညာ ရတနာဘဏ္ဍာ တုတ်ခွန်တို့ကို ဆက်သကြကုန်၏။ ဆက်သကြသည်ကို ခံယူတော်မူ၍ ပြန်ရောက်တော်မူပြီးလျှင် အနောက်ကုလားပြည်တခိုသို့ ချီတော်မူလေလျှင် သက်ပြည်၊ မြဲပြည်၊ ဟစ်ရုံပြည်တို့ကိုရ၍ သမီးကညာ ရတနာစသော လက်ဆောင်အတုတ်အခွန်တို့ကိုခံယူ၍ ပြန်တော်မူခဲ့၏။ ဤသို့သောနည်းဖြင့် တိုင်းပြည်ခရိုင်နိုင်ငံပြန့်ပွားလျက် ကြီးမားသောစည်းစိမ်တို့ကို ခံစားတော်မူ၏။ ကုသိုလ်ကောင်းမှုတို့ကိုလည်း များစွာဆည်းပူးတော်မူ၏။ သဒ္ဓါ၊ သီလ၊ သမာဓိ၊ ပညာ စသောဂုဏ်ကျေးဇူးတို့နှင့်လည်း ပြည့်စုံတော်မူ၏။ ထိုမင်းအလောမာဖြူ၌ ရာဇသူကြီးဟူသော သားတော်လည်း တယောက်။ စောဆွေ၊ စောသူဇာဟူသော သမီးလည်း နှစ်ယောက်။ မင်းခင်ယည်ဟူသော သားတော်လည်း တယောက်အားဖြင့် လေးယောက်ရှိတော်မူ၏။ ထိုအလောမာဖြူမင်းကြီးသည် အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ သက္ကရာဇ် ၆၂၈ ခုတွင်လွန်တော်မူလေသည်။၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ရာဇသူကြီးသည် နမတော်စောဆွေနှင့်ဘိသိက်ခံ၍ သက္ကရာဇ်

၆၁၈ ခုတွင် ခမည်းတော်ရိပ်ရာဖြစ်သော ပြည်စည်းစိမ်ကို အုပ်စိုးတော်မူ၏။ ညီတော် မင်းခင်ယည်ကို အိမ်ရှေ့အရာကို ပေးတော်မူ၏။ ထိုမင်းရာဇသူကြီးတွင် စောဆွေ ဟူသော မိဘုရားလည်းတယောက်၊ စောသူဇာဟူသော မိဘုရားငယ်လည်းတယောက်အားဖြင့် နှစ်ယောက်ရှိတော်မူ၏။ စောသူဇာမိဘုရားတွင် မင်းစောလူးဟူသော သားတော်ကို ဖွားမြင်တော်မူသည်။ စောဆွေမိဘုရားတွင် သမီးတော် စောပန်းတူကို ဖွားမြင်တော်မူသည်။ သားတော် စောလူး ကြီးမြောက်လတ်သောအခါ ညီတော် မင်းခင်ယည်ကို အိမ်ရှေ့အရာကချ၍ မြို့စားပေးတော်မူသည်၊ သားတော် မင်းစောလူးကို မိဘုရားစောဆွေတွင် ဖွားမြင်သော သမီးတော် စောပန်းတူနှင့် ထိမ်းမြား မင်္ဂလာပြု၍ အိမ်ရှေ့အရာကို ပေးတော်မူ၏။

ထိုမင်းရာဇသူကြီးသည် ပညာအဆင်ခြင်နှင့် ပြည့်စုံ၏။ ရတနာသုံးပါး၌ အလွန်ရှိသေစွာ၏။ ကုသိုလ်ကောင်းမှုကိုလည်း များစွာပြု၏။ ဆင်မြင်းရဲမက်ဗိုလ်ပါ အခြံအရံနှင့်လည်း ပြည့်စုံ၏။ ဘုန်းတန်ခိုးလက်ရုံးနှင့်လည်း ပြည့်စုံ၏။ ထိုမင်းရာဇာသူကြီးလက်ထက် အရှေ့ပြည်က အောက်သား တလိုင်းတို့သည် ကြိမ်သလီကြီးကို ဖျက်လာလျှင် မင်းကြီး အမျက်တော်ထွက်၍ လှေတော်သုံးထောင်နှင့် အနံ့သူကြီးကို တိုက်ချေပာစေခိုင်းတော်မူလိုက်သော် ပုသိမ်မြို့မှစ၍ မြောက်ဘက် တခြမ်းကိုရခဲ့၏။ အမတ်ကြီးသုံးယောက်ကိုလည်းရခဲ့၏။ တိုင်းရေးပြည်ရေးတို့ကို စီရင်အုပ်ချုပ်တော်မူလျက် တရားသဖြင့် မင်းပြုတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နန်းစံ ၂၊ နှစ်နှစ်၊ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၆၂၀ တွင် လွန်တော်မူလေသည်။၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် စောလူးမင်းသည် မိဘုရားစောပန်းတူနှင့် သက္ကရာဇ် ၆၂၀ တွင် တိုင်းပြည်စည်းစိမ်ကို အုပ်စိုးတော်မူ၏။ ထိုစောလူးမင်း မိဘုရားကား အဖတူအမိကွဲဖြစ်သော နှမတော်ဖြစ်သော စောပန်းတူလည်းတယောက်၊ တူမတော် ရင်းဖြစ်သော စောစလပ်ပန်းလည်း တယောက်အားဖြင့် နှစ်ယောက်ရှိသတည်း။ မိဘုရားစောပန်းတူတွင် သားတော် ဥစ္စနာကြီးကို ဖွားမြင်တော်မူသည်။ စောစလပ်ပန်းတွင် သားတော်ဥစ္စနာငယ်နှင့် သမီးတော် မျိုးမျက်ရှုနှစ်ယောက်ကို ဖွားမြင်တော်မူသည်။

ထိုမင်းကား ဘုရားရုပ်တု၊ စေတီပုထိုး၊ သိမ်၊ ကျောင်း၊ ဇရပ်၊ မဏ္ဍပ်၊ စကြံ၊ ရေကန်၊ ရေတွင်းတို့ကို များစွာတည်ထား ပြုစုတော်မူ၏။ ဒါန, သီလစသော ကုသိုလ်တရားတို့၌ မွေ့လျော်၏။ မှူးတော်မတ်တော် စစ်ကဲမြို့ကွပ်ရဲမက်ဗိုလ်ပါ ဆင် မြင်း အလုံးအရင်းတို့သည်လည်း များစွာရှိကုန်၏။ ဆွေမျိုးဉာတိ မိဘ ဘိုးဘွားကြီးသောသူတို့၏အဆုံးမ၌လည်း တည်၏။ ပြည်သူရွာသားတို့၏ စီးပွားချမ်းသာကိုလည်း စောင်မ ကြည့်ရှုသဖြင့် တိုင်းသူပြည်သားတို့သည် ကြွယ်ဝချမ်းသာ ရှိကုန်၏။ ထိုမင်းကား အိမ်နိမ့် ၁၉၊ တဆဲ့ကိုးနှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၆၂၃ ခုတွင် လွန်တော်မူလေသည်။၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော် ဥစ္စနာကြီးသည် အဖတူဖြစ်သော နှမတော် မျိုးမျက်ရှုနှင့် သက္ကရာဇ် ၆၂၃ ခုတွင် ထီးနန်းစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုဥစ္စနာကြီး၌ မိဘုရားသည် မျိုးမျက်ရှုလည်း တယောက်၊ စောလှမိလည်းတယောက်အားဖြင့် နှစ်ယောက်ရှိ၏။ မိဘုရားမျိုးမျက်ရှုတွင် သာကိဝင်ကြီး ဟူသော သားတော်လည်းတယောက်၊ သာကိဝင်ငယ် ဟူသော သားတော်လည်းတယောက်၊ စောနန္ဒီဟူသော သမီးတော်လည်းတယောက်အားဖြင့် သုံးယောက်ရှိတော်မူသည်။ စောလှမိတွင်ကား စောမွန်ကြီးဟူသော သားတော်လည်းတယောက်၊ စောမင်းကြီးဟူသော သားတော်လည်း တယောက်အားဖြင့် နှစ်ယောက်ရှိတော်မူ၏။

ထိုမင်းကား ရတနာသုံးပါးကို ကြည်ညို လေးမြတ်စွာ၏။ သဒ္ဓါ, သီလ, သုတ, စာဂ, ပညာ,

ဟီရိ, ဩဗ္ဗာပ္ပဟုဆိုအပ်သော သူတော်ကောင်းဥစ္စာ ရတနာ ခုနစ်ပါးနှင့်လည်း ပြည့်စုံ၏။ တရားသဖြင့် ရအပ်သော ဥစ္စာပစ္စည်းတို့ကို ရဟန်းသံဃာ အရိယာ သူတော်သူမြတ်တို့အား များစွာ လှူဒါန်းတော်မူ၏။ ပြည်တုတ်ပြည့်ခွန်မှရသော ဥစ္စာပစ္စည်းကိုလည်း သူဆင်းရဲတို့အား အရင်းအနှီးပေး၍ လယ်လုပ်ခြင်း၊ ကုန်သွယ်ခြင်း အလုပ်ကို ပြုစေသဖြင့် ပြည်သူတို့ ကြွယ်ဝချမ်းသာကုန်၏။ မုဒိမ်းတန္တကိုလည်း ရအောင်ပြု၍ ကြိမ်ဒဏ်စသည်ဖြင့် မပေးပဲ ထိုက်လျောက်သော ဥစ္စာပစ္စည်းပေးကမ်း၍ သုံးကြိမ်တိုင်အောင် တရားသဖြင့် ဆုံးမ၏။ သုံးကြိမ်ဆုံးမ၍ မရနိုင်မှ တပြည်တရွာသို့ နှင်လိုက်၏။ ထိုမင်းကား အိမ်နိမ့် ၁၆၊ တစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၈၊ ရှစ်နှစ်။ နှစ်စုသက်တော် ၂၄၊ နှစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၆၃၁ ခုတွင် လွန်တော်မူလေသည်။၄။

ထိုမင်း လွန်တော်မူလေလျှင် သားတော် စောမွန်ကြီးသည် မင်းသမီး စောဘီလူးမနှင့် သက္ကရာဇ် ၆၃၁ ခုတွင် တိုင်းပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထို စောမွန်ကြီး၌ မိဘုရား စောဘီလူးမလည်းတယောက်၊ စောဗျိုင်းဖြူဟူသော မိဘုရားလည်း တယောက်အားဖြင့် နှစ်ယောက်ရှိတော်မူ၏။ စောဘီလူးမတွင် နန်းကျကြီးဟူသော သားတော်လည်းတယောက်၊ ရွှေစလပ်တာဟူသော သမီးတော်လည်းတယောက်၊ ရွှေနံ့သာဟူသော သမီးတော်လည်း တယောက်အားဖြင့် သုံးယောက်ရှိကုန်၏။ ထိုမင်းကား ကုသိုလ်ကောင်းမှု၌ မွေ့လျော်၏။ သူတော်ကောင်းနှင့် ပေါင်းဘော်၏။ ဆင် မြင်း ရဲမက် များမြောင်၏။ ထိုမင်းကား အိမ့်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၄၊ လေးနှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့ နှစ်နှစ်။ သက္ကရာဇ် ၆၃၅ ခုတွင် လွန်တော်မူလေသည်။၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော် နန်းကျကြီးသည် မျောက်သားတော် စောပို့မယ်နှင့် သက္ကရာဇ် ၆၃၅ ခုတွင် မင်းစည်းစိမ်ကို အုပ်စိုးတော်မူ၏။ ထိုနန်းကျကြီးမင်း၌ မိဘုရားတို့သည် လေးယောက်ရှိကုန်၏။ လေးယောက်ဟူသော်ကား စောပို့မယ်လည်း တယောက်၊ စောပဒုမာလည်းတယောက်၊ စောမင်းဖွား လည်း တယောက်၊ စောဖြူလည်းတယောက်၊ ဤသို့ အားဖြင့် လေးယောက်တည်း။

စောမင်းဖွားတွင် စည်သူဟူသော သားတော် လည်း တယောက်၊ မင်းပျို့ဟူသော သားတော်လည်း တယောက် ဖွားမြင်တော်မူသည်။ စောပဒုမာ၌ကား ဝိကာလစန္ဒာဟူသော သမီးတော်လည်းတယောက်၊ စောသမ္မာဟူသော သမီးတော်လည်းတယောက်၊ စောမယ် ဟူသောသမီးတော်လည်းတယောက် ဖွားမြင်တော် မူသည်။

ထိုနန်းကျကြီးမင်းကား ကုသိုလ်ကောင်းမှုကို လည်း မပြု။ ပြည်၌ဆိပ်ခွန်၊ ရေခွန်၊ ကင်းခွန်ကိုလည်း အလွန်ကောက်ယူခြင်းပြု၏။ တိုင်းပြည်ဝယ် သူဌေး သူကြွယ် လူချမ်းသာတို့ကိုလည်း ဖျက်ဆီး၍ ပရိက္ခရာ ဥစ္စာပစ္စည်းတို့ကို မင်း၏ကျိုကြသို့သွင်းထား၏။ မင်းသား မင်းမြေး၊ မင်းမျိုးနွယ်တို့ကိုလည်း ချစ်ခင်မြတ်နိုးကြင်နာ ခြင်း မရှိ။ ညှင်းပန်းကလူနှိပ်စက်ခြင်းပြု၏။ မှုးမတ် စသောပြည်သူတို့ကိုလည်း ဖမ်းဆီး၍အပြစ်မရှိသည်ကို အပြစ်ပြု၍ချုပ်နှောင်၏။ သူ့လယ်သူ့ယာ၌ဖြစ်သော ကောက်စပါးတို့ကိုလည်း ဆင်, မြင်းတို့ကို တိုက်ကျွေး ၏။ ထိုသို့မကောင်းသော အမူအကျင့်တို့ကိုပြုခြင်းကြောင့် ပြည်သူတို့ ဆင်းရဲဒုက္ခငတ်မွတ်ခေါင်း ပါးခြင်းဖြစ်လတ် သည်ရှိသော် ပြည်ရွာစနောင့်စနင်းဆူပူ၏။ ထိုမင်းကြီးကို အလွန်မျက်လိုမုန်းထားကုန်၏။ ထိုအကြောင်းကို မင်းကြီး သိလေလျှင် အလွန်ကြောက်လန့်စွာ၍ တိုင်းပြည်နိုင်ငံ လုံးဝယ် မင်းနေမြို့တော်မှစ၍ ရွာကြီးရွာငယ်တို့၌ ဟင်းငါး သင်စရာ ဒါးမငယ်မျှမလွတ်ရအောင် သိမ်းယူလေ၏။ ရဟန်းသံဃာအရိယာသူတော်ကောင်းတို့ ကျောင်းဝယ် လည်း ခေါင်းရိတ်စရာ သင်တုန်းမျှမရှိရအောင် စိစစ်၍ သိမ်းယူလေသောကြောင့် ရဟန်းသံဃာတို့သည် သီတင်းနေ့ရောက်လတ်လျှင် ခေါင်းရိတ်စရာ သင်တုန်း

ကို မင်း၏နန်းတော်မှာသာ ငှား၍ခေါ်ငင်းရိတ်ရကုန်၏။

ထိုအခါ ရှင်ငယ်စိတ္တရ၊ နာရဒ-ဟူသော ရှင်ညီအစ်ကိုနှစ်ယောက်တို့သည် ကျေးဖူးပညာကိုလှည့်ပတ်၍ ရှာကြသောအခါ၌ ဝိဇ္ဇာမိုရ်ရိတယောက်သည် ပြိုင်းတိုင်တောင်၏အရှေ့မြောက်ထောင့် သေန်အရပ်တောင်ဖြူ ထက်ဝယ်နေလာ၏။ ထိုဝိဇ္ဇာဇော်ဂျီကား ရေကိုသုံးစွဲလိုသောအခါ ရေဖူးတောင်းကိုသာစေလိုက်၏။ ထိုရေဖူးတောင်းကား အသက်ရှိသကဲ့သို့ တရွေ့တရွေ့တောင်မှ သက်သွားလေ၍ ရေထဲသို့ငုပ်ပြီးလျှင် ရေပြည့်လတ်သော် ရေမှတက်၍တရွေ့တရွေ့တောင်သို့ တက်ပြန်လတ်၍ ထိုဝိဇ္ဇာမိုရ်အထံသို့ချဉ်းကပ်လေ၏။ ဤသို့ ရေဖူးတောင်း အသွားအလာပြုသည်ကို ရှင်ငယ်တို့မြင်လေသော် ဤရေဖူးတောင်းကား အလွန်တတ်သော ဆရာတို့၏ တမန်သည်တည်းဟု အစဉ်အတိုင်းလိုက်သွားကြလေလျှင် ဆရာဝိဇ္ဇာမိုရ်ကို တွေ့လေ၏။ တွေ့ကြလေလျှင် ခြေနှစ်ဖက်ကို ဦးတိုက်လျက် သခင်ဆရာမြတ်ကား အကျွန်ုပ်တို့အား အသာအရာ၌တည်၍ အထူးထူးအပြားပြား တန်ခိုးဘန်ဆင်းတတ်သော နာနာရုပ်အတတ်ကို သင်တော်မူပါဟု တောင်းပန်လေသော် ခွင့်မပြုပဲနေသောကြောင့် ရှင်ငယ်တို့သည် ဆယ်လတိုင်အောင် ခြေလက်ဆုပ်နယ်၍ လုပ်ကျွေးမွေးမြူ ခစားလျက်နေကြကုန်၏။

ယင်းသို့ လုပ်ကျွေးမွေးမြူ ခစားလေမှ ထိုဆရာလည်း နာနာရုပ်ကို ငါမတတ်နိုင်။ နတ်ဘီလူးကို မြင်နိုင်သော မျက်စဉ်းဆေးကိုကား ပေးလျှင်းဘိအံ့။ ထိုဆေးဖြင့် မျက်ရစ်၌ကွင်း၍ကြည့်လျှင် နတ်ဘီလူးတို့ကို မြင်နိုင်၏ဟုဆိုလေသော် နတ်ဘီလူးတို့ကို မြင်နိုင်သော အတတ်ကိုပေးပါလောဟု တောင်းလေလျှင် နတ်ဘီလူးတို့ကို မြင်နိုင်သော မျက်စဉ်းဆေးကိုပေးလိုက်၏။ ထိုရှင်ငယ် စိတ္တရ၊ နာရဒတို့လည်း ဆရာမြတ်ပေးအပ်သော မျက်စဉ်းဆေးဖြင့် ဘီလူးတို့ကိုမြင်ကာမျှသာ ဖြစ်ပါသည်။ အတတ်ပညာကို ဘယ်သို့ရပါအံ့နည်းဟု မေးလေသော် ဘီလူးတို့ချစ်စေတတ်သော ယက္ခသိနေဟ မန္တန်ကိုပေးလိုက်ပြန်၏။

ရှင်ငယ်တို့လည်း ထိုဆေးမြစ်ကို မျက်ရစ်၌ ကွင်းလျက် လှည့်ပတ်၍ကြည့်လေလျှင် လောင်းကြက်မြို့ အငူ ခေါင်းလောင်းဆွဲတောင်၌ ခမောင်းပင်ကြီးတွင် ဘီလူးကိုမြင်လေသော် မိမိတို့နေရာသို့ပြန်ခဲ့၍ ဝက်ကြီးတခုကို ဖုတ်ကင်လျက် သေအိုးကိုဆောင်၍ ထိုခမောင်းပင်ရင်း၌နေ၍ ဘီလူးကိုခေါ်၍ နာနာရုပ် အတတ်ကိုတောင်းလေလျှင် ဘီလူးက အစ်ကိုတို့၊ ငါ့ကို အဘယ်ကြောင့်မြင်သနည်းဟုမေးလတ်လျှင် မျက်ရစ်ကွင်းသော ဆေးဖြင့်မြင်သောအကြောင်းကို ရှင်ငယ်တို့က ပြန်ပြောလေသော် ဘီလူးက နာနာရုပ်အတတ်ကို ငါမတတ်၊ အရွှန်နန္ဒီမြစ် အရှေ့ဘက်ကမ်း လက်မဘက်၌ ညောင်ပင်ကြီးတွင်နေသော ဘီလူးသာလျှင် တတ်ပေသည်ဟု ပြောလေသော် ရှင်ငယ်တို့လည်း ဝက်ကြီးကင်တခုနှင့် သေအိုးကိုထမ်း၍ လက်မဘက် ညောင်ပင်ရင်းသို့ ချဉ်းကပ်လေပြီးသော် အစာကျွေး၍ခေါ်လေ၏။ ဘီလူးလည်း မြင်နိုင်သောအကြောင်းကို မေးလေလျှင် မျက်ရစ်ကွင်းသောဆေးဖြင့် မြင်နိုင်ကြောင်း၊ နာနာရုပ်အတတ်ကို သင်လိုကြောင်းနှင့်ပြန်ပေ၏။ ထိုဘီလူးလည်း ငါတမူကား အစ်ကိုတို့ အလိုရှိသောအတတ်ကို မတတ်ပေ။ ပြိုင်းတိုင်းတောင်ထက် ဥမင်ဝဝယ် ထိမ်ပင်ကြီး၌နေသော ဘီလူးမကြီးသည်သာလျှင် ထိုအတတ်ကိုတတ်၏ဟုညွှန်လေသော် ရှင်ငယ်တို့လည်း ဝက်ကောင်သေအိုးကို ထမ်း၍ ထိမ်ပင်ရင်းသို့ချဉ်းကပ်လေ၏။ အစာကျွေးလျက် ခေါ်လေသော် ဘီလူးမလည်း မြင်သောအဖြစ်ကို မေးလေ၍ ရှင်ငယ်တို့လည်း မြင်သောအဖြစ်ကို ပြန်ပြောလေ၏။ ဘီလူးမက ငါသော်ကား တတ်သည်ဟုတ်၏။ ငါတို့ဘီလူးမသည် လူယောကျ်ားကိုသင်အံ့သောငှာ မအပ်စွာတည်း။ ထိုအတတ်ကိုလိုသော် ခြိပ်ချောင်းထဲသို့ဝင်၍ လေးကွေ့မော်တွင် ညောင်ပင်ကြီးသည်ရှိ၏။ ထိုညောင်ပင်ကြီး၌နေသော ငါ၏မောင်ကြီး ဘီလူးမင်းထံသွား၍ တောင်းပန်လေဟု ညွှန်လိုက်၏။

ထိုရှင်ငယ်နှစ်ယောက်တို့လည်း ဝက်ကောင် သေအိုးကိုထမ်းပြီးသော် ခြိပ်ချောင်းညောင်ပင်ရင်းသို့ ချဉ်းလေ၍ အစာကိုကျွင်းပလေ၏။ ထိုအခါ ဘီလူးမင်း ကား မရှိ။ ဘီလူးမသာလျှင်ရှိသည်ဖြစ်၍ အဘယ်ကြောင့် မြင်သနည်း။ အဘယ်အလိုရှိသနည်းဟုမေးလတ်သော် ထိုရှင်ငယ်တို့သည် မျက်ရစ်ကွင်းသောဆေးဖြင့် မြင်သော အဖြစ်၊ နာနာရုပ်အတတ်ကိုသင်လိုသော အဖြစ်များကို ပြောကြားလေသော် ဘီလူးမလည်း ငါ့လင်ကားမရှိ။ ပင်လယ်နားသို့ ခရု ကနန်း သားငါးအရှာသွားသည်။ ထိုအရပ်မှပြန်သောအခါလာခဲ့ကြဟု ဆိုလေ၏။ ရှင်ငယ်တို့လည်း ဝက်ကောင် သေအိုးကိုယူ၍ ပြန်အံ့သော အခြင်းအရာကိုပြု၏။ ထိုအခါ ဘီလူးမ၏သား ဖြစ်သော ဘီလူးငယ်နှစ်ယောက်သည် ထိုအစာကို စားချင် သောက်ချင်သောကြောင့် မသွားစေရအောင် ရှင်ငယ်တို့ကို ချုပ်ထား၍ အမိကိုပူဆာငိုကြွေးမြည်တမ်းလေ၏။ ဘီလူးမ လည်း သားတို့စကားကို မလွန်နိုင်သဖြင့် ငါ့လင်ရောက်ရုံ ငံ့ပါဟု ချုပ်ထားလေ၏။ ရှင်ငယ်တို့လည်း မသွားဘဲ နေကြလေ၏။ ထိုအခါ ဘီလူးမင်းသည် ခရု ကနန်း သားငါးများစွာရှာခဲ့၍လာလတ်သည်ကို ရှင်ငယ်တို့ မြင်သဖြင့် အကြောင်းကိုပြန်ဆိုပေ၏။ ဘီလူးမင်းလည်း နာနာရုပ်အတတ်ကိုမပေးလို၍ ကြိမ်းမောင်းလေ၏။ ရှင်ငယ်တို့လည်း ယက္ခသိနေဟမန္တန်ကိုရွတ်ပေလျှင် ဘီလူးမင်းလည်း အမျက်ပြေလေ၏။ သားငယ်တို့နှင့် မယားသည် အစာကိုစားချင်သောကြောင့် အပန်းကြီးစွာ ရှေ့နေရှေ့ရပ် ပြုလုပ်ပြောဆိုကြသောကြောင့်၎င်း၊ မန္တန်၏ အာနုဘော်ကြောင့်၎င်း၊ ထိုဘီလူးမင်းသည် ဝန်ခံ၍ အစာကိုစားပြီးမှ ဘီလူးမင်းက ဤသို့ ဆိုလေသတည်း။ ဟယ်··· ရှင်ငယ်တို့၊ အစ်ကိုတို့သည် အလွန် ခဲခက်စွာသော နာနာရုပ်အတတ်ကိုလိုသည်ကား ဟူ၏။ လူတို့မည်သည်ကား စိတ်ဝမ်းလောင်လင် ဆိုးညစ်တတ် သည်ဖြစ်၍ အတတ်ကိုရမြောက်လေလျှင် မကောင်းမှု တရားကိုပြုလေသည်ရှိက ငါလည်း အပါယ်လေးပါး

လားရအံ့သည်ဟုဆိုလျှင် ရှင်ငယ်တို့လည်း အတတ်ကိုသာ သင်ပါ။ ငါတို့မကောင်းမှုကိုမကျင့်ဟု ကျိန်တွယ် သစ္စာ ပြုပြီးမှ နာနာရုပ်မန္တန်ကို မြေဝယ်ရေး၍ သင်လေ၏။

ထိုစိတ္တရနှင့် နာရဒရှင်ငယ်တို့လည်း ထိုအတတ် ကို ရမြောက်လေလျှင် သူ့အိမ်သူ့ရာကြိုက်ရာရာကို ပြစ်မှား လေ၏။ မင်းကြီးနန်းတွင်းဝယ် မိဘုရားလေးယောက်မှစ၍ မောင်မမိဿံမလွတ် ပြစ်မှားလေဖန်များလတ်သော် မိဘုရား စောပဒုမာက ဤသို့ဆို၏။ မင်းကြီးကား ရှေးကာလနှင့်မတူ၊ အရောက်အပေါက်များလွန်းစွတကား။ အဘယ်သို့ဖြစ်သနည်းဟု မေးလျှောက်လတ်သော် မင်းကြီးလည်း ငါကား မိဘုရားလေးပါးတွင် အမျှ ရောက်ပါသည်။ ယခု ရှေးထက်တိုးလတ်သည်ဖြစ်မှုကား အကြောင်းတခုရှိရာသည်။ အကြောင်းကိုသိလိုသည်ဖြစ်က ဖယောင်းဆီဖော်၍ထားပြီးသော် နှောင်လာလတ်သော အခါ ကျောက်ကုန်းကို ဖက်ယမ်းသကဲ့သို့ပြု၍ လက်ဝါးစုံ ဖြင့် ကပ်လိုက်ဟု သင်ပေ၏။ ထိုသို့သင်သောအတိုင်း ရောက်လာသည့်အခါ လက်စုံကပ်လိုက်ပြီးသော် အကြောင်းကို မင်းကြီးအား ကြားလျှောက်လေ၏။ မင်းကြီးလည်း သူငယ်တော်တို့ကိုခေါ်၍ အကြင်သူတို့၏ ကျောက်ကုန်း၌ လက်ဝါးစုံ ဖယောင်းဆီကပ်သော အရာရှိသည်ဖြစ်အံ့။ ထိုဖယောင်း ဆီကပ်သောသူကို ရအောင်ဖမ်း၍ယူခဲ့ဟု စေတော်မူလိုက်၏။

ထိုရှင်စိတ္တရ နာရဒတို့လည်း ဆောင်းလအခါ ဖြစ်၍ မြို့တံခါးဝဝယ် ကျောကုန်းကို မီးကင်၍နေသည်ကို တွေ့လျှင် ဖမ်းငင်ပြီးသော် မင်းကြီးအားဆက်လာပေ၏။ မင်းကြီးလည်း အကြောင်းကိုမေးလျှင် ရှင်ငယ်တို့လည်း မပျက်မဝှက် ဟုတ်တိုင်းမှန်ရာကိုလျှောက်ပေ၏။ မင်းကြီး လည်း ထိုစကားကိုကြားလျှင် အတတ်ကိုလိုချင်သော ဆန္ဒအားကြီးသောကြောင့် တဆံခြည်မျှ မျက်တော်မရှိဘဲ ထိုအတတ်ကို သင်ကြားစေလိုသောအကြောင်းဖြင့်သာလျှင် ရှိသေစွာတောင်းပန်လေ၏။ ရှင်ငယ်တို့လည်း အရှင် မင်းကြီးကိုသင်၍ တတ်မြောက်တော်မူလျှင် ကျွန်ုပ်တို့ကို

သတ်ပြန်လတ္တံ့။ ထို့ကြောင့် ကျွန်ုပ်တို့ သင်အံ့သောငှာ မဝံ့ဟုဆိုပေသော် မင်းကြီးလည်း အတတ်ကိုသာသင်ပါ။ ဆရာတို့အား ငါမပြစ်မှားဟု ကြီးစွာသောသစ္စာကိုဆိုပြီးမှ ချုန်အပ်သရွေ့ကိုချုန်၍ သင်အပ်သရွေ့ကိုသင်ပေး၏။ မင်းကြီးလည်း ထိုရှင်ငယ်တို့ကို ဆရာဟုမှတ်လေ၏။ ရှင်ငယ်တို့လည်း ပြိုင်းတိုင်တောင်မှ အရှေ့မြောက် သေန်အရပ်ဝယ် ဆရာဝိဇ္ဇာဓိုရ်နေခဲ့သော တောင်ဖြူထက်၌ နေကြလေ၏။

တရံရောအခါ၌ နန်းကျကြီးမင်းသည် အမတ်ကြီး စည်သဘင်၏သမီး ပန်းနီလာကို တောင်းလေသော် တင်းထိမ်ရံကာ၍ ယခု ကျောက်ပေါက်နေပါသည်။ သာယာမှ လက်ဆောင်တော်ဆက်သပါမည်ဟု လျှောက်လိုက်၏။ မင်းကြီးလည်း အကယ်ထင်တော်မူလေ၏။ အမတ်ကြီးစည်သဘင်လည်း ညအခါ သူကောင်တခုကို ယူဆောင်၍ ပုဆိုးအဝတ်လွှမ်းပြီးသော် ထားလေ၏။ သမီးကိုကား တောတခုဝယ် ဝှက်၍ထားလေ၏။ ထိုသူသေကို သမီးကျောက်ရောဂါဖြင့် သေခဲ့သည်ဟု သူသိသူမြင်သင်္ဂြိုဟ်လေ၏။ မင်းကြီးလည်း အကယ်ထင်မှတ်၍ မေ့လျော့စွာနေလေ၏။ ကာလရှည်လတ်လျှင် အမတ်ကြီးစည်သဘင်ကား မင်းကြီးမေ့လျော့ပြီဟုမှတ်၍ အမတ်ကြီး လက်ယာနန္ဒသူသားနှင့် သမီး ပန်းနီလာကို ထိမ်းမြားလေ၏။ ထိမ်းမြားသောအခါ စည်သံ, ပတ်သံကို မင်းကြီးကြားလေလျှင် ဤစည်သံ, ပတ်သံကား အဘယ်ပြုသောအသံနည်းဟု မေးလေသော် အမတ်ကြီး လက်ယာနန္ဒသူသားနှင့် စည်သဘင်သမီး ပန်းနီလာကို ထိမ်းမြားရာမှတီးသော စည်သံ, ပတ်သံ ဖြစ်ပါသည်ဟူ လျှောက်လေလျှင် ငါသို့စင်မင်းကို ဤသို့ စင်ပျက်ဝှက်ပြုရသလောဟု အမျက်တော်ရှိလတ်၍ လက်ယာနန္ဒသူ၏ အိမ်ထောင်ပစ္စည်းဥစ္စာများတို့ကိုလည်း ထွားထွားညက်ညက် ဖျက်ဆီးသိမ်းယူလေ၏။ အမတ်စည်သဘင်၏ ပစ္စည်းဥစ္စာများကိုလည်း သိမ်းယူလေ၏။ သမီးတော် ပန်းနီလာကိုလည်းသိမ်းတော်မူ၍ မင်းပြောင်ထားလေ၏။ မင်းကြီးသည် ဤနေ့ကစ၍ ငါ့အား မပန်မကြားဘဲ စည်မတီးစေနှင့်ဟု အမိန့်ထုတ်တော်မူလေ၏။ ထိုအခါကစ၍ မင်းကိုပန်ကြားပြီးမှ စည်းတီးရ၏။

အမတ်စည်သဘင်နှင့် လက်ယာနန္ဒသူကား အလွန်ရှက်ကြောက်သည်ဖြစ်၍ မှူးမတ်ပြည်သူတို့နှင့် ညီညွတ်ကြပြီးလျှင် ရှင်စိတ္တရ၊ နာရဒတို့ကို တံစိုးများစွာ ပူဇော်၍ တောင်းပန်လေသော် ရှင်ငယ်စိတ္တရ၊ နာရဒတို့လည်း ဝန်ခံပြီးလျှင် ထိုတောင်မှလာလတ်၍ အမတ်စည်သဘင်အိမ်သို့ဝင်၍ ဥစ္စာယူပြီးသော် လောင်းကြက်မြို့ တဖက်ဖြစ်သော ပေါင်းတုပ်ဖျားဝယ် ကျွဲရိုင်းအဟန်ဖြင့် နေနှင့်လေ၏။ ထိုအခါ ရွာသားတို့သည် ပေါင်းတုပ်ဖျားဝယ် ကျွဲရိုင်းရောက်သည်ဟု မင်းကြီးအား လျှောက်ကြားလေလျှင် မင်းကြီးလည်း ဝမ်းမြောက်ဝမ်းသာ ဤသို့ဖြစ်လျှင် ပွဲကြီးဖြစ်အံ့သည်ဟု သေစာအရက်ကို သောက်၍ ဆင်စီးလျက်ထွက်တော်မူလေ၏။ ထိုတောသို့ ရောက်လေလျှင် ရှင်ညီနောင်နှစ်ယောက်တို့သည် ကျွဲဖြူရိုင်းအယောင်ဆောင်လျက် နှစ်ခုပြိုင်၍ရပ်နှင့်လေ၏။ ထိုကျွဲရိုင်းနှစ်ခုကို မင်းကြီးမြင်လျှင် ထိုရှင်ငယ်တို့ ဖန်ဆင်း၍နေမှန်းကိုသိ၍ ကြောက်လန့်စွာဖြစ်သဖြင့် ကျေး၏အယောင်ဆောင်၍ ပျံထွက်လေ၏။ ရှင်ငယ်တို့ နှစ်ယောက်လည်း စွန်ရုပ်အယောင်ဆောင်၍ လိုက်လေ၏။ မင်းကြီးလည်း စွန်ရုပ်အယောင်ဆောင်၍ ပျံလေ၏။ ရှင်ငယ်နှစ်ယောက်လည်း သိမ်းရုပ်အယောင်ဆောင်၍ လိုက်လေ၏။ ထိုသို့ အစဉ်အတိုင်းလိုက်၍ မလွတ်သာလျှင် တောသားသမင်အယောင်ဆောင်၍ ပြေးလေ၏။ ရှင်ငယ်တို့လည်း ကျားရုပ်အယောင်ဆောင်၍ လိုက်လေ၏။ မင်းကြီးလည်းမလွတ်သာလျှင် ဆင် အယောင်ဆောင်၍ ပြေးလေ၏။ ရှင်ငယ်တို့လည်း ဆင်နှစ်စီး အယောင်ဆောင်၍ လိုက်လေ၏။ မင်းကြီးလည်း မလွတ်သာလျှင် ရွာတွင်းသို့ဝင်၍ လူအယောင်ဆောင်လျက် လူများထဲသို့ ဝင်သောအခါ၌ ရှင်ငယ်တို့သည် ဒါးလက်နက်ဖြင့် ခုတ်မိလေသောကြောင့် မင်းကြီး လက်ယာနားသည် ပြတ်လေ

လျက် အလွန်ကြောက်လန့်တကြားဖြစ်၍ ၄က်အယောင်ဖြင့် ဘန်ဆင်း၍ ခန္တီသာရဆရာတော်ကျောင်းသို့ ပြေးဝင်လေ၏။ ငါ့ဆရာ၊ ငါ့အား တားပါဟု ဆရာတော်ကိုဖက်လေ၏။ ဆရာတော်လည်း လက်ကိုဖယ်၍ မင်းကြီးသိမ်းယူခြင်းကြောင့် ငါတို့ကျောင်းဝယ် သင်တုန်းမျှမရှိ။ အဘယ်လက်နက်ဖြင့် ငါတို့ တားရပါအံ့နည်းဟု ဆိုပေ၏။ နားမှယိုစီးသောသွေးကို သုတ်စရာပဝါပေးတော်မူပါဟု တောင်းလေလျှင် မင်းကြီးကျေးဇူးကြောင့် ကျောင်း၌လည်းကောင်း၊ အိမ်၌လည်းကောင်း ကွမ်းထုပ်စရာ ပဝါမျှမရှိရအောင် သိမ်းယူသည်။ ယခုဘယ်ကိုပေးရအံ့နည်းဟုဆိုလေလျှင် မင်းကြီးလည်း မတားလိုသောအကြောင်းကိုသိလေ၍ မိမိကောင်းမှုဂူထဲသို့ဝင်၍ တံခါးပိတ်လျက်နေ၏။

ရှင်စိတ္တရ၊ နာရဒတို့လည်း မင်းကြီးတည်းဂူထဲက ထွက်အံ့လော။ မင်းကြီးကောင်းမှုကိုလည်း မီးတိုက်ခံအံ့လောဟုဆိုပေသော် ငါသေသော်လည်း ငါ့ကောင်းမှု မပျက်စီးပါစေနှင့်၊ ထွက်ပါအံ့ဟုဆို၍ လက်ယာနားမှထွက်သောသွေးကို လက်ယာလက်ဖြင့်ခံ၍ ဘုရားရုပ်တုတော်၏ လက်ယာပေါင်တော်၌ လက်ဝါးစုံဖြင့် ပုတ်ပြီးလျှင် ဤသို့မိန့်ဆိုတော်မူ၏။ အရှင်ရုပ်တုတော်မြတ်ဘုရား၊ အကျွန်ုပ်သည် ဤပြည်၌တဖန် မင်းအဖြစ်ကိုရ၍ အကျွန်ုပ်၏ ရန်သူတို့၏ ဆွေမျိုးအသင်းအပင်းတို့ကို ပြုန်းတီးအောင်သတ်ရပြီးမှ အကျွန်ုပ်လိမ်းကျံခဲ့သော လက်ယာပေါင်တော်၌ သွေးသည်စင်စေသတည်းဟု သစ္စာမူခဲ့သောအဆုံးမှ ထွက်၍ အသက် အသေခံလေလျှင် ရှင်ငယ်တို့လည်း ဦးခေါင်းကိုဖြတ်၍ စည်သဘင်အမတ်ကို အပ်လေ၏။ ထိုနန်းကျမင်းကား အိမ်နိမ့် ၁၆၊ တဆဲ့ခြောက်နှစ်။ နန်းစံ ၄၊ လေးနှစ်။ နှစ်စုသက်တော် ၂၀၊ နှစ်ဆယ်။ သက္ကရာဇ် ၆၃၉ တွင် လွန်တော်မူလေသည်။၆။

ထိုမင်းလွန်တော်မူလေလျှင် စည်သဘင်အမတ်ကြီးကား ပြည်သူတို့နှင့်ညီညွတ်လျက် ထိုနန်းကျကြီးမင်း၏သား မင်းဘီလူးကို မင်းသမီး စောမာလာနှင့် သက္ကရာဇ် ၆၃၉ ခုတွင် အဘိသိက်သွန်းပြီးလျှင် မင်းအဖြစ်ကို အပ်နှင်းတော်မူလေ၏။ အမတ်ကြီးစည်သဘင်သမီး ပန်းနီလာကိုလည်း မိဘုရားမြှောက်လေ၏။

ထိုမင်းဘီလူးသည် ကုသိုလ်ကောင်းမှုကိုကားမချစ်၊ ကြမ်းတမ်းယုတ်မာစွာ၏။ မှူးမတ်အသည်ပြည်သူတို့၏ သမီးများကိုလည်း အဘနန်းကျကြီးမင်းကဲ့သို့ သိမ်းယူလေ၏။ ပြည်တုတ်ပြည်ခွန်ကိုလည်း မညာမတာ၊ အဘလက်ထက်အခါထက် တိုးကဲ၍ကောက်ယူလေ၏။ ထိုမင်းဘီလူးငယ် မင်းထီးဟူသောသားကိုဖွားမြင်သောအခါ ကောင်းသောနိမိတ်၊ တိတ်၊ စနည်း၊ တဘောင်တို့ များစွာထင်၏။ မင်းသား၏ဘုန်းတန်ခိုးကြောင့် မင်း၏ကိုင်စမှတ်ပြုသော လက်နက်အပေါင်းတို့သည် အရောင်တောက်ပကုန်၏။ ထိုသို့သောအခြင်းအရာကိုမြင်ရသော အဘမင်းဘီလူးသည် ယုတ်မာသောအကြံဖြင့် မွေးဖွားသော မိမိသားငယ်ကို ညဥ့်အခါမြစ်နားသို့ယူ၍ ကျောက်ဖိလျက် ပုခက်နှင့်တကွ ရေဝယ်မျှောလိုက်လေ၏။ ထိုသို့ မျှောလိုက်သောအခါ စက်ဝန်းကဲ့သို့သော ကျွန်းတခုသည် ထိုမင်းသားကိုခံ၍ ပေါ်လတ်သတည်း။ ထိုကျွန်းကို စက်ဝန်းကျွန်းဟူ၍ ဤနေ့တိုင်အောင် ခေါ်ကြလေ၏။

ထိုမင်းသားသည် ကျွန်းနှင့်တကွပေါ်လတ်လျှင် တံငါတို့ရလေ၍ မင်းဘီလူးအား ဆက်ပြန်လေလျှင် မင်းလည်းသတ်၍ မသေနိုင်ရာပြီဟု ယိုးချောင်းဖျားသို့ လျှိုပို့၍ထားလေသည်။ အမတ်စည်သဘင်ကြီးနှင့် မှူးမတ်ပြည်သူတို့သည် ဤမင်းကား အလွန်ကြမ်းကြုတ်စွာလျက် ပြည်တွင် လူသူကိုထားဘိ၊ မိမိ၏ချစ်လှစွာသောသားကိုပင် ကရုဏာမရှိဘဲ အသေပြုဘိ၏။ ငါတို့ပြည်သူတို့ကိုကား အဘယ်ဆိုဖွယ်ရာရှိအံ့နည်းဟု မှူးမတ်တို့နှင့်ညီပြီးသော် မင်းဘီလူးကိုလုပ်ကြံလေကုန်၏။ ထိုမင်းကား အိမ်နိမ့် ၁၂၊ တဆဲ့နှစ်နှစ်။ နန်းစံ ၄၊ လေးနှစ်။

နှစ်စုသက်တော် ၁၆၊ တဆောင့်ခြောက်နှစ်။ သက္ကရာဇ် ၆၄၃ တွင် လွန်တော်မူလေသည်။ ၇။

ထိုမင်းလွန်တော်မူလေလျှင် မင်းဘီလူးတွင် ပုန်စားသော စည်သဘင်အမတ်ကြီးသည် သက္ကရာဇ် ၆၄၃ တွင် မင်းမူလေ၏။ မင်းအဖြစ်သို့ရောက်လတ်လျှင် မင်းမျိုးမင်းဆွေကိုစီစစ်၍ ကွပ်ညှပ်ညှဉ်းဆဲလေသော် ကြွင်းသော မင်းမျိုးမင်းဆွေတို့သည် ပြည်သားပြည်သူတို့နှင့် ညီညာလျက် စည်သဘင်နန်းတက် ၂၊ နှစ်နှစ်ဝယ် လုပ်ကြံ၍ သက္ကရာဇ် ၆၄၅ တွင် လွန်တော်မူလေသည်။

ထိုစည်သဘင်အမတ်လွန်လေလျှင် ခုနစ်နှစ်သာ ရှိသော မင်းဘီလူးသားဖြစ်သော မင်းထီးကို ယိုးဖျားက ယူ၍ စောစစ်ဟူသော မင်းသမီးနှင့်သက္ကရာဇ် ၆၄၅ တွင် နန်းတင်ကြလေ၏။ ထိုမင်းကား အလွန်လျှင်ရတနာ သုံးပါးကိုကြည်ညို မြတ်နိုးပေ၏။ များစွာသော ကောင်းမှု ကိုလည်း ပြု၏။ မင်းမျိုးမင်းဆွေမှူးမတ်ပြည်သူတို့ကို လည်း များစွာချီးမြှောက်မစတော်မူ၏။

ထိုမင်း၏ မိဘုရားကား ပိန်နဲစေည်သမီး ဖြစ်သော စောစစ်မိဘုရားလည်းတယောက်၊ ဦးရီးတော် ရန္တမိတ်၏သမီး စောပျိုလည်းတယောက်၊ မိထွေးတော် စောထွေး သမီး စောညိုလည်းတယောက်၊ အမတ်ကြီး သမ်သောခနေ သမီး စောသန္တာဖြူလည်းတယောက် အားဖြင့် လေးယောက်ရှိတော်မူ၏။ ပိန်နဲစေည်သမီး စောစစ်မိဘုရားတွင် သားတော် ဥစ္စနာငယ်လည်း တယောက်၊ သမီးတော် စောမာလာလည်းတယောက်၊ စောသမာလည်းတယောက်အားဖြင့် သုံးယောက်ဖွားမြင် တော် မူသည်။ စောသန္တာဖြူတွင် သားတော်သိင္ဃည်း လည်း တယောက်၊ သီဝရာဇ်လည်းတယောက် ဖွားမြင် တော်မူသည်။ စောပျိုတွင်ကား သမီးတော် မင်းဂဏ္ဍာ လည်းတယောက်၊ စောရွှေပွင့် ဟူသော သမီးတော်လည်း တယောက် ဖွားမြင်တော်မူသည်။ ထိုမင်းကား ပြည်သူ တို့အား ဝမ်းထွက်သားကဲ့သို့ သနားစုံမက်တော်မူ၏။ ပြည်တုတ် ပြည်ခွန်တို့ကိုလည်း လျှော့ညှဉ့်၍ကောက်တော် မူ၏။ ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်တို့လက်ထက် ပိုတက်၍ ကောက်ခံသောအရာကို လွှတ်တော်မူ၏။ စေတီ၊ ပုထိုး၊ သိမ်၊ ကျောင်း၊ ဇရပ်၊ မဏ္ဍပ်၊ တန်ဆောင်း အဟောင်းအနွမ်းတို့ကို ထပ်မံပြုပြင်တော်မူ၏။ အသစ် ဖြစ်သော စေတီ၊ ပုထိုး၊ သိမ်၊ ကျောင်း၊ ဇရပ်၊ မဏ္ဍပ်၊ တန်ဆောင်း၊ ရေတွင်း၊ ရေကန်၊ စကြံ၊ တံတားတို့ကိုလည်း အားထုတ် ဖြည့်ကျင့်တော်မူ၏။ သူတကာတို့ အကျိုး စီးပွားရှိအောင်ကိုသာပြု၍ ပတိုးလက်စွဲလျက် ပဉ္စသီ၊ အဋ္ဌသီ၊ ဒသသီ-တို့ကို မပြတ်ဆောက်တည်လျက် နေတော်မူသည်။

ယင်းသို့ နေတော်မူသောအဖြစ်သည် ကြော်ငြာ နှံ့သိ၍ အမျက်စောင်မာန်မရှိဟူ၍ မှတ်ထင်သဖြင့် ထိုမင်းနန်းတက်၍ ၁၅၊ တဆဲ့ငါးနှစ်၊ သက္ကရာဇ် ၆၆၀ တွင် အရှေ့မြောက်အရပ်မှ မိုးညင်း၊ ကလေး စသော သျှမ်းတို့သည် ရောက်လတ်၍ အဋ္ဌနန္ဒီလေးမြို့ချောင်းဖျား ကို ဖျက်လာကုန်၏။ ထိုသို့ ဖျက်ဆီးလာသောအဖြစ်ကို မင်းကြီးသိတော်မူလေလျှင် အမျက်တော်ထွက်၍ တိုက်လေသော် ထွားထွားညက်ညက် ပျက်စီးလေကုန်၍ သျှမ်းတို့သည် ပြေးခဲ့ကုန်၏။ ထိုအခါ ရလိုက်သောသုံ့ပန်း တို့ကိုကား ထမင်းဟင်းဝစွာကျွေးလျက် အဝတ်အစား ရိက္ခာမျိုးစုံပေး၍ ပြန်လွှတ်လိုက်ပေ၏။

ထိုအခါ၌ ပျက်လေပြီးသော တောင်ငူမြို့ကို တည်တော်မူလေ၏။ ထိုနှစ်ဝယ်ပင်၊ ထိုမင်းကြီး၏ တန်းခိုးသတင်းကို ကြားလေသောကြောင့် သူရတန်ပြည် ၏ တဖက်ကိုပိုင်သော ဧန္တတ်ကြီးပေုခင်သည် ဆင်မြင်း အလုံးအရင်းနှင့်တကွ ကျွန်ခံလာပေ၏။ နေားစွန်း- ဟူသော ကုလားမင်း၏အမတ်သည် များစွာသော လက်ဆောင်နှင့်ဆက်သရန် ရောက်လာပေ၏။ ထိုထို အရပ်ထက်ဝန်းကျင်၌ နေကုန်သော သူတို့၏ မှီခို ကိုးကွယ်ရာဖြစ်၍ နေကြကုန်လျက် ၁၅၊ တဆဲ့ငါးနှစ် မြောက် သက္ကရာဇ် ၆၇၅ ခုတွင် မြန်မာတို့သည် အမ်း၊ ဒါးလက်တို့ကို ဖျက်ဆီးလာကုန်၏။ တလိုင်းတို့သည်

လည်း အလုအယက်ကြိမ်သလီ, ကြွေကျိုင်း, တိုင်ကျိုးတို့ကို ဖျက်ဆီးလာကုန်၏။ သက်တို့လည်း မဟာစိုးနှင့်ရှင်ငယ်ကူးတို့ရွာတို့ကို တိုက်လာကုန်၏။

ထိုအခါမှ မင်းကြီးသည် အမျက်တော်ထွက်၍ မှူးမတ်အပေါင်းတို့နှင့်တကွ တိုင်ပင်တော်မူပြီးသော် မဟာမုနိရုပ်ရှင်တော်ထံသို့ ကြွတော်မူ၍ လက်စွဲတော်ပြုသော ပုတီးကိုတင်လျက် ဤသို့မိန့်တော်မူ၏။ မြတ်စွာဘုရား ရုပ်တုတော်အရှင်မြတ်ကို စောင့်သောနတ်များ အပေါင်းတို့သည်၎င်း၊ သာသနာငါးထောင်စောင့်သော နတ်အပေါင်းတို့သည်၎င်း သိတော်မူသည်ဖြစ်စေသတည်း။ ငါသော်တမူကား ဤဘဝပတ်လုံး ခန္ဓာတည် သရွေ့ဒါန, သီလနှင့် မွေ့လျော်တော်မူလျက် နေ့ရက်ကို ကုန်စေအံ့ဟု မှတ်ပါသည်။ ယခုရန်သူတို့သည် ငါ၏တိုင်းကား နိုင်ငံကို ပျက်စီးအောင်ပြုလာသည် ဖြစ်သောကြောင့် ဘုန်းလက်ရုံးတန်ခိုးကိုပြုပြီးမှသာလျှင် တိုင်းနိုင်ငံလုံအံ့သတည်းဟု သစ္စာမိန့်ခွန်း၍မှူးတော်မတ်တော်တို့နှင့် ရုံးစုတိုင်ပင်ပြီးသော် စစ်အင်္ဂါလေးပါးနှင့်တကွ ထိုသက္ကရာဇ် ၆၇၅ ခု၊ နတ်တော်လတွင် သံတွဲသို့ချီတော်မူလေ၍ တိုင်ကျိုး-အရပ်တွင် တပ်တော်တည်ရပ်၍ မင်းကြီးနေတော်မူပြီးသော် ဘထွေးတော်ဥစ္စနာကြီးကို မင်းကြီးတွင်ပါသော ရဲမက်တို့နှင့် မြန်မာပြည်ကို တိုက်စေတော်မူ၏။ ယောက်ဖတော် စလင်္ကာသူကိုကား ကိုယ်တော်ရံ သူရဲတို့နှင့် တလိုင်းပြည်ကို တိုက်စေတော်မူ၏ အမတ်ကြီးရာဇသင်္ကြံကိုကား ရဲမက်စစ်သည်တို့နှင့် သက်ပြည်ကိုတိုက်စေတော်မူ၏။

မြန်မာပြည်ကို တိုက်စေတော်မူသော ဘထွေးတော် ဥစ္စနာကြီးကား မြန်မာတို့က မြို့ပြတပ်တာ ကျုံး, မြောင်း, ဆင်, မြင်းအလုံးအရင်းတို့နှင့်ထွက်၍ ခံတိုက်လတ်သောကြောင့် စစ်ရပ်မသာ၍ တပ်ပါရဲမက်တို့တွင် သစ္စာကတိ မြဲစွာတည်၍ လူ ၂၀၀၀ ကျော် ၃၀၀၀ ခန့်တို့ကိုရွေးကောက်၍ တနေ့လျှင် ၁၀၀ ကျော် ၂၀၀ ခန့်မြန်မာတပ်သို့ဝင်၍ မျိုးရိက္ခာစားနပ်မရှိ ငတ်မွတ်နေပါသည်ဟုပြောဆိုလေလျှင် မြန်မာတို့က အကာယ်ထင်၍ ထိုသူတို့ကိုဆုလာဘ်ပေး၍ မှူးမတ်တို့၏အိမ်၌ ထားလေ၏။ ရခိုင်တပ်မင်း ဥစ္စနာကြီးလည်း စစ်တက်ပြန်လေသော် မြန်မာတို့လည်း ဆင်လုံး မြင်းရင်းနှင့် ထွက်၍တိုက်နှင့်၏။ တိုက်လေသည့်အတွင်း ရခိုင်လူဝင်တို့သည် တံခါးကိုပိတ်ပြီးသော် မြို့တွင်းရှိ အိမ်ကျောင်းတို့ကို မီးတိုက်လေလျှင် မြန်မာတို့ပျက်စီး၍ များစွာသော လက်ဆောင်ပဏ္ဏာနှင့် ဥစ္စနာကြီးသည် မင်းအားဆက်ရောက်လာလျှင် ဥစ္စာနာကြီးကစ၍ သူရဲဗိုလ်ပါတို့ကို ဆုလက်များစွာပေးတော်မူလေ၏။

တလိုင်းပြည်ကိုတိုက်စေသော စလင်္ကာသူသည် တလိုင်းတို့နှင့်တိုက်ကြလေသော် ခုနစ်ရက်စာရိက္ခာကိုသာ ခါးတွင်ပါစေလျက် ကျန်သမျှရိက္ခာတို့ကို ရေတွင်သွန်စေ၍ လှေအားလုံးကို မီးတိုက်စေပြီးသော် အချင်းချင်း ငါတို့ရဲမက်ဗိုလ်ပါများသည် တညီတညွတ်တည်းတိုင်ပင်ပြီး၍ တိုက်ကြလေလျှင် တလိုင်းတို့သည် ထွားထွားညက်ညက် ပျက်စီးကြလေ၏။ ပျက်စီးကြလေလျှင် များစွာသော ရွှေ၊ ငွေ၊ ဆင်၊ မြင်း လက်ဆောင်ပဏ္ဏာတို့ကို တလိုင်းမင်းက ဆက်သတော်မူလိုက်၏။ စလင်္ကာသူလည်း ပြန်လာခဲ့ပြီးလျှင် မင်းကြီးအားဆက်သတော်မူလေလျှင် မင်းကြီးလည်း ဝမ်းမြောက်ဝမ်းသာ ဆုလက်များစွာ ပေးတော်မူသည်။

သက်ပြည်ကို တိုက်စေသော အမတ်ကြီးရာဇသင်္ကြံလည်း သက်ပြည်ကို တိုက်လေလျှင် သက်တို့သည် စုရုံးပြီးသော် မဥ္ဇရီတောင်ထိပ်ထက်သို့ တက်နေကြသောကြောင့် မရနိုင်သည်ဖြစ်၍ ပြန်လာခဲ့ပေ၏။ မင်းကြီးလည်း မရခဲ့သဖြင့် ပြန်လာသောအကြောင်းကို ကြားတော်မူလျှင် အမျက်တော်ရှိ၍ ရာဇသင်္ကြံကို မယူမြစ်ဝယ် တံကျင်လျှိုလေဟု သူသတ်တို့ကိုစေလိုက်၏။ ရာဇသင်္ကြံလည်း သျှင် ထိုင်,သျှင်ထားဟူသော သမီးတော်နှစ်ယောက်တို့ကို လက်ဆောင် ဆက်သတော်မူလျက် အရှင်မင်းကြီး၊ ဤတမိုးကို သည်းခံတော်မူပါ၊ ဝါကျွတ်လျှင်ရအောင်ပြု၍ လက်ဆောင်ဆက်သပါမည်ဟု အသနားခံတောင်းပန်လေ

လျှင် မင်းကြီးလည်း ငုံ့ဆိုင်းတော်မူလေ၏။ ရာဇသင်္ကြံ အမတ်ကြီးကား ဝါမကျွတ်မီ တော်သလင်းလကပင် မိမိထံ၌ရှိသော ရဲမက်ဗိုလ်ပါနှင့် မဥ္ဇရီတောင်မြို့ကို ပတ်ပတ်ရံလေ၏။ ရံလေပြီးသော် ဗေဒင်ဟူးရားအရာ၌ လွန်စွာတတ်မြောက်သည်ဖြစ်၍ ကာလကိုရှုလေသော် တန်ဆောင်မုန်းလပြည့် ပုဏ္ဏမီနေ့၌ သည်းစွာသော လျှေင်ကြီး သုံးကြိမ်စေအောင် လျှပ်လတ္တံ့သောအဖြစ်ကို မြင်လေပြီးလျှင် သက်တို့အား တမန်စေလွှတ်လေ၏။ နင်တို့သည် ဤတောင်မှ သက်၍ဝင်လျှင်လိုသော် ဝင်၊ မဝင်သော်ကား တောင်နှင့်တကွ နင်တို့ကိုငင်၍ သမုဒ္ဒရာသို့ ပစ်ပေအံ့ဟုစေလိုက်၏။ သက်တို့လည်း မယုံကြည်ဘဲ နေကြကုန်၏။ သက်တို့မယုံ ကြည်မှန်းကိုသိလေလျှင် အမတ်ကြီးရာဇသင်္ကြံသည် တောင်နှာမောင်းကိုထွင်း၍ ကြိုးကြီးလွန်ကြီးဖြင့်တပ်ပြီးသော် လျှေင်လျှပ်အံ့သောအချိန် ကို ငံ့လင့်၍နေလေ၏။ တန်ဆောင်မုန်းလပြည့်လတ်၍ လျှေင်ကြီးသည်းစွာလျှပ်သောအခါ၌ ကြိုးလွန်ကိုကိုင်စေ ပြီးသော် သဲသဲသောင်းသောင်း ကြော်ငြာ၍ငင်လေ၏။ လျှေင်အဟုန်ဖြင့် တောင်အလုံး သိမ့်သိမ့်လျှပ်လေ၏။ လျှေင်တကြိမ်လျှပ်စေပြီးမှ တမန်စေလွှတ်၍ ပြောပြန် လေ၏။ နင်တို့ကိုသနားသောကြောင့် သည်းခံသည်ဟု ပြောဆိုစေ၏။ သက်တို့သည်အချို့ ကားယုံကုန်၏။ အချို့ကားမယုံကုန်။ မယုံသောသူတို့သည် မကြောက် ကုန်။ အမတ်ကြီးရာဇသင်္ကြံလည်း ဒုတိယနှစ်ကြိမ်မြောက် လျှပ်လတ္တံ့သောအချိန်ကို ငံ့၍နေလေ၏။ နှစ်ကြိမ်မြောက် လျှပ်မည့်ဆဲဆဲအချိန်တွင် တောင်အလုံးပဲ့တင်ခတ် ကြော်ငြာ ၍ ငင်စဉ်၌ လျှေင်သည် သည်းစွာလျှပ်လေ၏။ ယင်းသို့ နှစ်ကြိမ်လျှပ်စေပြီးသော် တဖန်လည်းကောင်း တမန်စေ လွှတ်ပြန်လေ၏။ နင်တို့ကို ငါတို့၏အရှင်ကျွန်ဖြစ်သော ကြောင့် သနားသည်ဖြစ်၍ နှစ်ကြိမ်မြောက် သည်းခံသေး သည်။ ယခုသုံးကြိမ်မြောက်အခါဖြစ်လျှင် တောင်နှင့်တကွ နင်တို့ကို သမုဒ္ဒရာသို့ငင်ချလျက် သေကြေ နှစ်မွန်းပျက်စီး အောင် ပြုမည်ဟု စေလွှတ်ပြောဆိုလေ၏။ ယင်းသို့ပြောဆို လေရာတွင် အကြီးအငယ်မကြွင်း၊ သက်မင်း လင်မယား မှူးမတ်အပေါင်းတို့သည် သမီးကညာဘဏ္ဍာ လက်ဆောင်တို့ဖြင့် ဆက်သကျိုးနွံဝင်လာကုန်၏။ ရာဇသင်္ကြံအမတ်ကြီးလည်း ဆင်မြင်းဗိုလ်ပါနှင့်တကွ အနောက်ဘက်ရှိမင်းတို့ကို တိုက်ပြန်လေသော် ဗြဟ္မပုတြ မြစ်တိုင်အောင်နိုင်လေ၍ ထိုထိုသို့သောမင်းတို့သည် သမီးကညာရတနာ အတုတ်အခွန်တို့ကိုဆက်သ၍ ရလေ ပြီးသော် ထိုအရပ်၌ ရေတွင်း၊ ရေကန်၊ ဘုရားပုထိုးတို့ကို ပြုလုပ်တည်ထားတော်မူခဲ့၍ အစဉ်အတိုင်း ယခုတိုင် အောင် အချို့သောရေတွင်း၊ ရေကန်တို့သည်ရှိလေကုန်၏။ ရာဇသင်္ကြံလည်း ထိုအရပ်မှ ပြန်ခဲ့ပြီးလျှင် ရခဲ့သောသမီး ကညာရတနာရွှေငွေတို့ကို မင်းကြီးအား ဆက်သတော် မူလေ၏။ မင်းကြီးလည်း အလွန်ဝမ်းမြောက်တော် မူသောကြောင့် များစွာသောဆုလက်တို့ကို ပေးတော်မူ လေ၏။ ထိုနှစ်တွင်ပင် တလိုင်းမင်းက သမီးတော် စောဘုန်းခေါင်နှင့် ပိဋကတ်ကျမ်းဂန် ရွှေငွေရတနာတို့ကို ဆက်သတော်မူလာပေ၏။ ထိုမင်းထီးကား အိမ်နိမ့် ၇၊ ခုနှစ်နှစ်။ နန်းစံ ၁၀၆၊ တရာ့ခြောက်နှစ်။ နှစ်စုသက်တော် ၁၁၃၊ တရာ့တဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၅၁ ခုတွင် လွန်တော်မူလေသည်။ ဤသည်ကား ရာဇဝင်ဟောင်း၌ လာသော မင်းထီးအကြောင်းတည်း။၉။

ဓညဝတီအရေးတော်ပုံ၌ကား အလောမာဖြူမင်း နောက် ၈၊ ရှစ်ဆက်မြောက် မင်းဘီလူးသားတော် မင်းထီး သည် သက်တော်ကိုးနှစ်အတွင်း ခမည်းတော်ရိပ်ရာ ထီးနန်းကို စိုးအုပ်တော်မူသောအခါ၌ အမိန့်တော်ရှိသည် ကား သားမကောင်းလျှင် အဖကိုစီရင်ရမည်။ မယား မကောင်းလျှင်လင်။ တပည့်မကောင်းလျှင် ဆရာ။ ကျွန် မကောင်းလျှင်အရှင်။ သမီးမကောင်းလျှင် အမိကိုစီရင် ရမည်။ ယင်းသို့မင်းအာဏာ ငါးရပ်သားနားပိုင်းခြားလျက် ထားတော်မူလေသည်။ မင်းပွဲသဘင်ခံရာ၌ ငယ်တော်မူ၍ မယ်တော်သုဘဒ္ဒာဒေဝီ၏ မောင်တော်အရင်း ဒါဂါ မြို့စား ဦးရီးတော်အနန္တာဘယရင်ခွင်ပေါ်၌သာ ထိုင်တော်မူ

လျက် ခံတော်မူလေသည်။ တနေ့သ၌ လောင်းကြက်မြို့နေ သေဌေးနေ့ဥယ၏ ကျွန်နှစ်ယောက်သည် လက်မဖက်ရှာတွင် နွားတကောင်ကို ခိုးယူသတ်စားလေရာ ဖမ်းမိလေလျှင် သေဌေးလည်း မင်းအာဏာတော်ကို ကြောက်လန့်သောကြောင့် ငွေအသပြာတထောင်နှင့် ဦးရီးတော်အနန္တာဘယထံသွား၍ ကျွန်ရှင် ခံတော်မူပါ လျှောက်ထားလျက် ဆက်ပေးလေသော် ဦးရီးတော်လည်း ကျွန်ရှင်ခံမည်ဟုဆို၍ ထိုသပြာတထောင်ကို ယူလေသည်။ နံနက်အခါ ဦးရီးတော်ရင်ခွင်ပေါ်၌ထိုင်တော်မူ၍ မင်းပွဲခံလေရာ ထိုနွားခိုးနှစ်ယောက်ကို ဆက်ပို့လာသော် ပြည့်ရှင်မင်းက မည်သူ့သား၊ မည်သူ့ကျွန်နည်းဟု မေးတော်မူရာ ဦးရီးတော် အနန္တာဘယ၏ ကျွန်ဖြစ်ပါသည်ဟု သူခိုးတို့က လျှောက်လေလျှင် ဦးရီးတော်သို့လှည့်၍ ကျွန်မှန်၏လောဟု မေးတော်မူပြန်လေသည်။ ဦးရီးတော်ကလည်း ကျွန်မှန်သည်ဟု လျှောက်လေသော် ယင်းသောအခါ ရှေးအမတ်ပညာရှိရိုးဖြစ်သော စစ်တကောင်းမြို့စားဝိမလအမတ်သို့ မေးတော်မူ၏။ အာဏာကိုဖျက်သောသူအား ကျမ်းဂန်မည်သို့လာသည်။ ဘေးတော်ဘီတော်ထိးနန်းမင်းဆက် စီရင်ထုံးစာဟောင်းနှင့် လျှောက်ရမည်အမိန့်တော်ရှိလေသော် ပညာရှိအမတ်ဝိမလလျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ မင်းတို့၌ပြကတေ့ ကျေးဖူးတရား ခုနစ်ပါးရှိကြောင်းကို ကျမ်းဂန်၌လာသည်ကား။

(၁) သာမိသာမျာနုဂေါ မစ္စော၊ ဖနပဒေါဝိသဇ္ဇနော။
ဒုဂ္ဂံဒုဂ္ဂဂုဏောပေတံ၊ ဒဏ္ဍောဒေါသာနုရူပတော။

(၂) ကောသော အက္ခယသမ္ပတ္တိ၊ မိတ္တဉ္စဘယသံယုတ္တံ။
**သတ္တပကတိယော ဟောန္တိ၊ ဝုတ္တာ နီတိဝိစက္ခဏာ။**

ဟူ၍ ရာဇနီတိကျမ်း၌လာပါသည်။ သာမိ၊ လိမ္မာတော်ဖြောင့်တရားစောင့်သော ပြည့်ရှင်မင်းလည်း တပါး။ သာမျာနုဂေါ၊ မိမိအရှင်ဖြစ်သော မင်းအလိုတော်သို့ တရားသဖြင့်လိုက်၍ ဆုံးမပေတတ်သော။ အမစ္စော၊ အမတ်ပညာရှိငှင်း။ ဇနပဒေါ၊ ဇနပုဒ်ပြည်ရွာတိုင်းကား၌ ဖြစ်ပွားထွန်းလင်းသော။ သဇ္ဇနောဝိ၊ သူတော်ကောင်းဖြစ်သော ပညာရှိငှင်း။ ဒုဂ္ဂံဒုဂ္ဂဂုဏောပေတံ၊ ဖျက်ဆီးကူးမြောက်ခြင်းငှာ ခဲယဉ်းစွာသော မြို့ရိုး၊ တံတိုင်း၊ ပြအိုး၊ တန်ဆောင်း၊ ကျုံး၊ မြောင်း၊ ရင်တားနှင့်ပြည့်စုံသော မြို့တော်ရှိခြင်းလည်းကောင်း။ ဒေါသာနုရူပတော၊ အပြစ်ရှိသောသူအား အပြစ်အားလျော်စွာ။ ဒဏ္ဍော၊ မျက်နှာကြီးငယ်မဖယ်မရှေး ဒဏ်ပေးခြင်းငှင်း။ အက္ခယသမ္ပတ္တိကောသော၊ ပြည်သူတို့၏အခွန်ကိုမလွန်စေရ ဆယ်ဖို့တဖို့ခံယူ၍ မကုန်ခမ်းနိုင်သော ကျီကျဘဏ္ဍာဥစ္စာ များမြောင်စွာရှိခြင်းလည်းကောင်း။ ဘယသံယုတ္တံမိတ္တံ၊ ရန်သူရောက်လတ်သောအခါ ညီညာကူပံ့ဘော်ရသော ပြည်ထောင်ဖက်ချင်း မိတ်ဆွေခင်ပွန်းမင်းရှိခြင်းလည်းကောင်း။ ဣတိ၊ ဤသို့။ သတ္တပကတိယော၊ ခုနစ်ပါးသောမင်းတို့၏ ပြကတေ့ကျေးဇူးတရားတို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဣတိ၊ ဤသို့။ နီတိဝိစက္ခဏာ၊ ရာဇနီတိ၌ လိမ္မာကုန်သော ပညာရှိတို့သည်။ ဝုတ္တာ၊ ဆိုအပ်ကုန်၏။

ဤသို့ကျမ်းဂန်လာကြောင်းနှင့် အမတ်ကြီးလျှောက်လေရာ ပြည့်ရှင်မင်းအမိန့်တော်ရှိသည်ကား ငါငယ်တော်မူသော်လည်း ကေသရာဇာခြင်္သေ့မျိုးသည်ရွှေဂူ၌သာအိပ်သကဲ့သို့ ခြင်္သေ့ဆီလည်း ရွှေခွက်တွင်သာတည်သည်။ ဆဒ္ဒန်ဆင်ဖြူမျိုးမှန်လျှင် ဆင်မည်းဖွားရိုးမရှိ။ နေ, လ တို့သည် မိမိအရောင်ကိုဖျက်၍မထွန်း၊ သမုဒ္ဒရာတို့မူလည်း ကမ်းသို့ရေလျှံရိုးမဟုတ်၊ ငါတို့မင်းမျိုး၌လည်း အနီးအဝေးမရွေးလေရာ အာဏာသားနားထားတော်မူသောစကားကို ဖျက်ရိုးထုံးဟောင်းမလာ၊ မင်းတည်ကြည်မှ ပြည်သာမည်ကို အနွယ်တော်စောင့်သော တရားမဖျက်သင့်။ ငါလည်း သိတော်မူသည်ပင်အမိန့်တော်ရှိ၍ ဦးရီးတော်အနန္တာဘယကို သူသတ်သို့အပ်၍

အမတ်ကြီးသို့လည်း စားကျေးမင်းတုန်းကို ပေးတော်မူသည်။ သက်တော် ၁၅ နှစ်ရောက်သောအခါ လွန်လေသော ဦးရီးတော်သမီး မြတ်ရွှေညာကို တောင်ညာနန်းတော်မူ၍ ဘေးတော်၊ ဘိုးတော်၊ ခမည်းတို့နည်း ဘိသေကကို ခံတော်မူသည်။ အမတ်ကြီးလျှောက်သောပါဠိအနက်ကိုပျင်၍ ရေးလိုက်သည်။

ထိုမင်းထီးလက်ထက် မောက်သူဇာ၊ ဘင်္ဂါတဆဲ့နှစ်မြို့ကုလားတို့သည် သက်နှင့်ပေါင်းပြီးလျှင် ဒီလီပဆာမင်းထံဝင်လျက် သောင်းကြမ်းပြန်လေရာ စစ်သူကြီးမွေဖေယျှနှင့်ကိုယ်ရံကြီး ပြည်သထ၊ ထိုနှစ်ယောက်ကို ရဲမက်တသိန်း ငါးသောင်းနှင့်ချီတက်စေသောအခါ စစ်ဆင်သော ထုံးသော်ကား ကြည်းရေနှစ်ဝချီသွား၍ အမတ်ကြီးတို့မဟာစိုး ကျွန်းသို့ရောက်လေရာ သက်တို့သည်ခိုင်လုံစွာနှင့် ကြိမ်တန်းတောင်ကခံနေလေသည်။ ကုလားများလည်း စစ်တကောင်းအဝင် ဟင်းရာဝက သဘော်တရာလက်နက်အစုံတို့နှင့်ဆီးဆို့နေလေသော အမတ်နှစ်ဦးတို့ ညီညွတ်တိုင်ပင်၍ဆိုကြသည်ကား ကုလားမှာ=မြေ၊ သက်မှာ=ခြေ၊ ကုလားပျက်လျှင်-သက်အလွယ်သာ ဖြစ်သည်။ သက်နှင့်ကုလား မပူးစေရ။ ပရိန္ဒဝတွင် စိန်တင်စားတပ်၊ မြို့ချောင်းစားတပ်၊ သူရဲတသောင်းနှင့် ခိုင်လုံစွာရပ်နေစေသည်။ ယင်းသို့ပြီးမှ စပ်တင်လှေ ၅၀၀ကိုကျောက်တင်စေပြီးမှ သဘော်ထွက်ရေကြောင်း၌ ညဥ့်အခါသွား၍ မြှုပ်ထားစေသည်။ ထိုသို့ပြုပြီးမှ ဝါးဖောင်တထောင်၌ အမှိုက်ပြည့်စွာထည့်လျက် လူရုပ်သဏ္ဍာန် လက်နက်စွဲကိုင်စေ၍ စစ်ဝတ်ဆင်ပြီးလျှင် ထိုဝါးဖောင်တွင် အများထည့်လေသည်။ ယင်းသို့ပြီးမှ ယမ်းအိုးအများစေ့အောင် ဝါးဖောင်၌ ထည့်လေ၍ အခမ်းအနားကိုစီရင်ပြီးသော် *ဖြားရေကြီးသောနေ့၌ မြစ်ညာက ထိုဝါးဖောင်တို့ကိုမျှောလေရာ သဘော်သားတို့က လူအမှတ်ထင်၍ အမြောက်နှင့်ပစ်လေသည်ကာလ ဝါးဖောင်၌ ယမ်းအိုးသို့မီးကျ၍ မီးထ၍လောင်လျက် သဘော်သို့ရောက်လတ်လျှင် ပင်လယ်သို့ သဘော်ထွက်လေရာ ရေကြောင်းပိတ်ဆို့ရှိလေသောကြောင့် မထွက်နိုင်လေ။ ထိုဝါးဖောင်တို့သည် မီးပုံကြီးစွာထ၍ ထပ်ကာထပ်ကာမျောလာထိခိုက်သဘော်ကို မီးစွဲလေ၍ သဘော်တပ်ပျက်စီးလေသော် ကုန်းတပ်ကုလားတို့ စစ်တကောင်းမြို့က ဆုတ်သွားလေလျှင် စစ်တကောင်းမြို့ကို ဒါးမကျိုး လှံမနာပဲ လွယ်ကာနှင့် ရလေသည်။ ကုလားတပ်၊ ကြည်း, ရေပျက်၍ စစ်တကောင်းမြို့ကိုရကြောင်း သက်မင်းသိလေရာ အလွန်ကြောက်လှ၍ သက်မင်းကိုယ်တိုင်လက်ဆောင်များစွာနှင့်ဝင်ရောက်လာလေသည်။ အမတ်ကြီးတို့လည်း စစ်တကောင်းမြို့ကချီသွား၍ မောက်သူဇာမြို့ကိုရပြန်လေသော် မောက်သူဇာမြို့တွင် စိန်တင်စား၊ ဒါဂါမြို့တွင် အမတ် မြို့ချောင်းစားတို့ကိုထား၍ ကုလားအကြီးသက်မင်းနှင့် ခေါင်းအကြီးတို့ကိုခေါ်ယူပြန်လာစေ အမိန့်တော်ရောက်လျှင် အမတ်ကြီးနှစ်ယောက်ပြန်လာခဲ့သည်။ သက်မင်း ငဖုန်းကို အသက်မသတ်ခြေတော်ရင်းတွင် ထားလေသည်။ မုသလမ် ကုလားတို့မှာ အကောက်အဆိုးများသည် အမိန့်တော်ရှိ၍ ကုလားထာနာလူပေါင်း ၅၀၀ အနက် တရာကို တန်ဆာသိမ်း၍ မိန်းမစိုးမောလိတ်အစို့မှာ ဖြည့်တော်မူလေသည်။ လေးရာကုလားတို့ကို စီရီရေခပ်အစို့မှာ ဖြည့်တော်မူသည်။

ထိုမင်းလက်ထက် သက္ကရာဇ် ၆၉၅ တွင် အရှေ့သက်တို့သည် မငြိမ်မသက် တောင်စဉ်ကျေးရွာတို့ကို ဖျက်ဆီးလာကြောင်း လမူးသူကြီး လျှောက်လာသော် အမတ်ကိုယ်ရံကြီး၊ ရာဇစည်သူ၊ ရာဇသင်္ကြန်တို့ကို ရဲမက်တသိန်း၊ ကိုယ်ရံတော် နှစ်သောင်းပေးတော်မူ၍ ချီတက်စေရာ အမတ်ကြီး စစ်ဆင်ခြင်းကိုရိုယာသော်ကား မင်းတုန်းမြို့လမ်းက တောင်ခွင်စား ရဲကျော်နှင့် ကမ်းရံ, သံတွဲ သူရဲတသောင်းကိုချီစေသည်။ တောင်ကုတ်လမ်းက တောင်ကုတ်စား ရန်သူကို သူရဲတသောင်းနှင့် ချီစေသည်။ ဆားပြင် ကမာလမ်းက ယန်းထော်စား သတိုးအောင်ကို သူရဲတသောင်းနှင့် ချီစေသည်။ ဒါးလက်လမ်းက ဒါးလက်စား ကျော်ပုံကို သူရဲတသောင်းနှင့်ချီစေသည်။

ရွှေသရွှေလမ်းက ရွှေစားညိုရောင်ကို သူရဲတသောင်းနှင့် ချီစေသည်။ သလွကမျှစ်လမ်းက မာန်အောင်စားချစ်သူနှင့် သူရဲတသောင်း၊ သံထောင်စား လက်ယာသူနှင့် သူရဲတသောင်းတို့ကိုချီစေသည်။ ကိုယ်တော်ရံသူရဲ နှစ်သောင်း၊ ကုလားသုံးသောင်း၊ လှေပေါင်း ၅၀၀၀၀၊ ငါးသောင်းနှင့် အမတ်ကြီးစနဲ၊ မအီလမ်းကချီတက်၍ အသီးအသီးတပ်များကို အမတ်ကြီးက အရည်အခွင်းလှပ သောမိန်းမတယောက်စီအပ်လိုက်၍ မှာသည်မှာကား တောင်ခွင်ကြိမ် သလီလမ်းက ချီသူတို့လည်း ပဲခိုးမင်းနှင့် နီးသည်။ သူတို့က ဆီးဆို့ချီလာခဲ့သော် စစ်ထိုးမည် မဟုတ်။ သမီးကညာ ပဲခိုးမင်းကို ဆက်မည်လာသည်။ ယင်းသို့ဆို၍ ထိုမိန်းမကို ကောင်းမွန်စွာဆင်ယင်၍ အခြွေ အရံနှင့်ပြသလေ။ ဒါးလက်လမ်းက ချီသောတပ်နှင့်လည်း ပြူနိုင်ငံပန်းယမြို့နှင့် နီးသည်။ ပန်းယမင်း ဥစ္စနာက ဆီးဆို့ချီလာသော် ထိုနည်းပြသပြောဆိုလေ။ သက်မင်းကို ဖမ်း၍ရသောအခါ သက်မင်းနေသော မိစ္ဆာဂီရိ သရက်မြို့ ကို ငါကိုယ်တိုင်ချရပ်မိမှ အထက်တပ်၊ အောက်တပ် အစဉ်အတိုင်း အနေသင့်ရာ၌ တပ်ခိုင်စွဲချ၍နေမည်။ ငါ့ထံသို့ မပြတ်အကြောင်းများကို လျှောက်ထားလာစေဟု မှာလိုက်၍ စစ်သူကြီး ရာသေကြီးအမတ်တွင်လည်း အရည် အသွေးရှိသော မိန်းမတယောက်ကို ခြွေရံအများနှင့် ကောင်းမွန်စွာယူ ဆောင်လေသည်။ အမတ်ကြီးချီသွား၍ တိုင်းတာမြို့သို့ရောက်လေသော် အရေးအရာ၌လိမ္မာတတ် ကျွမ်းသော လေးမြို့စားသံတိုင်ကို လက်ဆောင်စာသဝဏ် နှင့် သက်မင်းရှင်စောထံသို့ သမီးကညာဆက်သရန်လာ သောအကြောင်းကိုစေလွှတ်လေသည်။ လေးမြို့စားသံတိုင် လည်း သွားလေ၍ သက်မင်းထံရောက်လေရာ အမတ်ကြီး မှာတိုင်းပြောဆိုလျှောက်တင်လေသော် သက်မင်းလည်း အလွန်အားရတော်မူ၍ လေးမြို့စားကို ဆုလာဘ်များစွာ ပေးပြီးမှ အမတ်ကြီးကို ဆင်ပေါက်တစီး၊ ရွှေစလွယ်၊ ရွှေကွမ်းချပ်၊ ရွှေကြိုး၊ ရွှေကနှင့်မြင်းနှစ်စီး၊ ရွှေထွေးခံ များနှင့် ပေးလိုက်၍ အမတ်မင်းတပ်စား ဖြသွိုကို ထည့်တော်မူလိုက်သည်။ ထိုအကြောင်းကို အမတ်ကြီး သိလေလျှင် ရဲမက်တို့ကို ဖိုးခေါင်တောင်မှာတင်ထား၍ အတော်အသင့်သော ထိုမိန်းမကိုပြသကြည့်ရှုစေပြီးလျှင် ကြိုတော်မူစေလိုကြောင်းနှင့် လျှောက်စာဆက်လိုက်၍ ပြန်စေသည်။

မင်းတပ်စား ဖြသွိုလည်း လောင်းကြက်မြို့ရှင် မင်းထီး၏နှမတော်ဖြစ်ကြောင်းနှင့် အမတ်ကြီးထွက်ချက် အတိုင်း လျှောက်လေရာ အားရတော်မူ၍ အကြိုမင်းတပ် ရောက် ထွက်လာတော်မူခဲ့သည်။ မင်းတပ်တွင် ပွဲသဘင် ကြီးစွာခံ၍ သက်မင်းစံနေကြောင်းကို လူရောက်လျှောက် ထား၍ သိလေလျှင် အမတ်ကြီးက ဒါဂါစား ရဲအောင်နိုင် သို့ ကိုယ်တော်ရံ သူရဲကောင်းတသောင်း၊ တိုက်ဆင် တရာပေး၍ ထိုမိန်းမကိုဆက်သရန်ယူလျက် ရှေ့က ချီသွား စေသည်ကာလ မှာပြန်သည်ကား သက်မင်းသည် အပျော်မှူ၌ လွန်သူဖြစ်သည်။ အပျော်အရွှင်သဘင်မှူ၌ လွန်သောသူကား မေ့လျော့ထိုင်းမှိုင်းပေါ့ဖျင်းလျက် သေသောက်ကြူးနှင့်တူသည်။ တရွေ့တရွေ့သာ သွားလေဟု မှာလိုက်၏။ ထိုနောက် ကံသာမြို့စား ဝံတဗိုလ်ကို သူရဲကိုယ်တော်ရံ တသောင်းပေး၍ တောကြောင်းချီစေလျက် သက်မင်းနောက်က ပိတ်ဆီးစေ သည်။ သက်မင်း မင်းရှင်စောကား မီးမက်သော ပိုးဖလံ ကဲ့သို့ ပွဲသဘင်နှင့်သာ ပျော်ပါး၍နေတော်မူရာ ဒါဂါစား ရဲအောင်နိုင်လည်း ထိုမိန်းမကိုဝင်၍ ဆက်သလေသည်။ သက်မင်း မင်းရှင်စောလည်း အလွန်ချစ်မြတ်နိုးလျက် ပွဲသဘင်၌ ထိုမိန်းမနှင့်အတူကြည့်ရှု၍နေရာ ညဥ့်တပဟိုရ် ခန့်တွင် ရှေ့နောက်ပိတ်ဆီး၍ တိုက်လေသော် သက်မင်း မင်းရှင်စောနှင့် သားအလတ် စောဖြူ၊ သားအငယ်စောတူ တို့ကိုရလေသည်။ ထိုနောက်ချီသွား၍သက်မင်းနေရာ မိစ္ဆာဂီရိသရက်မြို့သို့ရောက်၍ သားအကြီးစောစုံ၊ မိဘုရားကြီး ရှင်မြတ်လှနှင့်တကွ မိဘုရားသုံးပါး မောင်းမ အကုန်ကိုရပြန်လေသည်။ သက်မင်း မင်းရှင်စောနှင့် သားသုံးပါး၊ မိဘုရားသုံးပါး၊ သမီးနှစ်ပါး၊ မောင်းမများ

တို့ကို ဒါဂါစားရဲအောင်နိုင်ကိုစေ၍ ပြည့်ရှင်မင်းထံ သက္ကရာဇ် ၆၉၅ ခု၊ တပို့တွဲလဆန်း ၂ ရက်နေ့ ပို့ဆက်စေသည်။

ယင်းသို့ဉာဏ်ပညာဖြင့် သက်မင်းနေသော မိစ္ဆာဂိရိ သရက်မြို့ကို ဒါးလှံမကျိုးရပြီးမှ ပြည်မြို့သို့ ချီလေသော် ပြည်စားအတိုက်မခံဝံ့၍ ဆင်ပေါက် ၅၀၊ ဆင်ပြောင် ၂၀၊ ရွှေငွေအထည်အလိပ်များကိုဆောင်ယူလျက် အမတ်ကြီးနေရာ ကာမမြို့ရောက်ပို့ဆက်လာသော် ပြည်မြို့ကိုကား မတိုက်မဖျက် သက်အိမ်ထောင်စု တသောင်းကိုသိမ်းယူခဲ့၍ ၎င်းသက္ကရာဇ် ၆၉၅ ခု၊ တပေါင်းလပြည့်ကျော် ၁၃ ရက်နေ့အမတ်ကြီးပြန်ခဲ့သည်။ သက်မင်းကိုကား ကျောက်မသာ ကျောက်ဖျားရွာကို ပေးတော်မူသည်။ သက်မင်းသမီး စောမောက်ကို မင်းချစ်တန်ဆောင်ထားတော်မူသည်။ သက်မင်းသမီး အငယ်ကို အမတ်ကြီးသား အမ်းစားအောင်သူနှင့် ပေးမြားတော်မူသည်။ သက်အိမ်ထောင်စု တသောင်းကို အမ်းချောင်း၊ ရှူးချောင်းများတွင်ချထားတော်မူ၍ ဒိုင်းနက် ငွေခွန်ဖွဲ့တော်မူသည်။ အမတ်ကြီးကို မဟာဝေဿဝဏ္ဏ အမည်ကိုပေးတော်မူသည်။ ဆင်က၊ ရွှေသားဖောင်းဖြူ ထွက်စည် ရွှေထမ်းစင်ပေးတော်မူသည်။ သက်မင်းသား အကြီး စောစုံကို ကြွေတဲစား၊ သားအလတ် စောဖြူကို မီးစား၊ သားအငယ် စောတူတို ကင်းစားအသီးအသီး သူကောင်းပြု၍ အပါးတော်တွင်ထားတော်မူရာ လေးမြို့သို့ အချီတွင် သက္ကရာဇ် ၇၀၅ ခုနှစ် သက်မင်းသား သုံးယောက် လေးမြို့အဖျား ဖိုးခေါင်တောင်ကိုလွှဲ၍ အရှေ့ပြည်သို့ ပြေးလေသည်။ ယင်းသောအခါ သက်မင်းကို သော်ကား မည်သို့အပြစ်မပြု၊ စားကျေးမြို့ရွာကိုလည်း မနုတ်၊ ထားမြဲသာထားတော်မူသည်။ သက်မင်းသားသုံးယောက် အရှေ့ပြည်သို့ရောက်လေသော် ပန်းယတစီးရှင် ဥစ္စနာထံနေကြလေရာ အကြီးဖြစ်သူ စောစုံသည် မြင်စိုင်းမြို့ကို စားရလေသည်။ ညီအလတ် စောဖြူမှာ ကျော်စွာမင်း လက်ထက်မင်းရန်နောင် အမည်ကိုခံ၍ ပြည်မြို့ကိုစားရ လေသည်။ ညီအငယ် စောတူသော်ကား စကိုင်းမင်း တရားထံ ထမ်းရွက်လေ၍ အမြင့်မြို့ကိုစားရလေသည်။

ဤအရာတွင် ဓညဝတီအရေးတော်ပုံ၌ သက်မင်းသား သုံးယောက်တို့ သက္ကရာဇ် ၇၀၅ ခုနှစ်တွင် ထွက်ပြေးလေ၍ ပန်းယမြို့ တစီးရှင်မင်းဥစ္စနာထံသို့ ခိုဝင်နေကြောင်းနှင့် ဆိုလေသည်။ မှန်နန်းရာဇဝင် ဆဋ္ဌမတွဲ ၃၈၃ နံပါတ်တို့၌လည်း တစီးရှင် ဥစ္စနာမင်းကြီးသည် ၆၈၄ ခုတွင်မင်းဖြစ်တော်မူ၍ နန်းစံ၂၀၊ သက္ကရာဇ် ၇၀၄ ခုတွင် ညီတော် ငါးစီးရှင်ကျော်စွာကို နန်းလွှဲအပ်တော်မူကြောင်းနှင့် ဆိုလေသည်။ တနှစ်ခန့်မျှသာ ကွာသောကြောင့် ညီညာသည်ဟူ၍ပင် ယူသင့်သည်။ ထိုအခါ အရှေ့ပြည်တွင်လည်း အသီးအသီးအလိုရှိရာ မင်းမူကြလျက် စစ်မက်ထူထပ်စွာ သတ္တဝါတို့ ကပ်ဥပဒ်ဘေးဒဏ်ရှိကြလေရာ ကြံခပ်ဝရာသား တယောက်သည် အရေးအရာ၌ လိမ္မာသူဖြစ်၍ တစီးရှင်ဥစ္စနာက စောသမွန် အမည်နှင့် တကောင်းမြို့ကိုပေး၍ စားရလေသည်။ တကောင်းစားသား ချစ်နှောင်ဦးလည်း တစီးရှင် သီဟသူသားကျော်စွာထံ သူငယ်တော်ခံလျက် နေလေသည်။

ယင်းသောအခါ တကောင်းစား စောသမွန် ခြားနားမည်ကြံသောအကြောင်းကို တကောင်းမြို့အကြီး ရှိဘတ္တရာဇာက ပန်းယမင်းသို့လျှောက်လေရာ တကောင်းစားကိုခေါ်၍ မေးတော်မူသည်။ မဟုတ်မမှန်ကြောင်းနှင့် လျှောက်တင်လေလျှင် တကောင်းစားသို့ ဘတ္တရာဇာကို အပ်လိုက်၍ ဘတ္တရာဇာ လက်လွတ်ထွက်ပြေးခဲ့လျက် ရက္ခပူရတိုင်း ရခိုင်ပြည်လောင်းကြက်မြို့ရှင် မင်းထီးထံ ရောက်လာသော် အကြောင်းအရာများကိုစုံစေအောင် မေးမြန်းတော်မူပြီးမှ သိတော်မူလေလျှင် ကိုယ်လုပ်တော် မောင်းမ ဝင်းစံကိုထုတ်၍ ပေးမြားတော်မူသည်။ စားကျေးလည်း ဦးရစ်တောင်စားအရာ ပေးတော်မူသည်။ ပန်းယမြို့တွင်လည်း နရသူမောပါမင်းသည် အကျင့်

ပျက်၍ရှိလေရာ တကောင်းမြို့စား စောသမွန်သား ချစ်နောင်းဦး ဗိုလ်ခြေနှင့် ကြခပ်ဝရာကလာ၍ ပန်းယကို လုပ်ကြံ၍ရလေသော် သတိုးမင်းဖျားအမည်နှင့် မင်းပြုသည်။ ယင်းသို့နောင်မှ စစ်ကိုင်းကိုတိုက်ပြန်၍ရလေသော် သက္ကရာဇ် ၇၂၆ တွင် အင်းဝမြို့ကို တည်လေကြောင်းနှင့် ဆိုသည်။

မှန်နန်းရာဇဝင် ၃၉၈ နံပါတ်တွင်ကား အသခ်ယာ စောယွမ်းသမီးတော် စိုးမင်းကိုယ်တော်ကြီး သည် တကောင်းမင်းရိုး သတိုးဆင်ထိန်းနှင့်သင့်၍ သားတော်ရာဟုလာတစ်၊ နှမတော်ရှင်စောကြီးတစ်၊ ညီမတော်စောဥမ္မာတစ်၊ မောင်နှမသုံးယောက်မြင်လျှင် သတိုးဆင်ထိန်း အနိစ္စရောက်လေသည်။ ထိုနောက် သီဟပတိမင်းပြောက် မင်းဖြစ်၍ မိဘုရားမြှောက်ရာတွင် သမီးတော်စောတော်ဦးကိုမြင်ပြန်သည်။ ရာဟုလာသား တော် အသက်ခုနစ်နှစ်အရွယ်သို့ရောက်လျှင် တကောင်း မင်းရိုး မပျက်စကောင်းပေဟု သတိုးမင်းဖျားအမည်နှင့် တကောင်းမြို့ကို ဘထွေးတော် သီဟပတိမင်းပြောက်က ပေး၍စားရလေသည်။ ပန်းယမင်းနရသူကလည်း မင်းရိုး မဟုတ်သူ စကိုင်းမြို့ကို မင်းပြုသည်ဟူ၍ သက္ကရာဇ် ၇၂၅ ခုတွင်ကိုးသိန်းသခင် သိုဟ်ဘွားညီ သိုချည်ဘွားသို့ စစ်ပန်လေလျှင် သတိုးမင်းဖျားမခံနိုင်၍ ဆင်တစီးနှင့် ပြေးလာလျက် စကိုင်းမြို့သို့ ရောက်လာသည်ကို ဘထွေးတော်မင်းပြောက်က အမျက်တော်ရှိ၍ သံခြေချင်း ခတ်လျက် ကြခပ်ဝရာသို့ပို့လေသည်။ သတိုးမင်းဖျား လည်း ငါ့ကိုမင်းကြီးကမခံနိုင်ဟူ၍ မိန့်တော်မူသည်။ ငါ့ကိုထားဦး၊ မင်းကြီးမြို့နှင့် မင်းကြီးခံနိုင်အောင်ခံဟု ဆို၏။ မင်းပြောက်လည်း ဆင်ချစ်နောင်ရင်းကိုက စော်ဖတ် ယစ်အောင်ကျွေးပြီးသော် တံခါးကိုဖွင့်၍ လွှတ်၏။ ဆင်ချစ်နောင်ရင်းလည်း သျှမ်းတို့ကထိုးပစ်လျှင် တံခါးကိုထိုးဖောက်၍ မြို့တွင်းသို့ဝင်လျက် အိမ်ရာ ကျောင်းကန်များကိုဖျော့လေ၏။ ပြည်သူတို့လည်း မြို့တွင်းကား ဆင်၊ မြို့ပြင်ကား သျှမ်းဖြစ်ခဲ့ပြီဟုဆိုကြကုန်၏။ မင်းပြောက်လည်း ခံနိုင်မည်မထင်၍ မြို့သားတို့နှင့် ကြခပ်ဝရာသို့ ဖောင်ပန်းလှေတော်ထက် စီး၍ စုန်လေ၏။ အချို့သောသူတို့လည်း ပန်းယသို့ အိုးဖောင်စီး၍ ကူးလေ၏။ သိုချည်ဘွားလည်း ပန်းယနရသူက ချီပင့်လာသော ကြောင့် လုပ်ကြံမည်လာသည်။ နရသူမကူညီချေ။ စကိုင်းကိုလုပ်ကြံရာ သူအိုနှစ်ယောက်အပြင်မရဖြစ်သော ကြောင့် ပန်းယကိုတိုက်ဦးမည်ဟု တပယ်ထောက်ရစ်က ကူး၍တိုက်လေလျှင် ဆင်ဖြူသုံးစီးနှင့် နရသူကိုရ၍ ယူဆောင်ပြီးလျှင် သျှမ်းပြည်သို့ပြန်လေသည်။ နရသူကို သျှမ်းတို့ယူဆောင်လေရာ နရသူအစ်ကို ဥစ္စနာပြောင်ကို မိဘုရားစောဥမ္မာနှင့်စုံဖက်၍ မင်းမြှောက်လေ၏။

သတိုးမင်းဖျားလည်း ကြခပ်ဝရာသို့ ဘထွေး တော် မင်းပြောက်ရောက်လာလျှင် နှလုံးတူညီသော မှူးတော် မတ်တော်တို့နှင့်တိုင်ပင်၍ မင်းပြောက်ကို လုပ်ကြံလေ၏။

သတိုးမင်းဖျားလည်း အလုံးအရင်း ဆင်မြင်း ဗိုလ်ပါနှင့်ချီ၍ ပန်းယမြို့သို့ရောက်လေလျှင် ဥစ္စနာပြောင် ကိုလုပ်ကြံ၍ စောဥမ္မာကို မိဘုရားမြှောက်လျက် ပန်းယမြို့၌ မင်းပြုတော်မူပြီးနောက် သက္ကရာဇ် ၇၂၆ ခု၊ တပေါင်းလဆန်း ၆ ရက်၊ အင်္ဂါနေ့ အင်းဝမြို့ကို တည်တော်မူကြောင်းနှင့် ဆိုလေသည်။ သတိုးမင်းဖျား အကြောင်းမညီလေ။

သက်မင်းသားအငယ်လည်း တရဖျားအမည် နှင့် အမြင့်မြို့ကို စားရလေသည်။ စစ်ကိုင်းမြို့ မင်းပြောက် အမတ်ရေနည်းစားဝေသူ၊ မောက်ကတောင်စား တုရင်က ရဲကျော်၊ ထိုနှစ်ယောက်တို့ လူပေါင်း မိန်းမယောကျ်ား နှစ်ရာခန့်နှင့် ပြေးဝင်လာရောက်ကြသော် အရှေ့ပြည် အကြောင်းကို စုံစွာမေးတော်မူ၍ ဝေသူကို ရမ်းပြည့်စား၊ တုရင်က ရဲကျော်ကို သောင်းတီးစားအရာ စားကျွေးပေး တော်မူ၍ထားလေသည်။ ပြည့်ရှင်မင်းထီးကား အနီး အဝေး ရွေးတော်မမူ ပညာအလျောက် သူကောင်းပြုတော် မူသည်။ ထိုမင်းကား အိမ်နိမ့် ၇၊ ခုနစ်နှစ်။ နန်းစံ

၁၀၆၊ တရာ့ခြောက်နှစ်။ နှစ်စုသက်တော် ၁၁၃၊ တရာ တဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၅၁ ခုတွင် နတ်ရွာ လွန်တော်မူလေသည်။ ဤသည်ကား ဓညဝတီအရေးတော်ပုံ၌ လာသော မင်းထီးအကြောင်းတည်း။

ထိုမင်းထီး နတ်ရွာလွန်တော်မူလေလျှင် သားတော်ဥစ္စနာငယ်သည် နှမတော်မင်းဂုဏာနှင့် သက္ကရာဇ် ၇၅၁ ခုတွင် ခမည်းတော်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အဆိုးအကောင်း၌ လျစ်လျူရှုတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၇၂ ခုနစ် ဆဲ့ခုနစ်နှစ်။ နန်းစံ ၂ နှစ်နှစ်။ နှစ်စုသက်တော် ၇၄၊ ခုနစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၇၅၃ ခုတွင် လွန်တော်မူလေသည်။ ဤသည်ကား ဆရာမေည် ရာဇဝင်၌လာသော ဥစ္စနာမင်းအကြောင်းတည်း။ ၁၀။

ရာဇဝင်ဟောင်း၌ နန်းတက်ခါ ဥစ္စာနာကိုဆို၍ အိမ်နိမ့်၊ နန်းစံမှာ သိဝရာဇ်အိမ်နိမ့်၊ နန်းစံနှင့်ရောရှုက်လေသည်။ ဓညဝတီအရေးတော်ပုံ၌ကား မင်းထီး၏သားတော် ရာဇသူသည် ဝရဓမ္မာဟူသောအမည်ကိုခံ၍နန်းစံတော်မူကြောင်း၊ ၎င်းဝရဓမ္မာမင်း၏ သားတော် မင်းစောမွန်ဖြစ်ကြောင်းနှင့် ဆိုလေသည်။ ဥစ္စနာ၊ သိဝရာဇ်၊ နန်းကျငယ်သိဉ္စည်းတို့မပါလေ၊ ရာဇဝင်သစ်လည်း ထို့အတူဆိုလေသည်။

ထိုဥစ္စနာမင်း လွန်တော်မူလေလျှင် ညီတော်သိဝရာဇ်သည် တဘတည်းဖြစ်သော နှမတော် စောမာလာနှင့် သက္ကရာဇ် ၇၅၃ ခုတွင် နောင်တော် ဥစ္စနာစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား အိမ်နိမ့် ၅၁၊ ငါးဆဲ့တနှစ်။ နန်းစံ ၁၊ တနှစ်။ နှစ်စုသက်တော် ၅၂၊ ငါးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၅၄ တွင် လွန်တော်မူလေသည်။ ၁၁။

ထိုမင်းလွန်တော်မူလေလျှင် ညီတော်ဖြစ်သော နန်းကျငယ်သိဉ္စည်းသည် မိထွေးတော် သမီးစောမယ်ဖွားနှင့် သက္ကရာဇ် ၇၅၄ တွင် နောင်တော်၏စည်းစိမ်ကို အုပ်စိုးတော်မူလေသည်။ ထိုမင်း မိဘုရားကား မိထွေးတော် သမီး စောမယ်ဖွားလည်းတယောက်၊ ပိန်နဲ့စေည်မြေး စောမိညိလည်းတယောက်အားဖြင့် သုံးယောက်တည်း။ စောမာလာတွင် မင်းမျိုးမိဆွေ၊ မိညိုဟူ၍ နှစ်ယောက် ဖွားမြင်တော်မူသည်။ စောမယ်ဖွားတွင် ရာဇသူ၊ သိင်္ဂသူဟူ၍ သားတော်နှစ်ယောက် ဖွားမြင်တော်မူသည်။

ထိုသိဉ္စည်းမင်းကား အလွန်ကြမ်းကြုတ်၏။ ကုသိုလ်ကောင်းမှု၌ကား လျစ်လျူရှု၏။ နန်းတက်၍ တနှစ်ရှိလျှင် တလိုင်းပြည်ကိုတိုက်၍နိုင်တော်မူ၏။ ထိုနောက် မိုးနှောင်းဝယ် စစ်တကောင်းကိုတိုက်၍ နိုင်တော်မူပြန်၏။ ထိုနောက်တနှစ်ရှိလျှင် မြန်မာပြည်ကို တိုက်အံ့ဟုချီလေ၍ ဖိုးခေါင်တောင်သို့ရောက်လေလျှင် သံတွဲစား စည်သဘင်သည် မရောက်။ နောက်ကျသည် ဖြစ်၍ မင်းကြီးအမျက်တော်ရှိသောကြောင့် စည်သဘင်ကိုသတ်လေဟု သူသတ်တို့ကိုစေလိုက်၏။ သူသတ်တို့လည်း စည်သဘင်ကို သတ်မည်ဟုရှိသည်တွင် ဆွေမျိုးတို့နှင့်တိုင်ပင်၍ အကြံမရနိုင် မှိုင်တွေလျက်နေကြရာ အရှေ့ဘက်ရွာသား မြို့နားစွန်းသည်မြင်၍ မေးမြန်းလေသော် ဟယ်... မြို့ကျွန်းသား၊ နင်နှင့်တန်သည့် စကားလောဟုဆဲရေးပြောဆိုသည်တွင် အကြောင်းကိုသာပြောပါ၊ ကျွန်ုပ်ကြံအံ့ဟုဆိုပေသော် စည်သဘင်လည်း ဟုတ်လို ဟုတ်ငြားဟု ပြန်ကြားပြောဆိုပေ၏။ မြို့နားစွန်လည်း အရှင်၊ ဤကိစ္စအလွယ်သာဖြစ်သောကြောင့် စိုးရိမ်ဖွယ်မရှိ။ ငါတို့သခင်ကို အဘယ်ကြောင့်သတ်ရအံ့နည်းဟု ဤတကျိပ်နှစ်ကျိပ်သော သူသတ်တို့ကိုသတ်ပြီးသော် ပါနိုင်သရွေ့သော လှေတက်တို့ကိုယူ၍ ကြွင်းကျန်သော လှေတို့ကို မီးတိုက်ပြီးလျှင် ရခိုင်ပြည်သို့ဝင်၍ ရခိုင်မင်းပြုတော်မူပါဟု လျှောက်လေလျှင် စည်သဘင်လည်း ဝမ်းမြောက်ဝမ်းသာစွာဖြစ်၍ ဆွေမျိုးတို့နှင့်တိုင်ပင်ပြီးလျှင် သူသတ်တို့ကိုသတ်၍ သံတွဲစား စည်သဘင်သည် လောင်းကြက်မြို့သို့လာပြီးလျှင် မိဘုရားစောမယ်ဖွားကို ရာဇသူနှင့် သိင်္ဂသူ သားနှစ်ယောက်တွင်

အဘယ်သူကို နန်းတင်ရပါအံ့နည်းဟုမေးလေသော် ရာဇသူလည်း သား၊ သိင်္ဂသူလည်းသား၊ နှစ်ယောက်အကြား မယ်ဖွားမဆိုသာဟု ပြောပေလျှင် သံတွဲစား စည်သဘင်လည်း ထိုသို့တပြီးကား အကြီးဖြစ်သော ရာဇသူကို မိဖိသမီး စောလှမွေးနှင့် ထိမ်းမြား၍ သက္ကရာဇ် ၇၅၆ တွင် နန်းတင်လေသည်။

နန်းကျငယ် သိဋ္ဌည်းလည်း ထိုသတင်းကိုကြားလေလျှင် ဖိုးခေါင်တောင်မှ လျှင်မြန်စွာလာခဲ့ပေ၏။ ပြန်လာသောအကြောင်းကို ကြားလေသော် ရာဇသူနှင့် စည်သဘင်လည်း အကြွင်းမဲ့လှေတက်တို့ကို မီးတိုက်ခဲ့ပြီးဖြစ်လျက် အဘယ်လှေတက်ဖြင့် လာသနည်းဟု ကြောက်ကြကုန်လျက် မြိုင်နားစွန်းကိုမေးပြန်လေသော် အရှင်သားတို့၊ ဤကိစ္စလည်း အလွယ်သာတည်း၊ အဘယ်သို့လွယ်သနည်းဟုမူကား မင်းကြီးနှင့်ပါလေသမျှ မင်းမျိုးမှူးမတ် ရဲမက်ဗိုလ်ပါတို့၏ သားမယားတို့ကို မြို့ထဲသို့သွင်းပြီးသော် သံခြေချင်းခတ်၍ မြို့ရိုးထက်မှ တင်ပြရသည်ရှိက ထိုသူအားလုံးတို့သည်ဝင်မှသင့်မည်ဟု အကြံရှိပါလတ္တံ့ဟုဆိုပေလျှင် စစ်သို့ပါသူ လူတို့၏ သားမယားတို့ကို သံခြေချင်းခတ်လျက် မြို့ရိုးထက်မှ ထား၍ပြလေ၏။ ထိုသို့ပြသည်ကိုမြင်လေလျှင် ရဲမက်ဗိုလ်ပါအများတို့သည် သားမယားကြောင့်သာ ဆင်းရဲဒုက္ခကို ငါတို့ခံကြကုန်၏။ သားမယားကို မျက်စိမြင်အောင် ညှင်းဆဲသည်ကို အဘယ်သို့မြင်ဝံ့အံ့နည်းဟု အားလုံးသူတို့ ဝင်ကြလေသတည်း။ အဖော်နည်းလတ်လျှင် နန်းကျငယ်သိဋ္ဌည်းကိုသတ်၍ အိမ်နိမ့် ၅၀၊ ငါးဆယ်၊ နန်းစံ ၂၊ နှစ်နှစ်၊ နှစ်စုသက်တော် ၅၂၊ ငါးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၅၆ တွင်လွန်တော်မူလေသည်။ ၁၂။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏သား ရာဇသူသည် မင်းဖြစ်တော်မူ၍ နှစ်နှစ်မြောက်ရှိလေလျှင် သံတွဲစား စည်သဘင်ပုန်စား၍မင်းရာဇသူကို အိမ်နိမ့် ၃၁၊ သုံးဆဲ့တနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၃၃၊ သုံးဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၅၈ တွင် နန်းကချ၍ ညီတော်သိင်္ဂသူနှင့်တကွ တောင်ခွင်၊ ကြိမ်သလီသို့ လျှို့ပို့လေ၏။ ၁၃။

သံတွဲစား စည်သဘင်လည်း သက္ကရာဇ် ၇၅၈ တွင် မင်းပြုလေ၏။ စည်သဘင်သည် တိုင်းသူပြည်သားတို့ကို ညှင်းပန်းနှိပ်စက် ပြုကျင့်သောကြောင့် အမတ်မြင်စည်စားသည် ပြည်သူတို့နှင့်ညီ၍ စည်သဘင်ကို နန်းတက် တနှစ်ရှိလျှင်လုပ်ကြံ၍ သက္ကရာဇ် ၇၅၉ တွင် သံတွဲစားစည် သဘင်လွန်လေသည်။ ၁၄။

စည်သဘင်လွန်လေလျှင် အမတ်မြင်စည်စားသည် မင်းမူလေ၏။ မင်းမူ၍လေးလမြောက်လျှင် ပြည်သူတို့ ညီညွတ်လျက်လုပ်ကြံ၍ ထိုသက္ကရာဇ် ၇၅၉ တွင်လွန်လေသည်။ ၁၅။

ထိုအမတ် မြင်စည်စားကို လုပ်ကြံ၍လွန်လေပြီးလျှင် ပြည်သူတို့ညီညာလျက် တောင်ခွင်၊ ကြိမ်သလီသို့ လျှို့ပို့ထားလေသော နန်းကျရာဇသူကိုပင့်ယူပြီးလျှင် သက္ကရာဇ် ၇၅၉ ခုနှစ်တွင် နန်းတင်ကြလေကုန်၏။ ထိုမင်းရာဇသူတွင် အိမ်နိမ့်မယား စောညက်ထွားခွဲ မင်းသားစောမွန်နှင့် သမီးစောပန်းတူ နှစ်ယောက်ဖွားမြင်တော်မူလေသည်။ ထိုမင်းရာဇသူလက်ထက် တလိုင်းတို့သည် တောင်စဉ်ကိုဖျက်လာ၏။ ထိုမင်းရာဇသူလည်း စစ်အင်္ဂါလေးပါးနှင့်ချီ၍ တိုက်တော်မူလေလျှင် တလိုင်းတို့ပျက်စီး၍ တလိုင်းစစ်သူကြီး ထွန်းတမြစ်ကိုရလိုက်၏။ လေးရာမျှလောက်သော လှေတို့ကိုလည်းရလိုက်၏။ ထိုမင်းရာဇသူကား အိမ်နိမ့် ၃၈၊ သုံးဆဲ့ရှစ်နှစ်။ နန်းစံအလျှင် ၂၊ နှစ်နှစ်။ နောက် ၄၊ လေးနှစ်။ နှစ်စုသက်တော် ၄၂၊ လေးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၇၆၃တွင် လွန်တော်မူလေသည်။ ၁၆။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏ညီတော် သိင်္ဂသူသည် ပိန်နဲစည်သမီး မိဘုရားစောစစ်တွင် မြင်သော စောမာလာနှင့်သက္ကရာဇ် ၇၆၃ တွင် နောင်တော်၏ထီးနန်းကို အုပ်စိုးတော်မူလေ၏။ ထိုမင်းကား ကုသိုလ်ကောင်းမှုကိုလည်း ပြုတော်မူ၏။ ပြည်သူတို့၏

စီးပွားချမ်းသာကိုလည်း ရွက်ဆောင်တော်မူ၏။

ထိုမင်းညီနောင်နှစ်ပါးတို့ကို တောင်ခွင်၊ ကြိမ်သလီသို့ လျှို့ပို့၍ထားလေသောအခါ မြက်ရိတ်၍ အသက်မွေးခဲ့ဘူးသော ရဟန်းတပါးသည် သိင်္ခသူကို ကြည့်ရှု စောင်မပြုဘူးသောကြောင့် ထိုရဟန်းအား "သံဃရာဇာ" အရာကို ပေးအပ်တော်မူသည်။ ထိုရဟန်းကား မကောင်းစားဖူး၍ ကောင်းစားလေသောကြောင့် ရှူးသကဲ့သို့ရှိလေသဖြင့် ရဟန်းသံဃအကြီးကို မရှိသေ၊ နှိပ်စက်ကလူ ညှဥ်းဆဲခြင်းကိုပြု၏။ ထိုသို့ပြုသောအဖြစ်ကို မင်းကြီးကြားလေလျှင် တကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်ဆုံးမငြားသော် ရှေးအတူသာလျှင် ရဟန်းသံဃာတော်တို့ကို နှိပ်စက်ညှင်းဆဲသောအကြောင်းကို မင်းကြီးကြားလေသော် အမျက်တော်ရှိ၍ သံဃရာဇာအား အထက်ဆင်းရဲသောအခါ မြက်ရိတ်သားဖြစ်ခဲ့ဖူးသောအဖြစ်ကိုသတိရစိမ့်သောငှာမြက်ထမ်းကို ကျောင်းပါးသို့ထမ်းပိုးဖြင့်ရွက်ဆောင်လျက်ပြစေ၏။ သံဃရာဇာဘုန်းတော်ကြီးလည်း မြက်ထမ်းကိုမြင်လျှင် ငါ့ကို မင်းကြီးအရှက်ခွဲသည်ဟု အမျက်ကြီးစွာရှိလေလျက် မင်းသားစောမွန်ကိုခေါ်၍ ဤသို့ဆို၏။ မင်းသား ဘထွေးတော်သည် ငါ့ကိုအရှက်ခွဲသည်ဖြစ်၍ မင်းသားမင်းပြုဘိဟုဆိုလေသော် အကျွန်ုပ်ဝယ် အလုံးအရင်းနှင့် ဆင်၊ မြင်း၊ လက်နက်ကိရိယာမရှိဘဲလျက် အဘယ်သို့ မင်းလုပ်ရပါအံ့နည်းဟုဆိုပေသော် မင်းသားအိပ်၍သာနေကာမူ ငါကြံမည်၊ မကြောင့်ကြလင့်ဟုဆိုပေသော် မင်းသားစောမွန်လည်း ဝန်ခံလေ၏။

သံဃရာဇာလည်း ထိုနေ့ကပင်စ၍ လက်နက်ကိရိယာစုဆောင်း၍ ကျောင်းတွင်း၌ မင်းသားစောမွန်ကို ဝှက်ထားလေ၏။ မင်းကြီးသိင်္ခသူလည်း ဝါကျွတ်လျှင် ကျေးဖူးရှင်ဖြစ်သောကြောင့် ကန်တော့မည်ဟု လာလတ်သော် သံဃရာဇာသည် မမာကွန်ပြု၍ ကျောင်းထဲမှ မထွက်ဘဲနေလေ၏။ မင်းကြီးသိင်္ခသူသည်လည်း ငါ့ဆရာမမာဖြစ်လေသည်ဟု သဘောထား၍ အတွင်းသို့ ဝင်တော်မူလေလျှင် ဝင်လျှင်ဝင်ချင်း သံဃရာဇာ လုပ်ကြံလေ၏။ ထိုမင်းသိင်္ခသူကား အိမ်နိမ့် ၃၂၊ သုံးဆဲ့နှစ်နှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၃၅၊ သုံးဆဲ့ငါးနှစ်။ သက္ကရာဇ် ၇၆၆ တွင် လွန်တော်မူလေသည်။၁၇။

ဒုတိယ လောင်းကြက်မြို့တည် အလောမာဖြူမင်း-အစ သိင်္ခသူမင်းအဆုံးရှိသော မင်း ၁၆ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၁၅၄ နှစ်တည်း။

ဤသည်ကား ဒုတိယ လောင်းကြက်မြို့တည်သော အလောမာဖြူမင်းအစ၊ သိင်္ခသူမင်းအဆုံးရှိသော မင်း ၁၆ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်းတည်း။

ဤမင်း ၁၆ ဆက်တွင် ရာဇသူမင်းသည် ရှေးနန်းစံ ၂၊ နှစ်နှစ်။ နောက်နန်းစံ ၄၊ လေးနှစ်။ ပေါင်း ၆ နှစ် စံလေသည်ဖြစ်၍ တဆက်တည်းယူသဖြင့် ၁၆ ဆက်ဟု ဆိုလိုက်သည်။

ဤ ၁၆ ဆက်တွင် ရာဇဝင်ဟောင်း၌ သိဝရာဇ်မပါလေ။ ဓညဝတီအရေးတော်ပုံ၊ ရာဇဝင်သစ်တို့၌ သိဝရာဇ်၊ စည်သာင်နှစ်ယောက်၊ နန်းကျယ်သိဥ္စည်း၊ ၎င်းသား ရာဇသူ၊ မြင်စည်စား ဤခြောက်ဦးမပါဘဲ ၁၀ ဆက်မျှသာပါလေသည်။ မြန်မာတို့၏ မှန်နန်းရာဇဝင် ၄၁၆ နံပါတ်တို့၌ သက္ကရာဇ် ၇၃၅ တွင် ဓညဝတီ ရခိုင်ပြည်တွင် မင်းဘီလူးကြမ္မာကုန်၍ မှူးမတ်တို့ တိုင်ပင်ညီညွတ်၍ အင်းဝပြည်ရှင် မင်းကြီး စွာစောကဲထံ မင်းလျှာတောင်းအပ်သည်ဖြစ်၍ ဦးရီးတော် စောမွန်ကြီးကို ပေးလိုက်သဖြင့် စောမွန်ကြီး ရခိုင်ပြည်တွင် ၆ နှစ် နန်းစံ၍ သက္ကရာဇ် ၇၄၂ တွင် လွန်လေကြောင်း၊ ၎င်းနောက် ကျွန်တော်ရင်းဖြစ်သော တလုပ်မြို့စား စောမည်းကို ထပ်၍ပေးတော်မူသည်တွင် စောမည်းသည် တိုင်းသူပြည်သားတို့ကို နှိပ်စက်ကလူပြုသောကြောင့် တိုင်းသူပြည်သားတို့ညီညာ၍ ပုန်ကန်သောင်းကျန်းပြု၍ စကုမြို့သို့ ထွက်ပြေးလာရကြောင်း။ ပြည်သားပြည်သူတို့

သည် နန်းကျကြီးမြေး ကျော်စွာကို နန်းတင်၍ ခြားနား လေကြောင်းတို့နှင့်ဆိုသည်။ ထိုစကားရပ်များကို ငါတို့ ရခိုင်ရာဇဝင် အစောင်စောင်တို့၌ ကြည့်ရှုထောက်ထားရာ တစုံတရာ အရိပ်အမြွက်မျှမတွေ့လေ။ မင်းဘီလူးနောက်တွင် စည်သဘင်အမတ်၊ ၎င်းနောက်တွင် မင်းဘီလူးသား မင်းထီးနန်းဆက်ခံ စိုးစံကြောင်းကိုသာ ရာဇဝင် အစောင်စောင်တို့၌ လာရှိပေသည်။ စောမွန်ကြီးသည် ငါတို့ ရခိုင်မင်းနန်းကျကြီး နန်းကျငယ်တို့ သုံးဆောင်တော်မူဘူးသော အဘိုးများစွာထိုက်သော ကျေးဦးဗောင်းနှင့် မြခံကျင်ကို မင်းကြီးစွာစောကဲထံဆက်လာသည်ဟု ဆိုသော စကားရပ်တွင်လည်း ငါတို့ ရခိုင်ရာဇဝင်တိုင်းမှာ ဥစ္စာနာကြီးသားတော်စောမွန်ကြီး၊ စောမွန်ကြီးသားတော် နန်းကျကြီး၊ နန်းကျကြီးသားတော် မင်းဘီလူး၊ ၎င်းမင်းဘီလူးကို စည်သဘင်ပုန်စား၍ မင်းဘီလူးသား မင်းထီးကို နန်းတင်ကြောင်း။ ၎င်းမင်းထီးနောက် သုံးဆက်မြောက်၌ နန်းကျငယ် သိဠည်းမင်း စိုးစံကြောင်းနှင့်ဆိုကြလေသည်။ စောမွန်ကြီး ရှေးနန်းကျကြီး၊ မင်းဘီလူးတို့ စိုးစံကြောင်းတို့နှင့် မလာသောကြောင့် မြန်မာတို့၏မှန်နန်းရာဇဝင်သည် ဆွဲတင်ရေးသားသောစကားသာဖြစ်မည် ထင်ပေကြောင်း။

ဤမင်း ၁၆ ဆက်တို့၏ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်များသည်လည်း မညီမညာ၊ ပိုရာပို၊ လိုရာမှာ လိုလေသဖြင့် အဆိုမညီမျှရှိကြသည့်အရာကို မြန်မာ၊ ရခိုင်ရာဇဝင်အရပ်ရပ်တို့၌ ဆိုအပ်သောစကားကို ထောက်ထားစာနာ၊ လက်ယာမင်းနန် နန်းတက်သက္ကရာဇ် ၄၆၅။ ဆိုလတ္တံ့သော မင်းစောမွန်နန်းတက် သက္ကရာဇ် ၇၆၆ ခုကို စံပြုနမူနာကိုက်၍ လျော့ထိုက်သင့်ရာ လျော့ပေါ့ကာဖြင့် သေချာရေးပြလိုက်ပေသည်။ ပညာရှင်တို့ ဆင်ခြင်စဉ်းစား မှတ်သားနှလုံးမူပါလေ။ ဤသည်ကား အမှာစကားချုပ်)။

ဤတွင်ရွေ့ကား ရမ်းပြည့်မြို့ တောင်ကျောင်းဆရာတော် ဦးစန္ဒမာလာသည် ကောင်းစွာပြုပျင် စီရင်ရေးသားအပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ စန္ဒသူရိယမင်းအဆက်အနွယ် ၂၅ ဆက်။ စန္ဒရားမင်းအဆက်အနွယ် ၁၂ ဆက်။ ခေတ္တသင်မင်း၏ အဆက်အနွယ် ၁၅ ဆက်။ လက်ယာမင်းနန် အဆက်အနွယ် ၆ ဆက်။ ဒသရာဇာမင်း အဆက်အနွယ် ၂၂ ဆက်။ အလောမာဖြူမင်းအဆက်အနွယ် ၁၆ ဆက်။ မင်းပေါင်း ၉၆ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ထောက်ထားပြုပျင် သင့်အောင်ဆင်၍ စီရင်ရေးသားအပ်သော စတုတ္ထတွဲသည် ပြီးစီးခြင်းသို့ရောက်ပြီ။

**ပု၊ ဒီ၊ အာ နှင့် ပြည့်စုံရပါလို၏။**

**ရခိုင်ရာဇဝင်သစ်ကျမ်း စတုတ္ထတွဲ**

**ဤတွင် ရွေ့ပြီးပြီ။**



ပထဌတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ စတုတ္ထတွဲ တို့ဖြင့် တန်ဆာဆင်အပ်သော "ရခိုင်ရာဇဝင်သစ်ကျမ်း" **ပထဌအုပ်သည်ကား ဤတွင် ရွေ့ပြီးပြီ။**

ပဥ္စမတွဲ၊ ဆဌမတွဲ၊ သတ္တမတွဲတို့ဖြင့် တန်ဆာဆင်အပ်သော **"ရခိုင်ရာဇဝင်သစ်ကျမ်း"** ဒုတိယအုပ်ကို ဆက်လက်၍ ဖတ်ရှုတော်မူကြပါ။

တရုတ်တစ်စင်း၊ မင်းထက်မင်းတို့၊ ခွန်သွင်းဝင်ပါ၊
မဟာပိဋကာ၊ ရက္ခပူရ၊ နာမပျံ့လွှင်၊ ရခိုင်ပြည်ကြီး၊ မြို့သီးသီးတွင်၊
ထုန်းမိး နေ-လ၊ အစိုးရကြသော၊ မဟာသမ္မတ၊ သကျ
သာကီနွယ်၊ အသင်္ချိန်ဟု၊ ရာဇိန်သက်ဆင်း၊
ရခိုင်မင်းတို့၏၊ ခြင်းရာမှုပ္ပတ်၊ ဖြစ်ပျက်ဓာတ်ကို၊ နာဂတ်
နောင်လာ၊ မျိုးလေးဖြာတို့၊ ကောင်းစွာသိစေရန်၊ ရည်ရွယ်သန်၍၊

**ရမ္မာဝတီ၊ ရမ်းပြည့်မြို့မ၊**

ဒက္ခိဏာပိဟာရရာမ ကျောင်းတိုက်ကြီး၌၊
ယာပိုထိ်ရှင်ပြီး၊ သီတင်းသုံး နေထိုင်တော်မူသော

**စန္ဒမာလာလင်္ကာရ**

အမည်ရှိတော်မူသော

**တောင်ကျောင်းဆရာတော်ဘုရားကြီးသည်၊**

ပါဠိ-အဋ္ဌကထာ၊ ဋီကာ-ပုံပြင်၊
ရာဇဝင်-အသီးသီးတို့မှ၊ ထုတ်နုတ်သုတ်သင်၊ တန်ဆာဆင်၍၊
စီရင်ရေးသားတော်မူအပ်သော၊

# ရခိုင်ရာဇဝင်သစ်ကျမ်း။

ဒုတိယအုပ်။

---

"ဆရာ-ဦးဘရင်" ကြီးကြပ်ပျင်ဆင်သည်၊

၁၂၉၃-ခု၊ ကဆုန်လ။

---

မန္တလေးမြို့၊
ဟံသာဝတီ ပိဋကတ်စာပုံနှိပ်တိုက်။

ရခိုင်သားကြီးစာပေ

# နိဒါန်း

မဟာသုဒဿန၊ အယုဇ္ဈပူရိန္ဒ၊ မာဃိန်စံမြန်း၊ ဝတီနှန်းသို့၊ ပွင့်လန်းသာယာ၊ ထောမနာဖြင့်၊ ဩဘာကိတ္တိ၊ ကျော်စောခြင်းရှိလှသော၊ မဟာဝိဟိက၊ နာမတင့်လျှိုင်း၊ သမိုင်းကြေညာ၊ ဝေဖြာသညီ၊ ရမ္မာဝတီကျွန်း၏၊ အလယ်ချက်မတွင်၊ အတ္တပရ၊ နှစ်ဝအကျိုး၊ မျှော်ကိုးခါခါ၊ ကျင့်အာစာနှင့်၊ ဗုဒ္ဓ-ဓမ္မာ၊ သံဃာ-တွင်ဘိ၊ ဂုဏ်လျှံညှိုးသား၊ သာဝိတ္တိဆန်း၊ သုံးခိုင်ပန်းလည်း၊ ရှင်လန်းနီစွ၊ မိဂမဖြင့်၊ လေးဝဖြပ္ပစိုရ်၊ မြဲကြည်ညိုရှ၍၊ မငြိုသီလ၊ ပဋ္ဌဂံလည်း၊ ခဏာမကွာ၊ ခြောက်ဖြာနာယက၊ ဂုဏ်ပေါင်းခလျက်၊ သတ္တ-သူတော်၊ ဥစ္စာမော်လည်း၊ အပော်အစ္စရိ၊ အံ့ဖွယ်ရှိသား၊ မြတ်ဘုရား၏၊ ပောကြားဓမ္မ၊ အင္ဂဂံမူ၊ တလ-လေးလီ၊ အမြဲတည်၍၊ ကိုးမည်ဂုဏ်လျှံ၊ အရဟံကို၊ ရှုဝံမမေ့၊ စေ့စေ့ဆယ်ဖြာ၊ မြတ်ပုညာဟု၊ အစုစုလည်း၊ တခုမကျန်၊ သူတော်မွန်တို့၏နေရာ၊ ရွာပုလဲရွာလျှင်၊ ဖွားရာဇာတိရှိသော၊ ရမ်းပြည့်မြို့၊ တောင်ကျောင်းဆရာတော်ဘုရားကြီးသည်။ သုခဝမုန၊ မဟာဒ္ဓနဂုဏ်၊ လောက်လုံနိုင်ဖြိုး၊ အမျိုးကြီးမှ၊ ဖွားသီးထမြောက်၊ အရွယ်သို့ရောက်သောအခါ၊ ကောဇာသက္ကရာဇ် ၁၂၃၉ ခုတွင်၊ ရှောက်ချောင်း ရွာဂါမ၊ ဝိဟာရ၌၊ ပါကဋ ထေရ်မွန်၊ သီလဝန်အကျော်၊ ဖြစ်ကြီးဖြစ်တော်မူသော ဆရာတော်ဘုရားကြီးထံ၊ နိယံမပြတ်၊ ဆည်းကပ်ဝပ်တွား၊ သင်ရိုးစာပေများကို၊ သင်ကြားတော်မူပြီးနောက်၊ ကောဇာသက္ကရာဇ် ၁၂၄၂ ခုနှစ်သို့၊ ရောက်လစ်သောအခါ၊ တောဇာ ထိန်ညီး၊ တောက်ထိန်မီးကဲ့သို့၊ ဝေးနီးထင်ပေါ်၊ ကျော်ထက်ကျော်သော၊ ပိဋကတ္တယဓေက၊ ဝေဒပါရဂူ၊ သူမတူတန်၊ ထူးကဲချွန်သော၊ ရမ်းပြည့်မြို့-တောင်ကျောင်းဆရာတော်ဘုရားကြီးထံ၊ တဖန်ဆည်းကပ်၊ ပရိယတ်ဓမ္မ၊ အဝဝတို့ကို၊ ကျနသေချွေ၊ သင်ခြေရမြောက်၊ ရဟန်းဖြစ်ချိန်သို့ရောက်သောအခါ၊ ၎င်းဆရာတော်ဘုရားကြီးကို၊ ဥပဇ္ဈာယ်ပြု၍၊ သုသီလဝါ၊ ဆရာထေရ်ကျော်၊ သံဃာတော် ၇၀ တို့နှင့်တကွ၊ စတုဗ္ဗကမ္မဝါ၊ ဉတ်ရုံကာဖြင့်၊ မဟာသီမ၊ သိမ်ခဏ္ဍာ၌၊ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်လေသတည်း။

ထိုရမ်းပြည့်မြို့ တောင်ကျောင်းဆရာတော်ဘုရားကြီး၏ ခြေရင်းတော်၌ ပရိယတ္တိတရား ပွားများလေ့လာနေစဉ်ခါဝယ် နှစ်ဝါရမြောက်၊ ရောက်တုံလတ်သော် မရမ္မရဋ္ဌ၊ သာသနာ့နေခြည်၊ ထိန်ကြည်ဝင်းစက်၊ လင်းလင်းတက်သော၊ သရက်မြို့မတိုက်၊ သုံးထပ်ကျောင်းဆရာတော်ဘုရားကြီးထံ၊ နိယံမပြတ်၊ ဆည်းကပ်ဝပ်တွား၊ မခြားနေ့ည၊ ဥဿဟဖြင့်၊ ပိဋကတ္တယအဖြာဖြာ၊ ပါဠိ

အဌကထာ၊ ဋီကာ-အနု၊ မဓု- ယောဇနာ၊ ဒေသနာ
တင့်လျှမ်း၊ ခက်ဆစ်ကျမ်းတို့ကို၊ ပြိုးပြမ်းသင်ကြား၊
တတ်မြောက်ပြားတော်မူပြီးသည့်နောက်၊ မိမိ၏မူလ
ဖွားမြင်ရာဖြစ်သော၊ မဟာဝိဟိက၊ တိုင်းဌာနသို့၊
ပြန်ကြွပြီးခါ၊ လက်ပံအညာကျောင်းကြီး၌ သီတင်း
သုံးတော်မူလျက် ထိုထိုသို့သော ပရိသတ်၊ ထပ်ထပ်ဝန်းရံ၊
ပျားနှယ်အုံသား၊ အလုံးစုံသော တပည့်သီသာ၊ ပေါင်းများ
စွာတို့အား၊ ကောင်းစွာသင်ကြား၊ တရားမြိုက်ဆေး၊
မြတ်ရေအေးကို၊ တိုက်ကျွေးဝေငှတော်မူပြီးနောက်၊
အရောက်ကောဇာ(၁၂၅၇) ထောင့်နှစ်ရာနှင့် ငါးဖြာ
ခုနစ်နှစ်၊ ရောက်တုံလစ်သော်၊ ရတနာပုဒ္ဒ၊ ဗျာဒိတ်ရသား၊
နာမသင်းထုံ၊ မန်းဖေယျုံဟု၊ ဂုဏ်သိန်ပျံ့မွေး၊ စာတမ်း
ကြွေးသည့်၊ မန္တလေး နေပြည်တော်ကြီးသို့ ကြွတော်မူခါ၊
အရှေ့ပြင်-ခင်မကန် ဆရာတော်ဘုရားကြီးထံ၊ ကျိုးနွံစွာ
ဆည်းကပ်၍၊ နှစ်လကျော်၊ သုံးလခန့်နီးနီး၊ နိဿရည်း
အရပ်ရပ်၊ ခဲကတ်စွာလှ၊ ဝိနယတို့ကို၊ နှေညမကွာ၊
သင်ဆဲသောအခါတွင်၊ သမ္မုတိသာသနာပိုင်ပခန်း
ဆရာတော်ဘုရားကြီးက၊ ပစ္ဆိမဘာဂ၊ တိုင်းဌာန၌၊
သာသနာ့နေဝန်း၊ ထွန်းလင်းရှည်ကြာ၊ တည်စေရန်
အလို့ငှာ၊ အားသွန်ကြိုးစား၊ ရွက်ဆောင်နိုင်မည့် ပုဂ္ဂိုလ်များ
ကို ညွှန်ကြားပြသ၊ ပေးအပ်ရမည်ဟု အမိန့်တော်ရှိရာ
တွင်၊ ပိဋကတ္တယဆေက၊ နာနာနယကောဝိဒ၊ စွယ်လှ
မှန်သောက်၊ မာတင်မြောက်သော၊ ရွှေ-တောင်ကျောင်း
ဆရာတော်၊ ဂြင်းတောဆရာတော်၊ ကျောက်ဖြူ-ယပ်လှဲ
ဆရာတော်၊ ရှောက်ချောင်းဆရာတော်တို့ကိုညွှန်ပြ
လျှောက်ထားလေရာ ယခု၌"ရခိုင်ရာဇဝင်သစ်ကျမ်း"
ကို ရေးသားပြုစုတော်မူသော ရမ်းပြည့်မြို့ တောင်ကျောင်း
ဆရာတော်အရှင် "စန္ဒမာလာလင်္ကာရ"မထေရ်ကို
ရမ္မာဝတီဂိုဏ်းထောက်၊ ရှေ့တောင်ကျောင်း ဆရာတော်
ဘုရားကြီးကို ဂိုဏ်းအုပ်အဖြစ်နှင့် ခန့်ထား တံဆိပ်စာချွန်
ပေးသနားတော်မူရာ ၎င်းတံဆိပ်တော်များကိုယူဆောင်၍
မိမိဇာတိဒေသ တိုင်းဌာနသို့ မြန်းကြွပြီးခါ ဘုရားမြတ်စွာ
စိန္တေယျာ၏၊ သာသနာနေရောင်၊ ဝေဝေပြောင်လျက်၊
ရွှေတောင်ကြီးအလား၊ မြင့်မားတာရှည်၊ တည်စေသမှု၊
အာရုံပြုလျက်၊ ကြည့်ရှုသုတ်သင်၊ ဝေဟင်အဖွေ၊
ထက်ဝဠာဝယ်၊ စကြာပုဏ္ဏမိန်၊ သူရိန်နှယ်ဂလ၊ အစုံပ
သကဲ့သို့၊ ထွန်းပနိုင်ဖြီး၊ ကြီးပွားတော်မူရန်၊ အဖန်ဖန်
အထပ်ထပ်၊ မလပ်ဥဿဟ၊ ဝီရိယဖြင့်၊ ပရက္ကမအကျိုး၊
သယ်ပိုးရွက်ဆောင်တော်မူကာ၊ ကျမ်းဂန်ပေါင်း အဖြာဖြာ
တို့ကို၊ မကွာနေ့ည၊ ပို့ချ၍နေတော်မူသည့် အတွင်း၌ပင်။

(၁) ၁၂၅၈-ခုနှစ်၊ ဥတုဘောဇန သံပေါက် ကျမ်းကို ရေးသားတော်မူလေသည်။

(၂) ၁၂၆၁-ခုနှစ်တွင် ပဋ္ဌိစ္စသမုပ္ပါဒပကာသနီ ကျမ်းကို ရေးသားတော်မူလေသည်။

(၃) ၁၂၆၂-ခုနှစ်တွင် မင်္ဂလာမြတ်ခေါင်ချီ သော "နာရဒဇာတ်တော်ကြီး" လင်္ကာ ကို ရေးသားတော်မူလေသည်။

(၄) ၁၂၇၀-ပြည့်နှစ်တွင် ကပ္ပဝိနိစ္ဆယကျမ်းကို ရေးသားတော်မူလေသည်။

(၅) ၁၂၇၃-ခုနှစ်တွင် ဝေရမဏီသီလဝိနိစ္ဆယ ကျမ်းနှင့် ဝိသာခုပေါသထ သုတ်နိဿယ သစ်ကို ရေးသားတော်မူလေသည်။

(၆) ၁၂၇၄-ခုနှစ်တွင် သမ္မာဝါဒ ဒီပကကျမ်း နှင့် သဏ္ဍာယပဟာနကျမ်းကို ရေးသား တော်မူလေသည်။

(၇) ၁၂၇၅-ခုနှစ်တွင် ဗောဓကာဒိ ဝိနိစ္ဆယ ကျမ်းကို ရေးသားတော်မူလေသည်။

(၈) ၁၂၈၂-ခုနှစ်တွင် ဗမ္မာ့ဒီပဏ္ဍိယနယ်ပုံ ကျမ်းကို ရေးသားတော်မူလေသည်။

(၉) ၁၂၉၂-ခုနှစ်တွင် ရာဇဏ္ဍမသင်္ခေပကျမ်း ကို စီရင် ရေးသားတော်မူလေသည်။

ဤသို့ပြဆိုအပ်ခဲ့ပြီးဖြစ်သော ဂန္ထဝိသောဓက၊ ဂန္ထကာရဖြစ်တော်မူသော ဆရာတော်ဘုရားကြီးသည် ရှေးရှေးသောကာလ၌ ရေးသား၍ထားခဲ့သော ရခိုင်ရာဇဝင်

အရပ်ရပ်တို့သည် တခုနှင့်တခုမတူ၊ အယူကွဲပြား ရှေ့စကားနောက်စကား မညီညွတ်များ၍ နောက်သား နှောင်လာ လူတကာတို့ သေချာဂန၊ မှတ်သားရန်အဝဝတို့ ကို လွယ်လင့်တကူနှင့် မှတ်သားနာယူစေခြင်းငှာ ကျောက်ဖြူမြို့ လယ်ဝန်ထောက်မင်း ဦးစံကျော်ရွှေသည် ရခိုင်ရာဇဝင်သစ်ကျမ်းကို ရေးသားပါမည့်အကြောင်းနှင့် ကြိမ်ကြိမ်ထပ်ထပ် ရှိသေလေးမြတ်စွာ လျှောက်ထား တောင်းပန်အပ်သည်ကိုအကြောင်းပြု၍ ပါဠိတော်အဋ္ဌ ကထာဋီကာပုံပြင် ရာဇဝင်အရပ်ရပ်တို့ဖြင့် နှံ့စပ်စေငှ သေချာစွာရှုလျက် ဂရုစိုက်ကာ လေးဖြာသော မဟာပဒေသတို့ဖြင့် ညှိနှိုင်းကာစံတင်၍ ဩကာသ လောက ကမ္ဘာကြီး၏ ဖြစ်ပုံ ပျက်ပုံ ခန်းမျိုးစုံတို့နှင့်တကွ အန္တရကပ်ဦး၌ဖြစ်သော မဟာသမ္မတမင်းမှစ၍ (၃၃၄၅၆၉) သုံးသိန်းသုံးသောင်းလေးထောင် ငါးရာ ခြောက်ကျိပ် ကိုးယောက်မကသော မင်းတို့ကို အရင်းအဦး ပြလျက် မဇ္ဈိမဒေသမင်းဆက် ဒွါရာဝတီ၊ ဓညဝတီ၊ ဝေသာလီ၊ ကျောက်ပန်းတောင်း၊ စမ္ဗဝက်၊ ပရိန်၊ လောင်းကြက်၊ မြောက်ဦးစသောမြို့တို့၌ နှစ်လို့ရှင်လန်း ထီးနန်းစိုးစံတော်မူကြသော ဝါသုဒေဝ စသောမင်းတို့၏ အစဉ်အဆက်ကို ပြဆိုရေးသားရာဖြစ်သော ဤ ‘ရခိုင်ရာဇဝင်သစ်ကျမ်း’ကြီးကို စာပုံနှိပ်လုပ်ငန်း၌ ကမ်းတဖက်ရောက် တတ်မြောက်ကျွမ်းကျင်လှသည်ဟု အခိလပြည်သူ ရှင်လူအများတို့၏ ချီးမွမ်းခြင်း အထပ်ထပ် ကို ခံရသော မန္တလေးမြို့၊ ဟံသာဝတီပိဋကတ်စာပုံနှိပ် တိုက်ကြီး၌ သိုက်မြိုက်သေချာငွေလွှာတော်သွင် စက္ကူပြင် ဝယ် စက်တင်ပုံနှိပ်လုပ်ဆောင်လတ်ရကား ဗဟုသုတ အရာကို အာသာတောင့်တလိုလားကြကုန်သော ရဟန်းပညာရှိ လူပညာရှိစသော အမျိုးကောင်းသား အမျိုးကောင်းသမီးတို့သည် ကျောက်ထီးတန္ဒု အလေးပြု၍ ကြည့်ရှုမှတ်သားကြစေ ကုန်သတည်း။



# ရခိုင်ရာဇဝင်သစ်ကျမ်း

## ပဥ္စမတွဲ

### နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဤသို့လျှင် စတုတ္ထတွဲဖြင့် စန္ဒသူရိယမင်းအစ၊ သိင်္ဂသူအဆုံးရှိသော မင်းပေါင်း ၉၆ ယောက်သော မင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကိုရေးသားပြဆိုပြီး၍ ယခုအခါ ပဥ္စမတွဲဖြင့် မြောက်ဦးမြို့တည် မင်းစောမွန်အစ၊ မင်းစနေအဆုံးရှိသော မင်းပေါင်း ၂၁ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုလိုက်ပေအံ့။

**(၁၆၂) မင်းစောမွန်အစ၊ မင်းခေါင်ရာဇာအဆုံး ရှိသော မင်း ၁၂ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့၏အကြောင်း**

သိင်္ဂသူမင်း လွန်တော်မူလေလျှင် ထိုမင်း၏ အစ်ကို ရာဇသူ၏သားဖြစ်သော မင်းသားစောမွန်ကို အလုံးအရင်းနှင့်တကွ သက္ကရာဇ် ၇၆၆ ခုတွင် အပ်နှင်း၍ စောစစ်မိဘုရားနှင့် မင်းမြှောက်ကြလေကုန်၏။ ပြည်သူ မှူးမတ်အပေါင်းတို့သည်လည်း မင်းသားမင်းမြေးဖြစ်၍ ညီညွတ်ကြကုန်၏။ မင်းစောမွန်လည်း မင်းအဖြစ်သို့ ရောက်တော်မူလျှင် ထိုသံဃရာဇာကို အခြွေအရံဥစ္စာပစ္စည်း နှင့် ထားလေ၏။ မင်းဖြစ်၍ နှစ်နှစ်မြောက်တွင် ဒါးလက်စားအနန္တသိန်၏နှမ စောပုညိုသည် အလွန် အဆင်းလှပသည်ကိုမြင်တော်မူလေလျှင် လင်ကိုခွါစေ၍ သိမ်းယူပြီးသော် မင်းပြောင်ထားလေ၏။ ဒါးလက်စား အနန္တသိန်လည်း ထိုအကြောင်းကိုကြားလေလျှင် ဤမင်းကား မင်းဖြစ်ကာမျှသာ ရှိသေးသည်။ မင်းဖြစ်စ ကပင် ငါတို့မှူးမတ်မျက်နှာကိုဖျက်ခဲ့ပြီ။ ကာလရှည်လတ် လျှင် အဘယ်သူကို အားနာအံ့နည်းဟု မြန်မာပြည် အင်းဝ မင်းဆွေမည်သော ပထမမင်းခေါင်ထံသို့ စစ်ပန်စေ လွှတ်လိုက်လေသော် အင်းဝမင်းခေါင်လည်း သားတော် မင်းရဲကျော်စွာကို ဗိုလ်မှူးခန့်လျက် စစ်သည်သူရဲ သုံးထောင်နှင့် ချီလာ၍ ပြိုင်းတိုင်တောင်ရင်းဝယ်

ရောက်လာ၏။ ထိုသို့ အရှေ့ပြည်မှ စစ်သည်တို့ချီလာကြောင်းကို ဒါးလက်စား အနန္တသိန်သိလေလျှင် ဝမ်းသာအားရခြင်းရှိသည်ဖြစ်၍ မင်းစောမွန်သို့ တမန်စေလွှတ်ပြီးလျှင် ခြားနားပုန်ကန်လေ၏။ မင်းစောမွန်ကလွှတ်လိုက်သော သစ်ခုတ်၊ လှေခုတ်၊ ပျဉ်ခုတ်သောသူများကို ဖမ်းထားသိမ်းယူလေ၏။ မင်းစောမွန်လည်း ထိုအကြောင်းကိုသိလေလျှင် အမျက်ထွက်လတ်၍ အနန္တသိန်နှမ စောပုညိုကိုဆောင်ယူပြီးလျှင် စစ်ထိုးအံ့ဟုသွားလေ၏။ ဒါးလက်စားလည်း အကျွန်ပ်ကို စစ်ထိုး၍ အကျိုးမရှိပါ။ လောင်းကြက်မြို့သို့ရောက်ရှိသော မြန်မာစစ်ကိုသာ ထိုးပါလေဆိုလေမှ လောင်းကြက်မြို့သို့ မြန်မာစစ်ရောက်မှန်းကိုသိ၍ ပြန်ခဲ့၏။ လောင်းကြက်မြို့၌လည်း မိဘုရား၊ သံဃာစာ၊ မှူးမတ်တို့သည် ညီညွတ်တိုင်ပင်၍ ခုခံဆီးဆို့ တိုက်ခိုက်နေကြစဉ်တွင် မင်းစောမွန်လာရောက်လျက် ဝမ်းမြောက်ဝမ်းသာ ခုခံတိုက်ခိုက်ကြသော်လည်း မခံနိုင်ချေသောကြောင့် သက္ကရာဇ် ၇၆၈-ခု၊ နတ်တော်လဆုတ် ၅ရက်၊ စနေနေ့ လောင်းကြက်ထရံကာမြို့သည် ပျက်လေ၍ မြန်မာတို့ လောင်းကြက်မြို့ကိုရလေ၏။ မင်းစောမွန်လည်း နန်းတက်နှစ်နှစ်တွင် အနောက်သူရတန်ပြည်သို့ ထွက်ပြေးရလေ၏။ ဤကားရာဇဝင်ဟောင်းအလို။

(ဆရာငမည်ရာဇဝင်၌ကား နတ်တော်လဆုတ် ၅ရက်၊ တနင်္လာနေ့တွင် လောင်းကြက်မြို့ပျက်၍ စောမွန်အနောက်သို့ ထွက်ပြေးကြောင်းနှင့် ဆိုသည်။)

မင်းစောမွန်လည်း လောင်းကြက်မြို့မှ ထွက်ပြေးသောအခါ အမှုးအမတ် အတော်အတန်သာပါလေသည်။ မိန်းမကား ပန်းယစောဦးနှင့် စောဦးသမီး၊ စောမွန်ရှင်သာလျှင် ပါလေသည်။ ခရီးလမ်းဝယ် အလုပ်အကျွေး ကျဉ်းမြောင်းစွာသောကြောင့် ပန်းယသမီး စောမွန်ရှင်ကို အလုပ်အကျွေးပြုရလေ၏။ ထိုစောမွန်ရှင်သည် အလွန်အရည်အသွေးနှင့် ပြည့်စုံသည်ဟု ကြားလေလျှင် သက်မင်းဇနွှာတ်သည် လုယူမည်ဟုကြံလေ၏။ ယင်းသို့ကြံသောအဖြစ်ကို မင်းစောမွန်သိလေလျှင် စစ်တကောင်းသို့သွားလေ၏။ စစ်တကောင်းဦးစီလည်း စောမွန်ရှင်၏ အဆင်းအဝါလှပကြောင်းကိုကြားလေသော် ကိုယ်တိုင်သွား၍ လုယူလေ၏။

မင်းစောမွန်ကား စစ်တကောင်းဦးစီ မသိရအောင် သူရတန်မင်းပြည်တော်သို့ သွားလေပြီးသော် သူရတန်မင်းထံ မြဲစွာခစား၍နေလေ၏။ သူရတန်မင်းလည်း သနားတော်မူ၍ သားအသွင်ကဲ့သို့ ထင်မှတ်တော်မူလျက် မွေးမြူ၍ထားလေ၏။ မင်းစောမွန်လည်း သူရတန်ပြည်သို့ ထွက်ပြေးလေသော် မင်းရဲကျော်စွာနှင့် တကွ မြန်မာစစ်သည်တို့သည် အရပ်ထက်ဝန်းကျင်ကို မူကားမရ။ ထရံကာလောင်းကြက်တမြို့ကိုမျှသာ အစိုးတရပြု၍ နေကြလေကုန်၏။

ထိုအကြောင်းကိုလျှောက်ထား၍ ဘုရင်မင်းခေါင်ကြားတော်မူလျှင် ကလေးမြို့ကိုစားသော နော်ရထာမင်းကို မင်းမြောက်တန်ဆာငါးပါးနှင့် ငါတို့ရခိုင်ပြည်၊ လောင်းကြက်မြို့ကိုပေးတော်မူ၍ သားတော်မင်းရဲကျော်စွာကိုပြန်ခဲ့စေ၏။ နော်ရထာမင်း ငါတို့ရခိုင်ပြည် လောင်းကြက်မြို့ကိုစား၍ တနှစ်မြောက်ရှိလျှင် သမီးတော်ရွှေပြည်ချမ်းသာ သက်တော်တဆဲ့သုံးနှစ်အရွယ်နှင့် စုံဖက်တော်မူလေ၏။ ။ နော်ရထာနှင့် ရွှေပြည်ချမ်းသာမှူးမတ်တို့သည် လွန်စွာဆိုးသွမ်းသည်ဖြစ်၍ မြို့သူမြို့သားတို့ကို ညှဉ်းပန်းကလူပြုသည်ဖြစ်၍ မင်းစောမွန်နှင့် အဖတူညီဖြစ်သော သံတွဲမြို့စား၊ မင်းခရီအလီခင်သည် ပဲခူးမင်း ရာဇာဓိရာဇ်ထံဝင်လေ၍ နော်ရထာ၊ ရွှေပြည်ချမ်းသာမှူးမတ်တို့သည် ဆိုးသွမ်းနိုင်ထက် မြို့သူမြို့သားတို့ကို နှိပ်စက်ကြောင်းနှင့် လျှောက်ထားစစ်ပန်လေသော် ရာဇာဓိရာဇ်မင်းက သံရှင်စားအမတ်ဒိန်ကို အင်းဝနိုင်ဟူသောအမည်ဖြင့် ဗိုလ်မှူးခန့်၍ တလိုင်းစစ်သည်ပေါင်း ငါးသောင်းနှင့်တကွ မင်းခရီအလီခင်ကိုနန်းတင်ရန်စေလိုက်၏။ အင်းဝနိုင် အမတ်ဒိန်လည်း သူရဲပေါင်း ငါးသောင်းနှင့်ချီလာ၍ လောင်းကြက်မြို့ကိုဝန်းရံပိတ်ဆို့

လျက် တိုက်လေသော် နော်ရထာမင်းနှင့် မှူးမတ်တရာကျော်တို့ကိုစီရင်ပြီးမှ မင်းခရီအလီခင်ကိုနန်းတင်၍ နော်ရထာမိဘုရား ရွှေပြည်ချမ်းသာကိုယူပြီးလျှင် မောင်ခွင်ဟူသော တလိုင်းအမတ်ကို သက္ကရာဇ် ၇၆၉တွင် အစောင့်ထား၍ပြန်လေသည်။။ တဖန်တုံလည်း သက္ကရာဇ် ၇၆၉ တွင် မြန်မာတို့သည် ချီလာ၍တိုက်ပြန်လေ၏။ အမတ်မောင်ခွင်နှင့် မင်းခရီအလီခင်တို့သည် ရှုံး၍ မောင်ခွင်လည်း တလိုင်းပြည်သို့ပြေးလေသည်။ မင်းခရီအလီခင်သည် ကစ္ဆပနဒီမြစ်အညာသို့ပြေး၍ သေဒွေးအသေယထံ ခိုကပ်ပုန်းလျှိုနေလေသည်။ ကာလကြာပြီးမှ အကြောင်းအရာကိုသိလျှင် မိမိသမီးနှင့် ထိမ်းမြား၍ ထားလေသည်။

မြန်မာတို့သည် လောင်းကြက်မြို့တွင် မြင်စိုင်းစားအမတ်ကိုထားခဲ့၍ ပြန်လေသည်။ တဖန်တုံလည်း တလိုင်းတို့သည်ချီလာ၍ မြန်မာတို့ကို တိုက်ပြန်လေသော် မြင်စိုင်းစားသည် ပြေးခဲ့လေ၏။။ တလိုင်းတို့သည် ဤလောင်းကြက်မြို့ဝယ် ငါတို့တာရှည်စွာ နေနိုင်မည် မဟုတ်ပြီဟု ငါတို့ ရခိုင်ပြည်သားအချို့ကိုသိမ်းယူ၍ တလိုင်းပြည်မှာ မြို့ရွာတည်၍ထားလေ၏။ ။ သက္ကရာဇ် ၇၇၀ တွင် မြန်မာအမတ် ဘောင်းလင်းစားလက်ယာသည် ခွေးသင်းတောင်မြို့ကို တည်လာ၏။ သုံးနှစ်ရှိလျှင် တလိုင်းတို့သည် တိုက်ပြန်လာလျက် ဘောင်းလင်းစားလက်ယာကို ရလေသည်။ ထိုနောက် သက္ကရာဇ် ၇၇၅ တွင် မြန်မာအမတ်ကျစွာသည် ခွေးသင်းတောင်မြို့ကိုပင် တည်၍နေလာပြန်၏။ ထိုကျစွာကိုလည်း သက္ကရာဇ် ၇၇၈ တွင် ရခိုင်သားတို့ တိုက်ခိုက်လျက် ကျစွာကို သတ်လေ၏။ ထိုနောက် သက္ကရာဇ် ၇၈၈ တွင် မိဘုရားရှင်ဘို့မယ်နှင့် ကလေးကျေးတောင်ညိုမင်းတို့သည် ပြိုင်းတိုင်တောင်ခြေရင်းဝယ် ချရပ်စွဲနေလာကုန်၏။ ထိုကလေးကျေးတောင်ညိုကိုလည်း သက္ကရာဇ် ၇၈၈ တွင် ရခိုင်သားတို့တိုက်ခိုက်သဖြင့် အရှေ့ပြည်သို့ပြေးလေ၏။ ဤသို့လျှင် တဆဲ့ကိုးနှစ်နှင့် ခုနစ်လတိုင်အောင် မြန်မာနှင့်တလိုင်းတို့သည် အပြန်အလှန်တိုက်ခိုက်နေကြလေကုန်၏။ ထိုသို့တိုက်ခိုက်နေထိုင်ကြသော်လည်း တိုင်းပြည် ခရိုင်နိုင်ငံအဝှမ်းလုံးကို မပိုင်လေ။ မင်းနေလောင်းကြက်မြို့တွင်သာ လုယက်နေထိုင်ကြလေသည်။

ထိုအခါဝယ် သူရတန်ပြည်ရှိ မင်းစောမွန်သည် သူရတန်မင်းအားအကြောင်းကို လျှောက်လေလျှင် သူရတန်မင်းလည်း ငါ့တွင် စစ်မက်ရှိသေး၍မအားလပ်ကြောင်းနှင့် ပြောကြားလေ၏။ တရံရောအခါ သူရတန်ပြည်ကို ဒီလီမင်းသည် များစွာသော ဆင်၊ မြင်း၊ ရထား၊ ခြေသည် သူရဲနှင့်တကွ နွားပမာဏရှိသော ခွေးတို့ကိုလည်း များစွာ ဆောင်ယူခဲ့၍ စစ်ကပ်လာလေသော် သူရတန်မင်းမှစ၍ ပြည်သားပြည်သူတို့သည် ထိတ်လန့်တုန်လှုပ်ကြကုန်၏။ မင်းစောမွန်သည် ထိုသို့ထိတ်လန့်တုန်လှုပ်ကြသည်ကိုမြင်လျှင် သူရတန်မင်းအားဤသို့လျှောက်ပေ၏။ ခမည်းတော်မင်းကြီး၊ အကျွန်ုပ်အစီအရင်ကို နားထောင်တော်မူပါ။ ဤရန်စစ်ကိုနိုင်ပါလိမ့်မည်ဟုလျှောက်ပေ၏။ သူရတန်မင်းလည်း ငါ့သားတော်ရခိုင်မင်း၊ ဤသို့ကောင်းသောအစီအရင်ကိုတတ်နိုင်တပြီးကား ကြံပါလော။ ဤရန်စစ်ကို အောင်နိုင်တော်မူသည်ရှိသော် ငါ့သားအရပ်ဖြစ်သော ရခိုင်ပြည်ကို ပြန်၍စိုးစံရအောင် ငါကြံတော်မူမည်ဟု ဆိုပေ၏။ မင်းစောမွန်လည်း သုံးခွရှိသော သံကက္ကုဆူးကို များစွာ လုပ်စေ၏။ စစ်ခရီးဖြစ်သော ပြင်ကြီးပြင်ငယ်တွင်လည်း ဆင်၊ မြင်း ကျွံလောက်အောင် တွင်းချည်တူးစေလျက် အပေါ်က ကောက်ရိုးမြေမှုန့်စသည်တို့ကို ဖုံးလွှမ်းစေပြီးလျှင် ထားလေ၏။ စစ်ထိုးကြအံ့သောအခါဖြစ်လတ်လျှင် အရာအထောင်သော နွားတို့ကိုသတ်၍ သားတစ်ချည်းပြုပြီးသော် သံကက္ကုဆူးတွင်ထည့်၍ မြေပြင်ပြည့်အောင် ပစ်လေ၏။ ထိုသို့ပြုပြီးမှ စစ်အင်္ဂါပြိုင်ကြလေလျှင် ဒီလီမင်းသည် နွားပမာဏရှိသော ခွေးများတို့ကို ရှေ့တည်လျက် ဆင်လုံး မြင်းရုံနှင့် တိုက်လတ်လျှင် ခွေးတို့သဘောသည် သားတစ်ကိုခင်မင်သည်ဖြစ်၍ သံကက္ကုဆူးဝယ်ထည့်၍ထားသော သားတစ်ကို

တခုမကြွင်း ကောက်လျက်စားကြလေရာ လျှာနှင့်အာကိုထိ၍ချည်းစူးလေ၍ မကိုက်နိုင်ဘဲဖြစ်လတ်လျှင် ပြန်၍ချည်း ပြေးခဲ့ကြကုန်၏။ ဆင်မြင်းတို့လည်း တွင်းဝယ်ချည်းကျွံလေကုန်၏။ ထိုသို့ဖြစ်စဉ်တွင် သူရတန်မင်း စစ်သည်တို့သည် များစွာသတ်ဖြတ်လိုက်ရကုန်၏။ သူရတန်မင်းလည်း ဒီလီတိုင်အောင်လိုက်လေ၏။ ဒီလီမြို့ကို စစ်ထိုးပြန်လေသော် ဝါးရုံပင်အတိခြံရံလျက်ရှိသောကြောင့် မဝင်သာ မခုတ်သာ၍ မင်းစောမွန်ကိုမေးပြန်လေသော် မင်းစောမွန်လည်း တသောင်းနှစ်သောင်းသော ဒင်္ဂါးကိုသာ ကျွန်တော်သို့ပေးပါ။ ဤဝါးရုံတောကိုဝင်နိုင်ပါ စိမ့်မည်ဟုလျှောက်ပေသော် ငါ့သား အလိုအတိုင်းယူကာမူဟူ၍ ပေးအပ်လေ၏။ မင်းစောမွန်လည်း ဝါးရုံ ခြံတောသို့ချည်း ဒင်္ဂါးကိုကြဲခဲ့၍ သူရတန်ပြည်သို့ပြန်လတ်ခဲ့လျှင် လူများတို့သည် ထိုဥစ္စာပစ္စည်းကိုလိုချင်သောအားဖြင့် တယောက်တရုံ ခုတ်ထွင်းတူးဖြို၍ ရှာကြလေရာ ဝါးရုံတောသည် ရှင်းရှင်းလင်းလင်း စင်လေ၏။ ထိုသို့ စင်သောအဖြစ်ကို သူရတန်မင်းကြားလေလျှင် သူရတန်မင်းသည် ဒီလီမြို့ကိုတိုက်၍ ရလေ၏။

သူရတန်မင်းကား အလွန်ဝမ်းမြောက်ဝမ်းသာသည်ဖြစ်၍ မင်းစောမွန်အား များစွာဆုလာဘ်ပေးတော်မူလေသည်။ ဆုလာဘ်ပေးပြီးလျှင် ငါ့သားကား မင်းစစ်စစ်ဖြစ်သည်။ ဤမှတပါး အဘယ်အတတ်ကို တတ်သနည်းဟုမေးလေသော် မင်းစောမွန်လည်း ဤသူရတန်ပြည်၌ ဆင်တို့ကို ရေကူးတတ်သည်မထင်၍ ရေသို့မချဘဲ ရေကိုခပ်လျက်သာလျှင် သွန်လောင်းကြလေသည်။ ဆင်တို့ကိုရေသို့ချ၍ ကစားစေပုံ၊ သစ်ကြီး ဝါးကြီးတို့ကိုရှာ၍ တပ်နိုင်မာစွာ အဝန်းထိုးစေလျက် ပတ်လည်ဝန်းကျင် ကျုံးမြောင်းတူးစေပြီးလျှင် ဆင်တို့ကိုသွင်းပုံ၊ ဖမ်းပုံတို့ကိုပြလေသော် သူရတန်မင်းမှစ၍ ပြည်သားပြည်သူအပေါင်းတို့သည် ချီးမွမ်းအံ့သြကြကုန်၏။

ထိုအခါ သူရတန်မင်းလည်း ဤငါ့သားရခိုင်စောမွန်မင်းသည်ကား မျှော်ဒီပါကျွန်းအပြင်ဝယ် မင်းတကာတို့ မတင်ဖူးသောကျေးဇူးကို ငါ့အားတင်ပေးသည်ဖြစ်သောကြောင့် ငါ့သားစောမွန်နှင့်ငါသည် ကိုယ်သားနှစ်ခု၊ အသက်ကားတခုတည်းသာဖြစ်သည်။ နှလုံးလည်းတခုတည်းသာဖြစ်ကြလေသည်။ ငါ၏ပြည်သူရတန်နှင့် ငါ့သား ရခိုင်ပြည်သည်လည်း တပြည်တည်းသားဖြစ်စေဟူ၍ ကတိကဝတ်ပြုလုပ်ပြောဆိုလျက် များစွာသော ဆင်လုံးမြင်းရံ ရဲမက်ဗိုလ်ပါတို့နှင့် ဥလုံခင်အမတ်ကိုအကြီးအမှူးပြု၍ ငါ့သားမင်းစောမွန်ကို နန်းတင်ချေဟုသက္ကရာဇ် ၇၉၀ ပြည့် တပေါင်းလအတွင်း စေလွှတ်လိုက်ပေ၏။ ဥလုံခင်လည်း ရခိုင်ပြည်သို့ချီလာပြီးလျှင် မင်းစောမွန်ကိုကားနန်းမတင်၊ မိမိသာလျှင် လောင်းကြက်မြို့တွင်မင်းပြုလျက် မင်းစောမွန်ကို သံခြေချင်းခတ်၍ ဗားပူတောင်၌ ချုပ်ထားလေ၏။ ကစ္ဆပနဒီအညာ၌ ပုန်းလျှိုးခိုဝင်၍နေသူ ညီမင်းခရီအလီခင်သည် အစ်ကိုမင်းစောမွန်ရောက်ကြောင်းကိုကြား၍ အစ်ကိုထံသို့ လာလတ်သော် အစ်ကိုသံခြေချင်းခတ်၍ ဗားပူတောင်၌ ချုပ်ထားသည်ကိုမြင်၍ငိုလေ၏။ အစ်ကိုမင်းစောမွန်လည်း ငိုသည်ကိုမြင်လျှင် လက်ဝါးကာ၍မငိုနှင့်ဟု တားမြစ်၏။ ညီမင်းခရီအလီခင်လည်း မျက်ရည်ကိုသုတ်လျက် အပါးသို့ချဉ်းကပ်ပြီးလျှင် စကားစမြည်ပြောဆိုလျက် မိမိနေအိမ်သို့ပြန်ခဲ့၍ရောက်လျှင် ငို၍သာနေလေ၏။ ငိုသည့်အကြောင်းကို မယားမေးမြန်းရာ အကြောင်းကိုပြောဆိုလေ၏။ မယားလည်း မိမိဖခင်သေဌေးအားပြောလေလျှင် ဖခင်သေဌေးခေါ်၍မေးမြန်းလျက် အကြောင်းကို အသေယသေဌေးကြားလေလျှင် စွမ်းရည်သတ္တိရှိသော သူတို့ကိုခေါ်၍ ဥစ္စာပစ္စည်းပေးပြီးလျှင် မင်းစောမွန်ကိုခိုးယူ၍ သူရတန်ပြည်ကို ပြေးကြလေကုန်၏။

မင်းစောမွန်လည်း သူရတန်ပြည်သို့ရောက်လေလျှင် သူရတန်မင်းအား အကြောင်းကိုလျှောက်လေသော်

သူရတန်မင်းသည် ပြင်းစွာအမျက်ထွက်၍ ဒန်ပါရူ၊ မာန်ပါရူ-ဟူသော လက်ယာအမတ်၊ လက်ဝဲအမတ်တို့နှင့် အမတ်ကြီး ဆတ္တာခတ်၊ ရာဇမဏိတို့ကို အကြီးအမှူးပြု၍ ရှေးထက် ထမ်းပိုးတိုး၍ ဆင်လုံးမြင်းရံ ရဲမက်ဗိုလ်ပါတို့ကို ပေးလိုက်၍ ငါ့သားစောမွန်ကို နန်းတင်ခဲ့ရမည်။ ဥလုံခင်ကိုကား ဦးခေါင်းကိုဖြတ်၍ အရေကိုဆုတ်ပြီးလျှင် စည်ကြက်၍ယူခဲ့ရမည်ဟု အမိန့်တော်ချလိုက်လေ၏။ ဆတ္တာခတ်၊ ရာဇမဏိတို့လည်းလာလတ်၍ ရောက်လေလျှင် ဥလုံခင်၏ဦးခေါင်းကိုဖြတ်၍ အရေကိုဆုတ်၍ စည်ကြက်ပြီးလျှင် သက္ကရာဇ် ၇၉၁၊ ကဆုန်လပြည့်ကျော် တရက်၊ ကြာသပတေးနေ့၌ မင်းမြောက်တန်ဆာငါးပါးနှင့်တကွ သင်းပင်းများစွာပေး၍ မင်းစောမွန်ကို လောင်းကြက်မြို့၌ နန်းတင်လေ၏။ မင်းစောမွန်လည်း ထိုသူတို့အား ဆုလာဘ်များစွာပေးလိုက်၍ ပြန်ကြလေ၏။

ထိုမင်းစောမွန်၏ အိမ်နိမ့်မျောက်သားတော်တို့ကား စောပြောက်၊ စောစစ်ဟူ၍ နှစ်ယောက်ရှိ၏။ စောပြောက်တွင် မင်းကျော်နှင့် မင်းမန္တာတ်နှစ်ယောက်ကို ဖွားမြင်တော်မူသည်။ စောစစ်တွင်ကား မင်းမွန်သင်ဟူသော သားတော်နှင့် စောပုရွှေ- ဟူသော သမီးတော်နှစ်ယောက်ကို ဖွားမြင်တော်မူသည်။

ထိုမင်းစောမွန်သည် အနောက်သူရတန်ပြည်သို့ ပြေးလေသောအခါ မျောက်သားတော်စောစစ်ကို ကုလားတို့ရလေသည်ကို မောင်တော်ကဏ္ဍသူနှင့် သီဟသူတို့သည် ညင်းမှုတ်၍ တောင်းစားဟန်ပြုလျက် ရှာကြလေသော် တွေ့၍စကားချိန်းချက်ပြီးလျှင် ညနေဝင်ဆည်းဆာတွင် ရေအိုးကိုကိုင်၍ထွက်သည်ကို မောင်တော်တို့ယူ၍ ပုဆိုးထုပ်အဟန်ဖြင့် သပေါ့သင်ဖြူးနှင့်လိပ်ပြီးသော် ထမ်းပိုးနှင့်ထမ်းလျက် လှေသို့ချ၍ ဆောင်ယူခဲ့ပြီးလျှင် မင်းစောမွန်မရောက်ပြီထင်၍ လင်ပေးစားလျက်ထားလေ၏။ မင်းစောမွန်ရောက်လတ်၍ မယားကိုတွေ့လေလျှင် လင်ကိုခွါပစ်စေ၍ မိဘုရားမြှောက်မည်ဟု ဆိုလေသော် စောစစ်သည် မိဘုရားမပြု။ ဆင်းရဲလင်နှင့်သာ နေလိုပါသည်ဟု ငြင်းကန်လျှောက်ထားခြင်းပြုသော်လည်း မလွှတ်၊ လင်ကို မီးချောင်းဖျားသို့ လျှို့ထားပြီးလျှင် စောစစ်ကို နန်းတော်သို့ ဆောင်ယူသွင်းထားလေ၏။ ယင်းသို့သွင်းထားရာတွင် စောပို့သူဟူသော သမီးတယောက် ဖွားမြင်လေ၏။ ယင်းသို့ သမီးတော်ကို ဖွားမြင်ပြီးမှ ဝင်းတော်၏ပြင် အနောက်တံခါးဝ၌ အိမ်တော်ကြီး ဆောက်၍နေစေပြီးမှ ပြင်မင်းခင်မ-ဟူ၍၎င်း၊ မျောက်တော် မင်းမွန်မိဘုရားဟူ၍၎င်း ခေါ်ကြလေကုန်၏။ ထိုမျောက်တော်မင်း မွန်မိဘုရား နေသော တံခါးကိုလည်း မျောက်တော်တံခါးဟူ၍ ခေါ်ကြလေ၏။

မင်းစောမွန်လည်း ပြည်သူသတ္တဝါအပေါင်းတို့အား ကောင်းစွာမစချီးမြှင့်တော်မူလျက် စီးပွားချမ်းသာကို ရှုက်ဆောင်တော်မူသောကြောင့် ပြည်သူသတ္တဝါ အပေါင်းတို့သည် အလွန်ငြိမ်းချမ်းသာယာရှိကုန်၏။ ထိုမင်းစောမွန်နန်းတက်၍ နှစ်နှစ်ရှိသောအခါ၌ လောင်းကြက်မြို့သည် ပျက်စီးလေသောမြို့ဖြစ်၍ အသစ်မြို့ပြောင်းသင့်ပါကြောင်းနှင့် နတ်မျက်စိအမြင်ကိုရသော ဟူးရားတတ်တို့ လျှောက်ထားလေသော် မြို့ရာရှာအံ့ဟု ရွှေဖောင်တော်စီး၍ များစွာသော ရွှေလှေရွှေ လောင်းတို့ဖြင့် ခြံရံလျက် အဋ္ဌနီလေးမြို့ချောင်းကိုဆန်ပြီးသော် အနောက်ဘက်ချောင်းတက်သို့ ဝင်၍ မြို့ရာရှာကြလေသော် ရွှေတောင်ထက်မှ ဦးဖောင်းအကျီနှင့် အလွန်တင့်တယ်သောလူတယောက်သည် တံပိုးမှုတ်၍ရပ်လျက် 'ဤသည်မှာ..ဤသည်မှာ' ခေါ်လတ်သောကြောင့် ထိုရွှေတောင်သို့ချဉ်းကပ်လေလျှင် ရွှေတောင်၏အနောက် ဘက်ခါးပန်း၊ ဂဠုန်တောင်ထက်မှ ယခင်နည်းတူခေါ်လင့်ပြန်၏။ ထိုဂဠုန်တောင်၏ အရှေ့ပါး၌ချောင်းဖျားငယ်တခု အဝသို့ချဉ်းကပ်၍ ဤချောင်းသည် အဘယ်အမည်ရှိသနည်းဟု မေးတော်မူလေလျှင် ဘုမ္မစိုးနတ်တို့သည် ယက်သဲ့ပလိုင်းကို ပွေ့ချီလျက် မိန်းမယောင်ဆောင်ပြီးသော် ထိုချောင်း၏တောင်ဘက်၊ မြောက်ဘက်ကနေကြလျက် တောင်ဘက်

က မိန်းမသည် မြောက်ဘက်က မိန်းမကို ဟယ်--- ရောက်မ၊ မြောက်ဦးငါးရ၏လောဟု မေးမြန်းသော်ရ၏ဟု ပြန်ပြောလေ၏။ တဖန် မြောက်ဘက်က မိန်းမသည် တောင်ဘက်ကမိန်းမကို ဟယ်----ရောက်မ၊ ဝသဲငါး ရ၏လောဟု မေးပြန်သော် ရ၏ဟု ပြန်ပြောလေ၏။ ထိုသို့ ခေါ်ဝေါ်ပြောဆိုကြသောစကားကို မင်းနှင့်တကွ မှူးမတ်ပညာရှိတို့ကြားလေသော် ဤဘက်ကား မြောက်ဦး၊ ဤဘက်ကား ဝသဲဟုသိကြလေကုန်၏။ သိကြပြီးလျှင် မြောက်ဦးဘက်ဝယ် ဂဠုန်တောင်ခြေရင်းမှ မြောက်ဦးချောင်းဖျားကိုလျှောက်လျက် ကြည့်ရှုရှာဖွေကြလေသော် ထိုအရပ်ဝယ်စောင့်သော ဘုမ္မစိုးနတ်တို့သည် တယောက်ကား ကြောင်ရုပ်ဆောင်၍လိုက်၏။ တယောက်ကား ကြွက်ရုပ်ဆောင်၍ပြေး၏။ ထိုမြောက်ဦးချောင်းဖျား လက်ယာရစ်ယောက်သော သင်္ချိုင်းတောသို့ ရောက်လေလျှင် ကြွက်သည်ကြောင်ကို ပြန်၍လိုက်လေ၏။ တဖန်တုံလည်း ယခင်နတ်တို့သည် တယောက်ကား မြွေရုပ်ဆောင်၍လိုက်၏။ တယောက်ကား ဖားရုပ်ဆောင်၍ ပြေး၏။ မြောက်ဦးချောင်းဖျား လက်ယာရစ်ယောက်သော သင်္ချိုင်းတောသို့ရောက်လေလျှင် ဖားပြန်၍ လိုက်လေ၏။ တဖန်တုံလည်း နတ်တယောက်က ကျားရုပ်ဆောင်၍ လိုက်၏။ နတ်တယောက်ကား ချေရုပ်ဆောင်၍ပြေး၏။ ယခင်တောသို့ရောက်လေလျှင် ချေပြန်၍ လိုက်လေ၏။

ဤသို့ လိုက်ကြပြေးကြသည်ကိုမြင်လျှင် ဤအရပ်တွင် မြို့တည်အံ့ဟုကြည့်ရှုကြလေရာ ခမောင်းပင်ကြီး တပင်တွေ့၍ ခုတ်လှဲလေလျှင် ခမောင်းပင်ကြီး ခေါင်း၌ တောက်တဲ့ဖြူ ငါးကောင်ရလေသည်ကို ဟူးရားတတ်ပညာရှိတို့က သဘော်မပြတ်ရောက်အံ့ဟု တရင်းဘတ်ကြကုန်၏။ ဤနေရာ၌ နန်းတော်ကို တည်အံ့ဟု ရှင်းလင်းခုတ်ထွင်စဉ် သက်ကြီး သူအို တယောက်လာ၍ ဤနေရာတွင် ကောင်းသည်ဟု ပြလာပေ၏။ ထိုပြလာသောမြေ၌ ရှင်းလင်းသုတ်သင်ရာ တောင်ဘက်နားက မြေဖြူတစဥ့်အိုးရပြန်သည်ကို ထီးဖြူဆောင်းသော မင်းတို့ ချည်းဖြစ်လတ္တံ့ဟု တရင်းဘတ်ကြကုန်၏။ မြောက်ဘက်ကလည်း မြေနီတစဥ့်အိုးရပြန်၏။ ရသည့်အလို ဤမြို့ကို အရှေ့အနောက်က မင်းများတို့ အပိုင်လည်းဖြစ်လိမ့်မည်ဟု တရင်းဘတ်ကြကုန်၏။

ဤသို့နိမိတ်တိတ်တရင်းတို့ကိုမြင်လျှင် မင်းနှင့်တကွ မှူးမတ်ဟူးရားတတ်ပညာရှိတို့သည် ဤအရပ်ကား ဘူမိနက်သန် အောင်မြေမှန်ပေပြီ၊ မြို့တည်အံ့ဟုအခါကို ကြည့်ရှုလေသော် သက္ကရာဇ် ၇၉၂-ခု၊ တော်သလင်းလဆန်းတိထိ ပေါ်တရက်၊ တနင်္ဂနွေနေ့ဝယ်မြို့တည်သော မင်း ကြာသပတေးသားဖြစ်သောကြောင့် မိန်လက်၊ ကန်စန်းနှင့် မြို့တည်မူ မင်းကား အသက်ရှည်အံ့။ မြို့ကား အသက် သုံးနှစ်တွင်ပျက်လတ္တံ့။ ကန်လက်၊ ကန်စန်းနှင့် မြို့တည်မူ မင်းအသက် သုံးနှစ်သာရှည်အံ့။ မြို့သက်ကား တရာကျိန်းရအံ့ဟူ၍ ဟူးရားတတ်တို့လျှောက်ပေသော် ငါ့အသက်သော်ကား တိုပါစေ။ မြို့အသက်ရှည်သဖြင့် နောင်သား နောင်လာ ငါ၏သားမြေးအစဥ်အဆက် ပြည်တိုင်းကားတို့သည် ကြီးပွားထွန်းလင်း ရှည်လျားပါစေ ဟူ၍ဆိုတော်မူ၍ ကန်လက်၊ ကန်စန်း၌ မြို့နှင့်နန်းကို တပြိုင်နက် သက္ကရာဇ် ၇၉၂-ခုတွင် တည်တော်မူလေသည်။

ထိုမြို့ကိုတည်တော်မူသောအခါ တောင်ညို တောင်၊ ကုတ်ကားတောင်နှစ်လုံးကို တူးဖြိုညှိနှိမ့်သည် ကာလ ရွှေဥဒေါင်းကို မျောက်စောင့်၍ နေသည်ကို တွေ့သောကြောင့် မြို့၏အမည်ကို 'မြောက်ဦးမြို့' ဟူ၍ အမည်သညာ သမုတ်တော်မူလေ၏။

ဖိုင်းမြောက်ဦးမြို့ကို အရပ်ရှစ်မျက်နှာမှ ခပ်သိမ်း သောရန်သူတို့သည် မနှိမ်နင်းနိုင်စိမ့်သောငှာ နတ်ကြီးရှစ်ရပ်တို့ကိုလည်း တည်ပေ၏။ မျက်မှောင်တော်စေတီစသော ဘုရားငါးဆူတို့ကိုလည်း ကောင်းမွန်စွာစီရင်၍ တည်တော်မူသည်။ နံစန်းသင့်အောင် ထိုထိုသို့သော အရပ်တို့၌အကာကြီးအကာငယ် တထောင်တို့ကို ငင်း

စွာစီရင်၍ထားပေ၏။ ထိုသို့ပြုပြင်စီရင်၍ ထားလေသော ကြောင့် မြောက်ဦးမြို့ကို တရာကျိန်းထား၍ တည်သော် လည်း မြို့သက်ဆက်လက်တည်ရှိသော်ကား အနှစ်တ ထောင်၊ အနှစ်တသောင်းလျှင်လည်း စည်ပင်သာယာအံ့ ဟူ၍ နတ်မျက်စိ အမြင်ကိုရသော ဟူးရားတတ်ပညာရှိတို့ သည် ဆိုခဲ့ကုန်၏။

မင်းစောမွန်ကား မြို့တည်၍ပြီးမြောက်လျှင် မဟာမုနိဘုရားအထံသို့သွားလေ၍ သဘင်ကြီးစွာခံလျက် အလှူကြီးကိုပေးတော်မူသည်။ ပြည်သူတိုင်းသား အတုတ်အခွန်ကိုလည်း လျော့ကန့်မှုတလျက် ကောက်ယူ တော်မူ၍ ကြည်ဖြူရွှင်လန်းပေးကမ်းစွန့်ကြဲ ချီးမြှင့် မစခြင်းကိုပြုတော်မူသည်။ နန်းတက်၍သုံးနှစ်ရှိလျှင် အနာရောဂါသည်းထန်စွာဖြစ်လတ်သော် သားတော်ရင်း ဖြစ်သော မင်းကျော်နှင့် မင်းမင္ဂာတ်တို့ရှိကြကုန်လျက် ပြည်၏စီးပွားကိုဆောင်ရွက်ခြင်းငှာ စွမ်းနိုင်အံ့မထင်၍ မိမိနှင့် တဘတည်းဖြစ်သော ညီတော်မင်းခရီအလီခင်ကို ပြည်သူတို့၏အကျိုးစီးပွားအလို့ငှာ မှာထားတော်မူလျက် မင်းစည်းစိမ်ကို ဆောင်နှင်းတော်မူ၏။ မှာထားခြင်း ပြုတော်မူသည်မှာ ငါ့သားတော် မင်းကျော်နှင့် မင်းမင္ဂာတ် တို့သည် မိုက်မှားသည်ရှိသော်လည်း အဝတ်ဖြူနှမ်းနှင့် ဝမ်းဝရုံရှိပါစေ။ အသက်ဆုံးရှုံး မစီရင်ပါလင့်ဟူ၍ လက်တော်ဖြင့်ကိုင်၍ အပ်နှင်းမှာထားတော်မူခဲ့ပြီးမှ မင်းစောမွန်သည် အိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ လောင်းကြက်မြို့မှာ ၂ နှစ်နှစ်။ နန်းကျ သူရတန်ပြည်မှာ ၂၁ နှစ်ဆဲ့တနှစ် ၅လ။ နောက်နန်းစံ လောင်းကြက်မြို့မှာ ၂၊ နှစ်နှစ်။ မြောက်ဦးမြို့မှာ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၅၃၊ ငါးဆဲ့သုံးနှစ်။ သက္ကရာဇ် ၇၉၅-တွင်လွန်တော် မူလေသည်။ (ဤသည်ကား ရာဇဝင်ဟောင်း၊ ရာဇဝင်လင်္ကာ၊ ဆရာမည်ရာဇဝင်တို့ကို ဆင်ခြင်ထောက် ထားရေးသားပြဆိုအပ်သော မင်းစောမွန်အကြောင်းတည်း)

မှန်နန်းရာဇဝင်အလိုမူ သက္ကရာဇ် ၇၆၅-ခုတွင် မင်းရဲကျော်စွာ ချီတိုက်လာကြောင်းနှင့်ဆိုလေသည်။ ငါတို့ ရခိုင်ရာဇဝင်အစောင်စောင်တို့နှင့် မညီလေ။ အင်းစောက် ရာဇဝင်အလိုမူ သက္ကရာဇ် ၇၉၂-ခုမှ စောမွန်နန်းတက် ကြောင်းပါလေသည်။ နောက်ပြန်၍နန်းရသည့် သက္ကရာဇ် ထက်ပင် နှစ်နှစ်နောက်ကျလေသည်။ ဓညဝတီ အရေးတော်ပုံ၌ကား မင်းထီးသားတော် ရာဇသူသက်တော် ခြောက်ဆယ်တွင် ခမည်းတော်ရိပ်ရာကို အုပ်စိုးတော်မူ သည်။ ဝရဓမ္မာဟူသော အမည်ကိုခံတော်မူသည်။ ထိုမင်းအကျင့်သီလသော်ကား၊ နန်းတက်တော်မူလျှင် မျိုးမတ်ပြည်သူတို့အား အမိန့်တော်ပိုင်းဖြတ် သနားတော် မူသည်မှာ ရှေးဘီတော်၊ ဘိုးတော်၊ ခမည်းတော်တို့ လက်ထက်တော်က ပေးသနားတော်မူခဲ့သည့် အဆောင် အရွက်စားကျေးမြို့ရွာသူကြီး ကလန်အစို့ အငန်းသားတို့ မှာ သားမြေးစဉ်ဆက် စားသုံးဆောင်ရွက်ကြီးစိုးမြဲရှိသည့် အတိုင်း ကြီးစိုးထမ်းရွက်စေ။ တုတ်ခွန်ဘဏ္ဍာ ခံယူ သုံးဆောင် ဆက်သွင်းသည်များမှာလည်း အသည်သား တို့မှာ အိမ်ကြီး ငါးသပြာ၊ အိမ်ငယ် နှစ်သပြာခွဲ။ အစို့အခွန်သားတို့မှာ အိမ်ကြီး ဆယ်သပြာ၊ အိမ်ငယ် ငါးသပြာ၊ အရိုင်းမှာ ဒါးတစင်း၊ ယာတခင်းလျှင် သုံးသပြာစီသာ တောင်းခံမြဲ ထုံးစံရှိသည့်အတိုင်းကိုသာ ခံယူသုံးဆောင်ဆက်သွင်းစေ။ အမှုထမ်းသင်းကိုယ်ရံမှုစ၍ ဝင်းသား၊ ဒိုင်းသား၊ ဟာရီ၊ စီရီတို့ကို အခွန်အတုတ် မကောက်မခံစေနှင့်။ အစို့ရင်းမှာသာ ထမ်းရွက်နေထိုင်စေ။ မင်းမိဘုရား၊ မင်းသားမှူးမတ်တို့မှာလည်း ရှေးမင်း အသီးသီးပေးဖွဲ့ထားခဲ့၍ ရှိသည့်လူကိုသာ စေသုံးစေ။ အခြားသူတို့ကို ကပ်ခိုလက်ခံ မထမ်းမရွက်စေနှင့်။ တရားတဘောင် လက်ရောက် နှုတ်လွှန်၊ မြေမှု၊ ရေမှု၊ အိမ်မှု၊ ငွေမှုများစွာမှာလည်း တရားဆွေ လေးယောက်၊ ပြည်စိုးကြီးလေးယောက်တို့ မြို့လေး မျက်နှာက တရားမဖျောပ်နှင့်စီရင်မြဲကိုစီရင်စေ။ ပြီးပြေလျှင် အမှု ကြီးငယ်ကိုထောက်၍ ငါးသပြာတန်သည်၊ နှစ်သပြာ တန်သည်ကို စီရင်သူကခံယူသုံးစားစေ။ မင်းရာစိုးထူးဆို၍ မကုန်မကျစေနှင့်။ တရားဆွေ ပြည်စိုးတို့စီရင်၍မပြီးသော်

အမတ်လေးယောက်စုံညီဆုံးဖြတ်စေ။ မပြီးမူ အမှုသည်နှစ်ဦးကို အတွင်းသို့ဝင်စေ။ ခိုးမှုယိုးမှုများမှာလည်း ရိုက်ပုတ် ထောင်းသတ်၍ မစစ်မဆေးနှင့်။ ပညာဖြင့်သာပေါ်အောင်စစ်။ ခိုးသည်မှန်လျှင်စာထိုး၍ ဟာရီအစို့မှာဖြည့်။ အသက်သေဆုံးလျှင် မည်သူမဆိုသေစားသေစေ။ မှူးမတ်မယားကိုပြစ်မှားသူတို့မှာ မျက်နှာတွင် ဆေးရေး၍ မောင်းလည်ပြီးလျှင် မိန်းမယောကျ်ားနှစ်ယောက်ကို ရေခပ်စီရီအစို့မှာဖြည့်။ ဘိသိက်ဆက် မင်္ဂလာပုဏ္ဏားနှင့် အခြားပုဏ္ဏား မရောစေနှင့်။ ရဟန်းသံဃာတို့မှာလည်း မြတ်စွာဘုရားဟောတော်မူရင်းစကားကို ရှည်ကြာထွန်းလင်းအောင် သီဟိုဠ်ကျွန်း ဝဋ္ဋဂါမဏိ လက်ထက် သီဟဠဘာသာဖြင့် အက္ခရာတင်ခဲ့သည့် ပိဋကတ်သုံးပုံကိုသာ သင်ကြားလေ့လာရမည်။ ပုထုဇဉ်တို့ ပြုလုပ်သော ကျမ်းဂန်များကို မလေ့မလာသင့်။ နောက်ကိုလည်း ကျမ်းဂန်မလုပ်စေနှင့်။ ဝိနည်းမိုရ်ဆရာတော်က နိုင်အောင်မြစ်ဟူ၍ အာဏာစကား ပိုင်းဖြတ်သားနားထားတော်မူသည်။

သက်တော်ခြောက်ဆဲ့သုံးနှစ်ရောက်သောအခါ ချစ်မြတ်နိုးတော်မူသော အမတ်ကြီး မနဟာသမီးမြတ်ကုန်းကို တောင်ညာနှင်း၍ ဘိသိက်ခံတော်မူမည် ပညာရှိအမတ်မျိုး၊ စစ်တကောင်းစားဝိမလကို မေးတော်မူလေရာ အမတ်ကြီးလျှောက်ထုံးသော်ကား----အရှင်မင်းမြတ်၊ မိန်းမကောင်းလက္ခဏာကို ရှေးပညာရှိတို့ဆိုခဲ့သည်ကား။ ။ ဣတ္ထိဘရိယာ၊ အင်္ဂါညီညွတ်၊ မိန်းမမြတ်တို့၊ လင်ဝတ် လင်မှု၊ အနုအရင့် အခွင့်လိမ္မာ၊ သဒ္ဒါရက်ရက်၊ ရမ္မက်နည်းပါး၊ စကားတည်ကြည်၊ ဆိုသည်တချက်၊ ထွက်သည်နာဖွယ်၊ ခြောက်ပြစ်သွယ်မှု၊ ဆိုဖွယ်မရှိ၊ ဟီရိဩတပ်၊ စောင့်ကြပ်ကိုယ်ဝယ်၊ ပြက်ရယ်သွမ်းမှု၊ မပြုဖြောင့်ဖြောင့်၊ အမျိုးစောင့်၏၊ မထောင့်လိမ်လက်၊ အိပ်စက်ဝတ်စား၊ အသွားအနေ၊ အစေအသုံး၊ ရှေးထုံးနှိုင်းညှိ၊ ဂတိမလိုက်၊ စရိုက်ရန်ငြိမ်း၊ မိန်းမသွမ်းနှင့်၊ မပြွမ်းရောနှော၊ သဘောတည့်မတ်၊ သူ့ထက်မြတ်သည်၊ မနွာတ်မင်းနှင့် ထိုက်ရာသောဝ်။ ဟူ၍ပညာရှိတို့မိန့်ဆိုတော်မူသောကြောင့် ထိုသို့အင်္ဂါလက္ခဏာနှင့် ညီညာပြည့်စုံသောမိန်းမမြတ်ကို မနွာမင်းတို့သော်လည်း ဘိသိက်ခံအပ်ပါကြောင်း ထုံးဟောင်းလာရှိပါသည်။ လောကီလက္ခဏာကျမ်းတွင်လည်း ရာဇဒေဝီမိဘုရားကြီးသည် သီလာစာရုံ၊ သီလအကျင့်မြဲခြင်း။ ကေသမယုံ၊ ဆံပင်နက်၍ ကောင်းခြင်း။ ဟတ္ထပါဒမုဒုကံ၊ ခြေလက်သေးသွယ်နူးညံ့ခြင်း၊ အရေအကြောင်းနက်ခြင်း။ ရူပံ၊ အဆင်းလှခြင်း။ သဒ္ဒံ၊ အသံသာယာ နာဖွယ်ရှိခြင်း။ မံသံ၊ အသားနူးညံ့ခြင်း။ ကောသလ္လံ၊ များစွာသောမောင်းမတို့၏ အရိပ်အခြည်ကို နားလည်လိမ္မာခြင်း။ ဤအင်္ဂါခုနစ်ပါးနှင့် မိဘုရားကြီးတို့ ပြည့်စုံစေရာသောအကြောင်းကိုလည်း ရှေးထုံးဟောင်းကျမ်းဂန်လာရှိပါသည်။ အရှင်မင်းကြီး၏ မိဘုရားမြတ်ကုန်းသည် ထိုသို့ဆိုအပ်သောအင်္ဂါတို့နှင့် ပြည့်စုံညီညာလျှင် တောင်ညာထား၍ မိဘုရားကြီး မြှောက်ထိုက်ပါကြောင်းနှင့်လျှောက်လေသော် ပြည့်ရှင်မင်းက အမတ်ဝိမလသို့ အသပြာတထောင်ဆုပေးတော်မူသည်။

တရံရောအခါ ထိုမင်းသည် ရေကြက်သားကို စားချင်တော်မူသော်စိတ်ရှိလတ်၍ ပညာဖြင့်ဆင်ခြင်လျက် ထိုငှက်အသားကို စားချင်သောစိတ်ရှိသည့်အတိုင်း နှုတ်မြွက်၍ သူတပါးကိုပြောဆိုချေသော် ငါလည်း အစိုးရမင်းဖြစ်ချေသည်။ မင်းကြိုက်သောအစာကို ဆက်ရသော် မျက်နှာရအံ့ဟု မှူးမတ်ပြည်သူတို့ ထိုသတ္တဝါအပေါင်းတို့အား နှိပ်စက်ဖမ်းဆီး သတ်ညှစ်ဆက်ချေမည်။ မစားအကျိုး၊ စားလျှင်အပြစ်ရောက်အံ့လောဟု ကြံတော်မူလျက် ဆင်ခြင်တော်မူပြန်သည်ကား ထိုငှက်အသားကို ပညာရှိသူတော်ကောင်းရှာ၍ ပေးသောအစာကိုစားရလျှင် ငါ့အား အပြစ်လွတ်အံ့၊ ယင်းသို့ကြံတော်မူ၍ ပညာရှိဝိမလကို ခေါ်တော်မူ၍ နှစ်ကိုယ်ကြား ရေကြက်သားကို စားတော်မူလိုကြောင်းဖြင့် ပြောဆိုတော်မူလေသည်။ ထိုအမတ်ဝိမလ ဆင်ခြင်ပြန်သည်ကား၊ အရှင်ကောင်းမှ

ကျွန်ကောင်းမည်၊ ကျွန်ကောင်းမှလည်း အရှင်၌အပြစ်ကင်း ရာသည်။ ရှေးထုံးဟောင်းစကားတွင်လည်း မင်းနှင့် အမတ်၊ ညီညွတ်တမူ၊ အကျင့်တူသော်၊ လူလည်း ကြည်ညို၊ စသည်ဖြင့် အဆိုအမှာရှိသည်။ ယခု အရှင်မင်းမြတ်မှုလည်း သမ္မာအာဇီဝအစာကို စားရလို၍ ငါ့ကိုမေးတော်မူသည်မှာ အခြားသူအား အရှာထည့်ချေ သော် မသန့်သောအစာဖြင့်ပေးလာ၍ မင်းထံဆက်ချေမူ ငါ့အားယုံလျက်စားမိချေသော် ထိုအစာလည်းမသန့်၊ ငါ့ကို ယုံသော အကျိုးလည်း မင်း၌မရှိ။ တရားလိမ္မာသောသူ အား ရှာစေမှသင့်မည်ဟုကြံလျက် ဓမ္မပါလသူတော်ကိုပင့် ခေါ်၍ ရေကြက်သားကို လိုသောအကြောင်းကိုပြောဆိုလေ သည်။ ထိုဓမ္မပါလသူတော် ကြံပြန်သည်ကား တရား သီလမြဲသောသူတို့သည် ကာယသမာစာရ၊ ကိုယ်ကို စောင့်ရှောက်ခြင်း။ ဝစီသမာစာရ၊ နှုတ်ကိုစောင့်ရှောက် ခြင်း။ မနောသမာစာရ၊ နှလုံးကိုစောင့်ရှောက်ခြင်း။ ထိုကံသုံးပါးကို ဘုရားမိန့်တော်မူသည်မှာ သူတော်ကောင်း လက်နက် ထိုကံသုံးပါးလုံးမှ သူတော်ကောင်းမှန်သည်ဟု ဆင်ခြင်လျက် ငါ့အားယုံ၍သန့်သောအစာကိုလိုကြောင်း နှင့် အမတ်ဝိမလလျှောက်လေသည်။ ပေးသူလည်းတင့်၊ စားသူလည်းသင့်အောင် မြစ်ဆိပ်ကမ်းနား တောတောင် အနှံ့ ဓမ္မပါလသူတော်ရှာလေသော် ရေကြက်ငှက်တကောင် မိမိအလျောက် ကံကုန်၍သေသည်ကို တွေ့လေရာ ဆောင်ယူခဲ့လျက် အမတ်ဝိမလထံပေးလေသည်။ အမတ်လည်း ကောင်းမွန်စွာကိုယ်တိုင်ချက်ပြီးလျှင် မင်းထံ ဆက်လေရာ ပြည့်ရှင်မင်း မြိန်စွာစားတော်ခေါ်လေသည်။ ဤတွင်မှ ထိုအသားကိုတပ်သော နှလုံးဝေဒနာတော် ကင်းငြိမ်းချမ်းသာတော်မူလေသည်။

ထိုမင်းသက်တော် ရှစ်ဆဲ့ငါးနှစ်ရောက်လတ် သောအခါ မဟာမုနိဘုရား ရောင်တော်လွှတ်သည်၊ လျှောင် အကြိမ် များစွာလှုပ်သည်၊ တော်လဲသည်၊ ဥက္ကါပျံသည်၊ နတ်အမြောက်သံ၊ အကြိမ်များစွာကြားသည်၊ တောင်ပြို သည်၊ နန်းသို့ မိစ္ဆာနတ်ဝင်သည်၊ နဂါးချေးလွှတ်သည်၊ ကြာသပတေးကြယ် လကိုထွင်းသည်၊ စနေအင်္ဂါဂြိုဟ် ပျံသည်၊ ထိုသို့သော တိတ်နိမိတ်များကို အမတ်ပညာရှိ ဝိမလလျှောက်ထုံးသော်ကား၊ ဘုရားပုထိုး အရောင်လွှတ် သည်၊ တောင်ပြိုသည်များမှာ မင်း၌အကြောင်းထုံးဟောင်း ရှိပါသည်။ ဥက္ကါပျံသည်၊ နဂါးချေးလွှတ်သည်၊ အရပ် ရှစ်မျက်နှာ တိမ်သွေးသို့မြင်သည်မှာ မင်း၊ မိဘုရား၊ သားတော်ဥပရာဇာတို့အကြောင်း။ လျှောင်အကြိမ်များစွာ လှုပ်၍တော်လဲသည်မှာ ပြည်သူတို့အကြောင်း။ နတ်အမြောက်သံကြားသည်၊ စနေအင်္ဂါဂြိုဟ်ပျံသည်မှာ စစ်ချီရောက်ရာသော အကြောင်း။ ကြာသပတေးကြယ် လကိုထွင်းသည်၊ ကြာသပတေးကြယ်ပျံသည်။ နောက်သို့ ဆုတ်သည်၊ နိယထုံနေသည်များမှာ ရဟန်း၊ ပုဏ္ဏား၊ မိကြီး၊ ဘကြီး၊ ဆွေမျိုးကြီး၊ မှူးကြီး မတ်ရာတို့အကြောင်း။ နန်းတွင်းသို့ မိစ္ဆာဝင်သည်မှာ နန်းသူတို့ သိက္ခာပျက်သော အကြောင်းဟူ၍ ထုံးဟောင်းကျမ်းဂန်လာရှိပါသည်ဟု အမတ်ကြီးလျှောက်လေသော် ပြည့်ရှင်မင်းက ဝိမလ အမတ် ငါကဲ့သို့လူအိုဖြစ်သည်၊ ထွက်ဝင်သွားလာရာ ရွှေထမ်းစင်စီး၍ သွားစေဟုပေးတော်မူလေသည်။

ထိုဝရဓမ္မာမင်း၏သားတော် နရမိတ်လှအမည်ရှိ သော မင်းစောမွန်သည် ခမည်းတော်လက်ထက် ရောက် လာသော ပြူမလွန်စား ရာဇသူသမီး ရွှေဆုံကို တောင်ညာ ထား၍ ရာဇသူကို ကိုယ်ရံကြီးအမတ်ခန့်လေသည်။ မိဘုရားရွှေဆုံ၏ ဆွေသားကျေး ကျွန်တို့ကိုလည်း အသီးအသီး ကျေးစားပေးလေ၍ ပြည်သူတို့ကို နှိပ်စက် ကြလေသည်။ ထိုမင်းလည်း မိဘုရားရွှေဆုံအလိုရှိရာ လိုက်လေ၍ မင်းနေ၊ မင်းသွား၊ မင်းပြော၊ မင်းဆို၊ မင်းသုံး၊ မင်းဆောင်၊ မင်းအိပ်၊ မင်းစားမညီပြုလိုရာပြု၍ အမတ်သွမ်းတို့နှင့် သဘာဝအလျောက် ပျော်ရွှင်လေ့လာ ရှိလေရာ ခမည်းတော်လက်ထက်က မှူးဟောင်း၊ မတ်ဟောင်း၊ သူကြီးကျေးစားခေါင်းတို့ ညီတော် သံတွဲစား သို့ ချဉ်းကပ်၍ လျှောက်တင်လေသည်ကား၊ အရှင် သားတော်၊ ကြာလျှင် တိုင်းပြည်ပျက်အံ့သောအကြောင်း

ဖြစ်ပါသည်။ ထီးနန်း၊ တိုင်းပြည်ကို သိမ်းယူတော်မူပါ လျှောက်ကြလေသော် သံတွဲစားနရန အမိန့်တော်ရှိသည်ကား ငါတို့အနွယ်တော် သာကိဝင်မင်းဆက်အမျိုးဖောက်၍ ဝိလုပ္ပနလုယက်တိုက်ဖျက် ထီးနန်းတက်ရိုးထုံးမရှိ။ အစ်ကိုမှာ အဘအရာဖြစ်သည်၊ လျှောက်တင်၍ မနာမယူလျှင် လက်ကိုစုံလျက်သာ နေသင့်သည်၊ မိစ္ဆာမိုက်မှားမကြံရာဟု အမိန့်ရှိလေသည်။

ထိုအကြောင်းကိုကြားလျှင် မာန်တော်ပြင်းစွာဝင်၍ သံတွဲသို့ချီမည်ရှိသောအခါ ရှေးအမတ်ပညာရှိအသက် ၁၀၀ ရွယ် အမတ်ဝိမလလျှောက်သော ထုံးသော်ကား၊ ရှေးသူဟောင်းစကားလာသည်မှာ အရှင်မင်းမြတ်၊ ပင်လယ်မြစ်ကြောင်း၊ ဝဲခနှောင်း၌၊ တိမ်းစောင်းမဖယ်သာ၊ မာလိန်မတတ်၊ ရေကြောင်းလွတ်သော်၊ ကူးကပ်မရောက်ရာ၊ ပြည့်ရှင်မင်းမြတ်၊ အကျင့်ချွတ်လျှင်၊ ဥပဒ်သတ္တဝါ၊ ထုံးဟောင်းရှိပါသည်။ ညီတော်သံတွဲစားနှင့် မှူးမတ်ပြည်သူတို့ကို မာန်တော်မရောက်ကောင်းပါ။ အရှင်မင်းကြီးသည် ရှေးဘီတော်၊ ဘိုးတော်၊ ခမည်းတော်တို့နှင့်မတူ။ အမျိုးစောင့်သောတရားပျက်သည်ဖြစ်၍ ညီတော်ချမ်းသာစွာ ခမည်းတော် စားကျေးပေးခဲ့သော သံတွဲမြို့၌ ငြိမ်သက်စွာနေလေရာ သူလျောင်သူဆိုးတို့စကားကို နာတော်မူလျက် ယောက္ခမတော် ပြူအမတ်ရာဇသူကို ခန့်တော်မူ၍ တနှစ်တကြိမ် တိုက်စေသော်လည်း ညီတော်၌ ဂုဏ်သီလမြဲခြင်းကြောင့်၎င်း၊ မှူးမတ် ကျေးကျွန်အင်္ဂါစုံစွာရှိသည်ဖြစ်၍၎င်း၊ သုံးကြိမ် ပျက်လာရပါသည်။ ချီတော်မူမည့် ကြံတော်မမူသင့်ပါ။ ရှေးကျမ်းဂန်အဆိုကာလိင်္ဂရာဇ်မင်းက အဿကမင်းကို စစ်ပြုသောအကြောင်းနိဒါန်းဟောင်းတွင် ဆဒ္ဒန်ပြောင်မုန်၊ ရဲဟုန်နှင်ချိုး၊ ချွန်ချွန်ထိုးသို့၊ အကျိုးရှိသင့်၊ တို့ခွင့်မသာ၊ မင်္ဂလာအောင်မြေ၊ အနေသင့်ရာ၊ မိုလ်ပါဆင်မြင်း၊ သိမ်းသွင်းမပျက်၊ ရဲမက်မပြို၊ ရန်ကိုနှိပ်နင်း၊ အကြံပညာ၊ သည်သာဖြစ်ခဲ၊ သူရဲမရှား၊ လက်ရုံးအားမှာ၊ အမှားအမှန်၊ အလွန်အကျူး၊ သူရူးအင်္ဂါ၊ မိစ္ဆာအကျင့်၊ နိမ့်မြင့်ရှုံးနိုင်၊ အပိုင်ခဲခက်၊ လက်နက်ဗိုလ်ခြေ၊ အသေအဆုံး၊ ထုံးမပြု လောက်၊ ထွင်းဖောက်မြောက်မြား၊ ဂုဏ်ကိုးပါးစုံ၊ ပညာလုံမှ၊ ဗိုလ်ပုံမပန်း၊ ဉာဏ်စွမ်းနှလို၊ တွင်းပြင်ရှိက၊ ကြီးဘိစစ်အင်၊ မြင်း ဆင် ရထား၊ ခြေသည်အားနှင့်၊ လေးပါးညီစုံ၊ ရောက်ငြားတုံလည်း၊ ပိုက်ချုံပြီးစီး၊ စစ်သူကြီးတို့၊ ထုံးမှီးလိမ္မာ၊ သို့ကိုသာလျှင်၊ စစ်အင် လေးမည်၊ အပ်သည်ရှေးရိုး၊ ရန်ချိုးနိုင်သည်၊ သူ့ပြည် သာယာ၊ ဝတီသာသို့၊ ပမာတမျှ၊ အဿကမင်း၊ စစ်တွင်ရှုံးမည်၊ ဆိုသည်စကား၊ သိကြားစင်လျက်၊ ပျက်သည် ထုံးစံ၊ နန္ဒိသေန၊ အဿကမတ်၊ ညီညွတ်ပြည့်စုံ၊ ပညာလုံ၍၊ ဗိုလ်ပုံရန်ငြိမ်၊ ကလိင်္ဂရာဇ်၊ သူ့စစ်နွမ်းညှိုး၊ အကျိုးမရှိ၊ ပန်းနှယ်ရိ၍၊ ကစီကစက်၊ ကြေညက်ပရမ်း၊ အမတ်သွမ်းနှင့်၊ မင်းကြမ်းတသွန်၊ မာန်တံခွန်ကို၊ ကဲလွန်စတင်၊ ကိုယ်ရှင်ကိုယ်ဝယ်၊ အလမ္မာယ်သို့၊ အန္တရာယ်ရောက်၊ ပြေးပေါက်လမ်းမှာ၊ သေပျောက်ငြားသည်၊ တရားမရ မင်းသုည။ ဟူ၍ ဆိုအပ်သော ထုံးဟောင်းရှိပါသည်။ အရှင်မင်းမြတ်၊ ထိုမှတပါးတုံလည်း သူလျောင်သူပျက်၊ ပေါင်းဖက်စကား၊ မင်းကြီးမှားမူ၊ တိုင်းကားမစည် ပျက်တတ်သည်။ ရှေးထုံးဟောင်း အလာတွင်လည်း ---

ကြွက်ကြီးတွင်းအောင်း၊ ကြွက်ဂယ်လောင်း၊
ရုံးပေါင်းတွင်းကို ဖျက်လိမ့်မည်။
ကျောင်းတဆယ်ကို၊ ရှင်ငယ်တယောက်
စားလိမ့်မည်။
အင်းကျီခါးတို၊ လူပျိုအမတ် များလိမ့်မည်။
ပုတီးလက်စွဲ၊ လူစဉ်းလဲလည်း များလိမ့်မည်။
ယင်းသောအခါ မိုးမရွာ၊ အစာငတ်မွတ်
ရှားလိမ့်မည်။
ငတ်မြစ်ကူးတို့၊ လူမပို့ဘဲ ကူးလိမ့်မည်။
ကြွက်မင်းပြေးကာ၊ မန္တျမာသို့ ရောက်လိမ့်မည်။
ပြူနှင့်တလိုင်း၊ ငါးဇင်ရိုင်းသို့ ပြုလိမ့်မည်။
ကြွက်မင်းတဖန် တွင်းဘို့ပြန်သော်၊ အကြံတွင်းသစ်
ရှာလိမ့်မည်။

တွင်းသစ်ရခါ၊ များမကြာ၊ ကြမ္မာကုန်အံ့သောဝ်။

ဤသို့ ထုံးဟောင်းတဘောင် ထွက်ရှိပါသည်။ တိုင်းပြည်ပျက်ရသော တိတ်ကြီးနိမိတ်ကြီးထင် မြင်သည်မှာလည်း ခတ်လေးပါး ချောက်ချားဖောက်ပြန်၍ မိုးမှန်စွာမရွာ၊ သတ္တဝါတို့လည်း ဝေ်မွတ်ပင်ပန်းညှိုးနွမ်းရိပါး ရှိသည်အတွင်း မြို့စား၊ ရွာစား၊ ကျွန်းစား၊ ချောင်းစား ပေးတော်မူသည်မှာလည်း တမြို့တရွာ တချောင်းတစိုမှ လွတ်သည်မရှိ၊ တိုင်းပြည်ပျက်စီးကြောင်း မကောင်းသော အမူအကျင့်ကိုသာ ပြုကျင့်ကြပါသည်။ အရှင်မင်းမြတ်၊ ညီတော်၊ သားတော်၊ ဆွေတော်၊ မျိုးတော်မှစ၍ မှူးကောင်းမတ်ကောင်းတို့ကို မနှိပ်စက်အပ်ပါ။ နှိပ်စက်ချေသော် ပြည်နာပါသည်။ ပြည်နာချေမူ ရန်သူပေါ်ပေါက် ပြည်လုံးမှောက်၍ ပျက်စီးခြင်းသို့ ရောက်တတ်ပါသည် ဟူ၍ အမတ်ကြီးလျှောက်ထားလေရာ မင်းရိုးမှန်လျက် သူမိုက်တို့နှင့်ပေါင်းဖော်မိ၍ ပညာရှိစကားကိုမနာမယူ အယူယွင်းချွတ်သဖြင့် အမတ်ကြီးဝိမလကို မာန်အောင် ကျွန်းသို့ ပို့ထားလေသည်။

ယင်းသောအခါ အင်းဝမင်းခေါင်က သားတော် မင်းရဲကျော်စွာကိုခန့်ထား၍ ချီလာကြောင်း ညီတော်သံတွဲ စားကြားသိလေသော် နောင်တော်ထံသို့ အလျှောက်အတင် တောင်ခွင်စား ရန်မသူကို စေလွှတ်လျှောက်တင်လေရာ နောင်တော် မှူးမတ်သွမ်းတို့က ညီတော်နှင့် စစ်ပြိုင်လျက် ရှိသည်တွင် ညီတော်လူရောက်လာသည်မှာ အဖြောင့်လာ ခြင်းမဟုတ်၊ အလန့်အခြောက်အစုံအစမ်းစေရောက်လာသူ သာဖြစ်ပါသည်ဟု လျှောက်ကြလေရာ နရမိတ်လှမင်း သည် ဉာဏ်ပညာနည်းသဖြင့် ညီတော့်လူ တောင်ခွင်စား ရန်မသူကို နာကျင်စွာရာဇဒဏ်ပေး၍ပြန်စေသည်။ ရန်မသူ ရောက်လာလျှင် ညီတော်သံတွဲစားနရနုလည်း နိုင်လုံ့စွာ တပ်စီး တပ်နင်း ကင်းအတန်တန် ကြည်းတပ်ရေတပ် ပိတ်ဆို့လျက်နေလေသည်။ မင်းရဲကျော်စွာလည်း နရမိတ်လှကိုတိုက်လေရာ နရမိတ်လှမင်းမခံနိုင်၍ သက္ကရာဇ် ၇၈၀ တွင် အနောက်ကုလားဘင်္ဂါ ၁၂ မြို့သို့ ထွက်ပြေးလေကြောင်းနှင့် ဆိုလေသည်။

ဤအရာတွင် မှန်နန်းရာဇဝင် ဒုတိယတွဲ ၅၄ နံပါတ်တို့၌ မင်းရဲကျော်စွာသည် တလိုင်းမင်း ရာဇာဓိရာဇ် နှင့် ဒလနယ်တွင်စစ်ထိုးကြလေရာ သက္ကရာဇ် ၇၇၈-ခု၊ တန်ခူးလဆန်း ၄ ရက်၊ ဗုဒ္ဓဟူးနေ့၊ ရာဇာဓိရာဇ်ဖမ်းမိ၍ လုပ်ကြံလေသဖြင့် အနိစ္စရောက်လေကြောင်းနှင့် ဆိုသော ကြောင့် သက္ကရာဇ် ၇၈၀ ပြည့်တွင် ငါတို့ ရခိုင်ပြည်ကို ချီလာ၍ တိုက်နိုင်ရန်မရှိသောကြောင့်ငဲ။

ငါတို့ ရခိုင်ရာဇဝင်အစောင်စောင်တို့၌ ၇၆၈-တွင်သာ လာရောက်တိုက်ခိုက်ကြောင်းနှင့် ဆိုကြလေ သောကြောင့်ငဲ၊ စဉ်းစားဆင်ခြင်ရန် ရှိပေသည်။ (ဤကား အမှာစကားချုပ်။)

ထိုနောက် အင်းဝမြို့ ဘုရင်မင်းခေါင်က သမက်တော် နော်ရထာနှင့် သမီးတော်ရွှေပြည်ချမ်းသာကို လောင်းကြက်မြို့၌ နန်းတင်လေသောအခါ နော်ရထာနှင့် ရွှေပြည်ချမ်းသာတို့ အလွန်ဆိုးသွမ်း၍ ပြည်သူတို့ကို ညှဉ်းပန်းလတ်ပြန်ရာ သံတွဲစား နရနုက ပဲခူးမင်း ရာဇာဓိရာဇ်ထံဝင်လေ၍ နော်ရထာမိဘုရား ရွှေပြည်ချမ်းသာ မှူးမတ်တို့ ဆိုးသွမ်းနိုင်ထက် ပြည်သူတို့ကို နှိပ်စက် ကြောင်း လျှောက်လေသော် ရာဇာဓိရာဇ်မင်းက အင်းဝနိုင် ဟူသောအမတ်ကို ဗိုလ်မှူးခန့်၍ ရဲမက်လေးသောင်းနှင့် ချီသွားတိုက်လေရာ နော်ရထာနှင့် မှူးမတ်တရာကျော်ကို စီရင်ပြီးမှ နရနုကိုနန်းတင်ခဲ့၍ နော်ရထာမိဘုရား ရွှေပြည်ချမ်းသာကို ယူဆောင်ပြန်သွားလေသည်။ နရနုမင်း လည်း နောင်တော်နရမိတ်ရှိရာသို့ လူစေလွှတ်၍ လျှောက်စေသော် နောင်တော်ချီလာခဲ့၍ သက္ကရာဇ် ၇၉၁ ခုတိုင်ရောက်မှ ထီးနန်းရမြဲရပြန်လေရာ သားတော်များကို အိမ်ရှေ့မပေး၊ ညီတော်နရနုကို အိမ်ရှေ့နှင်းတော်မူသည်။ ခမည်းတော်လက်ထက်က မှူးကြီးမတ်ကြီး သားမြေး တို့ကိုလည်း စိစစ်တော်မူ၍ အသီးအသီး ပညာအရည် အလျောက် အနိမ့်အမြင့် သူကောင်းပြုတော်မူလေသည်။

အမတ်ပညာရှိဝိမလသား မြကျော်အောင်ကိုလည်း ကဝိကျော်အမည်နှင့် လေးမြို့ရှောင်းကို စားကျေးပေးတော်မူသည်။ မင်းစောမွန်ကြီးဟူသော အမည်ကိုလည်း ခံတော်မူသည်။ နန်းကျ၍ တဆဲ့တနှစ်ရှိလေရာ ပညာရှိနှင့် သာပေါင်းဖော်လေ၍ နောက်မင်းဖြစ်သောအခါ ရှေးဘေးတော်၊ ဘီတော်၊ ခမည်းတော်တို့နည်းသာ ကျင့်တော်မူသည်။ လောင်းကြက်မြို့ကို ရန်သူနှိပ်စက်ဖျက်ဆီး၍ အနှစ်တဆယ်ကျော်နေလေသည်။ မြို့ပြောင်းတော်မူမည် အမိန့်တော်ရှိလေရာ ပညာရှိအမတ် လေးမြို့စား ကဝိကျော်လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ တင့်အပ်သော မြို့ပြ ကျုံးမြောင်း စသော ခုနစ်ဌာနနှင့်ပြည့်စုံစွာ ပဋိရူပစသော စက်အင်္ဂါလေးပါး ညီညွတ်ထိန်လင်းသော နေရာပင်ဖြစ်စေကာမူ ကျမ်းဂန်၌ လာသည်မှာ ယတ္ထ၊ အကြင်တိုင်းပြည်၌။ ရာဇ၊ မင်းသည် ၎င်း။ အမစ္စော၊ အမတ်သည် ၎င်း။ မိစ္ဆာသက်ပွေါ၊ မှားသောအကျင့်အကြံရှိသည်ဖြစ်၍။ နိဗ္ဗောဂေါ၊ ဝေဘန်ခွဲခြမ်း ပေးကမ်းချီးမြှင့်ခြင်းကို မပြု။ စတုဂတိဂမနော၊ လေးပါးသော အဂတိသို့လိုက်စားလေ့ရှိ၏။ ဗာလုပသေဝနော၊ မိုက်သောသူတို့နှင့် ပေါင်းဖော်ယှဉ်တွဲ မှီဝဲရောနှောလေ့ရှိ၏။ တံရဋ္ဌံ၊ ထိုတိုင်းနိုင်ငံသည်၊ ဒုက္ခံ၊ ဆင်းရဲပျက်စီးခြင်းသို့ရောက်သည်။ ဘဝေ၊ ဖြစ်ရာ၏။ ဤသို့ ကျမ်းဂန်လာပါသည်။

အထက်တိုင်းပြည်မပျက်မီ အရှင်မင်းကြီး ထီးနန်းစိုးစံတော်မူသောအခါလည်း ရှေးမင်းတို့နည်း ဘိသိက်တော်ကို မခံရှိလေသည်။ ယခု ကံကုသိုလ်ပေး လာပြန်၍ ထီးနန်းတိုင်းပြည်ကို ရမြဲရပြန်ရာ ဘီတော်စသော ခမည်းတော် အရှင်မင်းမြတ်တို့နည်း ဘိသိက်ခံတော်မူပြီးမှ မြို့သစ်ပြောင်းတော်မူလိုလျှင် ပြောင်းတော်မူရပါမည်။ ရှေးပညာရှိတို့ အမှာစာတမ်းထုံးမှာလည်း ရဟန်းတို့မှာ=ကမ္မဝါတင်၊ သိမ်ဝင်သိက္ခာ၊ ခမာတရားမြဲ သင့်ကြောင်း၊ မင်းတို့မှာလည်း=ဘိသိက်ခံရာ၊ သမ္မာ မင်းမြတ်ကောင်း-ဟူ၍ ထုံးဟောင်းလာသည့်အတိုင်း ရာဇပုံတွင်လည်း ရဟန်း=သိက္ခာ၊ မင်းမှာ=ဘိသိက်၊ သူတော်စိတ်ကို မဖိတ်ကျင့်ရိုးမြတ်အမျိုးဟူ၍ ဆိုလေသည်။ တိုင်းပြည်သတ္တဝါ ကြမ္မာကပ် ဥပဒ်ဆိုက်ရောက်၍ ၁၁ နှစ် သူပုန်တို့ မင်းမှုလျက်ရှိလေရာ ဘိသိက်တော်မင်္ဂလာရပုဏ္ဏားတို့သည် ပန်းတင်၊ စောင်းတီး၊ စန္ဒီ၊ ဟူးရား၊ ဟုန်းနတ်၊ ပရိတ်ရွတ်အစိုးပုဏ္ဏားတို့နှင့် ရောနှောရှိလေရာသည်။ ဘိသိက်မင်္ဂလာပုဏ္ဏားတို့ ရှေးအစဉ် ကျင့်ရိုးသော်ကား အင်း၊ မန္တန်၊ ဆေး၊ ပယောဂ၊ ဟူးရား၊ ဗေဒင်၊ မန္တန်များကိုလည်းမလေ့လာခြင်း၊ ရေမချိုးမီလျက် ဆေး၊ ကွမ်း၊ ထမင်း စသည်တို့ကိုမစားခြင်း၊ တူရသွယ်နှင့် စလွယ်ကိုမကွာခြင်း၊ ရာသီရောက်သော မိန်းမ၊ မီးနေသော မိန်းမတို့နှင့်မရောမစပ်ခြင်း၊ လင်သေလင်ကွာ မိန်းမကို အိမ်ထောင်ဖက်မပြုခြင်း၊ သားငါး၊ ငါးပိ မစားခြင်း၊ တိုင်းသူ ပြည်သူတို့အိမ်သို့ လှည့်လည်သွားလာ တောင်းစားမပြုခြင်း၊ ပိဋကတ်ကျမ်းဂန် အဘိဓာန်စသော ပရိတ်မင်္ဂလာပိသစွာ ရွတ်ဖတ်တတ်ခြင်း၊ ကျမ်းဂန်၌လည်း ရာဇဘိသေကံ ကရောန္တေနသာရဗြာဟ္မဏေန ဝံသာနုရက္ခိတဗ္ဗောဟူ၍ လာရှိတော်မူသောကြောင့် ဘိသိက်တော်ဆက်ပုဏ္ဏားတို့၏ အင်္ဂါရှစ်ပါးနှင့်ပြည့်စုံမှ ဘီတော်၊ ဘိုးတော်စသော ခမည်းတော်မင်းမြတ်တို့ကို ဘိသိက်တော်ဆက်ရပါသည်။ ဘိသိက်သွန်း ရှေးရိုးမှန်အောင် ရွေးစစ်တော်မူ၍ ဘိသိက်ရေသွန်းခံတော်မူပါ။ အမတ်ပညာရှိ လေးမြို့စား ကဝိကျော်လျှောက်လေရာ မင်းစောမွန် ကံကုန်ချိန်ရောက်လျှင် ကြိုက်တော်မမူ၊ သက္ကရာဇ် ၇၉၂-ခု၊ တော်သလင်းလဆန်းတရက်၊ တနင်္ဂနွေကန်လက်၊ ကန်စန်းနှင့် မြောက်ဦးမြို့ကို တည်လေသည်။ မြို့နန်းမပြီးမီယာယီ နန်းနှင့်နေတော်မူရာ ဝေဒနာကပ်ရောက်၍ နတ်ရွာလွန်တော်မူလေသည်။ နံတော်ကြာသပတေးသားတည်း။ ၁။ ဤသည်ကား ဥဇဝတီအရေးတော်ပုံ၌လာသော မင်းစောမွန်အကြောင်းတည်း။

(ဤစည၀တီ အရေးတော်ပုံ၌လာသော စကားရပ်များတွင် နန်းတက်၊ နန်းစံ၊ နန်းကျသက္ကရာဇ် အမှတ်အသားသည် ရာဇဝင်ဟောင်းစသည်တို့နှင့် မညီမညွတ်လေရကား ရာဇဝင်ဟောင်း စကားအတိုင်း သာလျှင် မှတ်သားနှလုံးမူသင့်သည်။ ဤသည်ကား အမှာစကားချပ်။)

မင်းစောမွန် လွန်တော်မူလေလျှင် သက္ကရာဇ် ၇၉၅-ခု၊ ကဆုန်လပြည့်ကျော် ၆ ရက်၊ စနေနေ့တွင် ညီတော်မင်းခရီသည် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ကုလားအမည်ဖြင့် အလီခင်-ဟု မှည့်လေ၏။

ထိုမင်း၏ အိမ်နိမ့်မျောက်သားတော်ကား စောစံမယ်တည်း။ မင်းဖြစ်တော်မူပြီးမှ မိဘုရားကား စောပဘာလည်းတယောက်၊ စောပဒ္မာလည်းတယောက် အားဖြင့် နှစ်ယောက်ဖြစ်သတည်း။ ထိုမိဘုရားတို့၏ အနွယ်အဆက်ကား လောင်းကြက်မြို့၌မင်းထီးသည် ပိန်နဲငစည်သမီး စောစစ်ကိုမိဘုရားမြှောက်ရာတွင် စောမာလာနှင့် စောသမာ နှစ်ယောက်ကို ဖွားမြင်တော် မူသည်။ စောသမာကို တဘာတည်းဖြစ်သော မောင်တော် သီဝရာဇ်မိဘုရားမြှောက်ရာဝယ် ရှင်စောညိုဟူသော သမီးတော်တယောက် ဖွားမြင်တော်မူသည်။ ထိုရှင်စောညို ကို ဦးရီးဖြစ်သောစလင်္ကာဗိုလ်နှင့် ထိမ်းမြားလေရာ စောဖြူ၊ စောနန်းသူဟူသော သမီးတော်နှစ်ယောက် ဖွားမြင်တော်မူသည်။ စောဖြူကို နန်းကျယ်သိဒ္ဓည်း၏ မြေးဖြစ်သော သေဒွေးမောင်ရှင်နှင့်ထိမ်း မြားလေရာ သမီးတော်စောပဘာကို ဖွားမြင်တော်မူသည်။ စောနန်းသူ ကိုကား မင်းရာဇသူညီဖြစ်သောမင်းပျို့နှင့် အိမ်ထောင် ချလေရာတွင် ဖွားမြင်သောသမီးတော် စောပဒ္မာကား မင်းအလီခင်မိဘုရားတည်း။ စောပဒ္မာတွင် လောင်းကြက် မြို့စား မင်းဆွေကိုဖွားမြင်တော်မူ၏။ စောဖြူနှင့် သေဒွေး မောင်ရှင်တို့၏သမီးဖြစ်သော စောပဘာကို အလီခင်မင်း သည် ပိုက်ကွန်များစွာယူ၍ ငါးတံထိုးသဘင်ခံသောအခါ ၌ စောပဘာသည် အစ်မဖြစ်သူ စောဖြူထံသို့ အဖူးအမြင် လာရာ အလီခင်မင်းမြင်တော်မူ၍ ကြည်ဖြူ နှစ်သက် စုံမက်တော်မူသောကြောင့်သိမ်းယူ၍ မိဘုရားမြှောက်တော် မူလေသည်။ ထိုမိဘုရားစောပဘာတွင် ဘစောမင်းဖြူ ဟူသော သားတော်တယောက်၊ ဘစောမင်းညိုဟူသော သားတော်တယောက်အားဖြင့် နှစ်ယောက်ဖွားမြင်တော် မူလေသည်။

ထိုမင်းအလီခင်လက်ထက် ရှေး၌လောင်းကြက် မြို့ပျက်၍ မင်းစောမွန် အနောက်သူ့ရတန်ပြည်သို့ ထွက်ပြေးလေလျှင် အရှေ့ပြည်က သုံးရွာစားသည် သံတွဲမြို့ကို တည်ထောင်အုပ်ချုပ်၍ မင်းလုပ်နေထိုင်လာ ပေ၏။ ထိုသုံးရွာစား သံတွဲမင်းလွန်လေလျှင် စောယင်မိ ဟူသော မိဘုရားသည် စောရန္တမိတ်ဟူသော သားတော် ကြီးနှင့် ဘယမင်းရဲဟူသော သားတော်အငယ်နှစ်ယောက် တို့ကို လက်ယာလက်ဝဲထား၍ တိုင်းပြည်ကိုအုပ်ချုပ်လျက် နေပေ၏။

တရံရောအခါ စောရန္တမိတ်၏ ကျေးကျွန်တို့က အရှင်မင်းသား၏မယ်တော်သည် အရှင်မင်းသားအား မင်း မပြုစေလိုပါ။ အရှင်မင်းသား၏ညီတော်ကိုသာလျှင် မင်းပြုတော်မူစိမ့်သောငှာ ကြံပါသည်ဟုလျှောက်ကြလေ လျှင် မင်းသားစောရန္တမိတ်သည် အကယ်ထင်မှတ်၍ ကြက်ပွဲကစားနေသောညီတော်ကို ခေါ်ချေဟုစေတော်မူ၍ ညီတော်မင်းရောက်လတ်၍ ရှိခိုးအံ့ဟုပြုသည်တွင် နောင်တော် ဒါးဖြင့်ခုတ်၍လက်နှစ်ဖက်စုံ ပြတ်လေသည်။ ထိုအကြောင်းကို မယ်တော် ရေချိုးအိမ်ကကြားလေသော် ဝတ်လဲတော်ကိုမလဲပဲ ဝတ်လဲစိုရွှမ်းနှင့်ပြေးလာပြီးလျှင် သားငယ်ကိုပိုက်ဖက်၍နေလာ၏။ မိဘုရားသည် သားတော်အကြီး စောရန္တမိတ်အားပြင်းစွာအမျက်ထွက်၍ အလီခင်မင်းထံသို့ အကျွန်နှင့်တကွ မြို့ပြအလုံးကို သိမ်းကျုံးယူတော်မူလှည့်ပါဟု စာနှင့်တမန်စေလိုက်၏။ စေလိုက်သည့် စာကား။

တောင်ညိုပွေချာ၊ ကျွန်းလက်ယာထက်၊ သီဒါ ရစ်ခွေ၊ သံတွဲမြေဝယ်၊ အုပ်တွေဖျင်ပေါင်း၊ မများတောင်း

သည်၊ ဆွေပေါင်းမျိုးလယ်၊ ကောင်းကင်ကြယ်သို့၊ နေဖွယ်ကစ၊ သာမောလှရှင့်၊ နှမဟူပြီး၊ မတ်ကြီးကျော်သူ၊ အလှူဒါန၊ ပေးဘူးကလည်း၊ ဘုရားလှကျော်၊ ဥဏ်တော် ဝင်းမော၊ တန့်တောတသီး၊ ဂူကြီးဂူငယ်၊ သိမ်လယ် ရိပ်တွင်း၊ ရုပ်ဆင်းနှစ်ဆူ၊ အတူရှေ့ဆိုင်၊ ဘုရားပြိုင်၍၊ လေးတိုင်ပြုငြား၊ တည်ထားသင့်စွာ၊ လေးမျက်နှာလည်း၊ ရွှေသား-ရွှေပျောင်း၊ လျှံတမောင်းနှင့်၊ ညှိုးတောင်းဗျာပါ၊ ညိုကြင်းမှာကို၊ ဥဂ္ဂါကောင်းမှု၊ ရုပ်တုနှစ်ဆူ၊ ညီနောင်တူတို့၊ ဆုယူဆုပြည့်၊ တောင်းကုန်လှည့်ဟု၊ ခေါ်ကြည့်သောအား၊ ရှင်မင်းများလည်း၊ ညွတ်တွားဝတ်ရုံ၊ နိဗ္ဗာန်ဘုံကို၊ ရောက်တုံမညီ၊ မယ်နှင့်ဆီသည်၊ လောကီမိဋ္ဌာန် စံရစေ။

မောင်တို့နေရာ၊ ရွှေပြည်သာသို့၊ လိုက်ပါဟူလည်း၊ မတူရာလော၊ မသိမောခဲ့၊ မင်းစောဒသ၊ ဘာတိကတို့၊ ဒီပဓမ္မူ၊ လုံးလုံးချူ၍၊ ခွန်ယူသိမ်းမြန်း၊ ထိုးနန်းတည်ရာ၊ မင်းတို့ရွာလည်း၊ ဒွါရာဝတီ၊ သိဂီရောင်လျှံ၊ မြို့ရှင်ပျံ့ဝယ်၊ ပတ်ရံသုံးတောင်၊ သုံးဆူနောင်လည်း၊ ရှုသောင်ရှုသာ၊ အာကာထက်လင်း၊ ဘဝင်ချင်းမျှ၊ ခပင်းနတ်လှ၊ ကိုးရာမှုသား၊ မျိုးတူဇနီး၊ မကြီးဘုန်းသစ်၊ ချစ်လို့သနား၊ နောင်အားမေတ္တာ၊ သက်တို့ပါ၍၊ သရဏာပွင့်၊ ပန်းသုံးဆင့်ကို။ ။ မောင်နှင့် မိဋ္ဌာန်ပန်ရစေ။

ဤစာနှစ်ပိုဒ်ကို သံတွဲမိဘုရား စောယင်မိက ပေးတော်မူလိုက်လျှင် ရခိုင်ပြည့်ရှင် မင်းအလီခင်က ပြန်လိုက်သည့် စာကား ဤသို့တည်း။

မောင်တို့နေမှ၊ သာမောလှသား၊ နှမမိဖြူ၊ လိုက်တော်မူလော၊ ဓမ္မူမဏ္ဍိုင်၊ ရွှေရခိုင်ငယ်၊ ရှစ်ဆိုင်ရပ်မင်း၊ ခွန်သွင်းဖျင်ပြော၊ သဘောစင်းပြွံ၊ ဆိတ်မည်တည့်၊ အလွန်ထွန်းတောက်၊ ရှမျှော်စောက်သား၊ မောက်မောက်သွန်းသွန်း၊ ရွှေနန်းပြာသဒ်၊ အထွဋ်တန်ဆောင်၊ ရွှေတောင်ဟန်လှ၊ နန်းမနန်းရံ၊ မျက်စိမွှံ၍၊ သာစံပျော်ပါး၊ သိကြားသူဇာ၊ သက်ကျ လာသို့၊ သရဏာပွင့်၊ ပန်းသုံးဆင့်ကို၊ မယ်နှင့်မိဋ္ဌာန်ပန်ရစေ။

ဤစာတပိုဒ်ကို မိဘုရားစောယင်မိက စေလွှတ်လိုက်သောတမန်တို့ကိုပေး၍ လွှတ်တော်မူလိုက်သည်။ လွှတ်တော်မူလိုက်ပြီးလျှင် ဘုရင်မင်းအလီခင်သည် စစ်အင်္ဂါလေးပါးနှင့် ချီသွားတော်မူသော် ခေါင်းလောင်းတူမြစ်တွင် တပ်ချ၍နေတော်မူလေသည်။ သံတွဲမြို့တွင်နေသော သုံးရွာစားမယား မိဘုရားစောယင်မိလည်း စစ်အင်္ဂါလေးပါးနှင့်ချီလာ၍ ရခိုင်ပြည့်ရှင်မင်းအလီခင်နှင့် ဖူးတွေ့ကြလေသည်။ ယင်းသို့ဖူးတွေ့ရာအရပ်ကို ဖူးတောင်ဟုခေါ်ကြလေ၏။ ကာလကြာသောကြောင့် ခူးတောင်ဟုတွင်လေသည်။

မိဘုရားစောယင်မိက စစ်သည်ရဲမက်ဗိုလ်ပါနှင့် အလီခင်မင်းကြီးအား တရက်ခရီးမှ ဆီးကြိုကူညီလာပေ၏။ ထိုသို့တရက်ခရီးမှ ဆီးကြို၍ ကူလာရာအရပ်ကို တရကူဟူ၍ ခေါ်ကြလေ၏။

အလီခင်မင်းကြီးသည် သက္ကရာဇ် ၇၉၉ ခုတွင် မိဘုရားစောယင်မိနှင့်တကွ သံတွဲမြို့ကိုရတော်မူလျက် မိဘုရားစောယင်မိကို သိမ်းယူတော်မူ၍ပြန်တော်မူလေလျှင် မိဘုရားစောယင်မိကို ကျေးဇူးရှိလှပေသည်ဟူ၍ တောင်နန်း၊ မြောက်နန်း မိဘုရားနှစ်ပါးတို့၏အလယ်၌ နန်းအိမ်ဆောက်၍ နေစေပြီးသော် အလယ်မိဘုရားဟု အမည်ကိုခံယူစေတော်မူသည်။ ပေးတော်မူသော ကျေးကျွန်လယ်မြေတို့ကိုလည်း မိဘုရားစောယင်မိ ကျေးကျွန်လယ်မြေဟူ၍ တသီးတခြား သတ်မှတ်ပိုင်းခြားလျက်ထားစေ၏။

ထိုမင်းအလီခင်အား မိဘုရားတို့သည် စောယင်မိနှင့်သော် လေးယောက်ဖြစ်သတည်း။ ထိုမင်းအလီခင်ကား မင်းစောမွန်မှာခဲ့သည့်အတိုင်း ပြည်တံခွန်၊ ပြည်၏ တန်ဆောင်၊ ပြည်လက်ရုံး၊ ပြည်မျက်စိ၊ ပြည်ဝမ်း၊ ပြည်မျက်နှာ၊ ပြည်အစွယ်၊ ပြည်တန်ဆာ၊ ပြည်တံတိုင်း၊ ပြည်တံခါး၊ ပြည်တံတား၊ ပြည်ဆွေ၊ ပြည်ရေးတို့ကိုလည်း ပြန့်ပွားအောင်စီရင်၏။ ပြည်သူတို့၏ အကျိုးစီးပွားကိုလည်း ရွက်ဆောင်တော်မူ၏။

ဆင်းရဲနွမ်းပါး၍ လယ်ယာချောင်းမြောင်း မလုပ်မကိုင်နိုင်သောသူတို့အား ဥစ္စာအရင်းအနှီးထုတ်ပေး၍ လုပ်ကိုင်စေတော်မူ၏။ တော်သလင်းလတိုင်ရောက်လျှင် ပိုက်ကွန်များနှင့် ငါးတံထိုးထွက်တော်မူလေ့ရှိ၏။ ပြည်တွင်းပြည်ပ လှည့်ပတ်သွားလာ၍ ကောက်ပဲသလေး စသည်တို့၏ ကောင်းမကောင်းကိုကြည့်ရှု၍ကောင်းအောင် ဆည်ဖို့ ဆီးတားပြုပြင်၍ လုပ်ကိုင်တော်မူစေ၏။ ပြင်လယ်ကောက်ကစင်း ငါးမျှား၍တွေ့လတ်သော်ကား ကြိမ်လုံးလှင်ကန်ဖြင့် ရိုက်ပုတ်လေ၏။ လမ္မးပိတ်သော သူတို့ကိုကား ဆုလပ်ပေးတော်မူ၏။ ကုန်စလယ်သွယ်သော သူတို့ကိုလည်း အကောက်အခွန်ကိုလျှော့ညံ့၍ ကောက်တော်မူ၏။ ဈေးခွန်၊ ဆိပ်ခွန်၊ ရေခွန်တို့ကိုလည်း လွှတ်တော်မူ၏။ စေတီ၊ ပုထိုး၊ သိမ်၊ ကျောင်း၊ ဇရပ်၊ ရေတွင်း၊ ရေကန်၊ တံတားတို့ကိုလည်း များစွာပြုစုတော်မူ၏။ ရှေးက အပေါင်းအပျက်တို့ကိုလည်း အသစ်ထပ်မံပျင်ဆင်တော်မူသည်။ သာသနာတော်လည်း နေလုလင်ကဲ့သို့ တောက်ပထွန်းလင်း၏။ မြို့ကိုလည်း ထောင်ကျိန်းပြည့်အောင် ဝသဲနှင့်မြို့သစ်ကိုတွဲ၍ ဓာတ်၊ နမန္တာနှင့်ညီအောင် သက္ကရာဇ် ၈၁၂ ခုတွင် မြို့သက် ဆက်၍ တည်တော်မူပြန်လေသည်။ စက်ကရာနှင့် စစ်တကောင်းကိုလည်း ကိုယ်တိုင်ချီတော်မူ၍ရချေ၏။

ထိုမင်းကား အရှေ့ပြည်အင်းဝမင်း နရပတိနှင့် ဆက်စာသဝဏ်စာတမ်း ပေးကမ်းတော်မူကြ၍ မျိုးဆွေဖွဲ့ကြလျက် သက္ကရာဇ် ၈၁၆-ခု၊ တန်ခူးလဆန်း-၆ ရက်၊ တနင်္လာနေ့တွင် ဖိုးခေါင်တောင်ထက်၌ နှုတ်ဆက်ပြောဆိုတော်မူကြသောအခါ အင်းဝမင်း နရပတိမင်းကြီးမှာလည်း မိဘုရားကစ၍ မောင်းမမိဿံ မှူးမတ်မယားတို့သည် ပါကြကုန်၏။ ငါတို့ အလီခင်မင်းကြီးမှာလည်း ထိုအတူလည်းကောင်း ပါတော်မူ၏။ မင်းမှာလည်း မင်းချင်း၊ မိဘုရားမှာလည်း မိဘုရားချင်း၊ မင်းသားမှာလည်း မင်းသားချင်း၊ မင်းသမီးမှာလည်း မင်းသမီးချင်း၊ မင်းဆွေမင်းမျိုးတို့မှာလည်း မင်းဆွေမင်းမျိုးတို့ချင်း၊ မှူးမတ်တို့မှာလည်း မှူးမတ်တို့ချင်း၊ မှူးမတ်မယားတို့မှာလည်း မှူးမတ်မယားတို့ချင်း ဤသို့ အချစ်အခင်ဖွဲ့ကြလျက် ကျွေးမွေးစားသောက်တော်မူကြပြီးလျှင် အင်းဝနရပတိမင်းကြီး၏ အခြွေအရံငယ်သားတို့သည် အထူးထူးသော အဝတ်တန်ဆာတို့ကို ဆင်ယင်ကြကုန်၏။ ငါတို့ အလီခင်မင်းကြီး၏အခြွေအရံတို့ကား အဖြူအဝတ်ကိုသာ ဝတ်ဆင်ကြကုန်၏။ အင်းဝမင်းနရပတိလည်း ခန့်ညားရှိသေသောကြောင့် ငါတို့မင်းအလီခင်၏ဆင်တော်ကို မစီးဝံ့ရှိသည်ကို ငါတို့ အလီခင်မင်း မြင်တော်မူလေလျှင် အင်းဝနရပတိမင်းဆင်တော်သို့ ငါတို့ အလီခင်မင်း တက်စီးတော်မူသောအခါ ဒါးငယ်တစင်းကို လက်မြှောက်အဟန်ကဲ့သို့ ကမ်းသံဖြင့်လုပ်ပြီးသော် လက်၌ကိုင်လျက် လာတော်မူလေ၏။ အင်းဝမင်း နရပတိ၏ မှူးမတ်အပေါင်းတို့သည် ငါတို့မင်းအလီခင် ဆင်တော်ကို စီး၍ လာတော်မူသည်ကိုမြင်ကြလေလျှင် ဆင်တော်ကို မောင်းနှင်တော်မူပါဟု အင်းဝနရပတိမင်းအား မျက်ရိပ်ပြကြလေကုန်၏။

နရပတိမင်းကြီးလည်း ငါ့အား မင်းချင်းတကာတို့ ကဲ့ရဲ့ရာသောအကြောင်းဖြစ်ရာသည်ဟု နှလုံးပြုလျက် သားတော်အဆက် မြေးမြစ်တိုင်အောင် ချစ်ခင်ကြင်နာကြောင်းကိုသာလျှင် ရတနာသုံးပါးကိုတိုင်ကြား၍ ကတိသစ္စာမြဲစွာဆိုပြီးသော် အင်းဝနရပတိမင်းက တသိန်းထိုက်သော ပတ္တမြားလက်စွပ်ကိုပေးတော်မူသည်။ ငါတို့ အလီခင်မင်းကလည်း အဖိုးတသိန်းထိုက်သော ပုလဲသွယ်ကို ပေးတော်မူသည်။ မိဘုရားအချင်းချင်းလည်း လက်စွပ်လက်ကျပ် အဝတ်အရုံတို့ကိုလဲဖယ်ကြကုန်၏။ ထိုသို့လဲကြပြီးသော် မင်းနှစ်ပါးတို့သည် ကြည်ကြည်သာသာ ပြောဟောကြလျက် ရေမြေနိုင်ငံ အပိုင်းအခြားကို မှတ်သားပိုင်းတော်မူကြ၏။ မှတ်သားတော်မူကြသည်မှာ အဖိုးခေါင်တောင်ရိုး အရှေ့ကလည်း ရေကျကို ရတနာပူရ အင်းဝနိုင်ငံဖြစ်စေ၊ ဖိုးခေါင်တောင်ရိုး အနောက်ကလည်း ရေကျကို ဓညဝတီရခိုင်ပြည်နိုင်ငံဖြစ်စေဟု ပိုင်းခြား

တော်မူကြလေသော် သူတို့ဘက်၌ ပေါက်သောမြက်၊ ဝါး၊ သစ်ပင်တို့သည် သူတို့ဘက်သို့ ညွတ်ကုန်၏။ အလယ်၌ ပေါက်သောမြက်၊ ဝါး၊ သစ်ပင်တို့သည် တည့်တည့် မတ်မတ်ပေါက်ကုန်၏။ မင်းနှစ်ပါးတို့လည်း ထီးဖြူမှစ၍ အဆောင်အယောင် မင်းခမ်းမင်းနားတို့ကို တပါးကိုတပါး လဲလှယ်တော်မူပြီးလျှင် သက္ကရာဇ် ၈၁၆-ခု၊ တန်ခူးလ ဆန်း ၆-ရက်၊ တနင်္လာနေ့၊ တပ်စဉ်အတိုင်းဆုတ်၍ နေပြည်တော်သို့ ပြန်ကြလေကုန်၏။

ပြန်၍ရောက်တော်မူကြလေလျှင် နရပတိမင်းကြီး ကို မှူးမတ်တို့က ရခိုင်မင်းသည် အရှင့်ဆင်တော်ထက် တက်စီးသည့်ကာလ ကျွန်တော်တို့က ဆင်တော်ကိုနှင်ပါ ဟု မျက်ရိပ်ပြသည်ကို သတိပြုတော်မမူပါဟု လျှောက်ကြ လေကြောင်းကို ငါတို့အလီခင်မင်းကြီး ကြားတော်မူလေ သော် သူတို့ဆင်မင်းသို့ တက်စီးသောအခါ လက်၌ ကိုင်လျက်ပါသော ကမံသံဖြင့်လုပ်သော လက်မြောက် အဟန့်ကဲ့သို့ ဒါးငယ်ကိုစွဲကိုင်လျက် နရပတိမင်း၏အမတ် ကိုခေါ်စေပြီးသော် လက်၌ကိုင်ပါသော ဒါးငယ်ကို ပြလျက် ဤသို့ဆိုတော်မူ၏။ အစ်ကိုတို့စကားကို အစ်ကိုတို့ မင်းလိုက်မိချေသော် ငါလည်းဆုံးချေအံ့။ ကမ္ဘာပတ်လုံး မင်းတကာတို့ ကဲ့ရဲ့ပြစ်တင်ခြင်းကိုလည်း ငါခံရလေအံ့ဟု ဆိုတော်မူလေသည်။ ထိုသို့ဆိုတော် မူသောစကားကို နရပတိမင်း၏မှူးမတ်တို့လည်း ဟုတ်ပါပေသည်ဟု ဝန်ခံကြလေကုန်၏။

တရံရောအခါ၌ မိဘုရားစောပဒ္ဓာနာရီတွင် ဖွားမြင်တော်မူသောသားတော် လောင်းကြက်စား မင်းခွေ သည် မိဘုရားစောပဘာတွင် ဖွားမြင်တော်မူသော သားတော် ဘစောမင်းဖြူနှင့် ဘစောမင်းညိုတို့ကိုသာလျှင် ချစ်ခင်သောကြောင့် ဘစောမင်းဖြူကို အိမ်ရှေ့ပေးတော် မူလေလျှင် မာန်တော်ဝင်၍သျှမ်းပြည်ဖြစ်သော ကလေးမြို့ သို့ ပြေးခဲ့၍ သျှမ်းတို့ကိုမှီခိုရာပြုလျက် သက္ကရာဇ် ၈၂၀- ပြည့်၊ နတ်တော်လဆန်း ၉-ရက်၊ တနင်္ဂနွေနေ့၌ မြောက်ဦးမြို့ကို သျှမ်းတို့ရံလာကုန်၏။ ထိုအလီခင်မင်း လည်း သက်တော်ကြီးလှပြီဖြစ်၍ ဥဩပြသာဒ်ထက် သန့်လျက်စွဲတော်မူလျက် မြို့တော်ကခံတော်မူ၏။ သားတော်မင်းခွေကို မြို့ရင်းသို့ခေါ်၍ မင်းရေးမင်းရာ အလျှောက်ပြောဆိုတော်မူ၍ မပြီးလိုမှ ငရဲခက်ဟူသော ဆင်တော်ကိုယူစေတော်မူပြီးသော် ငွေဖျဉ်းဝယ်အရက်ပုံ ဖြည့်၍ တိုက်လေပြီးလျှင် ဆင်ထိန်းနှင့်တကွ မြို့ပြင်သို့ ထုတ်တော်မူလိုက်၍ သျှမ်းတို့တပ်ကိုတိုက်လေသော် သျှမ်းတို့သည် ဆင်ပုံမြင်းပုံဖြင့်ကြိုလင့်ကုန်၏။ ဆင်မြင်း အစုံအညီဝယ် အဲမောင်းလှံရှည်တို့ဖြင့် တိုက်ကြနှင့်သည်ကို ဆင်တော်ငရဲခက်သည် နှာမောင်းဖြင့်သိမ်းပြီးသော် ရန်သူတို့ထိုးပစ်ကြသော လှံကိုရအောင်ဖမ်း၍ နင်းချိုး လျက် ထိုသူတို့ဘက်သို့ချည်းပစ်လေလျှင် ထိုသူတို့၌ မှန်လေ၍ စူးရှပေါက်ပြကုန်၏။ ထိုနောက်သူတို့က ကြီးစွာသော ဆင်စုမြင်းစုပြိုင်၍ကြိုလင့်သည်ကို ချုံချုံရှုပ်ရှုပ် ထိုးဝှေ့လေလျှင် သူ့ဆင်စုမြင်းစုတို့သည် ဖရိုဖရဲပြိုကွဲ လေ၏။ ကွဲလေလျှင် ရဲမက်အားလုံး ထွားထွား ပျက်လေ ၏။ ငါတို့ရဲမက်ဗိုလ်ပါတို့သည် ထိုသျှမ်းတို့ကို ဦးလည်ကို ဖြတ်လေ၍ ပုံထားသောတောင်ကို သျှမ်းတောင်ဟု ယနေ့တိုင်အောင် ခေါ်တွင်လေ၏။

အလီခင်မင်းသည် အရှင်ဖမ်းရသော သျှမ်းတို့ကို ပေ ဟူသောအရပ်၌ ရွာတည်ထောင်၍ထားလေ၏။ ထိုရွာကို ယနေ့တိုင်အောင် သျှမ်းရွာဟူ၍ခေါ်တွင်လေ၏။

ထိုမင်းအလီခင်ကား ပြည်သူပြည်သားတို့ကို မစပြုစု ချီးမြှင့်ခြင်းကိုပြုသောကြောင့် အရပ်ရွာပြည်တို့သည် တရွေ့ရွေ့ စည်ပင်သာယာကြီးပွားလေ၏။ ထိုအလီခင်မင်း ကား အိမ်နိမ့် ၄၂၊ လေးဆဲ့နှစ်နှစ်။ နန်းစံ ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နှစ်စုသက်တော် ၆၇၊ ခြောက်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၈၂၀-ပြည့်တွင် လွန်တော်မူလေသည်။ နံတော်ကား အင်္ဂါသားတည်း။၂၀။ (ဤသည်ကား ရာဇဝင်ဟောင်း၊ ဆရာ ငမည်ရာဇဝင်တို့၌လာသော အလီခင်မင်း၏ အကြောင်းတည်း)။

ဓညဝတီအရေးတော်ပုံ၌ကား မင်းစောမွန် လွန်တော်မူလေလျှင် ထိုမင်း၏ ညီတော်အိမ်ရှေ့မင်း နရနုသည် သက္ကရာဇ် ၇၉၂-ခုတွင် နန်းတက်တော်မူလေသော် အထက် နောင်တော် မင်းစောမွန်၊ ကုလားပဆာမင်းထံ စစ်ကူဘင်္ဂါ ၁၂ မြို့ကို လက်ဆောင်ပြု၍ တောင်းလေရာ ဒင်္ဂါးတံဆိပ်ကို ကုလားမင်းလက်မှတ်နှင့် ခံပါမည်ဟု ကတိဆိုခဲ့ဖူးသောကြောင့် နောင်တော်မှာခဲ့သည့် အာဏာတော်မပျက်စေရ။ ကုလားပဆာမင်း လက်မှတ်ကိုယူလေ၍ အလီခင်ဟူသော အမည်ကိုခံလေသည်။ ထိုအလီခင်မင်းလက်ထက် အင်းဝမင်း ထုပါရုံဒါယကာ နရပတိမင်းချီလာ၍ ဖိုးခေါင်နွယ်ချိုတောင်သို့ ရောက်လာသော် အလီခင်မင်းလည်းချီသွားလျက် ကမာတွင် ချရပ်နေတော်မူ၍အင်းဝမင်းထံသို့ အမတ်ဥသလင်းစားကို စေလွှတ်တော်မူလိုက်ရာ ပေးတော်မူလိုက်သော ရာဇသံသော်ကား။

ဣတိပိသောဘဂဝါ၊ သွာက္ခာတော၊ သုပ္ပဋိပန္နောစသော ဂုဏ်တော်တရားသုံးပါးနှင့်အညီ ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓသာသနာတော် မညှိုးမနွမ်းစေရ။ မူလသိက္ခာ၊ မင်းသမ္မာတို့ခံရသော ဘိသိက်တရားဆယ်ပါးသောမင်းကျင့်၊ ဆဲ့နှစ်ဆင့်သော အင်္ဂါ၊ ကြိယာဒသ၊ သတ္တကျက်သရေ၊ လေးထွေသင်္ဂဟ၊ နိစ္စမြဲစွာ၊ အဝိဇ္ဇာနှင့်၊ တဏှာပိတ်ပေါင်း၊ သူမကောင်းနှင့်၊ ကင်းကြောင်းလုံ့လကိုသာ၊ ပညာဖလပြုလျက်၊ မင်းတို့အား ငါးပါး၌၊ စရိမာ၊ ဆုတ်ယုတ်တတ်သော လက်ရုံးမာန အားကိုပယ်၍ အနီးအဝေးမရွေး ပကတိတရားခုနစ်ပါးနှင့် သတ္တဝါတို့ကို စောင့်ထိန်းလျက် အုပ်ကွပ်စီရင်လေ့ရှိသော မြောက်ဦးရွှေမြို့တော်ကြီးအရှင် ကြားရောက်လိုက်သည်။ အင်းဝရွှေမြို့ရှင် အကြည်တော်။ လူသတ္တဝါတို့၏ဝေ့၊ စာရိတ္တသီလ၊ ဝါရိတ္တသီလ၊ ထိုနှစ်ဝသော တရားကိုသာ ရှည်ကြာစွာ စွဲမြဲကျင့်ကြံရမည်ကို အသိပညာ သမ္မာတရား မကပ်မရှိခြင်းကြောင့် ဂင်္ဂါဝါလု၊ သဲစုအမျှ၊ ရှေးကာလ၌ ပွင့်ကြတော်မူသော ဘုရားရှင်တို့ သင်းပင်းသို့မဝင်၊ သံသရာစက်ရဟတ် မလွတ်၊ တဏှာနွံအိုင်၌ ပျော်ပိုက်လျက် တေဘုမ္မကဝဋ်အလယ်၊ အမြင့်အနိမ့် တွေ့မြဲ ဓမ္မတာ၊ နိဗ္ဗာန်မှဖီလာ၊ သမုဒယသစ္စာကိုသာ လေ့လာအားထုတ်ကြလေသည်။ ထိုသတ္တဝါတို့၌တယောက်သောသူအား သမ္မာဉာဏ် ကပ်ရောက်ဖြစ်ပွားရှိပြန်သော် အဇ္ဈတ္တဗဟိဒ္ဓ ရန် မလွတ်ရှိပြန်လေသည်။ အတိဇာတ ပဋိသန္ဓေနှင့် စွဲရင်းမှန်၍ နိက္ခမသင်္ကပ္ပဖြင့် ဆိတ်ငြိမ်းရာသို့ ထွက်သွားလေ၍ ကာယဝိညတ်၊ ဝစီဝိညတ်၊ မနောသမတ်နှင့် ညီညွတ်ပြည့်စုံစေလျက် သမ္မာပညာ တက်မကို ဖြောင့်မတ်စွာကိုင်၍ အလွန်ကြီးကျယ်စွာ ဗလဝါမုခ၊ သမုဒယဝဲ၊ တဏှာအိုင်မြစ်ထဲမှ ခွာရှဲကူးမြောက်တော်မူလေသည်။ အနုဇာတပဋိသန္ဓေဖြစ်မူ မိဘပဋိသန္ဓေ ပေးသူတို့၏ ထုံးစဉ်လာကို ကျင့်ကြံမြဲစွဲလျက် အသက်ထက်ဆုံးနေရာသည်။ အဝဇာတပဋိသန္ဓေနေသော သားသော်ကား ရှေးပညာရှိတို့ထုံးကိုမယူ။ ဆိုးသွမ်း ပျော်ရွှင်၊ သဘင်လေ့လာ၊ သေစာယစ်မျိုး၊ သောက်လျှိုး မက်မော၊ အတ္တနောမတိ၊ မိမိအကြိုက်ကိုသာ အဘိဇ္ဈာ တရားဖြင့် သူတပါးဥစ္စာကို လိုချင်ခြင်း။ ဗျာပါဒတရား ဖြင့် သူတပါးကို ငြိုငြင်ပျက်စီးအောင် ကြံဆောင်ခြင်း။ မိစ္ဆာဒိဋ္ဌိတရားဖြင့် အများအလွန် ဖောက်ပြန်ယွင်းချွတ် နှလုံးသွင်းခြင်း။ တကြောင်းတုံလည်း သမ္မာ သူတော် ကောင်းတို့နှင့် ခေတ္တပေါင်းဖော်ခဲ့ဖူးသော စကြာရမန္ဓာတ် မင်းသည် မိစ္ဆာဉာဏ်ဖြစ်ပွား၍ သိကြားမင်း စည်းစိမ် အလုံးကို သိမ်းကျုံးတပ်မှားချေ၍ ဘဝမခြား ဒိဋ္ဌဓမ္မ ပျက်စီးရလေကြောင်းနှင့် မန္ဓာတုဇာတ် ကျမ်းဂန် လာချေသည်။ သီရိဓမ္မာသောကမင်းမူလည်း ဇမ္ဗူဒီပါ တကျွန်းလုံးကို အစိုးရသောမင်းဖြစ်တော်မူလျက် ထိုမင်း ကံစွဲချိန်နီးတွင် အများကိုအမှန်ထင်၍ တိရစ္ဆာန်ဘဝ ရောက်ရလေကြောင်းနှင့် ကထာစကား ရာဇဝင်များ၌ ပညာရှိတို့သက်သေပြဆိုခဲ့ကြလေသည်။ ဤသည် ကျမ်းဂန်ကထာများကို နှလုံးသွင်း၍ အကြည်တော်လည်း

မင်းမည်ကာမဟုတ်။ အလာကောင်းလျက် အပြန်မစောင်းစေရ။ ကိုယ်ကမကွာ၊ သမ္မာရှစ်ထပ်၊ စစ်ကွပ်လိမ္မာ၊ ပညာလက်နက်၊ ပိုးပုရွက်သို့၊ စစ်တက်လာကြ၊ လောကသူမှန်၊ ရန်သူပုန်ကို၊ အကုန်သတ်ဖြတ်၊ အစွာတတ်မှ မြတ်ရာသို့ရောက်ရမည်အကြောင်းကို ကြားရောက်လိုက်သည် အကြည်တော်။

ဤရာဇသံကို ရွှေပေတွင်ရေး၍ အမတ် ဥဿလင်းစားကို စေလွှတ်တော်မူလိုက်ရာ အင်းဝမင်း နရပတိထံသို့ရောက်လေသော် နရပတိမင်းကလည်း တောင်တွင်းစား လက်ယာစည်သူကို သံဘက်ခန့်၍ ပေးလိုက်သော ရာဇသံမှုကား။

သင်္ခါရ ဝိကာရ လက္ခဏာ နိဗ္ဗာန် ပညတ်တည်းဟူသော ဥေယျခံတရားငါးပါးတို့ကို မသိမမြင်စေတတ်သော အဝိဇ္ဇာဖုံးလွှမ်းခြင်းကြောင့် သတ္တဝါတို့ နစ်မြုပ်လျက်ရှိသည်ကို ကယ်တင်လိုသောသမာဓိ အသိအမှန်၊ လုံ့လအကျင့်အကြံတော်၊ အားထုတ်သောသတ္တိကြောင့် ကင်းရာဖြစ်သော အသင်္ခတဓာတ် အမြဲတည်ရာနိဗ္ဗာန်ဆိပ်သို့ ငါကူးမြောက်ပြီ။ ပုန္နပ္ပုန္န၊ တဖန်ငါ့ကို နင်တို့ မနိုပ်စက်ရပြီ။ ပဌမ ဗုဒ္ဓဝစန စကားတော်။ အနေကဇာတိသံသာရံ ဂါထာကို ဥဒါန်းကျူးတော်မူပြီးမှ လူသုံးပါးတို့အား ကုသလာဓမ္မာ၊ အကုသလာဓမ္မာ၊ အဗျာကတာဓမ္မာတရားတော်ကို ဟောတော်မူသည်။ ကုသလ အကုသလာ ထိုနှစ်ပါးသော တရားတော်သည်ကား ကောင်းကျိုး မကောင်းကျိုးဟူလျက် အစဉ်အားဖြင့် ဉာဏ်နည်းသူတို့ သိလွယ်စွာ ထိုယုတ်မာသော မသူတော်တရားနှင့် ဆက်ဆံခြင်းမပြုသော မဇ္ဈိမပဋိပဒါ သူတော်ကောင်းလက်နက်ဖြစ်သော အဗျာကတ တရားတော်နှင့်အညီ နိဗ္ဗာန်ရောက်ကြောင်း ကောင်းသောလုံ့လကိုသာ နှလုံးသွင်းလျက် ဝေနေယျတို့အား စောင့်လေ့ရှိသော ရတနာပူရ အင်းဝရွှေမြို့တော်ကြီးအရှင် ကြားရောက်လိုက်သည်။ မြောက်ဦးရွှေမြို့တော်ကြီးရှင် အကြည်တော်။ သတ္တဝါတို့တွင် သမ္မာဒိဋ္ဌိ၊ မိစ္ဆာဒိဋ္ဌိနှစ်ပါးရှိသည်၌ မိစ္ဆာတို့ဓလေ့မှာ သံသရာမကုန်၊ စက်ဝတ္တရား မပြတ်သော အမှုများကြောင့် ဇာတိဖြစ်လျက်၊ ရမ္မက်မကွာ၊ ခန္ဓာရုပ်နာမ်၊ အဖန်တလဲလဲ မြဲတတ်သောသတ္တိ ခိုင်ခံ့ခြင်း။ သမ္မာပညာသူတော်ကောင်းကား တယောဘဝေ စသော ဝဋ်သုံးဘုံကိုမြင်သဖြင့် တဒင်္ဂပဟာန်၊ ဝိက္ခမ္ဘနပဟာန်၊ သမုစ္ဆေဒပဟာန်တရားနှင့်တပ်သော တဏှာ သမုဒယသစ္စာ။ စွဲရာကုသိုလ်၊ အကုသိုလ် ထိုနှစ်ပါးကို ကင်းစေ၍ ကာယသုခ၊ စိတ္တသုခကိုသာ ခံစားနေသော ပုဂ္ဂိုလ်မြတ်ထံ သန့်ရှင်းသော ပစ္စည်းလေးပါး ပေးလှူခဲ့ဖူးသော အကျိုးထောက်ပံ့လေရာ လောကီစည်းစိမ်၊ နေရိပ်ပမာစင်ကိုလျက်၊ အကောင်းထင်မှား၊ တရားလွှတ်ချော်လျှင်၊ အလာအပြန်၊ မိစ္ဆာဉာဏ်မကင်း၊ အလင်းသို့မရောက်၊ ဝဲအောက်တွင်သာ၊ လူးလာပန်နက်၊ ကျိန်စာရွက်သို့၊ မပျက်ခန္ဓာ၊ သံသရာ၌၊ မိစ္ဆာသို့မြဲကြောင်း သူတော်ကောင်းဆိုခဲ့သော ကျမ်းဂန်ကိုသိ၍ ရက္ခပူရတိုင်း၊ မြောက်ဦးမြို့ ပြည်သူတို့သည် အမျိုးဇာတ်တူ၊ အယူမခြား၊ တရားညီကြလျက် မသမာသောအမှု၊ မပြုမကျင့်အပ်သော အကြံကို ကျင့်ကြံကြလေကြောင်းကြားသိရ၍ သာသနာတော် မယဉ်မမေး သင်ပြဆုံးမမည်လာခဲ့ရာ အကြည်တော်လည်း မင်းသမ္မာတို့တရားနှင့် မြဲမြံစွာ သတ္တဝါအပေါင်းကို စောင့်ထိန်းကြောင်း အမတ် ဥဿလင်းစား တင်လျှောက်ချက်အတိုင်း သဝဏ်စာတွင်လည်း သူတော်ကောင်းတို့အင်္ဂါ ပြည့်စုံစွာပါလာသည်။ တရားလိမ္မာ၊ သာသနာတော်ကို စောင့်ရှောက်တတ်သော မင်းချည်းဖြစ်၍ ဓမ္မသဝန စည်းဝေးပြောဆိုကြရလျှင် သာသနာတော်ပွင့်လင်း၊ သတင်းအရှည် စည်ထွန်းမည့် အကြောင်းကို ကြားလိုက်သည် အကြည်တော်။

ဤစာကို ရွှေပေတွင်ရေး၍ ဥဿလင်းစားနှင့် အတူ တောင်တွင်းစား လက်ယာစည်သူကို ထည့်လိုက်လေသည်။

ယင်းသို့ ထည့်လိုက်ပြီးလျှင် မင်းနှစ်ဦးတို့လည်း တွေ့ကြုံကြလေသော် သူတော်ကောင်းစကားကိုသာ

ပြောဆိုတော်မူကြလေ၍ မင်းချင်း၊ မိဘုရားချင်း၊ မှူးမတ်ချင်း ဆင်ဝတ်သောတန်ဆာကို လဲလှယ်ဆင်ယင်တော်မူပြီးမှ အသီးအသီး နေပြည်တော်သို့ ပြန်တော်မူကြလေသည်။

တရားလိမ္မာသော မင်းနှစ်ပါးဖြစ်၍ မသူတော်မိတ္တာတို့စကားကိုမနာမယူ သဘာဝတူကြခြင်းကြောင့် နှစ်ပြည်မိတ်ဆွေ ကြီးစွာဝင်လျက် ဘုရားစသောသူတော်ကောင်းတို့ ချီးမွမ်းထွန်းလင်းကြက်သရေတိုးတက်တော်မူကြလေသည်ဟူ၍ ဆိုလေသည်။ (ဤသည်ကား ဓညဝတီအရေးတော်ပုံ၌လာသော အလီခင်မင်း၏ အကြောင်းတည်း။)

(ဤဓညဝတီအရေးတော်ပုံ၌ ပြဆိုအပ်သော နန်းတက်သက္ကရာဇ်သည် ရာဇဝင်ဟောင်း အဆိုအောက် သုံးနှစ်လျော့လေသည်။ ဤသည်ကား အမှာစကားချပ်)

ထိုအလီခင်မင်း လွန်တော်မူလေလျှင် သားတော်ဘစောဖြူသည် သက္ကရာဇ် ၈၂၀ ပြည့်တွင် ထီးနန်းတိုင်းပြည်ကို အုပ်စိုးတော်မူလေ၏။ ကုလားတို့မှည့်အပ်သော အမည်မှာ ကလမသျှာတည်း။ ထိုမင်း၏ မိဘုရားကား စောနန္ဒီလည်းတယောက်၊ စောထင်လည်းတယောက်အားဖြင့် နှစ်ယောက်ဖြစ်သတည်း။ မိဘုရားစောနန္ဒီတွင် သားတော် မင်းဒေါလျာကို ဖွားမြင်တော်မူသည်။ စောထင်၌ကား ဂါမဏိနှင့် နရပတိ စကြာမင်းသားနှစ်ပါးကို ဖွားမြင်တော်မူသည်။

ထိုမင်းကြီး ကလမသျှာကား လေးကမ်းအရာဝယ် အသဒိသဇာတ်၌လာသော ဘုရားအလောင်းအသဒိသကုမာကဲ့သို့ လွန်စွာတတ်ကျွမ်းတော်မူ၏။ မျက်စိဖြင့် မမြင်ဘဲလျက် အိုးထဲ၌ရှိသောငါးကို လက်ဝဲမျက်စိကို မှန်စိမ့်မည်ဆို၍ ပစ်တော်မူလျှင် မှန်လေသည်။ လက်ယာမျက်စိကို မှန်စိမ့်မည်ဆို၍ ပစ်လျှင်လည်း မှန်လေသည်။ ညဉ့်အခါ၌ ဆံခြည်ကို ကြိုးနှင့်ဆွဲ၍ ထားစေပြီးလျှင် အသံကိုနာခံ၍ပစ်လေလျှင် ဆံခြည်ကို မှန်လေသည်။ ထိုကလမသျှာမင်းကြီးသည် အစွမ်းခွန်အားနှင့်လည်း ပြည့်စုံသည်။

လေးကမ်းအရာ၌လည်း လွန်စွာတတ်မြောက်တော်မူသည်ဟု အင်းဝမင်း နရပတိ သတင်းစကားကြားလေသော် လက်သုံးသစ်အထူရှိသော သံပြားကို ပေါက်နိုင်အံ့လောဟု မေးတော်မူလိုက်သည်ကို ငါတို့ကလမသျှာမင်းကြီးသည် ရင်ပြင်တော်၌ လေးကိုထောက်လျက် လေးကိုတင်တော်မူပြီးလျှင် မြားခုနစ်ချွန်ကို ပစ်လိုက်လေသော် လက်သုံးသစ်ရှိသော သံပြားကို မြားခုနစ်ချွန်သည် ဖောက်ထွင်းလေသည်။ မြားခုနစ်ချွန်တို့၏ အကြားသည်လည်း အဝေးအကွာအတူအမျှရှိလေ၏။ ထိုမြားနှင့်သံပြားကို အင်းဝမင်း နရပတိထံသို့ ပို့လိုက်လေရာ အင်းဝမင်းနှင့်မှူးမတ်အပေါင်းတို့သည် အလွန်အံ့ဩချီးမွမ်းကြကုန်၏။

ထိုကလမသျှာမင်း၏ သန်စွမ်းသောကျွန်ကောင်း မှူးမတ်အပေါင်းတို့သည် များစွာရှိကုန်၏။ ကုသိုလ်ကောင်းမှုကိုလည်း များစွာပြုတော်မူ၏။ ပေးကမ်းစွန့်ကြဲခြင်းကိုလည်း များစွာပြုတော်မူ၏။ သာသနာတော်၏ စည်ပင်ပြန့်ပွား ထွန်းကားလေအောင်လည်း ကြံဆောင်ချီးမြှင့်တော်မူ၏။ အမျက်တော်ရှိသောအခါ၌ကား သူ့အသက်ကို ဟင်းတရွက်မျှ မခန့်ပြုလေ့ရှိ၏။ ထိုမင်းကြီးသည် သက္ကရာဇ် ၈၂၂ ခုနှစ်တွင် အမ်းချောင်းသို့ ဆင်ဖမ်းထွက်တော်မူ၏။ သက္ကရာဇ် ၈၂၃ ခုတွင် တန်းလွဲစားပုန်ကန်လေ၏။ သက္ကရာဇ် ၈၂၄ ခုတွင် ယိုးချောင်းအညာဖျား၌ ဆင်ဖြူတော်ရတော်မူ၏။ သက္ကရာဇ် ၈၂၅-ခုတွင် ဒိုင်းကျီအရပ်၌ ပျဉ်စီပျဉ်ထောင် မြို့သစ်တည်၍ ပျဉ်ထောင်မြို့သစ်ဟူ၍ ပြုလုပ်တော်မူ၏။ သက္ကရာဇ် ၈၂၈-ခုတွင် ဒါးလက်ချောင်းသို့ ဆင်ဖမ်းထွက်တော်၏။ သက္ကရာဇ် ၈၃၀-ပြည့်တွင် တိုင်းပြည်၌ ကာလဝမ်းရောဂါဖြစ်၍ လူရှင်များစွာ ပျက်စီး၏။

သက္ကရာဇ် ၈၃၁-ခုတွင် ဘုရင်နရပတိမြေး၊ စလင်းမြို့စား သတိုးကျော်သည် မိုလ်ပါရဲမက် ဆင်လုံးမြင်းရံတို့နှင့် တောင်စဉ်သို့ စစ်ချီလာကြောင်းကို ကြားတော်

မူလေလျှင် အမတ်ဘုတ္တရာနှင့် ကုလားတန်စားငွေတုတ်နှစ်ယောက်တို့ကိုစေခိုင်းတော်မူ၍ ရဲမက်ဗိုလ်ပါအများတို့နှင့် တိုက်လေလျှင် သတိုးကျော် စစ်အားမတန်၍ ပြန်သွားလေရာ များစွာသော ဆင်လုံးမြင်းရံ လက်နက်ကိရိယာတို့ကိုရလိုက်ပေ၏။ ယင်းသို့ရပြီးနောင်မှ စလင်းစားသတိုးကျော်သည် မိတ်ဆွေတော် ဖွဲ့ပါလိုကြောင်းနှင့် သဝဏ်စာသွား လျှောက်ကြားဆက်ပို့လာသည်တွင် ငါတို့ကလမသျှာမင်းကလည်း ကြောင်းခြင်းစကား မှာထားပေးပို့စေလွှတ်တော်မူ၍ ကြည်ဖြူ ချမ်းငြိမ်းစွာ ဖြစ်ကြလေသည်။

သက္ကရာဇ် ၈၃၂-ခုတွင် သမီးတော်သေလွန်၍ ဒိုင်းကျီကန်နားတွင် မဏ္ဍပ်ကနားကြီးစွာဆောက်လုပ်လျက် ရဟန်းသံဃာတော်တို့အား ကြီးစွာသောအလှူကို ပေးတော်မူသည်။ သက္ကရာဇ် ၈၃၃-ခုတွင် မြို့သစ်၊ ကျုံး၊ မြောင်းတူးတော်မူသည်။ သက္ကရာဇ် ၈၃၇-ခုနှစ်တွင် သီဟိုဠ်ကျွန်းမှ ပိဋကတ်သုံးပုံ အစုံပို့ဆက်လာသဖြင့် ရတော်မူလေသည်။

သက္ကရာဇ် ၈၃၈-ခု၊ ဝါဆိုလဆန်းတရက်၊ ကြာသပတေးနေ့တွင် သက်တံ့ပုန်ကန်လာ၍ ထိုသက်တံ့ကို လက်ရောက်ဖမ်းလေသော် မြန်မာပြည်သို့ပြေးလေသည်။ အနောက်သို့ပြေးသော သက်တံ့ကိုရလိုက်၏။

ထိုကလမသျှာမင်းကြီး သက္ကရာဇ် ၈၄၃-ခု၊ နတ်တော်လတွင် အနောက်စစ်တကောင်းသို့ချီတော်မူလေ၍ တိုက်ခိုက်စေရာ ဦးစွာနိုင်ပြီးလျှင် ရဲမက်ဗိုလ်ပါတို့သည် ဥစ္စာရွှေငွေတို့ကို လိုက်လံရှာဖွေလျက်နေကြရာ ရဲမက်ဗိုလ်ပါကွဲလေသည်ကို ကုလားတို့သိလေလျှင် ပေါင်းစုညီညာ၍တိုက် ပြန်လေသောကြောင့် ငါတို့စစ်သည်တို့ သိမ်းယူရပြီးသော ရွှေငွေများတို့ကို ကုလားတို့ ရသွားပြန်လေသည်။ ကလမသျှာမင်းကြီးသည် စစ်သည်တို့ ပျက်စီးသည်ကိုမြင်လျှင် သူတယောက်ကို ထီးဖြူဆောင်းစေ၍ ကလမသျှာမင်းကြီးသည် ကုလားအဝတ်ကိုဝတ်ပြီးလျှင် ကြေးကမံ လေးကြီးဖြင့် ပစ်လေသော် ကုလားစစ်သည်တို့သည် အထောင်မက သေကြေပျက်စီးကြသောကြောင့် ပြေးကြလေကုန်၏။ မင်းကြီးပစ်အပ်သောလေးဖြင့် ထွားထွားညက်ညက် ပျက်စီးသည်ကိုမြင်လေလျှင် ကုလားပြည်သူ ပြည်သားတို့သည် များစွာအံ့သြချီးမွမ်းကြကုန်၏။ ထိုသို့လေးဖြင့် ပစ်အပ်သောအရာကို ကုလားတို့ဘာသာဖြင့် နောက်ပတ်ဟု ယနေ့တိုင်အောင် ခေါ်ကြလေ၏။

မင်းကြီးလည်း ပြန်တော်မူခဲ့၍ စစ်ကိရိယာဖြစ်သော ရဲမက်ဗိုလ်ပါလက်နက်များကိုစုဆောင်းပြီးလျှင် နောက်တကြိမ်၌ ချီတက်တိုက်ခိုက်တော်မူ၍ ကောက်ကတန်ပြည်တိုင်အောင် ဖျက်ဆီးတိုက်ခိုက်သိမ်းယူတော်မူလေသည်။

ထိုကလမသျှာမင်းကြီး၌ ဒေါလျာဟူသော သားတော်နှင့် ဂါမဏိဟူသော သားတော်နှစ်ယောက်ရှိတော်မူသည်။ ထိုနှစ်ယောက်တွင် အကြီးဖြစ်သော မင်းဒေါလျာကိုနှိပ်၍ အငယ်ဖြစ်သူဂါမဏိကို အိမ်ရှေ့အရာအပ်နှင်းပေ၏။ အိမ်ရှေ့မင်း ဂါမဏိသည်၎င်း၊ ဂါမဏိကျွန်တို့သည်၎င်း မင်းဒေါလျာကို အခါခပ်သိမ်း ညှဉ်းပန်းကလူပြုကြကုန်၏။ မင်းဒေါလျာတွင်ကား ရဲစွမ်းသတ္တိရှိသော ကျေးကောင်းကျွန်ကောင်းတို့သည် များစွာရှိကုန်သောကြောင့် သတ်ဖြတ်ခြင်းငှာ မတတ်နိုင်လေ။

တရံရောအခါ၌ ဂါမဏိကျွန်တို့သည် မင်းဒေါလျာအိမ်သို့ မြေခဲနှင့်ပစ်ကြလေကုန်၏။ မင်းဒေါလျာကျွန်တို့သည် ငါတို့အရှင် မြေကိုပိုင်အံ့ဟူ၍ ဆိုကြလေကုန်၏။ တရံတုံလည်း ဂါမဏိကျွန်တို့သည် မင်းဒေါလျာအိမ်ကို လူရိုးနှင့်ပစ်ကြကုန်၏။ မင်းဒေါလျာကျွန်တို့လည်း ငါတို့အရှင် လူတို့၏မင်းဖြစ်အံ့ဟူ၍ နိမိတ်ဘတ်ဆိုကြကုန်၏။ တဖန်တုံလည်း ဂါမဏိကျွန်တို့သည် ဖရဲသီးခွံဖြင့် ပစ်ကြကုန်၏။ မင်းဒေါလျာကျွန်တို့က ငါတို့သခင်မှာ ရဲမက်ကောင်းများစွာရှိသည်ဖြစ်၍ အလိုတော်ပြည့်အံ့ဟု နိမိတ်ဘတ်ကြကုန်၏။ တဖန်တုံလည်း ခရမ်းသီးဖြင့်ပစ်ကြကုန်၏။ မင်းဒေါလျာကျွန်တို့က

ငါတို့လည်း ရှင်ပျအားရမ်းရှိလတ္တံ့ဟု နိမိတ်ဘတ်ကြလေကုန်၏။ တဖန်တုံလည်း ကြံပိုင်းဖြင့် ပစ်ကြလေကုန်၏။ မင်းဒေါလျာကျွန်တို့က အကြံဖြင့်အောင်အံ့ဟူ၍ နိမိတ်ဖတ်ကြလေကုန်၏။ တဖန်တုံလည်း သပြေသီးဖြင့် ပစ်ကြလေသော် ငါတို့ပြုစုလုပြီးဟူ၍ နိမိတ်ဘတ်ကြလေကုန်၏။ တဖန်တုံလည်း မှန်သီးဖြင့်ပစ်ကြလေကုန်၏။ ဤအခါကား ငါတို့အရှင်မင်းဒေါလျာသည် မင်းဖြစ်မည်အမှန်ဟူ၍ နိမိတ်ဘတ်ကြလေကုန်၏။

မင်းကြီးကလမသျှာသည် သားတော်နှစ်ယောက်တို့၏ သတ္တိဂုဏ်ထူးကိုသိလိုသောကြောင့် အခါတပါးသောနေ့၌ အဖိုးများစွာထိုက်သော လက်ရက်ပုဆိုးတထုပ်၊ အဖိုးနည်းစွာထိုက်သော လက်ရက်ပုဆိုးတထုပ် ဤနှစ်ထုပ်ကို ရွှေချည်ဖြင့်ရစ်ပြီးသော် သားတော်နှစ်ယောက်တို့၏ရှေ့၌ထားတော်မူ၍ မောင်တို့ ကြိုက်သောအထုပ်ကိုယူကြလေဟု ဆိုတော်မူလေသော် ဂါမဏိသည်ကား အဖိုးနည်းစွာထိုက်သော ပုဆိုးထုပ်ကြီးကိုယူလေ၏။ မင်းဒေါလျာကား အဖိုးများစွာထိုက်သော ပုဆိုးထုပ်ငယ်ကိုယူလေ၏။

တဖန်တုံလည်း ဖရဲသီးအငယ်အလုံးတွင် အဖိုးအတိုင်းမသိထိုက်သော ပတ္တမြားကိုထည့်၍ အကြီးအလုံးကိုကား ပြကတေ့ ဖရဲသီးအတိုင်းပင်ထား၍ သားတော်နှစ်ယောက်ကိုပေးတော်မူလေသော် ဂါမဏိကား ကြီးသည်ဟုအမှတ်ပြု၍ ပြကတေ့သော ဖရဲသီးကြီးကိုယူလေ၏။ မင်းဒေါလျာကား ပတ္တမြားထည့်သော ဖရဲသီးငယ်ကိုယူလေ၏။ ထိုသို့ယူကြသည်ကို ခမည်းတော် ကလမသျှာမင်းကြီး မြင်တော်မူလေသော် မင်းဒေါလျာကို အလွန်တရာ မသက်သာသည်ဖြစ်၍ သားတော်ဂါမဏိကိုကား အလွန်ချစ်နှစ်သက်တော်မူ၏။

တရံရောအခါဝယ် စစ်တကောင်းကို တိုက်ဦးမည်ဟု အကြံရှိရာတွင် ပန်းထိမ်တို့ကို ရွှေတော်ဝယ် ရွှေပွတ်တံ လက်ကောက်၊ လက်စွပ်တို့ကို လုပ်စေတော်မူရာ၌ အကြည့်အရှု အစောင့်အမြဲထားသော ဖုန္နာတ်အား မင်းဒေါလျာကား သမီးတော် စောသုဘာကိုပေးမည်ဟု ကတိသစ္စာ မြဲမြံစွာပြုပြီးလျှင် နန်းတွင်းရှိ မောင်းမမိဿံခြွေရံတို့အား ပြောဆိုညီညာစေရာ ကလမသျှာမင်းကြီးကို ညီးငွေ့ကြသဖြင့် မင်းဒေါလျာ၏အလိုသို့ချည်း ပါကြလေကုန်၍ တုတ်၊ လှံ၊ လေး၊ မြား၊ ဒါး လက်နက်တို့ကို သိုဝှက်လျက်ထားပြီးလျှင် အတွင်းပြင်ညီညာ၍ သက္ကရာဇ် ၈၄၃ ခု၊ ဝါခေါင်လပြည့်ကျော်ခုနစ်ရက်၊ တနင်္လာနေ့တွင် သားတော်မင်းဒေါလျာပုန်စား၍ ခမည်းတော် ကလမသျှာမင်းကြီးသည် အိမ်နိမ့် ၃၀၊ သုံးဆယ်။ နန်းစံ ၂၃၊ နှစ်ဆဲ့သုံးနှစ်။ နှစ်စုသက်တော် ၅၃၊ ငါးဆဲ့သုံးနှစ်တွင် လွန်တော်မူလေသည်။ နံတော်ကြာသပတေးသားတည်း။ ၃။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းဒေါလျာသည် သက္ကရာဇ် ၈၄၃-ခု၊ ဝါခေါင်လပြည့်ကျော် ခုနစ်ရက်၊ တနင်္လာနေ့ နေမွန်းလွဲအချိန်တွင် နန်းတက်တော်မူလေ၏။ ထိုနှစ်တွင် အောင်းမနှင့် သွင်းဆောင်ခဲ့၍ ဆင်ကျုံးတွင် ဆင်ဖြူတစီးရတော်မူ၏။ ကုလားတို့အမည်အားဖြင့် မောစုသျှာ-ဟု ခေါ်၏။ ဆင်ဖြူတော်ရသောကြောင့် ဆင်ဖြူရှင်-ဟူ၍တွင်၏။

ထိုဆင်ဖြူရှင်မင်းကြီးသည် ဘုန်းတန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသည်ဖြစ်၍ မျောက်သားတော်မိဘုရားတို့သည် တကျိပ်တယောက်ဖြစ်သတည်း။ တကျိပ်တယောက်ဟူသည်ကား သူရရိုင်လည်းတယောက်၊ ရွှေအိမ်သည်လည်း တယောက်၊ မိစောလှလည်း တယောက်၊ တန်ဆောင်းမယ်လည်းတယောက်၊ စောထင်လည်း တယောက်၊ စောရစာလည်း တယောက်၊ မင်းပန်းပြောက်လည်း တယောက်၊ မင်းပန်းလှလည်း တယောက်၊ မင်းပန်းဖျားလည်း တယောက်၊ မြောက်နန်း မိဘုရားလည်း တယောက်၊ တောင်နန်းမိဘုရားလည်း တယောက်အားဖြင့် တကျိပ်တယောက်တည်း။

ထိုမိဘုရားတို့တွင် မိဘုရားစောပန်းဖျား၌ မင်းရန်အောင်ဟူသော သားတော်တယောက် ဖွားမြင်တော်

မှုသည်။ မိဘုရားမင်းပန်းလှတွင် သမီးတော် စောမိစောနှင့် ဖွားစောမင်း နှစ်ယောက်ကို ဖွားမြင်တော်မူသည်။ မိဘုရား စောရစာတွင် သဇာတနှင့်မင်းခေါင်ရာဇာကို ဖွားမြင်တော်မူသည်။ မယ်တော်မိဘုရားကြီး စောနန္ဒီကိုကား ထီးကြီးထက် ထီးငယ်ငါးဆောင်တင်၍ ဆောင်းစေတော်မူသည်။

ထိုဆင်ဖြူရှင်မင်းကြီးကား များစွာသော စစ်အင်္ဂါလေးပါးနှင့် သက်မင်းပြည်ကို စစ်ထိုးချေသော် အလိုတော်မပြည့်ဘဲ ပြန်လည်တော်မူခဲ့၏။ ပြန်ရောက်တော်မူလျှင် ဆင်ဖြူတော်လည်း သေလေ၏။ ထိုဆင်ဖြူရှင် မင်းကြီးကား အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်။ နန်းစံ ၁၀၊ ဆယ်နှစ်။ နှစ်စုသက်တော် ၃၇၊ သုံးဆဲ့ခုနစ်။ သက္ကရာဇ် ၈၅၃-ခုတွင် လွန်တော်မူလေသည်။ နံတော် ကြာသပတေးသားတည်း။၄။

ထိုမင်းဒေါလျာ ဆင်ဖြူရှင်မင်းကြီး လွန်တော်မူလေလျှင် ဘထွေးတော်ဘစောမင်းညိုသည် ငယ်မျောက်သားတော် စောထွေးမယ်နှင့်သက္ကရာဇ် ၈၅၃-ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ ကုလားအမည်အားဖြင့် မဟာမောသျှာဟုတွင်၏။ နန်းတက်ပြီးသော် ဆင်ဖြူရှင် မယ်တော်စောနန္ဒီနှင့် မင်းဂဏှာကို မိဘုရားအရာ တင်မြှောက်တော်မူလေ၏။

ထိုဘစောမင်းညိုကို တပ်သားငဆွေ ပုန်စားလေ၏။ ထိုတပ်သားငဆွေကိုလည်း မှူးမတ်တို့ဖမ်းဆီး၍ သတ်ပြီးလျှင် အပေါင်အလက်ဖျက်၍ ဖောင်နှင့်တင်၍ ရေတွင်မျှောလိုက်လေ၏။ ထိုဘစောမင်းညိုကား အိမ်နိမ့် ၅၇၊ ငါးဆဲ့ ခုနစ်နှစ်။ နန်းစံ ၂၊ နှစ်နှစ်၊ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၈၅၅-ခုတွင် လွန်တော်မူလေသည်။ နံတော် တနင်္ဂနွေသားတည်း။ ၅။

ထိုမင်းလွန်တော်မူလေလျှင် ဒေါလျာသား မင်းရန်အောင်ကို ဘစောမင်းညိုသမီး စောရှင်စောနှင့် မှူးမတ်တို့ညီညာ၍ သက္ကရာဇ် ၈၅၅-ခုတွင် နန်းတင်ကြလေကုန်၏။ ကုလားအမည်အားဖြင့် နောရိသျှာဟုတွင်၏။

ထိုမင်းရန်အောင်ကား ကိုးနှစ်သားသာရှိသေး၍ ငယ်နုလေသောကြောင့် တိုင်းရေးပြည်ရေး၌ မေ့လျော့ပေါ့တန်လျက် ကခြေသည်မိန်းမတို့နှင့်မွေ့လျော်မပြတ် ပျော်ရွှင်မြူးထူး၍နေလေ၏။ အခါတပါး၊ အမတ်သက်ကြီးတဦးသည် ဣရိယာပုထ်ကို မချုပ်တည်းနိုင်သဖြင့် မင်းရှေ့တွင် ကျင်ငယ်သွားမိလေရာ၊ ငါ့ရှေ့တော်ဝယ် မလေးမခန့် ကျင်ငယ်သွားရာသလောဟူ၍ အမျက်ထွက်ပြီးလျှင် အမတ်သက်ကြီးကို ရေတွင်းဝယ်နှစ်လျက်သတ်လေ၏။ ထိုသို့သတ်လေသည်ကို မှူးမတ်တို့မြင်လေသော် ဤမင်းသည် ငယ်သောကြောင့် သည်းခြေမရှိမေ့ရာသည်။ ကြာမြင့်လျှင် ငါတို့သို့ ထိပါးလတ္တံ့ဟုကြံ၍ ဦးရီးတော် စလင်္ကာသူကို တောင်းပန်ကြလေကုန်၏။ စလင်္ကာသူလည်း များစွာသော ရဲမက်တို့နှင့် ရွှေနန်းတော်ကို ဝန်းရံလေ၏။ ထိုအခါ မင်း၏ ကျွန်တော် သီဟပါသည် ဒါးနှင့်လှံကို လက်စွဲလျက် ကာ၍ခံလင့်၏။ ရဲမက်တို့သည် မဝင်နိုင်သောကြောင့် ရွှေနန်းတော် အနောက်လှေကားမှတက်၍ နန်းထဲတွင် မင်းကိုရှာလေသော် နန်းတော်ထုပ်ထက်တွင်တွေ့သဖြင့် ဖမ်းပြီးလျှင် နန်းထဲတွင် သတ်၍ ဦးခေါင်းကိုဖြတ်ယူ၍ စလင်္ကာသူအား ဆက်ကြလေ၏။ သီဟပါလည်း နန်းထဲတွင် မိမိအရှင်ရှိသည် ထင်မှတ်၍ ဒါးနှင့်လှံကိုစွဲကိုင်လျက် ကာ၍ပင်ခံလင့်၏။ စလင်္ကာသူလည်း သီဟပါသည် အဘယ်သူအလို့ငှာ ကာ၍ခံသနည်းဟုမေးလေလျှင် တူတော်အမှုကို ထမ်းရွက်ပါသည်ဟု ဆို၏။ ငါ့တူမရှိလျှင် အဘယ်သူ၏ အမှုကို ထမ်းရွက်အံ့နည်းဟုမေးပြန်သော် သီဟပါလည်း တူတော်မရှိလျှင် ဦးရီးတော်အမှုကိုထမ်းရွက်ပါအံ့ဟုဆိုပေ၏။ စလင်္ကာသူလည်း မင်းရန်အောင်၏ဦးခေါင်းကိုပြလေ၏။ သီဟပါမြင်လျှင် ဒါးနှင့်လှံကိုချ၍ စလင်္ကာသူခြေကို ဦးတိုက်လျက် ငိုပေ၏။ ထိုမင်းရန်အောင်ကား အိမ်နိမ့် ၉၊ ကိုးနှစ်။ နန်းစံ ၆ လ၊ ခြောက်လ။ နှစ်စုသက်တော် ၉၊ ကိုးနှစ်နှင့် ခြောက်လ၊ သက္ကရာဇ် ၈၅၆ ခုတွင် လွန်တော်မူလေသည်။ နံတော် ဗုဒ္ဓဟူးသားတည်း။ ၆။

ထိုမင်းလွန်တော်မူလေလျှင် ဦးရီးတော် စလင်္ကာသူသည် ကလမသျှာသမီးတော် စောမိစောနှင့် သက္ကရာဇ် ၈၅၆တွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူပြီးလျှင် သက်ကောက် ဒေါလာသျှာဟူသောအမည်ကို ခံတော်မူလေ၏။

ထိုမင်းကား ရှေးလွန်လေသောမင်းတို့သည် မေ့လျော့ ခေါင်းကျန်နေလေသည်ဖြစ်၍ ရန်သူတို့ ပုန်စားရသော အကြောင်းကိုသိ၍ ဝင်းတော်တံခါးကို နေ့ ၃ နာရီတွင် ပိတ်ရ၏။ နေထွက် ၃ နာရီမှ ဖွင့်ရ၏။ မြို့တံခါးတို့ကိုကား နေဝင် ၃ နာရီတွင် ပိတ်ရ၏။ နံနက် လေးပဟိုရ်ရုပ်တွင် ဖွင့်ရ၏။ မြို့ပြင်မြို့တွင်းကိုလည်း လှည့်လည်၍မပြတ်မလပ် စောင့်ရ၏။ အစောင့်အရှောက် လက်ဝဲလက်ယာ ကိုယ်ရံတော်သားတို့ကိုစီရင်၍ အသင့်ထားတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၈၆၃-ခုတွင် လွန်တော်မူလေ၏။ နံတော် ဗုဒ္ဓဟူးသားတည်း။၇။

ထိုမင်းလွန်တော်မူလေလျှင် သားတော်မင်းရာဇာသည် သက္ကရာဇ် ၈၆၃၊ တပေါင်းလတွင် မျောက်သားတော် စောသုဘာနှင့် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ အုပ်စိုးတော်မူပြီးနောက် ရှင်ဖွားနှင့်ရှင်ဖိုဟူသော မင်းသမီးနှစ်ယောက်တို့ကိုလည်း မိဘုရားမြှောက်တော်မူလေ၏။ ကုလားတို့အမည်အားဖြင့် ဣလီသျှာဟုတွင်၏။

ထိုမင်းကား သက္ကရာဇ် ၈၆၄-ခုနှစ်တွင် လက်မဖက်တောကို ခုတ်ထွင်စေ၏။ သက္ကရာဇ် ၈၆၈-ခုတွင် ကဆုန်လ ရေကြီး၏။ ထိုနှစ်လူများ ခြောင်းဆိုးရောဂါဖြစ်ကြလေ၏။

ထိုမင်းသည် ကုသိုလ်ကောင်းမှုကိုကား ဆည်းပူးအားထုတ်တော်မူ၏။ ပြည်ထောင်ရေးကိစ္စကိုမူကား စည်ပင်သာယာအောင် မပြုလေ။ နှစ်စဉ်မပြတ် ဒွါရာဝတီ သံတွဲမြို့သို့သွားတော်မူ၍ ဆင်ဖမ်းသဘင်ကိုပြုတော်မူ၏။ ပြည်သူတို့ စီးပွားချမ်းသာကိုကား ဆောင်တော်မမူလေ။ ပြည်သူတို့သည် ထိပ်ထက်၌မီးကျသကဲ့သို့ ပူလောင်၍ ညီးငွေ့ကြကုန်၏။

ထိုမင်းသည် မြောက်ဦးမြို့ ကိန်းခန်းမကုန်သေးလျက် အမြင်နည်းသော ဟူးရားတတ်တို့စကားကို နားထောင်၍ ဝေသာလီမြို့ကို သက္ကရာဇ် ၈၇၆-ခု၊ ကဆုန်လပြည့်ကျော် လေးရက်၊ စနေနေ့၊ ညဥ့်သန်းလွဲ သုံးပဟိုရ်၊ မိဿလက်၊ ခေနစ်းတွင် မြို့တည်တော်မူ၍ နန်းစံတော်မူလေသည်။ ထိုမင်းရာဇာ၌ မိဘုရားတို့တွင် သားတော်သမီးတော် မရှိလေ။ ကိုယ်လုပ်တော် စောမနော်တွင် ဂဇာပတိဟူသောသားကို ဖွားမြင်တော်မူသည်။ ကိုယ်လုပ်တော် စောရှင်ဖြူတွင် သမီးရှင်လုထွတ်ကို ဖွားမြင်တော်မူသည်။ ဦးရီးတော် ဆင်ကဲအောင်ထင် သမီးတော် စောနန္ဒီတွင် သားတော်မင်းပါကို ဖွားမြင်တော်မူသည်။ သားတော် ဂဇာပတိကို အိမ်ရှေ့နှင်းတော်မူသည်။ သားတော်မင်းပါကို စစ်သူကြီးအရာကို ပေးတော်မူသည်။

ထိုမင်းသည် ခပ်သိမ်းသော ရန်မာန်တို့ကို နှိမ်နင်းအောင်မြင်တော်မူ၏။ ထိုမင်းနန်းတက်၍ တဆဲ့နှစ်နှစ်ရှိတော်မူလေလျှင် ပရိန္ဒသက်တို့ပုန်ကန်၍ မင်းရာဇာသည် မိဘုရားနှင့်တကွ တောင်စဥ်လမူးသို့ပြေးလေ၏။ ထိုသက်တို့သည် ကျောက်လှေကား ဝေသာလီမြို့ဝယ် မောရာဇာဟူသောအမည်ကိုခံ၍ နှစ်ဆဲ့ကိုးရက်မျှ မင်းပြုကြလေ၏။

ပြည်သူမှူးမတ်တို့သည် တိုင်ပင်ညီညွတ်၍ ထိုမင်း၏ သားတော်ဖြစ်သော အိမ်ရှေ့မင်း ဂဇာပတိကို သက်တော် တဆဲ့ခြောက်နှစ်တွင် မင်းမြှောက်ကြပြီးသော် ဦးရစ်တောင်ဝယ် ရွှေလောင်းနှစ်စင်းထက်၌ ထီးဖြူဆောင်းစေလျက် သက်တို့ကိုတိုက်လေသော် ကျောက်လှေကား ဝေသာလီမြို့မှ သက်တို့သည်ပြေးရလေကုန်၏။ မှူးမတ်ပြည်သူတို့သည်လည်း ရွှေနန်းတက်တော်မူပါဟု တောင်းပန်ကုန်သော် ခမည်းတော်ဘုရားသည် မျက်မှောက်ထင်ရှားရှိလျက် ငါသည် မင်းအဘယ်သို့ပြုအံ့နည်း။

မှူးမတ်သူကောင်းတို့၏အလိုကိုလိုက်၍ ငါထီးဖြူဆောင်းရခြင်းသည်ကား ရန်သူဖြစ်သောသက်တို့ ကြောက်စိမ့်သောငှာသာလျှင်ပြုသတည်းဟု ပြောဆိုနေစဉ်တွင် ခမည်းတော်မင်းကြီး တောင်စဉ်လမူးချောင်းမှ ရောက်လတ်လျှင် နေရာမှသက်၍ ဘုရားသားတော်သည် ရန်စစ်ကိုခွင်း၍ အောင်မြင်ပြီးလျှင် ရွှေထီးရွှေနန်းကို စောင့်ရှောက်နေထိုင်ပါသည်။ ခမည်းတော်ဘုရား ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးအုပ်တော်မူပါဟုလျှောက်ပေ၏။

မင်းဆွေမင်းမျိုး မှူးမတ်ပြည်သူတို့သည် ဤမကောင်းသောမင်းမိဘုရားတို့ တဖန်မင်းဖြစ်ပြန်မူ ငါတို့ ပြည်သူအပေါင်းတို့သည် ငရဲတွင်နေရကုန်ဘိ သကဲ့သို့ ဖြစ်ကုန်အံ့။ အရှင့်သား မင်းမပြုလိုသည်ရှိသော် သူတပါးကိုသာ ကျွန်တော်တို့ နန်းတင်ကုန်အံ့ဟု ဆိုကြသည်ကို ခမည်းတော်မင်းရာဇာကြားလေလျှင် အလွန်ကြောက်လန့်သည်ဖြစ်၍ ငါမင်းမပြုပြီဟု သားတော်ဂဇာပတိကို လက်တော်ကိုင်လျက် နန်းတင်တော်မူလေ၏။ ဂဇာပတိမင်းသည်လည်း ခမည်းတော်၊ မယ်တော်တို့ကို အစောင့်အရှောက် အလုပ်အကျွေးနှင့် ကောင်းမွန်စွာထားတော်မူ၏။ ခမည်းတော်၏ မိဘုရား စောသုဘာသည် သားတော်ကိုပုန်စား၍ မင်းပြုတော်မူပါဟု အဖန်တလဲလဲတိုက်တွန်းသည်ကို ဂဇာပတိမင်းကြားလေလျှင် မထားသာပြီဟု ခမည်းတော်ကို စီရင်တော်မူလေလျှင် ခမည်းတော် မင်းရာဇာသည် အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၁၂၊ တဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၃၄၊ သုံးဆဲ့လေးနှစ်။ သက္ကရာဇ် ၈၇၅-ခုတွင် လွန်တော်မူလေသည်။ နံတော် တနင်္လာသားတည်း။ ၈။

ထိုမင်းလွန်တော်မူလေလျှင် သာတော်ဂဇာပတိသည် မျောက်သားတော် စောသုဇာနှင့် ရွှေထီးရွှေနန်းကို သိမ်းမြန်း စိုးစံတော်မူလေ၏။ ထိုဂဇာပတိမင်း၌ မိဘုရားတို့သည် စောသုဇာလည်းတယောက်၊ တောင်မိဘုရားလည်း တယောက်အားဖြင့် နှစ်ယောက်ဖြစ်သတည်း။

ထိုမင်းကား အရောင်အဆင်းနှင့်လည်း ပြည့်စုံ၏။ သာသနာတော်ကိုလည်း ရှိသေစွာပြုစုချီးမြှင့်ပေ၏။ ထိုမင်း၏ ငယ်ကဖြစ်သော ကျေးတော်ကျွန်တော်တို့သည် အတတ် အလိမ္မာမရှိ၊ မိုက်ရိုင်းစော်ကားလျက် မင်းဆွေမင်းမျိုး မှူးမတ်ပြည်သူတို့ကို မရိုမသေကလူညည်းပန်းခြင်းပြုကုန်၏။ မင်းသည် ငယ်နုသည်ဖြစ်၍ တိုင်းရေးပြည်မှု၌ ထောက်ထားစီရင်ခြင်းမပြု။ ကျေးတော်ကျွန်တော်တို့ကိုလည်း မဆုံးမ မတားမြစ်သောကြောင့် မင်းဆွေမင်းမျိုး မှူး မတ်စသော တိုင်းပြည်သူတို့သည် နှလုံးနာကုန်လျက် အချက်အလက်ကိုကြည့်၍ ပုန်စားရန်အခွင့်ကိုကြံလျက် နေကြကုန်၏။ သက္ကရာဇ် ၈၇၆ခုတွင် ငွေတကျပ်ကို ဆန်သုံးခွက်သာရလေ၏။

သက္ကရာဇ် ၈၇၇-ခုတွင် အနောက်သို့ စစ်ချီ စေလွှတ်တော်မူသောအခါ နှလုံးနာလျက်သွားရကုန်သော မှူးမတ် စစ်သူကြီး စသောသူတို့၏သားမယား၊ အရောင်အဆင်းနှင့်ပြည့်စုံသူတို့ကို အိပ်ဖန်တက်ခြင်းပြုရကုန်၏။ ယင်းသို့ အိပ်ဖန်တက်ခြင်းပြုရလေလျှင် သားမယားတို့က မိမိလင်တို့ထံ စာသဝဏ်ရေး၍ ကျွန်ုပ်မတို့သည် မင်းကြီးထံ အိပ်ဖန်တက်ရသည်ဖြစ်၍ ကိုတို့မယားမဟုတ်ပါပြီ၊ မင်းကြီးမယားဖြစ်ရပါပြီဟူ၍ ပေးလိုက်သဖြင့်သိကြလေသော် မယူမြစ်တွင် တိုင်ပင်၍နေကြလေကုန်၏။ ထိုအကြောင်းကို မင်းကြီးကြားလျှင် အလွန်အမျက်ထွက်၍ သံခြေချင်းခတ်လျက်ယူချေဟု စေလွှတ်လိုက်ပေ၏။ ထိုသို့ စေလွှတ်လိုက်သောသူတို့သည် သံခြေချင်းခတ်၍ ယူလာသဖြင့် မြို့တော်သို့ ရောက်လာပေ၏။ မိုးသောက်လျှင် အမတ်လေးဦးတို့တိုင်ပင်၍ တိုက်ခိုက်လေလျှင် ဂဇာပတိမင်းသည် နန်းတော်အနောက်တံခါးမှ ထွက်၍ပြေးလေ၍ ဈေးသည်မအိမ်တွင် ဒုက္ကန်ထဲဝယ် ပုန်း၍နေလေ၏။ ထိုအကြောင်းကို ထောင်မှူးဖုန္နာတ်သိ၍ နောက်ထပ်လိုက်သဖြင့် အိမ်ဝကရပ်ပြီးသော် ပရဒါရ-သူ့မယားတို့၌ မိစ္ဆာအကျင့်ကိုကျင့်သော မင်းယုတ်၊ ဒုက္ကန်ထဲတွင်ဝင်၍ သူ့မယားကိုပြစ်မှားမည်ကြံသလော၊ အဆောတလျင်

ထွက်ခဲ့ဟုဆိုလေလျှင် အလွန်ကြောက်လန့်သည်ဖြစ်၍ အမောင်ဇုန္တာတ်၊ ငါ့ကိုကြသလောဟုမေးလေသော် ဟုတ်၏ဟု ကြမ်းတမ်းခက်ထန်သောစကားကိုဆိုသည်ရှိသော် အလွန်ကြောက်လန့်သည်ဖြစ်၍ အမောင်ဇုန္တာတ်၊ ငါ့အား မကွပ်မျက်ပါနှင့်။ နန်းချစ်၍ကြိုက်သူကို နန်းတင်ပါလေဟု တောင်းပန်လျှင်မသတ်၊ ထွက်ခဲ့ဟုဆိုသဖြင့် ထွက်လာစဉ် ဦးခေါင်းကိုဖြတ်၍ အမတ်လေးဦးတို့အား ဆက်လေ၏။

ထိုမင်းဂဇာပတိကား အိမ်နိမ့် ၁၆၊ တဆဲ့ခြောက်နှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၁၈၊ တဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၈၇၇ ခုတွင် လွန်တော်မူလေသည်။ နံတော် တနင်္ဂနွေသားတည်း။၉။

ထိုမင်းလွန်တော်မူလေလျှင် မင်းမျိုးမင်းဆွေ မှူးမတ်ပြည်သူတို့သည် ညီညွတ်၍ မင်းလောင်းရွေးကြလေသော် မင်းရာဇာ၏ ဘထွေးဖြစ်သော မင်းစောအိုကို မဲချောင်းဖျားတွင် လျှို့ဝှက်၍ထားရာမှယူချေလျက် သက္ကရာဇ် ၈၇၇ တွင် တောင်နန်းစံ မိဘုရားနှင့် နန်းတင်ကြလေကုန်၏။ ကုလားအမည်အားဖြင့် ဇလသျှာ-ဟူသောအမည်ကို ခံတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၆၀၊ ခြောက်ဆယ်။ နန်းစံ ၆ လ၊ ခြောက်လ။ သက္ကရာဇ် ၈၇၇ ခုတွင် လွန်တော်မူလေသည်။ နံတော် တနင်္လာသားတည်း။၁၀။

ထိုမင်းလွန်တော်မူလေလျှင် မှူးမတ်ပြည်သူတို့သည် တိုင်ပင်ညီညာ၍ ဆင်ဖြူရှင် မင်းဒေါလျာ၏သားရမ်းပြည့် ကျွန်းလေးတောင်စားသဇာတကိုတင်ယူချေ၍ သက္ကရာဇ် ၈၇၇-ခု၊ ဝါခေါင်လတွင် စောနန်းဆက် မိဘုရားနှင့် နန်းတင်ကြလေကုန်၏။ ကုလားအမည်အားဖြင့် ဣလိသျှာ-ဟူသောအမည်ကို ခံလေ၏။ မင်းဖြစ်၍ တနှစ်ရှိလျှင် သက္ကရာဇ်၈၇၈-ခု၊ ကဆုန်လတွင် မြောက်ဦးမြို့မှ ဒိုင်းကျီအရပ်သို့ပြောင်းလျက် ယာယီနန်းဆောက်၍စံတော်မူလေသည်။ ထိုမင်းကား အိမ်နိမ့် ၅၂၊ ငါးဆဲ့နှစ်နှစ်။ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၅၈၊ ငါးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၈၈၃-ခုတွင် လွန်တော်မူလေသည်။ နံတော် ကြာသပတေးသားတည်း။ ၁၁။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏ညီတော် မင်းခေါင်ရာဇာသည် သက္ကရာဇ် ၈၈၃-ခုတွင် စောနန်းဆက်မိဘုရားနှင့်ပင် နောင်တော်၏ အရိပ်အရာကို စိုးအုပ်တော်မူလေ၏။ ထိုမင်းလက်ထက် မင်းဆွေမင်းမျိုးတို့သည် အခြွေအရံကြီးကျယ်ကုန်သည်ဖြစ်၍ မင်းရာဇာ၏ သားတော်ဖြစ်သော မင်းပါအား မနာလိုမရှုစိတ်သည်ကို သိ၍ မင်းပါသည် ကိုယ်ကိုခွါ၍နေမှ အလိုပြည့်အံ့သည်ဟု သဘောထား၍ ဒွါရာဝတီ သံတွဲမြို့သို့ သွားလျက်နေသဖြင့် သံတွဲမြို့ကိုစားရလေသည်။ ကာလရှည်လျား၍ သိုက်ဓာတ်တဘောင်ကို ပေါ်ထွက်လတ်သည်ဖြစ်၍ မင်းပါသည် ခပ်သိမ်းသော လက်နက်ကိရိယာ ဆင်းလုံးမြင်းရံ ရဲမက်ဗိုလ်ပါလေှတက်စသည်တို့ကို များစွာစီရင်၍ သံတွဲမြို့မှချီလာလျက် မင်းခေါင်ရာဇာကို နှိမ်နင်းတိုက်ခိုက်လာသောကြောင့် မင်းခေါင်ရာဇာသည် အိမ်နိမ့် ၄၅၊ လေးဆဲ့ငါးနှစ်။ နန်းစံ ၁၀၊ ဆယ်နှစ်။ နှစ်စုသက်တော် ၅၅၊ ငါးဆဲ့ငါးနှစ်။ သက္ကရာဇ် ၈၉၃-ခုတွင် လွန်တော်မူလေသည်။ နံတော် ကြာသပတေးသားတည်း။ ၁၂။

မြောက်ဦးမြို့တည် မင်းစောမွန်-အစ မင်းခေါင်ရာဇာ-အဆုံးရှိသော မင်း ၁၂ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၁၂၇ နှစ်တည်း။

ဤသည်ကား မြောက်ဦးမြို့တည် မင်းစောမွန် အစ မင်းခေါင်ရာဇာအဆုံးရှိသော မင်း ၁၂ ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်းတည်း။

(ဤမင်းစောမွန်မင်းဆက် ၁၂ ဆက်တွင် အဆုံးဖြစ်သော မင်းခေါင်ရာဇာကို ရာဇဝင်ဟောင်း၊ ဆရာငမည်-ရာဇဝင်၊ ဧဝတီအရေးတော်ပုံ၌မပြမဆိုဘဲ ၁၁ ဆက်မျှသာဆိုကြလေကုန်သည်။ အင်းစောက်ရာဇဝင် နှစ်စောင်လုံးတို့၌ကား မင်းခေါင်ရာဇာနှင့်တကွ စောမွန်

မင်းဆက်ကို ၁၂ ဆက် ဆိုကြလေသည်ဖြစ်၍ ငါတို့လည်း ၁၂ ဆက်ပင် အပြည့်ရေးထည့်လိုက်ပေသည်။

အချို့ရာဇဝင်သစ်၌ကား သဇာတနှင့် မင်းခေါင်ရာဇာ နှစ်ဦးမပါဘဲ ၁၀-ဆက်သာဆိုလေသည်။ မင်းစောမွန်ကိုလည်း ဝရမ္မောမင်းသား နရမိတ်လုဖြစ်ကြောင်း၊ သက္ကရာဇ် ၇၈၀ ပြည့်တွင် အနောက်သို့ပြေးရကြောင်း၊ သက္ကရာဇ် ၇၉၁-ခုတိုင်ရောက်မှ ထီးနန်းရမြဲရပြန်ကြောင်း၊ သက္ကရာဇ် ၇၉၂-ခုတွင် မြောက်ဦးမြို့ကို တည်၍မပြီးမီ ယာယီနန်းနှင့်နေတော်မူရာ နတ်ရှာစံလွန်တော်မူကြောင်းတို့နှင့် ဓညဝတီအရေးတော်ပုံနှင့် ရာဇဝင်သစ်တို့၌ ဆိုကြလေသည်။ ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ဆရာမည်ရာဇဝင်၊ ရာဇဝင်လင်္ကာတို့၌ကား မင်းထီးသား ဝရမ္မော၊ ဝရမ္မော၏ ညီတော်၊ သီဝရာဇ်၊ သီဝရာဇ်ညီ နန်းကျယ်သိဥ္စည်း၊ ၎င်း သိဥ္စည်းသား ရာဇသူ၊ ရာဇသူ၏သားသည်သာလျှင် မင်းစောမွန်နှင့် မင်းခရီအလီခင်တို့ဖြစ်ကြောင်းနှင့် ဆိုကြလေသည်။

မင်းစောမွန် နန်းတက်သက္ကရာဇ်ကိုလည်း ၇၆၆-ခုတွင် တက်ကြောင်း၊ ၇၆၈-ခုတွင် အနောက်သူရတန်ပြည်သို့ ပြေးရကြောင်း၊ သူရတန်ပြည်၌ ၂၂ နှစ်ဆဲ့နှစ်နှစ်ကြာလေကြောင်း၊ သက္ကရာဇ် ၇၉၀ ပြည့်နှစ်မှ သူရတန်ပြည်၊ ပဆာမင်းက မင်းစောမွန်ကိုနန်းတင်ရန် စစ်သည်ဗိုလ်ခြေနှင့် ဥလုံခင်ကိုစေလိုက်ကြောင်း၊ ဥလုံခင်သည် မင်းစောမွန်ကို နန်းမတင်ဘဲ မိမိမင်းပြုပြီးလျှင် မင်းစောမွန်ကိုချုပ်ထားကြောင်း၊ မင်းစောမွန်ဆွေမျိုးတို့ ကြံဖန်၍ မင်းစောမွန်ကိုခိုးလျက် သူရတန်ပြည်သို့သွားကြကြောင်း၊ နောက်တဖန် ပဆာမင်းက ဆတ္တာခတ်ကို အကြီးပြု၍ မင်းစောမွန်ကို နန်းတင်ရန်စေလွှတ်၍ နန်းတင်လာကြောင်း၊ ၇၉၂-ခုတွင် မြောက်ဦးမြို့ကိုတည်ကြောင်း၊ မြို့ပြီးမှ သုံးနှစ်နန်းစံပြီးလျှင် ၇၉၅ ခုတွင် နတ်ပြည်စံလေကြောင်းတို့နှင့် ဆိုကြလေသည်။

မင်းစောမွန်၏နန်းစံနှစ်ကိုလည်း ခုနစ်နှစ်ဟူ၍၎င်း၊ တဆဲ့ခုနစ်နှစ်ဟူ၍၎င်း၊ နှစ်ဆဲ့ခုနစ်နှစ်ဟူ၍၎င်း အင်းစောက်ရာဇဝင်တို့၌ ဆိုကြလေသည်။

ရာဇဝင်ဟောင်း 'ဗိ' ချုပ်တွင် အိမ်နိမ့် ၂၄၊ နန်းစံ ၅၊ သူရတန်ပြည်မှာ ၂၂ နှစ် ၅ လ၊ သုံးစုသက်တော် ၅၁နှစ်တွင် လွန်တော်မူကြောင်းနှင့်ဆိုသည်။ ဤအရာတွင် သူရတန်ပြည်သို့မပြေးမီ ရှေးနန်းစံ ၂ နှစ်မပါလေဖြစ်၍ ၎င်းနှစ်နှစ်နှင့်သော် ခုနစ်နှစ်ဖြစ်သည်ဟု အမှန်ယူရမည်။

နတ်ရှာစံသက္ကရာဇ်ကိုလည်း ၇၉၅-ခုနှစ်လွန်တော်မူကြောင်းနှင့် 'တော' ချုပ်၌ဆိုပြီးလျှင် ညီအလီခင်နန်းတက် သက္ကရာဇ်ကိုကား ၇၉၆-ခု၊ ကဆုန်လနန်းတက်ကြောင်းနှင့် ဆိုလေသည်။

ဆရာမည်ရာဇဝင်၌ ၇၉၃-ခုတွင် နတ်ရှာစံကြောင်းနှင့်ဆိုပြီးလျှင် အလီခင်နန်းတက်သက္ကရာဇ် ၇၉၆ ခုဟု ဆိုပြန်လေသည်။ ဤသို့ရာဇဝင်အရပ်ရပ်သို့မညီမညွတ်ရှိရာ၌ စာနာထောက်ရှုသော် ၇၉၅ ခုတွင် မင်းစောမွန်နတ်ရှာစံ၍၎င်း ၇၉၅-ခုနှစ်ပင် ညီအလီခင်မင်းနန်းတက်လေသည်ဟု အမှန်ယူသင့်သည်။ (ဤသည်ကား အမှာစကားချုပ်)။

## (၁၆၃) ယခုအခါ၌ ဒုတိယမြောက်ဦးမြို့တည် မင်းပါကြီးအစ၊ မင်းစနေအဆုံးရှိသော မင်း၉ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သော အကြောင်း

ထိုမင်းခေါင်ရာဇာလွန်တော်မူလေလျှင် မင်းရာဇာ သားတော် သံတွဲစား မင်းပါကြီးသည် သက္ကရာဇ် ၈၉၃-ခု၊ နယုန်လဆန်း ၁ ရက်၊ စနေနေ့၊ နေ့နှစ် ပဟိုရ်ကျော် ငါးနာရီတွင် ဆင်ဖြူရှင်သမီး ဖွားစောမင်းနှင့် ရေဆိပ်တဲနန်းတော်ဝယ် ဘိသိက်တော်ခံ၍ မင်းအဖြစ်သို့ ရောက်တော်မူလေ၏။ ပြဟ္မာအမည်အားဖြင့်ကား 'သီရိသူရိယ စန္ဒမဟာ ဓမ္မရာဇာ' ဟူသောအမည်

ကို ခံတော်မူ၏။ ကုလားအမည် ဖြင့် ကား ဓောက်ပေါက်သျှာဟူ၍ ခံတော်မူ၏။ မျောက်သားတော် မိဘုရားအမည်ကိုလည်း မိဘုရားခေါင်ဟူ၍ပေးတော်မူ၏။

ထိုမင်းကား အမျိုးလေးပါးတို့အား ရင်တော်ဖြစ်သော သားကဲ့သို့ သနားချစ်ခင်တော်မူ၏။ ဘဝရှင်မင်းတရား၏ ဘုန်းတန်ခိုးအာနုဘော်ကို ဤဇမ္ဗူဒိပ်မြေအပြင်ဝယ် ထင်ပေါ်ကျော်စောသိမြင်စေခြင်းငှာ နတ်တို့ပြုလာပေ၏။ မဖြစ်စဘူး မမြင်စဘူးသော ပုဗ္ဗနိမိတ်တို့သည် ထင်မြင်ကုန်၏။ အဘယ်သို့ ထင်မြင်သနည်းဟူမူကား ကောင်းကင်ပတ်ကုံး၌ ကျေးငှက်အပေါင်းတို့သည် တပြိုင်နက် ကူးသန်းယှက်တင် ပျံဝဲကုန်၏။ ပြင်းလှစွာသော ငလျင်ကြီးတို့သည် မြေပြင်တောင်ကမ်း အိမ်ရာ၊ ကျောင်းကန်တို့ ရောက်ရှားအောင် တုန်လှုပ်ကုန်၏။ မုန်တိုင်းလေပြင်းသည် ဆင်၊ မြင်း၊ ကျွဲ၊ နွားတို့ လွင့်ပါအောင် ထလေကုန်၏။ အရှေ့၊ အနောက်၊ တောင်၊ မြောက်ကိုမျှမသိရအောင် ခုနစ်ရက်ပတ်လုံး မိုက်မှောင်အတိဖြစ်လေ၏။ ဤသို့အံ့ဖွယ်သရဲ မဖြစ်စဘူး မမြင်စဘူးသော ပုဗ္ဗနိမိတ်တို့သည်ဖြစ်ကုန်၏။ ထိုသို့ဖြစ်သော ပုဗ္ဗနိမိတ်တို့ကို မြင်ရကုန်သော သူတို့သည် ကြက်သီး မွေးညင်းထခြင်း၊ အလွန်ကြောက်ခြင်းတို့သည် ဖြစ်ကုန်၏။

မင်းကြီးကား ထိုနှစ်လည်းကောင်း ဝါကျွတ် လဆန်း နှစ်ရက်၊ စနေနေ့၊ နက္ခတ် ၁၄ လုံး၊ စိတြနက္ခတ်နှင့်ယှဉ်လျက် နန်းတော်ဆောက်၍ ပြီးမြောက်တော်မူ၏။ ပြီးမြောက်လျှင် ကောင်းသောအခါ၌ ပြည်သူအပေါင်းတို့ကို တန်ဆာဆင်စေလျက် စစ်အင်္ဂါလေးပါးခြံရံ၍ အထူးထူးသောကခြေသဘင် ပဉ္စင်တူရိယာတို့ဖြင့် မိုးမြေရောက်ရှား တုန်လှုပ်အောင် တီးမှုတ်ကခုန်စေလျက် ရွှေနန်းတက်တော်မူ၍ နတ်မင်း၏စည်းစိမ်ကဲ့သို့ မင်း၏စည်းစိမ်ကို ခံစားတော်မူ၏။

ထိုဘဝရှင်မင်းပါသည် အလိုတော်ပြည့်သည်ဟု ကြားလေသော်အရပ်ရပ်သော ပြည့်ရှင်မင်းအပေါင်းတို့သည် အလွန်ကြောက်ရွံ့ရိုသေခြင်းရှိကုန်သည်ဖြစ်၍ ရွှေစာပေလိပ်တို့နှင့်တကွ အထူးထူးသော လက်ဆောင်ဘဏ္ဍာတို့ကို နှစ်စဉ်မပြတ်ဆက်ရောက်လာကုန်၏။ များစွာသော သင်္ဘောလှေတို့သည်လည်း မပြတ်ဆိုက်ရောက်လာကုန်၏။ အလိုတော်ပြည့်၍ မကြာမြင့်ခင်လျှင် ဒွါရာဝတီမြို့သို့ ကြွချီတော်မူ၍ ကြီးစွာသောအလှူကို ပေးလှူစွန့်ကြဲတော်မူသည်။

ထိုမှတပါး သဗ္ဗညုမြတ်စွာဘုရား ဦးကင်းတော်ဓာတ်၏ တည်ရာမိုးစဲကျွန်း၌ မဖြစ်မြောက်၊ မကြီးစေကောင်းသော ကျောက်တောင်ကြီးကို ဥမင်ဖောက်ထွင်း၍ သက္ကရာဇ် ၈၉၅-ခုတွင် လေးဆူသောရုပ်ပွားဆင်းတုတော်တို့ကို တည်ထားတော်မူလျက်တောင်အားလုံးကိုလည်း ရေသတ္တဝါ၊ ကြည်းသတ္တဝါအရပ်တို့ကို ထုလုပ်တော်မူစေ၍ အလှူကြီးကို ပေးလှူစွန့်ကြဲတော်မူသည်။

ထိုမှတပါး မြောက်ဦးမြို့တော်၏မြောက်ဘက် တံခါးဝနှင့်မနီးမဝေးသောအရပ်၊ ခိုချောင်းအဖျား လက်ယာနားမျက်နှာအရပ်၌ ရှစ်သောင်းလေးထောင်သောရုပ်တုတော်တို့၏ကိန်းဝပ်တော်မူရာ ရှစ်သောင်းဘုရားဟု အမည်တွင်သောစေတီတော်ကြီးကို တည်ထားတော်မူပြီးသော် ထို စေတီတော်၏မြောက်ဘက်အနီး၌ ကျောင်းတိုက်ကြီးကို သောကြာသားနှစ်ယောက်ကို ဆောက်လုပ်ပြုပြင်စေပြီးသော် သံဃာတော်ရဟန်းတို့ကို ပင့်ဘိတ်တင်ထား ကိုးကွယ် ဆည်းကပ်တော်မူလျက် အလှူကြီးကိုမပြတ် ပေးတော်မူသည်။

ထိုမှတပါးလည်း မဟာမုနိရုပ်ရှင်တော်မြတ်အား သဒ္ဒါကြည်ညိုရိုသေလေးမြတ်စွာ အလှူကြီးကို ပေးတော်မူသည်။ ထိုအခါဝယ် အရှေ့ပြည်မြန်မာနိုင်ငံ၌ တောင်ငူမင်းတရားရွှေထီးသည် ဘုန်းလက်ရုံး ပေါက်မြောက်တော်မူ၍ မြန်မာနိုင်ငံအလုံးနှင့် ပဲခူးဟံသာဝတီနိုင်ငံတို့ကို အစိုးရပြီဟူ၍ ကျော်ကြားလေလျှင် မချွတ်မလွဲ ငါတို့နှင့်လည်း တွေ့ကြုံရလတ္တံ့ဟုအောက်မေ့တော်မူ၍ ပြည်၏ အစီးအပွားကို ရွက်ဆောင်အံ့သောငှာ နတ်မျက်စိအမြင်

ကဲ့သို့သော ပညာတော်ဖြင့် ဆင်ခြင်တော်မူလျက် နေပြည်တော် မြောက်ဦးမြို့ကို ဤသို့တည်ထောင်ပြုစု စီမံတော်မူသတည်း။ မြို့၏ ထက်ဝန်းကျင်သော တောင်ခပ်သိမ်းတို့ကို အုတ်ကျောက်တို့ဖြင့် စီသင့်သည်ကို စီတော်မူသည်။ မြှင့်သင့်သည်ကို မြှင့်တော်မူသည်။ တံခါးကွေ့၊ တံခါးကောက်စသည်တို့ဖြင့် ရေလှောင်မြောင်း၊ တန်ဆောင်း၊ ပြအိုး၊ ပစ္စင်၊ ရင်တားတို့ကို ကောင်းစွာစီရင်လျက် ရေကျုံး၊ ညွန်ကျုံး၊ ကျုံးခြောက်၊ ကျုံးပင်လယ် စသည်တို့ဖြင့် အထားအနေသင့်စေပြီးမှ မြို့သစ်နှင့်ဝသဲဘက်ကို သိုက်ခေတ်နမန္တာကိန်းအလိုဖြင့် အသက်ဆက်၍တွဲဖက်ပြီးမှ အရှေ့ဘက်ကအစတည်သည်ကား ရန်အောင်မြို့၊ သန်လျင်မြို့၊ မြတောင်မြို့၊ ကုလားမြို့၊ သာယာမြို့၊ တလက်တောင် မြို့၊ ပိန်နဲတောင်မြို့၊ နတ်တောင်မြို့၊ သျှမ်းတောင်မြို့၊ အင်ကြင်းတောင်မြို့၊ ကျားခုတ်တောင်မြို့။ ဤတဆဲ့တမြို့တို့သည် တာပေါင်း ခုနစ်ရာစီချည်း လက်ယာရစ်ပတ်ပတ်လည်ရံပြီးမှ ထိုမြို့ရံတို့၌လည်း ရေလှောင်မြောင်း၊ တန်ဆောင်း၊ ပြအိုး၊ ပစ္စင်၊ ရင်တား၊ တံခါးကောက်၊ တံခါးကွေ့၊ ရေကျုံး၊ ညွန်ကျုံး၊ ကျုံးခြောက်၊ ကျုံးပင်လယ်တို့ဖြင့် အသီးအသီးရံစေလျက် အလွန်တင့်တယ်စွာ စီမံတော်မူ၏။

ထိုမှတပါး အရှေ့၊ အနောက်၊ တောင်၊ မြောက်ပတ်ကုံးတို့၌ သမုဒ္ဒရာကဲ့သို့ ကြီးလှစွာသော ကမ်းပိုင်ကြီးတို့ကို အထပ်ထပ်ဆည်ကုန်လျက် မြို့တွင်းမြို့ပြင်ရေစီးသာအောင် ဆည်မြောင်းဆည်သည်ကား အရှေ့ဘက်မှလည်း ကြာကန်ချောင်းကို ဆည်၍ ရန်အောင်မြို့အတွင်းမှလည်း ကမ်းပိုင်ကြီး တထပ်ဆည်၏။ ပတ်ပတ်လှည့်၍ ရေပြည့်စေ၏။ ရန်အောင်မြို့မှလည်း ရှိရှားချောင်းကိုဆည်၍ မြောင်းလေးခုသွယ်လျက် ဆင်ကျုံးပြင်သို့စီးစေ၍ အင်ကြင်းတောင် မြို့တိုင်အောင် ရေပြည့်စေ၏။ အင်းကြင်းတောင်မြို့ကလည်း ကြာကန်ချောင်းကိုဆည်၍ အလျားရှည်စွာ ကမ်းပိုင် ကျုံးကြီးကို ဖြစ်စေ၏။ အရှေ့တောင်ထောင့်မှလည်း သန်လျင်မြို့နှင့် မြတောင်မြို့အတွင်း၌ ဝန္တိတဖက်၊ ရှင်ငယ်တဖက်ချောင်းကို ဆည်၍ ကမ်းပိုင်ကြီး၊ ကျုံးကြီးဖြစ်စေလျက် ရေပြည့်စေ၏။ မြောက်ပြင်မှလည်း လက်စွဲမ လွဲချောင်းကိုဆည်၍ သုံးမြောင်းသွယ်ပြီးလျှင် ကျားခုတ်တောင်မှလည်း ပေါင်ထုပ်ချောင်းကိုဆည်၍ ကျုံးကြီးတထပ်ဖြစ်စေ၏။ တောင်ဘက်မှလည်းကုလားမြို့၊ သာယာမြို့အတွင်းမှလည်း ဝသဲချောင်းကိုဆည်၍ ကျုံးကြီးတထပ်ဖြစ်စေ၏။ အနောက်တောင်ထောင့်အရပ်မှလည်း ဝန်တောင်၊ စံကားတောင်တို့အတွင်း ပုဂံချောင်းကိုဆည်၍ ကမ်းပိုင်ကြီးစွာ ဖြစ်စေ၏။ မြို့ပြင်မှလည်း ဗဟိုခွဲပကတိသော မြေပြင်ကို အင်းကြီးဖြစ်အောင်တူးစေ၍ ဆည်ဖို့လျက် မြင့်စေ၍ ပြိုင်းတိုင်တောင်ကိုလွန်ခဲ့မှ ညောင်ကြပ်ချောင်းကို ဆည်လေသောကြောင့် အပြောကျယ်သောရေသည် ပတ်ပတ်လှည့်၍ အစဉ်အတိုင်းစီးစေ၏။ အနောက်မှလည်း တလက်တောင်၊ ပိန်နဲတောင်မြို့တို့၏အတွင်း၌ ကျောက်ရစ်ချောင်းဖျားကို တဖန်မြှင့်၍ဆည်လျက် ကမ်းပိုင်တထပ်ဖြစ်စေ၏။ မြို့ပြင်မှလည်း ကျောက်ရစ်ချောင်းရင်းကို မြင့်စွာဆည်မြောက်၍ ကမ်းပိုင်ကြီးတထပ် ဖြစ်စေ၏။

ထိုမှလည်း ချောင်းကြီးချောင်းငယ် အထပ်ထပ်ထား၍ သျှိုသျှားမြစ်ကြီး၊ ပင်စည်မြစ်ကြီးတို့ကို မြဲအောင်ဆည်လျက် ကမ်းပိုင်တထပ်ဖြစ်စေ၏။ အနောက်မြောက်ထောင့်မှလည်း နတ်တောင်မြို့အတွင်း ဆည်မြောင်းကြီးတို့ကို မြဲအောင် အတန်တန်မြှင့်၍ဆည်၏။ မြို့တွင်းမြို့ပြင်ပတ်ပတ်လည်အောင်ပြည့်စေသောရေကား မဟာသမုဒ္ဒရာကဲ့သို့ခြားလျက်ရှိသော သျှမ်းတောင်မြို့ အရှေ့ဘက်သို့တိုင်အောင် ရေဖြင့်ပြည့်စေ၏။ အရှေ့မြောက်ထောင့်မှလည်း သျှမ်းတောင်မြို့တွင် မြို့ပြင်ကိုရံသောရေသည် ကျောက်ရစ်ချောင်းတိုင်အောင် ပတ်ပတ်လှည့်၍ရေဖြင့်ပြည့်စေ၏။ ထိုကျုံးကမ်းပိုင်ရေတို့၏အပြောကျယ်ခြင်းသည်ကား အင်ကြင်းတောင်မြို့ခြေရင်းမှသည် တပဟိုရ်ခရီးမျှ ကန်တွင်းပြင်ကြီးကို လွှတ်ခဲ့ ၍ မိုးကြိုးကန်တိုင်

အောင် ကြီးမြင့်စွာဆည်လေ၍ အလွန်ရှည်လှစွာ ပန်းသုံး ချောင်းရေကို လှောင်၍ထားလေ၏။

ယခင်ဆိုခဲ့ပြီးသော မြို့ကြီး၏မြောက်မှဆည်သော ကမ်းပိုင်ကျုံးရေအမွန်တို့သည် နှစ်ဆယ်မကသော ရက်တို့ဖြင့် သွားသော်လည်း မရောက်နိုင်ရာ၊ အလွန်ရှည်လှစွာ၏။ အဘယ်သို့ရှည်သနည်းဟူမူကား ကန်ချောင်း၊ ကျောက်ရစ်ချောင်း၊ ကတိုးပါချောင်း၊ ဝက်ပုတ်ချောင်း၊ ပမွေးချောင်း၊ လျှော်ချောင်း၊ စေင်ရိုင်းချောင်း၊ ကြေးကန်စီချောင်း၊ မင်းရပ်ချောင်း၊ စပါးတုံချောင်း၊ ငရုတ်တောင်ချောင်း၊ တောင်ပုတ်ချောင်း၊ သစ်ထိန်ချောင်း၊ ငရွှေချောင်း၊ ခြေရာချောင်း၊ လမူးကိုင်ချောင်း၊ လက်ပံချောင်း၊ ထုံးချောင်း၊ ပန်းနောက်ချောင်း၊ ကြာကန်ချောင်း၊ ပေါက်ပင်ချောင်း၊ အိုးချောင်း၊ မုလေးချောင်း၊ ဈေးချောင်း၊ ကြောင်ချောင်း၊ သင်းထုတ်ချောင်း ဤချောင်းတို့ကို ဆည်သောအခါ သိကြားမ၍ဆည်လာပေ၏။ မြို့တွင်း မြို့ပြင်တို့ကို ဆည်သောအခါကား ဘဝရှင် မင်းပါကြီး သည် စနေသားဖြစ်၍ ပြည်စောင့်နဂါးမောက်သည် လူယောင်ဆောင်၍ဆည်လာ၏။ ဘုန်းတော်ကြောင့် လျှင်စွာပြီးလေ၏။ ထိုကမ်းပိုင်ကြီးတို့၌ အထောင်မကသော ရေပြွန်တို့ဖြင့်လည်း တပြိုင်နက်စီးထွက်လေ၏။ မြို့တွင်း ရေပြွန်အကြားဝယ် အနောက်စူးစူးစီးသော ရေဟုန်ကို လှေတက်ဝင်ထွက်သာအောင် ကျားခုတ်တောင် အဆုံးတိုင်အောင် အတန်တန်ဆည်ပြန်၍ ထိုလေးခုမြောက်သော ဆည်ရိုး၌ ရေလှောင်မြောင်း၊ တန်ဆောင်း၊ ပြအိုး၊ ပစွင်၊ ရင်တားစသည်တို့ကိုစီမံ၍ လက်နက်ကိရိယာများစွာ ထားပေ၏။ ထိုမြစ်၏ဆည်ကြီးပြင်မှာ နက်စွာတူးထွင်း၍ မြို့သစ်အထဲတိုင်အောင် တဖန်ရှည်စေလျက် ထိုမြို့၏ အတွင်းဝယ် ရေရှိသောမြစ်တို့၌ အသောင်းအသိန်းမကသော လှေတို့ကိုထားစေ၍ အံ့ဖွယ်ကြီးစွာဖြစ်ပေ၏။ များစွာသောသေ နတ်၊ မီးပေါက်၊ အမြောက်၊ စိန်၊ ပြောင်း၊ ဒါး၊ လှံ၊ လက်နက်၊ ဥစ္စာ၊ ရွှေ၊ ငွေတို့သည် ယခင်ရေတွက်၍ ပြအပ်သောမြို့တို့၌ ပြည့်နက်အောင်စီရင်၍ ထားတော်မူပေ၏။

ဤသို့ ဘုန်းလက်ရုံး အဆင်အခြင်နှင့် ပြည့်စုံတော်မူသောကြောင့် လက်ဝဲ လက်ယာ ရန်သူတို့သည် မချဉ်းမကပ်နိုင်ဖြစ်ပေ၏။

တရံရောအခါ သက္ကရာဇ် ၈၉၆-ခု၊ တပေါင်း လဆန်း ၅-ရက်၊ တနင်္လာနေ့တွင် များစွာသော သင်္ဘောသမ္ဗန်တို့နှင့် ဘရင်ဂျီဖလောင်းလူမျိုးတို့သည် လက်နက်ကိရိယာ များစွာတင်လျက် လာရောက်ပြီးသော် ကြွေတဲကိုဖျက်ဆီးလေ၏။ လဆန်း ၉-ရက်၊ သောကြာနေ့ကား ကံတာဇတွင်ရောက်လာ၏။ ၁၀-ရက်၊ စနေနေ့ဝယ် ရခိုင်စစ်သားတို့နှင့် တိုက်ကြလေသော် ရခိုင်စစ်သားတို့သည် မခံနိုင်၍ ရွှေဝင်းတော်ရှေ့က ခံလာ၏။ ဂေါ်ယာ ဘရင်ဂျီ၊ ဖလောင်းတို့သည် တနင်္ဂနွေနေ့ မြောက်ဦးမြို့သို့ လိုက်လတ်၍ ဥယျာဉ်ပုတွင်နေလာ၏။ ဘုရင်မင်းပါကြီး လည်း ကိုယ်ရံကြီးကို မိုလ်မှူးပြု၍ ဇန္တာတ် စစ်သူကြီး အပေါင်းနှင့်ဆီးခံစေလျှင် ဘုရင်ဂျီဖလောင်းတို့သည် ဆုတ်သွားလေ၍ မြမြိတွင်နေလာသော် ရခိုင်စစ်သားတို့က ဝါးကိုဖောင်ဖွဲ့၍ မီးခတ်သွယ်လျက် တိုက်လေသော် ဖလောင်းတို့သည်မြမြိတွင် ခုနစ်ရက်နေပြီးလျှင် ရှုံးပါး ပျက်စီး၍ ပင်လယ်သို့ ထွက်ပြေးလေသည်။

ဘုရင်မင်းပါကြီးလည်း ဘရင်ဂျီ ဖလောင်းစစ်ကို အောင်ပြီးလျှင် သက္ကရာဇ် ၈၉၇-ခုနှစ် လက်ယာရစ် လှည့်ပတ်လျက် အကောက်အကွေ့များစွာဖြင့် စီရင်အပ်သော လိုင်ခေါင်းကြီးဝယ် ရစ်သောင်းလေးထောင်သော ရုပ်တုတော်တို့ကို သင့်လျော်အောင် ကောင်းမွန်စွာ ထပ်မံပြုပျင်၍ ကြီးမားစွာသောအလှူသဘင်ကို စီရင် ကြိုးပမ်းလျက် လှူဒါန်းတော်မူလေသည်။

ထိုနောက်မကြာမီ ရှေးက အောက်မေ့ ထင်မြင်တော်မူသည့်အတိုင်းလျှင် တောင်ငူဘုရင်မင်းတရားရွှေထီးသည် စစ်တုရက်သူ၊ သမိန်အဲနရဲ စသော စစ်သူကြီး ငါးယောက်တို့ကို များစွာသော ဆင် မြင်း ရဲမက်ဗိုလ်ပါတို့နှင့် သက္ကရာဇ် ၉၀၆-ခုတွင်စေလွှတ်လိုက်၍ ဒွါရာဝတီ

သံတွဲမြို့သို့ ရောက်လာသည်ကို ဘုရင်မင်းပါကြီးသည် ဒွါရာဝတီသံတွဲမြို့စားဖြစ်သော ညီတော်မင်းအောင်လှကို ဗိုလ်ချုပ်စသော စစ်သူကြီးသုံးပါးနှင့်တကွ စေလွှတ်၍ တိုက်တော်မူစေသော် မင်းတရားရွှေထီးစစ်သည်တို့သည် မခံမရပ်နိုင်သည်ဖြစ်၍ ထွက်ပြေးဆုတ်သွားကြလေသည်။ ငါတို့မင်းပါကြီးစစ်သည်တို့သည် လိုက်လံတိုက်ခိုက် ဖမ်းဆီးသဖြင့် တလိုင်းအမတ်၊ မြန်မာအမတ်၊ သျှမ်းအမတ်တို့နှင့်တကွ ဆင်မြင်းစသော ရတနာရွှေငွေ လက်နက်ကိရိယာတို့ကို များစွာရလိုက်၍ လက်ဆောင်တော်ဆက်လာလျှင် ဘဝရှင်မင်းပါကြီးသည်လည်း ဗိုလ်ချုပ်စသော စစ်သူကြီးမှူးမတ်တို့အား ထိုက်လျော်လျောက်ပတ်စွာသော ဆုလပ်ကို ပေးတော်မူလေသည်။

ထိုနောက် မိုးစဲလတ်လျှင် သက္ကရာဇ် ၉၀၇-ခု၊ တန်ဆောင်မုန်းလဆန်း ရှစ်ရက်၊ တနင်္လာနေ့ တလိုင်း၊ မြန်မာ၊ သျှမ်းတို့နှင့်တကွ မင်းတရားရွှေထီးသည် ကိုယ်တိုင်ချီလတ်၍ ဒွါရာဝတီ သံတွဲမြို့သို့ရောက်လာသည်ဟုကြားလျှင် ဘုရင်မင်းပါကြီးသည် များစွာသော လက်နက် ကိရိယာသူရဲအပေါင်းနှင့် ဒွါရာဝတီသံတွဲမြို့စားညီတော် မင်းအောင်လှကိုင်း၊ ဗိုလ်ချုပ်စသော စစ်သူကြီးခြောက်ဦးတို့နှင့် စေလွှတ်၍ တိုက်ခိုက်ကြလေသော် သူတို့ကလည်း ဆင်မြင်းများစွာခြောင်စွာနှင့် မင်းတရားရွှေထီး ကိုယ်တိုင်ကြပ်မတ်၍ စစ်ခံလင့်သည်ကို ငါတို့ ရခိုင်စစ်သည်သူရဲတို့သည် သေနတ် မီးပေါက် အမြောက် စိန်ပြောင်း လက်နက်ကိရိယာတို့ဖြင့် ပစ်ခတ်ကြလေသော် မင်းတရားရွှေထီး စစ်သည်တို့သည် မခံမရပ်နိုင်သောကြောင့် ပြန်၍ပြေးကြလေကုန်၏။ များစွာသော ဆင်၊ မြင်း၊ လက်နက် ကိရိယာတို့ကို ရလိုက်သည်ဖြစ်၍ ဘဝရှင်မင်းပါကြီးအား လက်ဆောင်တော် ဆက်သလာလျှင် ဘဝရှင်မင်းပါကြီးလည်း စစ်သူကြီး ဗိုလ်ချုပ်စသော ရဲမက်ဗိုလ်ပါတို့အား ရတနာမိုးရွာသကဲ့သို့ ဆုလပ်များစွာ ပေးတော်မူသည်။

တကြိမ်တုံလည်း မိုးစဲလတ်လျှင် သက္ကရာဇ် ၉၀၈-ခု၊ တန်ဆောင်မုန်းလဆန်းလေးရက်၊ တနင်္လာနေ့တွင် များစွာသော အလုံးအရင်း အားအန်ကိုဆောင်လျက် မင်းတရား ရွှေထီးသည် ရေကြောင်း၊ ကြည်းကြောင်း ဝိတ်၍ ကိုယ်တိုင်ချီလတ်ပြန်၍ ဒွါရာဝတီ သံတွဲမြို့သို့ ဆိုက်ရောက်လာလျှင် သံတွဲမြို့တွင် စောင့်ရှောက်နေထိုင်သော စစ်သည်ရဲမက်ဗိုလ်ပါတို့သည် များစွာသော လှေတက်တို့ဖြင့် ဆီးဆို့တိုက်ခံကြလေသည်။ မင်းတရားရွှေထီး ရဲမက်တော်ရှေ့ဖျားချီသော ပုသိမ်စား၊ မြောင်းမြစားတို့နှင့်တွေ့၍တိုက်ကြလျှင် ငါတို့စစ်သည်များ သူ့စစ်သည်များကို ဖမ်း၍ရရှိလေ၏။ ယင်းသို့ရှိစဉ်တွင် သူ့ရဲမက်တော် ရေတပ်သားတို့ ထပ်ရောက်တိုက်ခိုက်လေလျှင် ငါတို့စစ်သားတပ်သားများ မခံနိုင်၍ သံတွဲသို့ အလျှင်ဆုတ်လာရလေ၏။ သူ့ရဲမက်တော် ရေတပ်သားတို့ နောက်ထပ်၍ တိုက်ခိုက်လေရာ ငါတို့လှေတက်များကို ရကြလေ၏။ ငါတို့စစ်သည် ရဲမက်တို့သည် သံတွဲမြို့က ခံ၍တိုက်မည်ဟုစီရင်စဉ်တွင် သူ့စစ်သူကြီး ဘုရင်နောင်တို့ ကြည်းကြောင်းချီလာသည်။ စစ်အင်အား များလှသည်ဟု ကြားလျှင် သံတွဲမြို့တွင်မခံဝံ့၍ ရခိုင်မြို့သို့ ထွက်ခွာဆုတ်လာရကြလေသည်။

မင်းတရားရွှေထီးလည်း သံတွဲမြို့ကိုရတော်မူလျှင် သန်လျင်စား နန္ဒကျော်ထင်ကို သံတွဲတွင် အစောင့်ထားခဲ့၍ ရေအားကြည်းအား ရခိုင်မြို့တော်သို့ ချီတက်လာလတ်၍ လောင်းကြက်မြို့တွင် ကြည်းရေကြပ်၍ နေလာ၏။ ငါတို့ ရခိုင်မြို့တွင်းရှိ စစ်သည်သူရဲအပေါင်းတို့သည် များစွာသောလက်နက်ကိရိယာ၊ ဆင်မြင်း အလုံးအရင်းနှင့်တကွ ထွက်၍မြူချေသော် သူတို့စစ်သည်များ ရေကြည်းကြပ်၍ ဆန်တက်လာလတ်ရာ ပိုးချည်ကျွန်းတွင်တိုက်ကြလေသော် သူတို့ကြည်းတပ်စစ်သည်တော်များသည် လက်နက်ကိရိယာကိုစွန့်လျက် ပြေးကြလေကုန်၏။ ရေကြောင်းစစ်သည်တို့သည် ကွမ်းထင်းမျောသကဲ့သို့ ရေပြင်ပြည့်မျှ သေပျောက်ကြ

ကုန်၏။ ငါတို့စစ်သည်တို့သည် လက်နက်ကိရိယာ၊ ဆင်၊ မြင်း လှေတက် ရွှေငွေတို့ကိုများစွာရလိုက်၍ ဘဝရှင်မင်းပါကြီးအား ဆက်သလာကုန်၏။ ဘဝရှင် မင်းပါကြီးလည်း စစ်သူကြီးတို့နှင့်တကွ ရဲမက်မိုလ်ပါတို့အား များစွာ ဆုလပ်ပေးတော်မူ၏။

မင်းတရားရွှေထီးလည်း အလွန်ကြောင့်ကြစိုးရိမ်လျက် ကိုယ်တိုင်ကြပ်မတ်ပြီးသော်ချီတက်၍ ရွှေအိမ်နှင့် ကင်းပြင်ဝယ် နှစ်ဖက်ညှပ်၍တပ်တာတည်ပြီးမှ ချောင်းကြီးကို ဖောင်ဖြင့်တံတားခင်း၍ လှေပုံတက်ပုံတို့ဖြင့် ကြည်းကြောင်း၊ ရေကြောင်း၊ ကြပ်မတ်၍နေလာပြန်၏။ ငါတို့ ရဲမက်စစ်သည်မိုလ်ပါတို့သည် လိုက်လံကုန်လျက် တိုက်ခိုက်ပစ်ခတ်သောကြောင့် နေ့အခါ၌သော်ကား မပြုဝံ့လေကုန်။ ညဉ့်အခါ၌သာလျှင် ဆင်ကောင်း မြင်းကောင်းတို့ကိုရွေး၍ အရှေ့ဘက်မှ ရန်အောင်မြို့ကို လှုပ်ရှားထိခိုက်လာပေလျှင် ငါတို့မြို့ခံစစ်သည် ရဲမက်မိုလ်ပါတို့သည် လိုက်လံတိုက်ခိုက် ပစ်ခတ်လေသော် တလိုင်းစစ်မှူး၊ မြန်မာစစ်မှူး၊ သျှမ်းစစ်မှူးတို့သည် ဆုတ်ခွာထွက်ပြေးကြလေကုန်၏။ စစ်သည်သူရဲတို့လည်း မရေမတွက်သာအောင် ရေပြင်ပြည့်မျှ သေပျောက်ကြကုန်၏။

ထိုမှသည်တဖန် အနောက်သို့လှည့်ပြီးသော် မောင်းဆွဲ ဒိုင်းကျိုပြည့်အောင် တပ်တာချ၍နေလာကုန်၏။ ထိုသို့နေလာသည်ကို ငါတို့စစ်သူကြီး၊ ရဲမက်မိုလ်ပါတို့သည် လိုက်လံရှာဖွေ၍ မပြတ်မလပ်၊ ပစ်ခတ်ပြီးလျှင် သူ့စစ်သည်ကို မထွက်မသွားသာအောင် ခြံရံဆို့ပိတ်ကြလေကုန်၏။ ထိုသို့ခြံရံဆို့ပိတ်ထားလေသောအခါမှ မင်းတရားရွှေထီးသည် အလွန်ကြောက်လန့်သည်ဖြစ်၍ မင်းစေတမန်စေလွှတ်ပြီးသော ရွှေငွေရတနာများစွာနှင့်ဆင် မြင်းအစရှိသော အထူးထူးသောရတနာ ပဏ္ဏာကာရတို့ဖြင့် ဆက်သပြီးသော် မဟာမိတ်အဖြစ်ကတိသစ္စာပြုလျက် ပြန်လိုပါကြောင်းနှင့် အကြောင်းတောင်းပန်လာပေ၏။ ထိုသို့တောင်းပန်လာလျှင် ဘဝရှင်မင်းပါကြီးလည်း ရင့်ပြီးသော သဗ္ဗညုဘုရားလောင်းတို့ သဘောသည် ရန်သူအားသော်လည်း မေတ္တာကရုဏာ မကင်းစမြဲဖြစ်သောကြောင့် သနားတော်မူသည်ဖြစ်၍ ငါ့ကို ရန်ပြုလာသော ဤမင်းတရားရွှေထီးအား ငါဘောဇဏ်ပြုသဖြင့် မင်္ဂဖိုလ်နိဗ္ဗာန်နှင့် ဝေးကွာရန်အကြောင်းသာဖြစ်သည် နှလုံးသွင်းတော်မူ၍ မင်းတရားရွှေထီးအား ကတိသစ္စာတည်းဟူသောကြိုးဖြင့်ချည်ဖွဲ့လျက် ခွင့်ပြုတော်မူလေသည်။ မင်းတရားရွှေထီးလည်း သေဘေးမှလွတ်သောကြောင့် အလွန်ဝမ်းမြောက်သည်ဖြစ်၍ တလိုင်းမင်း သုရှင်တကာ ရွှတ်ပိဏ်မယားဖြစ်သော ပြည်ဘုရင် နရပတိနှမတော်ကို မင်းဆောင်မင်းယောင်နှင့်တကွ ဆက်သတော်မူခဲ့၍ သက္ကရာဇ် ၉၀၈-ခု၊ တပေါင်းလဆန်း ၉-ရက်နေ့ ပြန်တော်မူလေသည်။

ထိုသို့ မင်းတရားရွှေထီး ပြန်သွားပြီးသည့်နောက် အနောက်ဘက်မှာ သက်မင်းဖြစ်သောဥပခင်သည် ပင်းဝါမြို့၏ပြင် ရှင်ငယ်ကူးတို့ကို သိမ်းပိုက်ယူလေသည်ဖြစ်သောကြောင့် ဇန္တာတ်စသော စစ်သူကြီးသုံးဦးတို့ကို စေလွှတ်၍ တိုက်လေစေသော် သက်တို့သည်မခံနိုင်၍ ပျက်ခဲ့လျှင် ထိုမြို့တို့ကိုရလေ၍ သက်တို့၏လက်နက်ဥစ္စာ ပဏ္ဏာကာ ရတို့ကို သိမ်းယူခဲ့၍ ဘဝရှင်မင်းပါကြီးအား ဆက်သလေသော် စစ်သူကြီးတို့အား ဆုလပ်များစွာ ပေးတော်မူ၏။

ထိုနောက်တဖန်လည်း ပုဂံပြည်ကို သျှမ်းတို့အပိုင်ပြု၍ စကုစားစည်သူကျော်ထင်ကို သျှမ်းတို့တိုက်ခိုက်လာသောအကြောင်းနှင့် စစ်ပန်လာသည်တွင် သူရဲသုံးသောင်းကိုထည့်လိုက်၍ ဆင်ဖြူကျွန်းဥယျာဉ် ပုတိုင်အောင် သျှမ်းတို့ကိုအရုံးအတားပြု၍ ပြန်လာခဲ့ကြလေသည်။

ဤသို့ ရန်မာန်ခပ်သိမ်းတို့ကို ချမ်းငြိမ်းကြေပျောက်စေပြီးမှ ပြည်တွင်းပြည်ပ၊ ဂါမ နိဂမ ဇနပဒစသော ရွာကြီး ရွာငယ်မလွတ်အောင် နတ်ပြည်ကဲ့သို့ တန်ဆာဆင်စေလျက် ပဋ္ဌင်တူရိယာတီးမှုတ်စေခြင်း၊

ကခြင်း၊ သီခြင်းတို့ဖြင့် ပျော်စံတော်မူ၏။

ထိုသို့ ပျော်စံတော်မူသောအခါ၌ သူရဲကြီးငမန်းရဲသည် ရွာကြီးရွာငယ်တို့ကို ဒါးမြပြု၍တိုက်ဖျက်လေသည်။ ဘုရင်မင်းပါကြီးလည်း ငမန်းရဲ၏အရီးသားကို စစ်သူကြီးအရာခန့်ပြီးလျှင် နှမကိုလည်း ကိုယ်လုပ်မောင်းမပြုတော်မူပြီးလျှင် စစ်သူကြီးအား ငမန်းရဲကိုဖမ်းချေဟုစေတော်မူလိုက်၏။ စစ်သူကြီးလည်း များစွာသောရဲမက်တို့နှင့် ချီသွား၍ ငမန်းရဲမြစ်တွင်တိုက်ကြလေသော် ငမန်းရဲသည် မခံနိုင်၍ ပိန္နဲချောင်းကျွန်းသို့တက်၍ပြေးခဲ့၏။ စစ်သူကြီးလည်းတက်၍ထိုကျွန်းဝယ်ဝန်းလေသော် ငမန်းရဲသည် ညဥ့် နေ့သုံးရက်ပတ်လုံး ထမင်းမစားရသည်နှင့် စစ်သူကြီးက ထမင်းသေစာကိုပြု၍ခေါ်လေလျှင် မိမိသေအံ့သောဘေးကိုမမြင်ဘဲ ထမင်းဆာမွတ်လှသောကြောင့် ထွက်၍ ထမင်းသေစာကိုစားသောက်ရလျှင် ယစ်ဝ၍နေသည့်အခိုက် စစ်သူကြီးသည် ငမန်းရဲဦးခေါင်းကိုဖြတ်ယူပြီးလျှင် ဘုရင်မင်းပါအား ဆက်သလေ၏။ ဘုရင်မင်းပါလည်း ဤစစ်သူကြီးသည် မိမိယောက်ဖဖြစ်သူကိုမျှ ချစ်ခင်စုံမက်ခြင်း မရှိ၊ ရက်စက်စိမ်းကားသတ်လေသည်။ ငါသို့သောသူကိုကား အဘယ်မှာချစ်ခင်အံ့နည်းဟုကြံ၍ စစ်သူကြီးကို ကွပ်မျက်တော်မူလေသည်။

ထို့ပြင် မင်းပါကြီး၏ပြုလုပ်အပ်သော ကောင်းမှုတော်သည်ကား သရက်အုပ်ဝယ်လည်း စေတီနှင့် ရုပ်တုတော်ကို တည်တော်မူသည်။ ဝသဲဘက်တွင်လည်း ရွှေတောင်အောက်တွင် ဆင်းတုတော်ကို တည်တော်မူသည်။ မြောက်မျက်နှာတံခါးဝတွင်လည်း ရှစ်သောင်းလေးထောင်သော ရုပ်တုတော်တို့ကိုတည်တော်မူသည်။ ထိုရှစ်သောင်းလေးထောင်သော ဆင်းတုတော်၏အနီးအပါး၌ ရှစ်သောင်းသောကျောင်းတိုက်တို့ကို ဆောက်လုပ်လှူဒါန်းတော်မူလေ၏။

ဤသို့ ရုပ်တုဆင်းတု စေတီပုထိုး ကျောင်းတိုက်ကြီးများကိုတည်ထား ဆောက်လုပ်တော်မူပြီးလျှင် ရတနာမိုးရွာသကဲ့သို့ ကြီးစွာသောအလှူကို ပေးတော်မူသည်။ ထိုအခါ ဟံသာဝတီ ပဲခိုးပြည်ကြီးရှင် မင်းတရားရွှေထီးသည် ကသာအရပ်သို့ ဆင်ဖမ်းထွက်ရာတဲနန်း၌ ကျိန်းစက်တော်မူစဉ် သမိန်စောထွတ်၏ညီ လက်ဝဲဓားမှူးသည်လုပ်ကြံ၍ သက္ကရာဇ် ၉၁၂-ခု၊ ကဆုန်လပြည့်ကျော်တရက်၊ ဗုဒ္ဓဟူးနေ့သို့အဝင် ညဥ့်သုံးချက်တီးကျော်တွင် လွန်တော်မူလေသည်။

ထိုအခါ တလိုင်းနန်းရိုး သမိန်စောထွတ်သည် မင်းတရားရွှေထီးကို လုပ်ကြံစေပြီးသော် မိမိနှင့်အလိုတူသော အမှုးအမတ်ခေါင်းကြီးတို့ကို သစ္စာပေးပြီးလျှင် သမိန်စက္ကဝါဟူသောအမည်ကိုခံ၍ စစ်တောင်းမြို့တွင် တလခွဲခန့်နေပြီးသော် ဟံသာဝတီ ပဲခိုးပြည်၌ မြေပြင်အလုံးဝယ် မင်းပြုတော်မူလေသည်။

ထိုသမိန်စောထွတ်နှင့် တဘာတည်းဖြစ်သော မင်းသားသည်လည်း ဟံသာဝတီ ပဲခိုးပြည်ဝယ် လေ့အပေါင်းနှင့်တကွ ရေပြင်အလုံးဝယ် မင်းပြုတော်မူလျက် ဗလစက္ကဝါဟူသောအမည်ကို ခံတော်မူလေသည်။ ထိုမင်းညီနောင်နှစ်ဦးတို့သည် မြေပြင်ရေပြင်တို့ကို လုကြကုန်သည်ရှိသော် ညီတော်ဗလစက္ကဝါသည် အားချင်းမတန်၍ ထီးဖြူမြောက်စည်နှင့်တကွ ငါတို့ရခိုင်ပြည့်ရှင် မင်းပါကြီးထံသို့ နှမတော်ကို လက်ဆောင်ပြုလျက် ဆက်သဝင်ရောက်လာပေသော် ဘဝရှင်မင်းပါကြီးလည်း ထိုတလိုင်းမင်းသားကို သားတော်ကဲ့သို့ စည်းစိမ်ချမ်းသာပေးတော်မူ၏။

ထိုဘဝရှင်မင်းပါကြီးသည် မျောက်သားတော်စောကောက်မတွင် ဖွားမြင်တော်မူသော သားတော်မင်းတိက္ခာကို အိမ်ရှေ့အရာ အပ်နှင်းတော်မူလေသည်။

ထိုမင်းပါကြီး၏ ကိုယ်လုပ်တော်စောနန္ဒီတွင် သားတော်ဥပရာဇာနှင့် သမီးတော် စောသန္တာကို ဖွားမြင်တော်မူသည်။

အထက်ဘဝရှင် ကလမသျှာမင်းဝယ် ငယ်က ကိုယ်လုပ်တော်ဖြစ်သော စောပရောင်၏ ဆရာရဟန်းတော်

တပါးသည် ဆေးဝါးမန္တန်၌ အလွန်လိမ္မာတော်မူ၏။ တရံရောအခါ ဘဝရှင်ကလမသျာမင်း၏တင်တော်၌ အနာဖြစ်လတ်လျှင် မြို့တွင်းမြို့ပြင်ရှိဆေးသမားတို့သည် ပြေသွားပျောက် ငြိမ်းစေခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ ပြင်းစွာသော ဒုက္ခဝေဒနာကိုခံရတော်မူလေသည်။ ထိုအခါ ကိုယ်လုပ် စောပရောင်က ကျွန်မ၏ဆရာဖြစ်သော ရဟန်းတော်သည် ဆေးမန္တာန်၌ အလွန်လိမ္မာပါသည်ဟု လျှောက်လေလျှင် ဘဝရှင်ကလမသျာမင်းသည် ထိုရဟန်းကိုပင့်ခေါ်၍ ဆေးကုသစေရာ တညဉ့်နှင့် တမွန်းတဲ့သော် ပြည်ပေါက်၍ ငြိမ်းချမ်းလေလျှင် ကလမသျာမင်းကြီးနှစ်သက်၍ ငါ့ဆရာအား တပါးသော ဆုကိုမပေးပြီ၊ ငါ့ကိုယ်လုပ်တော်ဖြစ်သော စောပရောင် ကိုသာ အိမ်ထောင်ပြုရန်ယူလေဟု ကိုယ်လုပ်တော် စောပရောင်ကို သင်္ကန်းကိုယ်ဝန်နှင့်ပင် ပေးစားတော်မူလေ၏။

ထိုကိုယ်လုပ် စောပရောင်ဝယ် သူနာဗီနှင့် စောရှင်စောဟူ၍ သမီးတော် နှစ်ယောက်ကျန်ရစ်ခဲ့၏။ ထိုနှစ်ယောက်တွင် အကြီးဖြစ်သော သူနာဗီကို မင်းသူလှသည် အိမ်ထောင်လေ၏။ သူနာဗီလွန်ခဲ့လျှင် ဘဝရှင်မင်းပါ အလိုတော်မပြည့်မီ နှမတော် ရှင်လှထွတ်ကို အိမ်ထောင်ပြုလေ၏။ ထိုအခါဝယ် ကလမသျာသမီးဖြစ်သော စောရှင်စောသည် ငယ်ကခဲ့အိုဖြစ်သောကြောင့် မင်းသူလှအိမ်သို့ မပြတ်လာပေ၏။ ဘဝရှင်မင်းပါလည်း အိမ်ထောင်နိမ့်က လူးလားမပြတ် နှမတော်အိမ်သို့ ရောက်လာ၏။ ထိုအခါ စောရှင်စောကိုမြင်လျှင် ဤသူငယ်မသည် ငါနှင့်ထိုက်၏ဟု ရကြောင်းပြုလျက် အိမ်ထောင်ပြီးသော် ဆင်ကဲအောင်ထင် သမီးဖြစ်သော ငယ်မျောက်သား စောကောက်မနှင့် တယောက်တအိမ် သီးခြား၍ ထားတော်မူလေ၏။ ထိုနောက် ဆင်ဖြူရှင် သမီးတော် ဖွားစောမင်းကိုရလေမှ အရီးတူမတော်ရင်း ဖြစ်သောကြောင့် မ,စ ပုံပြင်ပါဆို၍ တအိမ်တည်း ထားလေသည်။ အိမ်နိမ့်မျောက်သားတော် စောရှင်စောတွင် ဖွားတော်သွေးဟူသော သမီးတော်လည်းတယောက်၊ ငယ်ကဖွားတော်ထွေးဟူသည်ကို ကြီးမှ မင်းဖလောင်း ခေါ်သော သားတော်လည်းတယောက် နှစ်ယောက်ဖွားမြင်တော်မူသည်။ မင်းအလီခင်မြေး ဖွားစောမင်းတွင် စောမိတော်ဟူသော သမီးတယောက် ဖွားမြင်တော်မူသည်။ စောလှထွတ်တွင် စောဖြူနှင့်ဖွားတော်မယ်ဟူသော သမီးတော်နှစ်ယောက် ဖွားမြင်တော်မူသည်။ ကိုယ်လုပ်တော်စောမင်းလတ်တွင် မင်းရန်အောင်နှင့် မောင်ကြီးထွေးဟူသော သားတော်နှစ်ယောက် ဖွားမြင်တော်မူသည်။

ဤသားတော် သမီးတော်ပေါင်း ခုနစ်ယောက် တို့တွင် သားတော် အိမ်ရှေ့မင်းတိက္ခာကို ညီတော် သံတွဲစား မင်းအောင်လှသမီး မှောက်တော်မနှင့် ထိမ်းမြားရာဝယ် သားသုံးယောက်၊ သမီးတယောက် ဖွားမြင်မှ မှောက်တော်မ လွန်ခဲ့လေလျှင် သမီးတော်စောသန္တာနှင့် ထိမ်းမြားပြန်လေသည်။ သားတော် ဉပရာဇာကိုကား မြေးတော်နှင့်ထိမ်းမြား၍ ဒွါရာဝတီ သံတွဲမြို့ကိုစားကျေး ပေးတော်မူသည်။ သားတော် ဖွားတော်ထွေး မင်းဖလောင်းကိုကား သမီးတော် စောမိတော်နှင့် ထိမ်းမြား ၍ များစွာသော ကျွဲ၊ နွားချည်း လယ်တာနှင့်တကွ စစ်တံတင်မြို့ကို ပေးတော်မူလေသည်။ ထိုမှကြွင်းသော သမီးတော် သားတော်တို့ကိုလည်း အထိုက်အလျောက် ချီးမြှောက်၍ သူကောင်းပြုတော်မူသည်။

စောမှောက်တော်မတွင်ဖွားမြင်သော အိမ်ရှေ့မင်း သမီးတော် စောဘုန်းထွတ်ကို တဆဲ့နှစ်နှစ်တွင် ထီးဖြူ မြှောက်စည်နှင့်တကွ ဘိသိက်သွန်း၍ နန်းတက်မိဘုရား မြှောက်တော်မူလေ၏။ ထိုဘဝရှင်မင်းပါကြီးကား ရင့်ပြီး သော ဘုန်းသမ္ဘာပညာအဟုန်နှင့် ပြည့်စုံတော်မူသည် ဖြစ်၍ အရပ်ရှစ်မျက်နှာမှ မင်းစေတမန်စာသဝဏ်ဆက်သ ခယလာရောက်ဖူးမြင်လာကြသည်။ သမုဒ္ဒရာရေပြင်ခရီး ဖြင့်လည်း သင်္ဘောလှေကြီး အသီးသီးလာရောက် ဖောက်ကားရောင်းဝယ် ဆက်သွယ်မပြတ် ရောက်ကြလေ

သည်ဖြစ်၍ အလွန်လျှင် စည်ပင်သာယာဝပြောစွာဖြင့် ချမ်းသာရှင်လန်း စံမြန်းနေထိုင်တော်မူလေသည်။ ထိုဘဝရှင် မင်းပါကြီးကား အိမ်နိမ့် ၃၉၊ သုံးဆဲ့ကိုးနှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၆၁၊ ခြောက်ဆဲ့တနှစ်။ သက္ကရာဇ် ၉၁၅-ခုတွင် နတ်ပြည်စံတော်မူလေသည်။ နံတော် စနေသားတည်း။ ၁။

ဤသည်ကား ရာဇဝင်ဟောင်း၊ ဆရာငမည် ရာဇဝင်တို့၌လာသည်ကို သင့်ရာဆင်ခြင်၍ စီရင်ရေးသား ပြဆိုအပ်သော မင်းပါကြီးအကြောင်းတည်း။

ဒညဝတီအရေးတော်ပုံ၌ကား စောမွန်မင်းညီ၊ အလီခင်မင်းနောက် ရှစ်ဆက်မြောက်တွင် သစာတမင်း လက်ထက် ဘထွေးတော် ဘစောသီရိကို သံတွဲမြို့စား ပေးတော်မူလေသည်။ သံတွဲစား မင်းဖြစ်ခါနီးလေသော် တဘောင်ပေါ်သည်ကား။

ကြွက်ကားသုံးမည်၊ ရှေ့ဖျားတည်၊ ကြိစည် ကောင်းခြင်း၊ သံတွဲမင်း၊ ဖြစ်လာမည်လည်း၊ တော်သလင်း၊ သံတွဲ မြွေဟောက်၊ အစွယ်ပေါက်သည်၊ လက်ကောက်ဝတ် လောက်ပြီးတကား၊ ကြွက်ကားစဉ် လျက်၊ အဆက်နဂါး၊ နောက်ထားရေသူ၊ ကိုးဆက်ဟူ၏၊ မြောက်ဦးအပါး၊ အိမ်ရှေ့နား၌၊ နဂါးသုံးခွေ ခွေလတ် မည်ဟူ၍ သိုက်စာတ်တဘောင်ပေါ်လေသည်။

ယင်းသို့ သိုက်စာတ်တဘောင်ပေါ်သည့်အလိုက် သစာတမင်းလွန်လေလျှင် သံတွဲစားချီလာ၍ ထီးနန်း စိုးအုပ်တော်မူ၍ မင်းပါကြီးဟူသောအမည်ကို ခံယူတော်မူသည်။

(ဤ၌ တဘောင်ပေါ်သည်ကိုဆိုရာ ဒညဝတီ အရေးတော်ပုံ၌ ဂျွတ်လေးသုံးဆယ်၊ ရှေးကတည်ဟူ၍ ပါရှိလေသည်ကို အချို့ရာဇဝင်သစ်၌ ဂျွတ်လှေသုံးဆယ်၊ ရှေးကတည်ဟူ၍ ပျင်ဆင်ရေးသားလေသည်။ အဓိပ္ပာယ် ကာရန်မသင့်လေ။ အင်းစောက်ရာဇဝင်၌ ကြွက်ကား သုံးဆယ်၊ ရှေးဖျားတည်ဟူ၍ဆိုလေသည်။ ကာရန်မသင့် ပင် ဖြစ်လေသည်။ ထို့ကြောင့် ကြွက်ကားသုံးမည်၊ ရှေ့ဖျားတည်၊ ကြံစည်ကောင်းခြင်း၊ သံတွဲမင်းဟူ၍ အဓိပ္ပာယ်ဖြောင့် ကာရန်ဖြောင့်အောင်ရေးသား လိုက်ပေ သည်။ အဓိပ္ပာယ်ဖြောင့်ယူရန်မှာမင်းစောမွန်၊ ဘစောဖြူ မင်းဒေါလျာတို့သည် ကြာသပတေးသားကြွက်နံ မင်းသုံးဆက် ရှေးဖျားဖြစ်ပြီးနောက် သံတွဲမြို့စား စနေ နံ့ဖွား၊ နဂါးမြွေဟောက်ဖြစ်သော မင်းပါကြီး မြောက်ဦးမြို့၌ ဖြစ်ထွန်းစိုးစံတော်မူလျက် မင်းကိုးဆက် မြောက်ဖြစ်လတ္တံ့။ ထိုကိုးဆက်တွင် မင်းပါကြီး၊ မင်းဖလောင်း၊ မင်းစနေ အားဖြင့် စနေနံမင်း နဂါးသုံးဆက်၊ သုံးခွေဖြစ်လတ္တံ့ဟူ၍ အဓိပ္ပာယ်ဖြောင့်ကိုယူရမည်။ ကာရန်ဖြောင့်ယူရန်မှာ ကြွက်ကားသုံးမည်၊ ရှေ့ဖျားတည်၊ ကြံစည်ဟူ၍ 'ည' သတ်ချင်း အညီစပ်သင့်သည်။ သုံးဆယ်ဟူသော 'ယ'သတ်နှင့် 'တည်'ဟူသော 'ည' သတ်ကို ယှဉ်းချွတ်အောင် မစပ်ရသောကြောင့် ကာရန်ဖြောင့်'ည' သတ်ချည်းယူရမည်။ မင်းခေါင်ရာဇာနှင့်သော်ကား ကြွက် = လေးမည်ပင် ယူသင့်သည်။ ဤကား အမှာစကားချပ်။)

သားတော် မင်းတိက္ခာကို အိမ်ရှေ့အရာပေးတော် မူသည်။ သားတော် ဥပရာဇာမင်းသားကို သံတွဲမြို့စား ပေးတော်မူသည်။ သားတော်ချစ်နှောင်း မင်းဖလောင်းကို စစ်တံတင်မြို့စား ပေးတော်မူသည်။

(ဤအရာတွင် ရာဇဝင်ဟောင်းတို့၌ သားတော် မင်းတိက္ခာကို အိမ်ရှေ့နှင်းတော်မူကြောင်း၊ ဥပရာဇာကို သံတွဲမြို့စားပေးတော်မူကြောင်း၊ မင်းဖလောင်းကို စစ်တံတင်မြို့ စားပေးတော်မူကြောင်းနှင့် ဆိုလေသော ကြောင့် ရာဇဝင်ဟောင်းတို့အရ ရေးပြလိုက်သည်။ ဤကား စကားချပ်)။

ယင်းသောအခါ ကုလားဒီလီပဆာမင်းက ဓောက်ပေါက်သျှာဟူသောအမည် မင်းတံဆိပ်ကို ပေးအပ်လာသော် မင်းပါကြီးက အဓိန့်ရှိသည်ကား ဘိတော်မင်းစောမွန်ကို အရှေ့ပြည်အင်းဝ ပထမမင်းခေါင် သား မင်းရဲကျော်စွာ တိုက်ဖျက်လေရာ သတ္တဝါတို့

ကပ်အလျောက် နှစ်ဆဲ့နှစ်နှစ်တို့ပတ်လုံး သက်၊ ပြူ တလိုင်းတို့မင်းမူလျက် တိုင်းပြည်ပျက်စီး၍ သက္ကရာဇ် ၈၉၃-ခုခန့်ရှိလေရာ ဒီလီပဆာမင်းထံ ဘင်္ဂါတဆဲ့နှစ်မြို့ကို ပေးအပ်စစ်ကူတောင်းလေသည်။ ကျေးဇူးအလျောက် မင်းတဆဲ့နှစ်ဆက် နှစ်ပေါင်းတရာကျော်ခန့်ကြာလေပြီ။ ရှေ့မင်းတို့စိုးပိုင်သော ထုံးစံအတိုင်း နိုင်ငံတော် ကုလား ဘင်္ဂါတဆဲ့နှစ်မြို့၊ မောက်သူဇာထိငါ သိမ်းယူတော်မူမည်။ စစ်မထိုးလိုသော် ဘင်္ဂါတဆဲ့နှစ်မြို့၊ ကုလား ဒေဝန်းဌာန တို့ကိုလွှတ်လိုက်စေ အမိန့်တော်ရှိလျက် ရောက်လာသော ကုလားအမတ်ကာတီကို ပြန်စေတော်မူသည်။

ယင်းသို့ ပြန်စေတော်မူပြီးမှ ကုလားပြည်သို့ ချီတော်မူမည်ကြံရာ စနည်းနာစေသော် ကုလားကိုနိုင်လို၊ စားဖိုမှာမီးထဲ့၊ ဝသဲတောင်ကို ထီးတင်၊ ကုလားကို ရှင်ပြုဟူ၍ သူငယ်တို့ဆိုကြသော တဘောင်ကိုကြားခဲ့၍ မင်းကြီးထံလျှောက်လေသော် အမတ်ပညာရှိ အမျိုးစဉ် ဆက်မှလာသောသူ ကောင်းကျော်ထင် စားလျှောက်သည် ကား---အရှင်မင်းမြတ်၊ ကုလားကိုနိုင်လို၊ စားဖိုမှာ မီးထဲ့ အလိုသော်ကား သဘောဆိပ်၊ ပေါင်းထွတ်သည် စားဖို ဖြစ်ပါသည်။ ကုလားမီးဆင်ပလီမုတ်ဆိတ်ကို အခြားမှာမရှိစေရ၊ ပေါင်းထွတ်တွင်သာထားရပါမည်။ ဝသဲတောင်ကို ထီးတင်အလို ဝသဲတောင်ထိပ်၌ နံတော် ဘုရားတည်ရပါမည်။ ရှင်ပြုအလိုမှာ ကုလားရှိသမျှကို ဆံပင်မထားစေရ။ ခေါင်းတုံးရိတ်စေရပါမည်။ ရှေးသိုက် ဟောင်းတွင်လည်း ကုလားပုဖွန်၊ ဆဲ့နှစ်တန်ကို မလွန်ရာ ဟူ၍လာရှိပါသည်။ မင်းဆဲ့နှစ်ဆက်လည်း အရှင်မင်းမြတ် တွင် ဇေ့ပါသည်။ နိုင်ငံတော် ဘင်္ဂါတဆဲ့နှစ်မြို့ကို အရှင် မင်းမြတ်လက်ထက်တော်တွင် ရမြဲရပါမည်ဟု လျှောက်လေရာ ကောင်းကျော်ထင်စားတို့ ဘိုးဘေးဘိုး ဘတို့ ပေးမြဲဘွဲ့ဝိမလလဟူသော အမည်ကိုပေးတော်မူသည်။

ယင်းသို့ အမတ်ပညာရှိလျှောက်သောအမှုတို့ကို စီရင်ပြီးမှ ကုလားပြည်သို့ ချီတက်တော်မူမည်။ ကြည်းကြောင်း ရေကြောင်း တပ်ပေါင်းစည်းကြပ် ခန့်ရပ်တော်မူသည်ကား။ ။

ပြည့်ရှင်မင်းကြီး၊ မယူမြစ်ညာ ပဲလွန်းချောင်း ဂေါ်တော်ပလ္လင်လမ်းမှ လှံ့ကိုင်ဒါးစွဲ သူရဲနှစ်သောင်း၊ ရှိုးစားချစ်သူ တဗိုလ်၊ ရမ်းပြည့်စား ရဲအောင်နိုင်တဗိုလ်၊ ဒိုင်းကိုင်ကာစွဲ သူရဲနှစ်သောင်းမှာ စိန့်တင်စားကျော်သူ တဗိုလ်၊ မယူစား ရန်အောင်ဖေယျတဗိုလ်၊ ကမ်လေးကိုင် သူရဲတသောင်းမှာ ဒါးလက်စား ခင်ညိုတဗိုလ်၊ သူရဲပေါင်း ငါးသောင်းတို့ကို အမတ်ဆင်ကဲကြီးတပ်တော်ဦးကချုပ်။

ပြည့်ရှင်မင်း အရံတော်သူရဲကောင်း ကိုယ်တော် ရံ အမှုထမ်းလေးသောင်း၊ ဝင်းတော်လေးမျက်နှာတွင် ဝင်းသားနှစ်သောင်း၊ သူရဲခြောက်သောင်းတို့မှာ ဝင်းမှူး လေးယောက်တဗိုလ်၊ ကိုယ်ရံတော်တပ်တော်နောက် လှံ့ဒါးစွဲ သူရဲတသောင်း၊ ကင်းစားသတိုးကျော် တဗိုလ်၊ ကမ်လေးကိုင်သူရဲတသောင်းမှာ ဝင်းစားစနေတဗိုလ်၊ ဒိုင်းကိုင်ကာစွဲ သူရဲတသောင်းမှာ မီးစားလက်ယာကျော် တဗိုလ်၊ သိုင်းတပ်သူရဲတသောင်းမှာ မအီစားဘီလတဗိုလ်၊ ကိုယ်တော်ရံ သူရဲတသောင်းမှာ ပန်းတင်စားသတိုး အောင် တဗိုလ်၊ ရဲမက်ငါးသောင်းကို အမတ်ဒါးပိုင်ကြီး တပ်တော် နောက်ကချုပ်။

လက်ဝဲစစ်ကဲ ဦးရာဇ်တောင်စား မင်းလှတင်၊ လက်ယာစစ်ကဲ မယူစားမနုဟာတို့ နှစ်ယောက်ကို တပ်မရှေ့နောက် အုပ်ခန့်တော်မူသည်။

သားတော်အိမ်ရှေ့မင်းတိက္ခာမှာ မယူမြစ်ကိုထွက် ၍ ပင်လယ်ကြောင်းချီသည်တပ်တွင် လှံ့ကိုင်ဒါးစွဲ သူရဲတသောင်းမှာ အမ်းစားချစ်သူတဗိုလ်၊ ကမ်လေးကိုင် ကာစွဲ သူရဲတသောင်းမှာ မာန်အောင်စား သတိုးမင်းဖြူ တဗိုလ်၊ သိုင်းတပ်သူရဲတသောင်းမှာ စစ်တွေစားတဗိုလ်၊ ကိုယ်တော်ရံ သူရဲတသောင်းမှာ သားတော်ကိုယ်ရံတော် ဖြစ်သည်။

ကစ္စပနဒီမြစ်ညာ၊ ပေချောင်းဖျားကျောက်မသာ ကျောက်ဖျာထက်၊ ဆိတ် ချွေးမွေးတောင်လမ်း၊ သားတော် သံတွဲစား ဥပရာဇာတပ်၊ ဒါးကိုင်လှံ့စွဲ သူရဲတသောင်း၊

ယင်းသောအခါ စီးတော်ဆင် ဇီဝစိုးသည် ကညင်သစ်တပင်ကို မာန်ဝင်တော်မူ၍ ထိုးလေရာ ကညင်ပင် အမြစ်ကလဲကြောင်းနှင့်ဆင်ကဲတို့ လျှောက်လာသည်အတွင်း မိုးစဲကျွန်းသူကြီး ကောင်းလှအောင်ကလည်း ငါးကျွဲတကောင် ဆက်လာသည်။ ထိုတိတ်နိမိတ်နှစ်ခုကို အမတ်ပညာရှိ ဝိမလကျော် လျှောက်ထုံးသော်ကား ကာလာဝကာ၊ ဂဇေယျနှင့်၊ ပဏ္ဍာရခေါ်၊ ပေါက်ကျော်တမျှ၊ ပိဂ်လဟု၊ စသည်ကျော်ဟိုး၊ ဆင်ဆယ်မျိုးထက်၊ တန်ခိုးအလွန်၊ ဆဒ္ဒန်ပြောင်မြတ်၊ ပတ်ရတ်ညီစွာ၊ လက္ခဏာကား၊ သန္တာစွယ်ရောင်၊ အာပေါင်ဖွေးဖွေး၊ ဖွေးဖွေးဖြူစင်၊ ငွေသွင်အလား၊ စွယ်ဖျားအညီ၊ လက်ယာချီ၍၊ နာရီနှစ်ဖက်၊ နားရွက်နားနှ၊ မစုမညွတ်၊ သရပတ်သို့၊ မပြတ်မစောက်၊ နောက်ရှေ့ဦးကင်း၊ မစင်းမကုံး၊ ကိုယ်လုံးကျော့ရှင်း၊ ရေဆင်းညာတင်၊ လေးခွင်စက်ဝန်း၊ မချွန်းမပု၊ ရှစ်ခုအစွန်း၊ လဝန်းသဏ္ဌာန်၊ မင်းရေခံသို့၊ အသံသွန်နည်း၊ ရေကြည်းနှစ်သွယ်၊ ညာဘယ်မရွေး၊ အပြေးအသွား၊ နဂါးဦးချီ၊ ရာသီသုံးမည်၊ ငါးတည် သုံးချက်၊ မုန်သက်မကြူး၊ ထိပ်ဦးလည်တိုင်၊ ကြံ့ခိုင်စွမ်းသန်၊ ရဲမာန်တည်းတည်း၊ ခြေသည်းနေချက်၊ ကျောက်မျက်နီလာ၊ ပမာမခြား၊ နှာမောင်းဖျားတွင်၊ ပတ္တမြားရိပ်၊ အရောင်ဖိတ်သို့၊ အဆိပ်သုံးထွေ၊ အနေလေးပါး၊ အစားသုံးချက်၊ မကွက်မသန်း၊ တောင်ကျွန်းဖွေ့မျှ၊ ဆင်ဟူသမျှ၊ မာနမပြိုင်၊ ဦးဆိုင်မတန့်၊ ကြောက်လန့်ရှောင်ပြေး၊ မြသွေးနှာချပ်၊ ပြီးခပ်ရာဟု၊ စကျူတော်မြဲ၊ ပုလဲအာနီ၊ စုံညီမယွင်း၊ ဆင်များမင်းကား၊ နေ့ချင်းမလောက်၊ ခြောက်ဆယ်ခန့်ကွာ၊ ယူဇနာကို၊ မကြာလျှင်မြန်၊ နေ့ချင်းပြန်သည်၊ ဆဒ္ဒန်ပေါက်ပြောင်ယာဉ်ကျော်၊ ဆင်တော်မြတ်မျိုး၊ ဇီဝစိုးလျှင်၊ အောင်မင်္ဂလာ၊ စကြာကွန့်မြူး၊ တပ်တော်ဦးတွင်၊ ကညင်သစ်ကြီး၊ ကျိုင်းထီးတမျှ၊ ပမာဏာကို၊ ငင်ချထိုးလှဲ၊ မြိမ့်သဲပွဲတင်၊ ရှစ်ခွင်တုန်ရိုက်၊ တိုက်စက္ကဝါ၊ နံ့စွာကြောက်မင်း၊ မာန်သွင်းအလို၊ ထိုကုလားပြည်၊ မတည်ထွားညက်၊ ပျက်မည်မလွဲ၊ ငါးကျွဲဆက်လာ၊ ဘင်္ဂါဆွဲနှစ်၊

ပန်းတော်စား ရန်မျိုးအောင်တဗိုလ်၊ ကမ်လေးကိုင် သူရဲတသောင်းမှာ မြို့သစ်စား ကျော်စံတဗိုလ်၊ ဒိုင်းစွဲကာစွဲ သူရဲတသောင်းမှာ တောင်ကုတ်စား ရာဇသူတဗိုလ်၊ သိုင်းတပ်သူရဲတသောင်းမှာ လမူးစား ထွန်းအောင်တဗိုလ်၊ ကိုယ်တော်ရံသူရဲတသောင်းမှာ သားတော်ကိုယ်ရံတော် ဖြစ်သည်။

စီးတော်ဆင် ဇီဝစိုးကို တိုက်ဆင်ခုနစ်ရာအရံနှင့် ဒါးကိုင်ကာစွဲ၊ သိုင်းတပ်၊ ကမ်လေးကိုင်အစုစု သူရဲတသောင်း၊ ကိုယ်တော်ရံသူရဲတသောင်း၊ ရဲမက်နှစ်သောင်းမှာ ကုလားတန်စားကို အချုပ်ဆင်တပ်၊ ကြီးကြပ်ခန့်တော်မူ၍ မြက်ရေနီးရာ တောင်ကမ်းမကြီး၊ ဆင်တော် မပင်ပန်းစေရ။ စိန်တင်ချောင်းဖျား၊ အော်ရမလမ်းဖြင့်ဆောင်ယူစေသည်။

စစ်တက်ချီတော်မူလျှင် အရှေ့တောင်စဉ်ကျေးရွာလမ်းပေါက်များတွင် ကိုယ်တော်ရံ ရဲမက်တော် နှစ်သောင်းနှင့် အမတ်ရာဇာကြီးကို အချုပ်ခန့်တော်မူ၍ တောင်စဉ်ချောင်းစေ့ အသီးအသီးတပ်နှင့် ထားတော်မူခဲ့သည်။ ပြည်စောင့် မြေးတော် စကြဝတေးနှင့် အမတ်ပြည်စိုးကြီးတို့အား လှံဒါး ကမ် သိုင်းကာ၊ ဒိုင်းစွဲသူရဲနှစ်သောင်း၊ ကိုယ်ရံတော် သူရဲတသောင်း ပေးတော်မူခဲ့သည်။

ချီတော်မူရာ သုံးသွယ်သုံးလမ်းများ၌ အရေးအကြောင်းရှိသော်ငြား၊ မြို့တွင်းအရေးအကြောင်းရှိသော်ငြား ပေါက်ရောက်လျှောက်တင် လျင်မြန်စွာ သိတော်မူရအောင် ပိန်နဲချောင်းစား ဓေယျဗိုလ်အမတ်သို့ ခြေလျင်သည်တယောက်ကို အပ်တော်မူခဲ့သည်။

ထိုသို့ အသီးအသီးခွဲဝေစေစပ် ရှေ့နောက်လုံအောင်စီရင်တော်မူပြီးမှ သက္ကရာဇ် ၈၉၄-ခု၊ တန်ဆောင်မုန်းလဆန်း ၉-ရက်နေ့ အောင်တပ်ထွက်တော်မူသည်။

(ဤအရာ၌ သက္ကရာဇ် ၈၇၉-ခုဟူ၍ဆိုလေ၏။ ရာဇဝင်ဟောင်းတို့နှင့်ညှိ၍ ၈၉၄-ခုဟု ရေးလိုက်သည်။ ဤကား စကားချပ်)။

ပုဆစ်ညွှတ်တုပ်၊ လက်အုပ်ရှက်မြှောက်၊ ရွှေစက်အောက်သို့၊ ပို့ရောက်လာပြီ၊ ဒီလီပဆာ၊ ဓာတာနွမ်းညှိုး၊ ခိုကိုးမည်ချည်း၊ အလဲလှည်း၍၊ ကပ်ဆည်းဝင်လာ၊ ရတနာတွေ၊ မိုးသို့ဇွေမျှ၊ ကျက်သရေစုံ၊ ရွှေဘုံရိပ်ဖွား၊ ကုလားမင်းသွေး၊ ဆင်းငြိမ့်လေးကို၊ အရေးတော်တန်၊ ဆက်မည်မှန်သည်၊ လျှင်မြန်ပြီးစီး ဘုန်းနေမီး။

ဟူ၍ အမတ်ဝိမလကျော် လျှောက်လေသော် စစ်ထွက် တပ်တော်ကပင် စစ်တကောင်းမြို့သည် ရှေးဘိတော် ဘေးတော်တို့လက်ထက် အမတ်ဝိမလတို့ အမျိုးစားရိုးမြို့ဖြစ်သည်အမိန့်တော်ရှိ၍ ဝိမလအမတ်အား စစ်တကောင်းမြို့ကို မြို့စားပေးတော်မူသည်။

သားတော် အိမ်ရှေ့မင်းမှာ သက္ကဒါန်လေ့တော်၊ အသီးအသီးရဲမက်ဗိုလ်ခြေတို့ စီးသည့်လှေများမှာ လွှမ်းကြင်အာတပ်၊ ဘားမဲ့၊ စပ်တင် လှေငါးရာ၊ သူရဲငါးသောင်းနှင့် မယူမြစ်ကိုထွက်၍ ပင်လယ်ကြောင်း ချီလေသည်။

သားတော်သံတွဲစား ဥပရာဇာလည်း ကစ္ဆပနဒီမြစ်ညာလက်ဝဲဘက် ပေချောင်းကိုဆန်၍ ကျောက်ကုလားကျောက်ဖျာမြို့ရွာက ခွေးမွေးတောင်၊ စိုင်တမော့လမ်း ချီလေသည်။

ပြည့်ရှင်မင်းကြီးလည်း သက္ကရာဇ် ၈၉၄-ခု၊ တန်ဆောင်မုန်းလဆန်း ၁၁ ရက်နေ့၊ ကစ္ဆပနဒီမြစ်ကို ကူးတော်မူ၍ သမထီးပြွန်လမ်းချီသွားရန် ချောင်းဝတွင် ချရပ်တော်မူပြီးသော် အောင်သာမြို့ သမုတ်တော်မူသည်။ ထိုကချီသွား၍ မလ္လာယုနဒီ မယူမြစ်အရှေ့ဘက် ရသေ့တောင်တွင် တပ်ချတော်မူ၍ ကိန်းသာမြို့ သမုတ်တော်မူသည်။ ထိုကချီသွားတော်မူ၍ လေညှင်းပြင်တွင်ချတော်မူရာ ပဋ္ဌဝတီမြို့ သမုတ်တော်မူသည်။ ထိုကချီသွားလျှင် ပဲလွန်းဆိပ်တွင် ချတော်မူ၍ သီရိဝတီမြို့ သမုတ်တော်မူသည်။ ထိုကချီလေသော် ဒေါင်းပြင်မှာ ချတော်မူ၍ ကြက်သရေကြီးမြို့ သမုတ်တော်မူသည်။ ထိုကချီသွားရာ ဂေါ်တော်ပလ္လင်မှာချတော်မူ၍ သုဝဏ္ဏမြို့ သမုတ်တော်မူသည်။

ထိုကချီလေ၍ သလူချောင်းကူးတွင် ကုလားအမတ် လေးယောက်လူတသိန်းနှင့် ခံရပ်နေသော စစ်ကိုတွေ့လေလျှင် ပြည့်ရှင်မင်း ရင်ဆိုင်တူရှုချရပ်တော်မူ၍ တပ်တော်ဦးချုပ် အမတ်တော် ဆင်ကဲကြီးကို သလူတောင်ရင်းကချီသွားစေလျက် ကိုယ်ရံသူရဲနှစ်သောင်းနှင့် ညှပ်ညှပ်စီးနင်းဖိတိုက်စေရာ ကုလားတပ်ပျက်စီး၍ပြေးကြလေသည်။ ထိုအရပ်ကို စစ်တလင်းအောင်မြေမြို့ သမုတ်တော်မူသည်။ ထိုကချီတော်မူလေ၍ သမိုးတောင်တွင်ချတော်မူသည်။ ထိုအရပ်ကိုဆီမီး တောက်မြို့သမုတ်တော်မူသည်။ ထိုကချီလေသော် ဝံတောင်တွင်ချတော်မူ၍ ရေချမ်းဝတီမြို့ သမုတ်တော်မူသည်။ ထိုကချီလေသော် ကံသာမြို့ကိုရတော်မူလေသည်။

သားတော်အိမ်ရှေ့မင်းပင်လယ်ကြောင်းတွင် ကုလားတို့သင်္ဘောနှင့် ဆီးဆို့ခံနှင့်သည်ကို အတွင်းကြောင်းချီသွား၍ သောင်းတီးကျွန်း၊ မဟိတ္တရာကျွန်းတို့ကို ရလေသည်။

သားတော် သံတွဲစားလည်း သက်မြို့ကိုရလေမှု ချီသွား၍ ဘိလက်မြို့ကို ရပြန်လေသည်။

စစ်တကောင်းမြို့တွင် ကုလားမင်းသား မုရသိန် ခံနေလေရာ အမတ်ဆင်ကဲကြီးကို ရဲမက်သုံးသောင်း၊ ကိုယ်ရံ သူရဲတသောင်း၊ လူပေါင်း လေးသောင်းပေးတော်မူ၍ ကြည်းရေချီသွားတိုက်စေရာ ကုလားမင်းသားလည်း စစ်တကောင်းမြို့တွင် အကြာမခံဝံ့၍ ငါးရန့်ငူသို့ ဆုတ်သွားလေသည်။ အမတ်ဆင်ကဲကြီး စစ်တကောင်းမြို့ကိုရလျှင် ပြည့်ရှင်မင်းကြီးချီသွားတော်မူ၍ စစ်တကောင်းမြို့တွင် ချရပ်တော်မူသည်။ ဆင်တော်ဇီဝစိုးတပ်လည်း ဆိုက်ရောက်လာသော် မြက်ရေပြည့်တင်းရပ်နေတော်မူပြီးမှ သက္ကရာဇ် ၈၉၄-ခု ပြာသိုလဆန်း ငါးရက်နေ့ ဆင်တော်ဇီဝစိုးကို စီးတော်မူ၍ ဒါဂါမြို့သို့ ကြည်းကြောင်း ရေကြောင်း ချီတော်မူသည်။ သားတော်အိမ်ရှေ့မင်းလည်း ချီလာ၍ နောက်ချည်းပူရာတွင် ချရပ်တော်မူလာသည်။

ပြည့်ရှင်မင်းကြီးကို ရောင်ဖြူမြစ်ကူးတွင် ကုလားအိမ်ရှေ့က မင်းမုရသိန် ကြည်းရေအပြည့် ရဲမက်သုံးသိန်းနှင့်ခံတိုက်လေသော် သားတော် သံတွဲစား ရဲမက်သုံးသောင်းနှင့် ကြည်းရေညှပ်လျက် ရောင်ဖြူ မြစ်ညာက ချီလာသည်။ သားတော် အိမ်ရှေ့မင်းလည်း ကုလားပဆာမင်း မြို့သစ်တွင် ချရပ်ရှိသည်ကို ချီသွားတိုက်လေရာ ကုလားပဆာမင်း ဆုတ်သွား၍ မောက်သူဇာမြို့တွင် နေလေသည်။ ကုလားအိမ်ရှေ့မင်းသား မုရသိန်ကိုလည်း ရောင်ဖြူမြစ်တွင် အောက်အထက်ပိတ်၍ ပြည့်ရှင်မင်းနှင့် သားတော် သံတွဲစားတိုက်လေရာ ကုလားတပ်ပျက်၍ ကုလားအိမ်ရှေ့မင်းသား မုရသိန်ကို ဖမ်းဆီးရမိတော်မူသည်။

ထိုအရပ်ကို ဇေယျရန်ငုံမြို့ သမုတ်တော်မူပြီးမှ ချီတော်မူလေရာ ဒါဂါမြို့ကို သက္ကရာဇ် ၈၉၄-ခု၊ ပြာသိုလဆန်း ၁၅ ရက်နေ့ ရောက်တော်မူသည်။ သားတော် သံတွဲစားလည်း ဘိလက်မြို့တွင် အခိုင်ချရပ်လျက် နေလေသည်။ ကုလားအိမ်ရှေ့မင်းသား မုရသိန်ကို လက်ဝဲဝင်းမှူး ကျော်ပုံသို့အပ်တော်မူ၍ ကောင်းမွန်စွာထားရလေသည်။

ဒါဂါမြို့သို့ရောက်မှ အမိန့်တော်ရှိသည်ကား ရွှေ၊ ငွေ၊ အထည်အလိပ်များမှာ ရသူယူစေ။ ပြောင်းမီးပေါက် လက်နက်ခဲယမ်းများကိုသာ ဆက်သွင်းစေ။ ကုလားဆင်းရဲသားတို့ လုပ်ဆောင်သည့် ဥယျာဉ်စပါး လှေတက် အိမ်ရာများကို မခုတ်မလှဲ မီးမတိုက်မရှို့စေနှင့်။ ကြောက်လန့်၍ တောပုန်း တောင်ခြေခိုနေသူတို့ကိုလည်း အသီးအသီးကျေးရွာသို့ ဝင်နေစေ။ မခုတ်မသတ် မလုမယူစေနှင့်။ သာယာစွာဝင်စေ။ အရပ်ရပ်တပ်တော်များသို့ ဇေနံ့အောင်ဆင့်ဆိုတော်မူပြီးမှ ကုလားမင်းရှိရာ မောက်သူဇာမြို့သို့ မိုးစဲစားအမတ် စက္ကာကျော်ကို စေတော်မူရာ ပေးလိုက်သည် စာကား-----။

အိန္ဒိယတိုင်း၊ အယုဇ္ဈပူရတိုင်း၊ ရက္ခပူရတိုင်းတို့ကို အစိုးရတော်မူသော အရှင်ရာဇဓိရာဇာ အမိန့်တော်ရှိလိုက်သည်။ ကမ္ဘာ့အစ မဟာသမ္မတမင်း၊ ဘေးတော်သာဂရ၊ စသည်စဉ်လာ၊ ဝါသုဒေဝ၊ ဃဋပဏ္ဍိတ၊ ဗြာဟ္မဏရာဇာ၊ မာရယုမင်း၊ အဘိရာဇာ၊ ကံရာဇာကြီး၊ စန္ဒသူရိယ၊ ဒသရာဇာ၊ အာဏာထွန်းလင်း၊ မင်းဆက်များစွာ၊ အနောက်မျက်နှာ ရက္ခပူရတိုင်းနိုင်ငံ၊ ကုမ္ဘီလာမြို့ထိ၊ အနောက်တောင် ဘာဂီရနဒီရေရိုးအခြား၊ မောက်သူဇာမြို့၊ ကာလကတ္တာ သဘော်ဆိပ်ထိ၊ အနောက်မြောက် ရောင်ဖြူမြစ်၊ အနောက်ဘက် ဘိလက်မြို့ထိ ပိုင်တော်မူသည်။ ဘေးတော် မင်းထီးလက်ထက် အရှေ့သက်တို့ တောင်စဉ်ကျေးရွာကို စတင်ဖျက်ဆီးလေရာ မာန်တော်ဝင်၍ သက္ကရာဇ် ၆၉၅-ခုတွင် ချီတက်တိုက်စေရာ သက်မြို့ပျက်၍ သက်မင်းနှင့် သားသမီးတို့ကို ရခဲ့သည်။ သက်မင်းသားတို့ ထွက်ပြေးလေရာ အငြိုးရန်စရှိသည်ဖြစ်၍ သက်မင်းမြေး၊ မင်းဆွေခေါ်သော အင်းဝမင်းခေါင်သား မင်းရဲကျော်စွာ သက္ကရာဇ် ၇၆၈ခု တွင် ချီတိုက်လာသော် မင်းစောမွန်လည်း အမျိုးမင်းကျင့်တရားလွတ်လေရာ၊ ပြည်သူငြိုငြင်သဖြင့် ပျက်စီးလျက်ရှိသော် ဘင်္ဂါတဆဲ့နှစ်မြို့ကို ထွက်ပြေးကူးပြောင်း၍ ပဆာမင်းထံ ခိုဝင်လေရာ ပဆာမင်းက စစ်ကူပေးသည်ကို အကြောင်းပြု၍ ကုလားဘင်္ဂါတဆဲ့နှစ်မြို့ကို ပေးခဲ့သည်။ နှစ်အရှည်ရှိပြီ။ သိမ်းယူလောက်တန်၍ သိမ်းယူတော်မူလေသည်။ ဒီလီမင်းနိုင်ငံ ရေမြေကဲ့သို့ ဆီးဆို့ခုခံလေသည်မှာ သာယာစွာပြန်လျှင်လည်း ရှေးဘေးတော်မင်းတို့ထုံးဟောင်း မပျက်စေရ၊ မောက်သူဇာမြို့တွင်သာ ယူတော်မူမည်။ ယင်းသို့မဟုတ်၊ စစ်ပြုမည်ဖြစ်လျှင် ဒီလီမြို့တိုင်အောင် သိမ်းယူတော်မူမည်ဟူ၍ ပေးတော်မူလိုက်သည်။

ထိုစာသည် ကုလားမင်းထံရောက်လေသော် အပ်မြဲအပ်ခဲ့၍ ကုလားမင်းဆုတ်သွားပြီးလျှင် ဘာဂီရနဒီမြစ်အနောက်ဘက် ဖံဂီရာမြို့မှာချရပ်နေပြီးမှ ကုလားဒီလီမင်းက သမီးပဲသီဒါနှင့် လက်ဆောင်ပဏ္ဏာအများဆက်သလာလျှင် ကုလားအိမ်ရှေ့မင်းသား မုရသိန်ကိုလည်း ပေးတော်မူလေသည်။ ပြည့်ရှင်မင်းကြီးလည်း တပ်စဉ်အတိုင်းချီတော်မူ၍ ဂယာသီသမြို့ တောင်ဘက်

ခရီး ခြောက်မိုင်ကွာ သုံးဂါဝုတ်အရပ်ရှိ ဗုဒ္ဓဂယာရွာအနီး မဟာဗောဓိပင်ကြီးသို့ သွားရောက်ဖူးမြင်တော်မူ၍ ရွှေပန်းငွေပန်း ထီးတံခွန်တို့ဖြင့် ပူဇော်ပြီးမှ သက်တော်စေ ကျောက်ဆင်းတုအပါး လေးဆယ် တည်ထားပူဇော်တော်မူခဲ့သည်။

ဘဝရှင်မင်းပါးကြီးသည် သက္ကရာဇ် ၈၅၄-ခုဖွား။ သက်တော် ၃၉ နှစ်။ သက္ကရာဇ် ၈၉၃-ခုနှစ် နန်းတက်တော်မူ၍ သက္ကရာဇ် ၈၉၄-ခုနှစ်၊ ကုလားဘင်္ဂါ တဆဲ့နှစ်မြို့ကို ချီတက်သိမ်းယူတော်မူကြောင်း။ သက္ကရာဇ် ၈၉၄-ခု၊ တပေါင်းလဆန်း ၁၅ ရက်၊ နံတော် စနေနေ့၊ ပွဲလမ်းသဘင်ကြီးစွာနှင့် မဟာဗောဓိပင်မှာ အလှူကြီး ပေးတော်မူကြောင်း၊ သက်မင်းစောနွယ်က ဆင်ဖြူနှစ်စီး ဆက်သကြောင်း၊ ဒီလီပဆာမင်းက သမီးတော်နန်းတက်ဖွား၊ နံ တော်ဗုဒ္ဓဟူး၊ အသက်တဆဲ့ခုနစ်နှစ်အရွယ်ရှိ ပဲသီဒါကို ဆက်သတော်မူကြောင်း၊ ဒီလီပဆာမင်းသား စစ်ပွဲတွင်ရသော အိမ်ရှေ့မင်း မုရသိန်၊ နံတော် စနေ၊ အသက် ၃၉ နှစ်အရွယ်ရှိသူကို ဘေးမဲ့ပေးတော်မူ၍ အဘဒီလီပဆာမင်းသို့ ပေးအပ်သနားတော်မူခဲ့ကြောင်းတို့ကို သေချာစွာ ကျောက်စာကမ္ပည်း ရေးထိုးစိုက်ထားတော်မူခဲ့ပြီးလျှင် သက္ကရာဇ် ၈၉၅-ခုနှစ်၊ ကဆုန်လဆန်း နှစ်ရက်နေ့ မဟာဗောဓိပင်ရှိတော်မူရာ ဗုဒ္ဓဃရာ ဂယာ သီသမြို့မှ ပြန်တော်မူခဲ့သည်။ ဒါဂါမြို့သို့ရောက်တော် မူလျှင် မြို့ကိုနိုင်လုံစွာတည်တော်မူ၍ သက္ကရာဇ် ၈၉၅-ခု၊ ကဆုန်လပြည့်ကျော် ၅ရက်နေ့ ပြန်တော်မူခဲ့သည်။

ဘီလက်၊ ရောင်ဖြူ၊ ကံသာ၊ ကုဋ္ဌိလာ လေးမြို့ တို့ကိုလည်း ဝင်းမှူးလေးယောက်တို့ကို သက္ကရာဇ် ၈၉၅-ခု၊ နယုန်လပြည့်ကျော် ၆ ရက်နေ့ ပေးတော်မူသည်။ ယင်းသောအခါ သက်မင်းစောနွယ်ဆက်လာသော ဆင်ဖြူတော်နှစ်စီးသည် ဆင်ဖြူတော်မဟုတ်၊ မြေဖြူ လိမ်းကျံ၍ ဆက်လာသောဆင်ကို စစ်တကောင်းမြို့စောင့် အမတ်ဒါးပိုင်ကြီးဆင်ဖြူလုပ်၍ လျှောက်တင်ခြင်းသာ ဖြစ်ပါသည်ဟု ရောင်ဖြူမြို့အကြီး ကုလားထာနာ၊ ဖျာတလီဦးသင်က ပြည့်ရှင်မင်းထံ လျှောက်လေသော် အမိန့်တော်ရှိသည်ကား မုသလမံ ကုလားတို့အမျိုးသည် မျောက်နှင့်တူသည်။ သင်းတို့ကို ယုံသောသူသည် မြေလုံးနှင့်ဖက်ရွက် မိတ်ဆွေဖြုကြသည့်ပမာ နှစ်ဦးပင် ပျက်ရာချေသည်အမိန့်တော်ရှိ၍ တန်ဆာကိုသိမ်းပြီးလျှင် မိန်းမစိုးမော်လိပ်အစို့မှာ ပြည့်တော်မူသည်။

ယင်းသို့ပြည့်ပြီးနောက် သားတော် သံတွဲစား ဥပရာဇာကို စစ်တကောင်းမြို့သို့ပြန်၍နေစေ အမိန့်တော် ရှိလေရာ သားတော်ပြန်သွား၍ စစ်တကောင်းမြို့သို့ ရောက်လေလျှင် ဆင်ဖြူနှစ်စီးကိုတွေ့သဖြင့် ဆင်ဖြူ မဟုတ်၊ ကုလားထာနာက လျှောက်သောအတိုင်း မှန်သည်။ သက်မင်းကို အမျက်တော်ဝင်၍ သက်အမတ် လေးယောက်တို့ကို အပြစ်နှင့်ထားလေသည်။

ယင်းသောအခါ အမတ်ဒါးပိုင်ကြီး လျှောက် သည်ကား အရှင်သား၊ သက်မင်းပြုသောအမှုသည် ပြည့်ရှင်မင်းတို့၏အကျိုး၊ မင်းဂုဏ်ကိရိယာသာ ဖြစ်ပါ သည်။ တိုင်းပြည်အမှုမဟုတ်ပါ။ ခမည်းတော်ဘုရားသည် ဘုန်းပညာကြက်သရေသုံးပါးနှင့် ပြည့်စုံသောအရှင် ဖြစ်ပါ သည်။ သက်မင်းပြုသောအမှုလည်း ဂုဏ်ကြီးမြင့်ခြင်း ကြက်သရေတော်အဝင် ဖြစ်ပါသည်။ နေအရောင်ကို တိမ်မှောင်ဖုံးသကဲ့သို့ အရှင်သားတော် မပြုသင့်ပါ။ ဤသို့ အမတ်ကြီးလျှောက်သော်လည်း သားတော်သံတွဲစား လက်ရုံးရည်သာရှိသည်ဖြစ်၍ နှလုံးရည်နည်းသဖြင့် အမတ်ကြီးစကားကို မနာမယူနေလေသည်။ ယင်းသို့သော အကြောင်းကို ပြည့်ရှင်မင်းကြားသိတော်မူလေသော် စစ်တကောင်းမြို့တွင် အမတ်ဒါးပိုင်ကြီးကိုနေမြဲနေစေ၍ သက်မင်းဆက်သော ဆင်ဖြူနှစ်စီးကို ဆောင်ယူခဲ့ရင်း အတိုင်း ကောင်းမွန်စွာတန်ဆာဆင်၍ သက်မင်းနှင့် သက်မှူးမတ်တို့ပါသာယာစွာ သံတွဲစားကြီးကြပ် ဆောင်ယူ၍ ဒါဂါမြို့သို့လာစေ အမိန့်တော်ရောက်လာ သည်တွင်မှ သားတော် သံတွဲစား ဥပရာဇာ ကြောက်လှ စွာနှင့် သက်မင်းမှူးမတ်တို့ကိုလွှတ်လျက် ကောင်းမွန်စွာ

ဆောင်ယူသွားလေသည်။ ပြည့်ရှင်မင်းကြီးထံသို့ ရောက်သောအခါ အမိန့်တော်ရှိသည်ကား သံတွဲစား ဥပရာဇာသည် ပညာရှိစကားကို မနာမယူ၊ မင်းသားဖြစ် လျက် ရှေးထုံးဟောင်းသက်သေကို မတတ်မသိ။ လူမိုက်တို့ အလေ့ကြမ်းတမ်း ခက်ထန်သောအမှု၊ မယဉ်ကျေးသော ဆင်ရိုင်းပမာ လက်ရုံးကိုသာလေ့လာ၍ ကောင်းကျိုး မကောင်းကျိုးကိုမသိ။ တွေ့ရာလောင်တတ် သော မီးနှင့်တူသည်။ ပညာရှိတို့ ထုံးနည်းခံလေဟု အမိန့်တော်ရှိ၍ ပညာရှိ ဝိမလအမတ် စစ်တကောင်းမြို့စား မဟာပညာကျော်သို့ အပ်တော်မူလေသည်။

ယင်းသို့အပ်ပြီးမှ အမိန့်တော်ရှိပြန်သည်ကား စူဠလိပ်ငယ်သည် ဗာရာဏသီမင်းရှေ့ရောက်လေရာ မီးသို့ ချမည်ဆိုသောစကားကို လိပ်ငယ်ကြားကရယ်ပြန်သည်။ ရေကြောင်းကို ချမည်ရှိလေသော် ထိုလိပ်ငယ် ငိုလေ သည်။ သံတွဲစား ဥပရာဇာနှင့် နှလုံးရည်တူသောအမတ် တို့က ဤလိပ်ငယ်သည် ရေကိုကြောက်တတ်သော အမျိုးမှန်သည်။ ရေသို့ချရပါမည် မင်းထံလျှောက်လေရာ မင်းလည်းလိုက်နာလျက် လိပ်ကိုရေသို့ချလေသော် ထိုလိပ်ငယ်သည် နဂါးပြည်သို့ ရောက်ပြန်လေသည်။ နဂါးမင်းထံ လူမင်းက သံစေ၍လာရကြောင်းပြောဆိုလျှင် နဂါးမင်းက နဂါးလုလင်ထည့်၍ ထိုလိပ်ကိုဆောင်ယူ လျက် လူ့ပြည်သို့လာခဲ့ရာ ရေကန်တခု၌ ထိုလိပ်ငယ် ပျောက်သွားကြောင်း၊ အခြေမရှိ လိပ်ငယ်လှည့်စားသော စကားကို လူမင်းနဂါးမင်းတို့ယုံသဖြင့် ရောက်ပေါက်ကြ လေသော် မိတ်ဆွေကြီးစွာ လူ့ပြည်နှင့် နဂါးပြည် သားချင်းဆက်ကြောင်း၊ ရှေးသူဟောင်းတို့ထားခဲ့သော ဇာတ်နိပါတ်ထင်ရှားရှိသည်။ သက်မင်းစောနွယ်သည် ငါ့အကျိုးတော်ကိုလို၍ ဂုဏ်ကျက်သရေကိုမြင့် မြှောက်သူ ဖြစ်သည်အမိန့်တော်ရှိပြီးမှ သက်မင်းစောနွယ်ကို ကောင်းလှဖြူအမည်နှင့် သားတော်သံတွဲစားနည်းတူ မင်းဆောင်ပေးတော်မူလေသည်။

သက်မင်းအမတ်ကြီးတို့မှာလည်း ကုလားထားနှာ တို့ နည်းတူ အဝတ်တန်ဆာ ဥသျှံပေးတော်မူလေသည်။ ဒါဂါမြို့တွင် ဝါဆိုတော်မူ၍ ကုလားမင်းသမီး ပဲသီဒါမှာ သားတပါးဖွားမြင်ရာ အေဂါဟူသော အမည်ပေးတော်မူ သည်။ နွေလတိုင်လတ်သော် သားတော်အေဂါကို ကုလားဆိုင်ရာမြို့ကိုပေးတော်မူ၍ အမိပဲသီဒါနှင့်တကွ မောက်သူဇာမြို့တွင် ကြီးစွာတိုက်အိမ်နှင့် ထားတော်မူ ခဲ့သည်။ မောက်သူဇာမြို့ကိုလည်း လက်ယာစစ်ကဲ မနုဟာကို သူရဲငါးသောင်းနှင့် မြို့စောင့်ထား၍ နယ်ခြား ကျောက်တိုင် ရေးမှတ်စိုက်ထူထားခဲ့သည်။ ဒါဂါမြို့မှာ သူရဲငါးသောင်းနှင့် လက်ဝဲစစ်ကဲ မင်းခေါင်ကို အစောင့် ထားတော်မူခဲ့သည်။ ကုလားဆင်းရဲ သားတို့လုပ်စားသည့် ဥယျာဉ်လယ်ယာများမှာ ကုလားတောင်တာ တဂါရိလျှင် တနှစ်ကိုငါးသပြာသွင်းမြဲ ရှေးဘောတော်တို့ ထုံးအတိုင်း ကိုသာ မပိုမလွန်ခံယူကောက်သွင်းလာစေ။ ကာလ ကတ္တာ သဘောဆိပ်၊ စစ်တကောင်း သဘောဆိပ်များမှာ လည်း တဆယ်လျှင်တခုသာ ကောက်ယူဆက်သွင်းစေ။ မြို့စားတို့မှာ ကူးတို့ခွန်၊ ကင်းခွန်၊ ရေရှီးပိုက်ခွန်ကိုသာ စားစေ။ တရားတဘောင်မှုမှာ အခွန်ဘဏ္ဍာ ကြေးကုန် ငွေကျမရှိစေနှင့်။ ဉာဏ်ပူဇော်သာအမှုကိုထောက်၍ ငါးသပြာတန်သည်။ နှစ်သပြာခွဲတန်သည်။ တသပြာတန် သည်ကို ပြီးအောင်စီရင်သူတို့ စားယူစေ။ လင်းကဲခွေးမွေး တို့မှာ တအိမ်သုံးသပြာ ဆက်မြဲထုံးအတိုင်းဆက်စေ။

ထိုသို့ အသီးသီးပညတ်တော်မူပြီးမှ ဘိတော် ဝေသာလီမင်း သီရိစန္ဒရားသားတော် အိမ်ရှေ့မင်း သိင်္ဂစန္ဒရား အနောက်ပြည်သို့ ချီတော်မူသည်ကာလ ကုလားပဆာမင်းက ဆက်သလိုက်သော ကုလား မင်းသမီး ဒံရမာဇာလီ၊ ဒူရဘီတို့နှစ်ယောက်က သောင်းတီးနတ်မှာ လူလေးထောင်လှူလိုကြောင်း လျှောက်ထားလေရာ ဟာပတူကျွန်း၊ ဆားချက်ကုလား လေးထောင်ကိုပေးတော်မူ၍ ကုလားမင်းသမီး ဒံရမာ ဇာလီ၊ ဒူရဘီတို့ လူလေးထောင်ကို သောင်းတီးနတ်အား

လှူထားခဲ့သည်။ သောင်းတီးနတ်ကျွန်ကုလားတို့ကို အကုန်သိမ်းတော်မူခဲ့၍ သက္ကရာဇ် ၈၉၅-ခု၊ တပေါင်းလဆန်း ၁၂ ရက်နေ့ နေပြည်တော်သို့ ပြန်တော်မူခဲ့သည်။

စစ်တကောင်းမြို့သို့ ရောက်တော်မူလျှင် သက်မင်းကောင်းလုဖြူက သမီး သဇင်ညိုကို ဆက်သလေရာ ခေါ်ယူတော်မူခဲ့၍ ချီတော်မူရင်း စခန်းစဉ်အတိုင်း ပြန်လည်တော်မူခဲ့ရာ သက္ကရာဇ် ၈၉၅ ခု၊ တန်ခူးလ အခါတော်မှီ မြောက်ဦးမြို့ နေပြည်တော်သို့ဆိုက်ရောက်တော်မူလေသည်။ သောင်းတီးနတ် ကျွန်ကုလားလေးထောင်တို့ကို သံတွဲမြို့ကို စားတော်မူသည့်ကာလ တည်တော်မူခဲ့သောကုသိုလ်တော် ဆံတော်၊ အံတော်၊ နံ့တော်ဘုရားသုံးဆူတို့၌ ရွှေကရားနှင့် ရေစက်သွန်းချပြီးမှ ကျောက်စာမော်ကွန်းထိုး၍ လှူတော်မူကြောင်းနှင့် ဆိုသည်။

ဤသည်ကား ဧည့ဝတီအရေးတော်ပုံ၌လာသော မင်းပါကြီးအကြောင်းတည်း။ ဤဧည့ဝတီအရေးတော်ပုံ၌ ပြဆိုအပ်သော အိမ်ရှေ့မင်းနှင့်သံတွဲစားတို့အမည်၊ သက္ကရာဇ်တို့သည် ရာဇဝင်ဟောင်းတို့အလာနှင့် မညီညာဖြစ်သောကြောင့် ပယ်လှစ်ချန်ထား၍ ဖြောင့်သားမှန်ကန်အောင် ရေးလိုက်သည်။

ထို့ပြင် မင်းဖလောင်းလက်ထက် သက္ကရာဇ် ၉၀၅ တွင် မင်းတရားရွှေထီးရောက်လာကြောင်းနှင့် ဆိုသော စကားသည်လည်း ရာဇဝင်ဟောင်း 'ဇော' ချပ်၊ အင်းစောက်ရာဇဝင် 'ကော်' ချပ်၊ ဆရာမေည် ရာဇဝင် ၁၇၆ နံပါတ်တို့၌ မင်းဖလောင်းသည် သက္ကရာဇ် ၉၃၃ ခု၊ တပို့တွဲလဆန်း ၆ ရက်၊ ကြာသပတေးနေ့တွင် နန်းတက်တော်မူကြောင်းနှင့် ဆိုကြသည်ဖြစ်၍ သက္ကရာဇ် ၉၁၂ခုနှစ်၊ ကဆုန်လပြည့် ကျော်တရက်၊ ဗုဒ္ဓဟူးနေ့ကပင် ကသာတွင် တဲနန်းနှင့်ကျိန်း စက်နေရာ လက်ဝဲဒါးမှူး လုပ်ကြံ၍ မင်းတရားရွှေထီး လွန်တော်မူကြောင်းနှင့် မှန်နန်းရာဇဝင် ၂၇၃ နံပါတ်တို့၌ဆိုသောကြောင့် မင်းတရားရွှေထီးနှင့် မင်းဖလောင်းတွေ့နိုင်ရန် အကြောင်း မရှိလေရကား။ မင်းပါကြီးလက်ထက် သက္ကရာဇ် ၉၀၈ ခုတွင်သာ ရောက်လာသည်ဟု ယူသင့်သည်ဖြစ်၍ မင်းပါကြီးလက်ထက်သို့ ပေါင်းဖက်ရေးပြလိုက်ပေအံ့။

ဘဝရှင်မင်းပါကြီးသည် အထွတ်အမြတ်သို့ ရောက်တော်မူလျှင် ညီတော်မင်းအောင်လှကို သံတွဲစားအရာမှနုတ်၍ သားတော်ဥပရာဇာမင်းသားကို မြေးတော်နှင့် ထိမ်းမြားတော်မူ၍ သံတွဲမြို့စားပေးတော်မူလေသည်ကို ညီတော်သံတွဲစား မင်းအောင်လှ မကြည်လင်၍ တောင်ငူပြည်နှင့်တကွ ဟံသာဝတီပြည်ကို အစိုးရသော မင်းတရားရွှေထီးထံ လက်ဆောင်လက်နက်အများနှင့် စစ်ကူတော်မူပါဟူ၍ ဝင်ရောက်ဆည်းကပ် အသနားခံခွင့်ပန်လျှောက်ထားလေရာ မင်းတရားရွှေထီးက ယောက်ဖတော် ဘုရင့်နောင်ကျော်ထင် နော်ရထာကို တပ်ဦးထားလျက် သက္ကရာဇ် ၉၀၈ ခုတွင်ချီလာတော်မူသည်။

ဤအရာတွင်လည်း သံတွဲစားစကြဝတေးနှင့် ငအင်္ဂါပေါင်းဆုံမိ၍ မင်းတရားရွှေထီးထံရောက်သည်ဟူသော အရေးတော်ပုံစကားသည် ငအင်္ဂါဆယ်နှစ်သားခန့်သာရှိသေးသောကြောင့် ယုတ္တိမရှိလွန်းချေ။ မှန်နန်းရာဇဝင်၌ ရခိုင်ဘုရင်လွန်၍ သားနှင့်ဘထွေးနန်းလုကြရာ ညီအား မတန်သောကြောင့် မင်းတရားရွှေထီးထံ စေလွှတ်လိုက်ကြောင်းနှင့် ဆိုအပ်သောစကားသည်လည်း မည်သည့်မင်းလွန်လေ၍ သားဘထွေး နန်းလုကြသည်ဟု မပါသောကြောင့်၎င်း၊ သက္ကရာဇ် ၉၀၈ ခုတွင် မင်းပါကြီး နန်းစံ ၁၅၊ တဆဲ့ငါးနှစ်သာ ရှိသေးသည်။ ၉၁၅ ခုနှစ်မှ လွန်တော်မူကြောင်းနှင့် ငါတို့ရခိုင်ရာဇဝင် ဟောင်းတို့၌ ဆိုသောကြောင့် မှတ်သားနာယူရန် မသင့် ထင်ပေသည်။ (ဤကား စကားချပ်။)

မင်းတရားရွှေထီးလာကြောင်းကို ကြားသိတော်မူလေ၍ စနည်းနာစေသော် (ပဌမစနည်းမှာ) ကျီးအာ၍၊ ညှော်လာသည်။ (ဒုတိယစနည်းမှာ)လသာသည်၊ ပြန်လေဦး၊ အုန်းပင်ရှင် ဖမ်းမိမည်။ (တတိယစနည်းမှာ)

အိပ်၍နေ၊ လှေဦးတိုင်၊ ပဲ့တိုင်ကို၊ ခိုင်အောင်စိုက်၊ ပေါင်းမိုး ဖျာကိုလိပ်၍သွင်းဟူ၍ စနည်းသုံးရပ်ရလေသည်။

ထိုစနည်းသုံးရပ်အလိုကို အမတ်ပညာရှိ စစ်တကောင်းမြို့စား မဟာပညာကျော် လျှောက်ထုံးသော်ကား ကျီးအာ၍ညွှန်လာသည်မှာ သံတွဲစားညီတော်သည် ဟံသာဝတီပြည့်ရှင် တောင်ငူမင်းထံလျှောက်လေသော ကြောင့် မင်းတရားရွှေထီးညွှန်သည်ပမာသာ လာရောက်၍ ပြန်ပါလိမ့်မည်။ လသာသည်၊ ပြန်လေဦး၊ အုန်းပင်ရှင် ဖမ်းမိမည်ဆိုသည်မှာ ဘုန်းပညာကျက်သရေနှင့် ပြည့်စုံတော်မူသော မင်းမျိုးစိုးမိုးတော်မူသည့်တိုင်းပြည် သာယာဆဲဖြစ်၍ မင်းတရားရွှေထီးရန်မူလာလျှင် မင်းတရားရွှေထီးကို ဖမ်းရပါလိမ့်မည်။ သို့ရာတွင် ပြန်လေဦးဆိုသော အလိုသော်ကား နောင်ဘုန်းပညာ မရှိသော မင်းလက်ထက် အုန်းဟူသောနံအရ ဤမြောက်ဦး မြို့တော်ကို အရှေ့ကပြုတို့ဖျက်ဆီး ပိုင်နိုင်လေရာသော အကြောင်းမှုလျက် စနည်းထွက်ပါသည်။ အိပ်၍နေ၊ လှေဦးတိုင်၊ ပဲ့တိုင်ကိုခိုင်အောင်စိုက် အလိုသော်ကား လှေကို တိုင်ကြိုးထိန်းပါသည်။ ပြည်ကို အမတ်ကြီး ထိန်းပါသည်။ ပြည်ထိန်းအမတ်ကြီး နှစ်ယောက်ကိုသာ လက်ဝဲလက်ယာ ထွက်၍ခံစေရပါမည်။ အရှင်မင်းမြတ် ချီတော်မမူသင့်။ ပေါင်းမိုးဖျာကိုလိပ်၍သွင်းအလိုမှာ တောင်ငူမင်းလာလမ်း တောင်ဘက်မြို့ရွာတပြင် စပါးများကို မြို့သို့သွင်း၍ထားရပါမည်။

ယင်းသို့လျှောက်လေသော် ပြည့်ရှင်မင်းပါကြီး လည်း ကြိုက်တော်မူ၍ မြို့တော်တွင်လည်း ကိုယ်တော်ရံ သူရဲပေါင်းငါးသောင်းတို့ကို လက်နက်အစုံနှင့်စည်းကြပ်၍ အစောင့်အနေထားပြီးမှ အမတ်ကိုယ်ရံကြီး၊ ဒါးပိုင်ကြီး နှစ်ယောက်တို့အား သူရဲတသိန်း၊ ကိုယ်ရံငါးသောင်း ပေးတော်မူ၍ လက်နက်အစုံနှင့် မိငူကျွန်း၊ ရမောင်ကျွန်း များတွင် ထားတော်မူလေသည်။

သားတော်စစ်တံတင်မြို့စား ချစ်နောင်း မင်းဖလောင်းကိုလည်း မြို့ သက်၊ လင်းကဲ၊ ချင်း၊ ချော်၊ ခွေးမွေး၊ လေးထူး၊ တဲခွ၊ ချောင်းသား၊ ကတူး၊ ချုပ်လယော် လူမျိုးတို့နှင့် ဖိုးခေါင်တောင်အရှေ့ကျေးရွာသို့ ချီတက်စေတော်မူသည်။

သားတော်အိမ်ရှေ့မင်းတိက္ကာကိုလည်း ဘင်္ဂါတ ဆဲ့နှစ်မြို့က ကုလားသဘော သုံးဆဲ့ငါးစင်းနှင့် မော်တင်က အစောင့်အနေထားတော်မူလေသည်။

ယင်းသို့ အသီးအသီးခန့်ရံထားတော်မူပြီးမှ ဆင့်ဆိုတော်မူသည်ကား တောင်ငူမင်းတရားရွှေထီး ရောက်လာလျှင် ရှေ့ကဆီးဆို့၍မတိုက်နှင့်။ ချီလာ၍ မြို့တော်နားသို့ရောက်မှ နောက်ကပိတ်ဆို့ပြီးလျှင် ရိက္ခာမရစေရ၊ တိုက်ဖျက်ရမည် အမိန့်တော်ပြန်ဆိုလျက် ထားတော်မူလေသည်။

တောင်ငူမင်းတရား ရွှေထီးသည် သက္ကရာဇ် ၉၀၈ ခု၊ တပို့တွဲလဆန်း ၂ ရက်နေ့၊ လောင်းကြက် မြို့ဟောင်းတွင်တပ်ချလာ၍ ငုင်းလဆန်း ၃ ရက်နေ့ မြောက်ဦးမြို့ကိုတိုက်လေရာ မီးပေါက်၊ ပြောင်း၊ လေး၊ မြားနှင့်ပစ်ခတ်လေလျှင် အသေအပျောက်များသဖြင့် ဆုတ်ခွာလျက်နေကြလေသည်။ အမတ်ကြီးနှစ်ယောက် လည်း နောက်ကပိတ်ဆို့တိုက်လေသည်။ သားတော် စစ်တံတင်မြို့စားချစ်နောင်း မင်းဖလောင်းလည်း အရှေ့တောင်စဉ် မြို့ရွာတို့ကိုတိုက်ဖျက်၍ အိမ်ရာဆန်စပါး များကို မီးတိုက်လေသည်။

ယင်းသောအခါ မင်းတရားရွှေထီးအမတ်ကြီး၊ ယောက်ဖတော် ကျော်ထင်နော်ရထာကို မင်းတရားရွှေထီး က စေလွှတ်တော်မူ၍ ဝင်လာသော် အတွေ့ခံတော်မမူ။ တရားသဘင်ပြုရာမဏ္ဍပ်၌ အမတ်ပြည်စိုးကြီး ဓမ္မဓေယျ နှင့် စကားပြောစေတော်မူသည် ကာလ။ အမတ် ပြည်စိုးကြီး ဓမ္မဓေယျက ကျော်ထင်နော်ရထာကို မေးသည်ကား အမတ်ကြီးတို့ပြည်တွင် ရတနာသုံးပါး ဘုရား တရားတော်ကို ကြည်ညိုသူရှိ ပါ၏လော။ ပြည့်ရှင်မင်းလည်း မင်းကျင့်တရားဆယ်ပါး၊ ရာဇဝတ် ရှစ်ပါး မြဲပါ၏လော။ မှူးမတ်တို့သည် အင်္ဂါရှစ်ပါး

ပြည့်စုံပါ၏လောဟု မေးလေသည်။ ထိုသို့မေးလေရာ တောင်ငူမင်းအမတ်ကြီး ကျော်ထင်နော်ရထာကဆိုသည်ကား ကျွန်ုပ်တို့တိုင်းပြည်၌ သာသနာတော်ထွန်းလင်း၊ မင်းလည်းဘုန်းအာဏာကြီးကျယ်၊ မှူးမတ်တို့လည်း အင်္ဂါစုံစွာ ပညာဗလကြွယ်ဝကြသည်ပင်ဟူ၍ ဆိုလေသည်။ ယင်းသို့ဆိုလတ်သော် အမတ်ပြည်စိုးကြီး ဓမ္မဇေယျဆိုပြန်သည်ကား ဘုရားစသော သူတော်ကောင်းတို့ ဆုံးမတော်မူခဲ့သော တရားကျမ်းဂန်လာသည်မှာ ဒုစရိုက်တရားဆယ်ပါးကို စောင့်ထိန်းသောအရပ်၌ သာသနာတော်တည်ရာသည်။ ထိုဒုစရိုက်တရားဆယ်ပါးကို မစောင့်ထိန်းသော အရပ်သားတို့သည် သူမိုက်လေ့၊ ဆိုးသွမ်းနိုင်ထက်၊ ရက်ရောကြမ်းတမ်း၊ ယုတ်နွမ်းသော အမူနှင့်သာ အသက်ထက်ဆုံး ကျင့်ကြံနေလေရာသည်။ သူတော်ကောင်းတို့ရှိသောအရပ်၌ ရာဇဟီနံ၊ အကျင့်မရှိ အမျိုးမစောင့်သောမင်းယုတ်သည် အကယ်၍ စိုးမိုးအုပ်၊ ထိုမင်းအား အမတ်ကောင်းတို့သည် မမှားမယွင်းစေရာ၊ အသက်မငဲ့ လျှောက်တင်ရမြဲဖြစ်သည်။ မင်းနှင့်အမတ်တို့ စုံလျက် ဆိုးသွမ်းလတ်သော် သံဃာတော်တို့ ကျိုးကြောင်း ပြသ ဟောပြောဆုံးမရမြဲဖြစ်သည်။ ကျမ်းဂန်အလာ ရှေးပညာရှိတို့ စကားအမှာတွင်လည်း---

ရေမြေဦးခိုင်၊ နိုင်ငံပိုင်မှု၊ တိမ်းယိုင်ရှေ့လမ်း၊ အကျင့်သွမ်းသော်၊ မင်းကျမ်းဝင်ဘိ၊ မတ်ကဝိတို့၊ ရှိုင်းညှိကုန်ငြား၊ မင်းပါးလျှောက်သင့်၊ ကြီးမြင့်ဂုဏ်ရှင်၊ နားမဝင်၍၊ မင်းပင်ကျင့်ရာ၊ တူစွာစရိုက်၊ မင်းလိုလိုက်၍၊ မတ်မိုက်နှင့်မင်း၊ သင်းပင်းညီစွ၊ ပြုပြန်ကြမူ၊ ဓမ္မသဘင်၊ မင်္ဂလာကျော်၊ သံဃာတော်တို့၊ အဟော်ဝတ၊ ရှေးကမင်းပေါင်း၊ မှူးမတ်ကောင်းတို့၊ မစောင်းတည့်မတ်၊ ကျင့်ဝတ်ကျမ်းဂန်၊ မလွန်မယုတ်၊ ဖော်ထုတ်ပြသ၊ ဆုံးမထုံးစံ၊ လျှုံခံသူမြတ်၊ ရဟန်းဝတ်နှင့်၊ လျှော်ပတ်သင့်စွာ၊ ပြောဆိုရာသည်၊ စဉ်လာနိဂုံး ရှေးကျင့်ထုံး။

ဟူ၍ ရှေးပညာရှိတို့စကား မိန့်ကြားလာရှိကြောင်းနှင့်ဆိုလေလျှင် ကျော်ထင်နော်ရထာသည် သင့်လျော်စွာပြောကြား၍ ထွက်သွားလေသည်။

နောက်တရက်ဝင်လာသောအခါမှ ပြည့်ရှင်မင်းပါကြီးအတွေ့ခံတော်မူလျက် အမိန့်တော်ရှိသည်ကား ရေမရှိသော ကန်၊ ဆန်မရှိသော စပါး၊ တရားမရှိသော မင်းမျိုး၊ ဆိုးကောင်းမသိသော မီး၊ ခရီးရောက်ရာသွား၍ ကြွက်ကိုစားသည့်မြွေ၊ ဤသတ္တဝါငါးဦးတို့သည် ပဋ္ဌဘုတ် သူတော်ကောင်းတို့မှီခိုရန် မအပ်၊ အကျိုးအပြစ်ကိုလည်းမသိ၊ ထိုသတ္တဝါတို့ရှိရာ အရပ်ဒေသ၌ အရှည်မထွန်းလင်းနိုင်ရာ။ ရန့်သူမျိုးငါးပါးနှင့် ဆက်ဆံရများလေသည်ပင်။ အစ်ကိုတို့ တောင်ငူမင်းလည်း လက်ရုံးမာနအားလွန်သည်။ ပညာရှိနှင့် နီးကပ်ပေါင်းစေဦးဟူ၍ အမိန့်တော်ရှိလေသည်။ အမတ်ကျော်ထင်နော်ရထာ အပြန်တွင်လည်း စစ်တကောင်းမြို့စား မဟာပညာကျော်ကို ပြည့်ရှင်မင်းက ထည့်တော်မူလိုက်သည်။

မင်းတရားရွှေထီးထံ မဟာပညာကျော် လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ လောကသုံးပါး၏ အထွတ်အထိပ်ဖြစ်တော်မူသော မြတ်စွာဘုရားဆုံးမတော်မူသည့် တရားကိုမတည်သောသူတို့သည် သံသရာဝဋ်ဒုက္ခ ဆင်းရဲရှည်ပါသည်။ ရှေးသူတော်ကောင်းတို့စကား၌လည်း သဘောစီးလျက် ရေရှိုးရေကြောင်းကို မသိတတ်သော မာလိန်၊ တောဝင်လေလျက် တောစဉ်ကို မသိတတ်သော မုဆိုး၊ ပြည့်ရှင်မင်းဖြစ်လျက် မှူးမတ်ရည်အနိမ့်အမြင့်ကို မသိတတ်သောမင်း၊ အမတ်ဖြစ်လျက် မင်းရိပ်မင်းခြည်၊ အရှည်အသွား၊ စကားသင့်မသင့်ကို မသိတတ်သောအမတ်၊ စတုဟီန အနိဋ္ဌဥမ္မတ္တကော ဤလေးဦးသောသူယုတ် အလိုမရှိအပ်သော သူရှူးတို့သည် အလိမ္မာမရှိသည်ဖြစ်၍ သေခြင်းမလှသေရကြောင်းနှင့် ထုံးဟောင်းရှိပါသည်။ တရားလိမ္မာ၊ သံသရာအပြစ်ကိုသိသော မင်းကောင်းမင်းမြတ်တို့သည် အနီးအဝေး၊ သူ့သား ကိုယ့်သားမရွေး ဆုံးမပေးတော်မူကြောင်း ရှေးသူဟောင်းတို့အဆို လာပြန်သည်မှာ -----။

ကျင့်ချော်ဓမ္မ၊ သဒ္ဓိဝအား၊ ပြစ်မှားပြင်းရှိန်၊ ဒိဝိတိန်ကို၊ ညှိုးပိန်မသွေ၊ ခြေသော်ဝှင်း၊ တကြောင်း မိုက်မည်း၊ သူ့ပစ္စည်းကို၊ ချုပ်တည်းမဲ့ပြား၊ ပြစ်မှားသဖြင့်၊ မသင့်ပချေ၊ သူ့ဆွေဇနီး၊ ချစ်သမီးနှင့်၊ ရောနီးဆက်ဆံ၊ သုံးပါးကံမူ၊ စီမံလောဘ၊ နသစ္စဟု၊ ယှင်းခွစကား၊ သူနှစ်ပါးကို၊ ခိုက်ပွားရန်စစ်၊ ဒေါသဖြစ်အောင်၊ ချောပစ်တတန်၊ မျက်မာန် ကြမ်းကြုတ်၊ ဖရုသမျိုး၊ အကျိုးမဲ့လျှင်း၊ ပိန်ဖျင်းဝါစာ၊ မိန့်မှာစတု၊ ဒေါသခု၍၊ ခြားသူ့ရိပ်ငြိမ်၊ စည်းစိမ်ခြွေရံ၊ သူကောင်းကံကို၊ ဖိတ်လှဲ့ နဋ္ဌငါ့ဟာတိဟု၊ ဖြစ်ဘိစေလို၊ တဆိုအရေး၊ မကြံ တွေးလိမ့်၊ မိုက်မေးတကြောင်း၊ စောင်းမြောင်းငြူစူ၊ အယူမှောက်လှန်၊ မိစ္ဆာဉာဏ်နှင့်၊ သုံးတန်ကာယ၊ စသည် အားထုတ်၊ ကိုယ်နှုတ်နှလုံး၊ ဆောက်တည်သုံးက၊ ဝိတ်ဖုံး လေးပါး၊ ပါယ်တံခါးဟူ၍ စပ်ဆိုဆုံးမတော်မူပါသည်။

ပြည့်ရှင်မင်းတို့သည် သမ္မာအာဇီဝ ကောင်းသော အသက်မွေးခြင်းရှိကုန်သည်ဖြစ်၍ ကြေးမောင်းခတ်ဆော်၊ စည်တော်ရိုက်တီး၍ တနေ့သုံးကြိမ် ပြည်သူတို့ကို ဆုံးမ တော်မူပါသည်။ အရှင်မင်းမြတ်၊ လက်ရုံးအားကို အလိုရှိ သော မင်းသည်ရန်ဝို၍ ထိုပြည်သူတို့သော်လည်း လက်ရုံးမာနကြီးခြင်းကြောင့် စည်းစိမ်မရှည်၊ ရန်သူငါးပါး ဆက်ဆံများလေသည်။ နလုံးအားကို အလိုရှိသော တိုင်းပြည်၌ မင်းတို့၏ပြည်သူသည် အပူသောကကင်းခြင်း ကြောင့် မိဘသားမွေး စဉ်လာ၊ သပြာတောင်းတင်း မကုန် ဆက်ဆံခံစားလျက် မပျက်စည်ထွန်း၍ ဘုရားစသော သူတော်ကောင်းတို့ အချီးအမွှမ်းကိုခံရကြောင်းနှင့် ပညာ ရှိများ မှာထားတော်မူပါသည်။ ကျမ်းဂန်၌လည်း---

**ရုက္ခသတသဟဿာနိ၊ ပုပ္ဖရုက္ခော ၁ သောဘတိ။**
**နရာသတသဟဿာနိ၊ ရူပဝန္တော ၁ သောဘတိ။**
**ရူပသတသဟဿာနိ၊ ပညဝန္တော ၁ သောဘတိ။**

ဟူ၍လာပါသည်။ ရုက္ခသတသဟဿာနိ၊ သစ်ပင်တသိန်းတို့တွင်။ ပုပ္ဖရုက္ခော၊ အပွင့်ရှိသော သစ်ပင်သည်သာလျှင်။ သောဘတိ၊ တင့်တယ်၏။ နရာသတသဟဿာနိ၊ လူပေါင်းတသိန်းတို့တွင်။ ရူပဝန္တော၊ အရုပ်အဆင်းလှပခြင်းရှိသောသူသာလျှင်။ သောဘတိ၊ တင့်တယ်၏။ ရူပသတသဟဿာနိ၊ အဆင်း လှပသော လူတသိန်းတို့တွင်။ ပညဝန္တော၊ ပညာရှိသော သူသည်သာလျှင်။ သောဘတိ၊ တင့်တယ်၏။

ဤသို့လာသောကြောင့် ပညာသာအရင်းဖြစ်၍ မင်းကျင့်မဏ္ဍပညာနှင့် တိုင်းပြည်ကို စောင့်ထိန်းရသော အကြောင်း ကျမ်းဟောင်းလာရှိပါသည်။ ထိုမှတဖန် ကျမ်းဂန်လာသည်မှာ----

**ခန္တာနိစ္စာ ခယဋ္ဌေန၊ ဘယဋ္ဌေန ဒုက္ခာစတော။**
**အနတ္တာ သာရကဋ္ဌေန၊ ဣတိပိသော ပုနပ္ပုနံ။**

ခန္တာ၊ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့သည်။ ခယဋ္ဌေန၊ ကုန်တတ်ပျက်စီးတတ်သောအနက်ကြောင့်။ အနိစ္စာ၊ အနိစ္စမည်ကုန်၏။ တောစ၊ ထိုခန္ဓာငါးပါး ရုပ်နာမ် တရားတို့သည်ပင်လျှင်။ ဘယဋ္ဌေန၊ ဘေးရန်အနှောင့် အယှက်ရှိခြင်းဟူသော အနက်ကြောင့်။ ဒုက္ခာ၊ ဒုက္ခ မည်ကုန်၏။ တောစ၊ ထိုခန္ဓာငါးပါး ရုပ်နာမ်တရားတို့သည် ပင်လျှင်။ အသာရကဋ္ဌေန၊ အနှစ်သာရ မရှိခြင်းဟူသော အနက်ကြောင့်။ အနတ္တာ၊ အနတ္တမည်ကုန်၏။ ဣတိပိ၊ ဤသို့လည်း။ သော၊ ထိုခန္ဓာငါးပါးတရားအစုကို။ ပုန ပ္ပုနံ၊ အဖန်တလဲလဲ။ ပစ္စဝေက္ခိတဗ္ဗော၊ ဆင်ခြင်အပ်၏။

ဤသို့လာသောကြောင့် ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ ဤခန္ဓာငါးပါး တို့ကို ဓာတ်လေးပါး ပြုပြင်ထောက်ပံ့စီမံအပ်သည်ဖြစ်၍ အစမထင် သံသရာဝဋ်၌ အနိမ့်အမြင့်စက်ရဟတ်ပမာ တွေ့ရမြဲဓမ္မတာကို ငါမင်းတကားဟူ၍ ထောင်လွှားချေ သော် ထိုမင်းပြည်သူတို့သည်လည်း ဘုရားအဆုံးအမ သာသနာတော်မတည်။ မင်းအလိုရှိရာလိုက်၍ ကြမ်းတမ်း ယုတ်မာ ဆိုးသွမ်းကြောင်းကိုကျမ်းဂန်ပြဆိုသည်မှာ--

**ပုတိမိစ္ဆံ ကုသဂ္ဂေန၊ ယောနရော ဉပနိယုတိ၊**
**ကုသမ္ပိ ပုတိ ဝါယမ္ပိတိ၊ ဝံ ဗာလူပသေဝနာ။**

ယောနရော၊ အကြင်သူသည်၊ ပုတိမိစ္ဆံ၊ ပုပ်သောငါးကို။ ကုသဂ္ဂေန၊ သမန်းမြက်နှင့်။ ဥပနိယှတိ၊ ထုပ်၏။ တဿ၊ ထိုသူ၏။ ကုသမ္ပိ၊ သမန်းမြက်သည်လည်း။ ပုတိ၊ အပုပ်အနံ့ကို။ ဝါယတိ၊ လှိုင်၏။ ဧဝံ၊ ဤအတူ။ ဗာလူပသေဝနာ၊ လူမိုက်နှင့်ပေါင်းဖက်သောသူတို့ကို။ ဒဋ္ဌဗ္ဗာ၊ မှတ်အပ်ကုန်၏။

ဟူ၍လာပါသည်။ ယင်းသို့လာသည်ကို ပညာရှိတို့ ဆိုတော်မူပြန်သည်ကား

မင်းလည်းမင်းကြမ်း၊ အမတ်သွမ်းနှင့်၊ အကျွမ်းမိတ်ဝင်၊ သို့တည်းလျှင်မူ၊ ပြည်သူရိပ္ပတ်၊ မင်းတည်မြွတ်က၊ အမတ်ထိုတူ၊ ပြည်သူမညှိုး၊ စစ်ထိုးမရှိ၊ မရိသဏ္ဍာဝါ၊ ရေစာ မရှား၊ ခိုးသားမပေါ်၊ မြင်မြော်သသူ၊ ကြည်ဖြူမြွတ်နိုး၊ ရေခမိုးသို့၊ ဟူ၍ဆိုပါသည်။

အများသာမိက အရှင်တို့မှာ ပညာသာမူလအာဒိဖြစ်၍ ဆိုလာသောသူအား၊ ရည်သွားတခု၊ လူမှုတရပ်၊ အမတ်ဂုဏ်ရည်၊ ဆိုသည်စကား၊ ထိုလေးပါးကို၊ သိရာသောအကြောင်း၊ ကျမ်းဟောင်းလာပြန်သည်ကား----

**ကုဒေသဉ္စ ကုမိတ္တဉ္စ၊ ကုကုလဉ္စ ကုဗန္ဓဝံ၊**
**ကုဒါရဉ္စ ကုဒါသဉ္စ၊ ဒူရတော ပရိဝဇ္ဇယေ။**

ကုဒေသဉ္စ၊ မကောင်းသော အရပ်ကိုငင်း။ ကုမိတ္တဉ္စ၊ မကောင်းသော ခင်ပွန်းကိုငင်း။ ကုကုလဉ္စ၊ မကောင်းသော အမျိုးကိုငင်း။ ကုဗန္ဓဝဉ္စ၊ မကောင်းသော အဆွေအမျိုးကိုငင်း။ ကုဒါရဉ္စ၊ မကောင်းသော မယားကိုငင်း။ ကုဒါသဉ္စ၊ မကောင်းသောကျွန်ကိုငင်း။ ဒူရတော၊ ဝေးစွာ။ ပရိဝဇ္ဇယေ၊ ကြဉ်ရှောင်ရာ၏။

ဤသို့ လာရှိသောအကြောင်း၊ ထုံးဟောင်းကျမ်းဂန်ရှိပါသည်ဟု လျှောက်ထားလေလျှင် တောင်ငူမင်းတရားရွှေထီးသည် အလွန်ကြိုက်တော်မူ၍ အမတ်မဟာပညာကျော်ကို ရွှေသပြာတရာ၊ ငွေသပြာတရာ ဆုပေးတော်မူသည်။ ပြည့်ရှင်မင်းသို့လည်း စောရန်နိုင်ဟူသော ဆင်နှင့်မြင်းနှစ်စီး၊ မင်းစီးတန်ဆာ အလုံးစုံပေးတော်မူသည်။ ပြည့်ရှင်မင်းက စပါးတသိန်းငါးသောင်းပေးတော်မူလေလျှင် သက္ကရာဇ် ၉၀၈ ခု၊ တပေါင်းလဆန်း ၉ ရက်နေ့၊ တောင်ငူမင်းတရား ရွှေထီးဟံသာဝတီနေပြည်တော်သို့ ပြန်တော်မူလေသည်။

ဤသည်ကား သက္ကရာဇ် ၉၀၅ ခုတွင် မင်းဖလောင်းလက်ထက် တောင်ငူမင်းတရားရွှေထီးရောက်လာကြောင်းနှင့် ဆိုအပ်သော ဓညဝတီအရေးတော်ပုံ၌လာသည်ကို မင်းပါကြီး လက်ထက်သာ ဖြစ်သင့်ကြောင်းနှင့် လွဲပြောင်းယူဆ ရေးသား၍ပြအပ်သော မင်းပါကြီးလက်ထက် မင်းတရားရွှေထီး ရောက်လာသောအကြောင်းတည်း။

(ဓညဝတီအရေးတော်ပုံ၌ ပြဆိုအပ်သော အိမ်ရှေ့မင်းသံတွဲစား၊ ရမ်းပြည့်စားတို့၏အမည်၊ ရောက်လာသောခုနှစ်၊ သက္ကရာဇ်တို့ကို ရာဇဝင်ဟောင်းတို့အလိုဖြင့် ရေးသားလိုက်ပေသည်။

အချို့ရာဇဝင်သစ် ၁၄၃ နံပါတ်၌ကား မင်းပါကြီး နန်းတက်သက္ကရာဇ်ကို ၈၉၃ ခု၊ နံယုန်လဆန်း ၁ ရက်၊ စနေနေ့ တက်ကြောင်းနှင့် ရာဇဝင်ဟောင်းတို့အတိုင်းဆိုသည်။ နောက်၌ ဓညဝတီအရေးတော်ပုံအတိုင်း ဆိုပြီးလျှင် ၁၅၀ နံပါတ်တွင် ၈၇၈ မှ နန်းတက်ကြောင်း၊ ၈၇၉ ခုနှစ် ဗောဓိပင်သို့ရောက်ကြောင်းနှင့်ဆိုသည်။ အမည်ကိုလည်း မင်းဗားကြီးဟူ၍ဆိုလေသည်။ ရာဇဝင်ဟောင်းတို့မှာ မင်းပင်ဟူ၍ငင်း၊ မင်းပါဟူ၍ငင်း ဆိုလေသည်။ မှန်နန်းရာဇဝင်တွင်ကား သက္ကရာဇ် ၉၀၈ ခုနှစ်တွင် တကြိမ်သာ မင်းတရားရွှေထီး လာကြောင်း၊ မြောက်ဦးမြို့ကို ရေအား ကြည်းအား စစ်သည်တို့ကို တက်စေသည် မရနိုင်ချေ။ ရခိုင်မြို့သည် တောင်ထိပ်မှာလည်း ဖြစ်သည်။ မြို့ကိုယ်လည်း ခိုင်ခံ့သည်။ ကျုံးမြောင်းလည်းကျယ်သည်။ လက်နက်ကိရိယာလည်း ထူထပ်လှသည်ဖြစ်သောကြောင့် အကြိမ်အဖန်များစွာ လုပ်ကြံတော်မူသော်လည်း မြို့ကိုမရချေ။ ယင်းသို့ ရတော်မမူလျှင် မြို့ကို ရေကြည်းဝန်း၍နေတော်မူသည်။

နောက်လျှင် ရဲတပ်ကို သစ်မြို့စိုက်၍ ပြလက်ရန်း ဆောက်စေပြီးလျှင် စိန်ပြောင်း မြတံပူတို့ဖြင့် နေ့စဉ် ရက်ဆက်ပစ်ခတ်စေမှ ငါတို့ရခိုင်ဘုရင်သားက မှူးမတ်တို့နှင့်တိုင်ပင်၍ လက်ဆောင်ပဏ္ဏာတို့ဖြင့် အမတ်နှစ်ယောက်ကို စေလွှတ်ပြောဆိုကြောင်း၊ ထို့နောက် ဆရာတော်လေးပါးတို့ကိုလျှောက်ထား၍ တရားသဖြင့်ပြေငြိမ်းစေရန် မေတ္တာရပ်ခံစေကြောင်းတို့နှင့် အကျယ်တဝင့် ၂၄၆ နံပါတ်တို့၌ ဆိုသည်။

ငါတို့ရခိုင်ရာဇဝင် အစောင်စောင်တို့၌ သက္ကရာဇ် ၉၀၈ ခုတွင် မင်းပါကြီး နန်းစံ ၁၅၊ တဆဲ့ငါးနှစ်အခါသာဖြစ်၍ မည်သည့်မင်း နတ်ရွာစံ၍၊ မည်သည့်မင်းသား နန်းတက်သဖြင့်၊ မည်သည့် ဘထွေးတော် နန်းလုကြောင်းတို့နှင့် မလာသောကြောင့် တပြည်တရွာမှ ရေးသားအပ်သော မှန်နန်းရာဇဝင်စကားကို အားထားယုံကြည်ရန် သင့်မည်ဟု မထင်ပေကြောင်း။ ဤကား အမှာစကားချပ်။)

ထိုမင်းပါကြီး လွန်တော်မူလေလျှင် သားတော်ဖြစ်သော အိမ်ရှေ့မင်းတိက္ခာသည် မျောက်သားတော် စောသန္တာနှင့် သက္ကရာဇ် ၉၁၅ တွင် ရွှေပြည်ထီးနန်းကို သိမ်းမြန်းစိုးစံတော်မူလေ၏။ သားတော် မင်းစောလှကို လည်း သမီးတော် နန်းထက်မိဘုရား စောဘုန်းထွတ်နှင့် ထိမ်းမြားမင်္ဂလာပြု၍ အိမ်ရှေ့မင်းအရာကို အပ်နှင်းတော်မူသည်။ ထိုမင်းတိက္ခာကား ဒါန သီလ စသောကုသိုလ်အစု ကောင်းမှုတရားကို အလွန်လိုလားအားထုတ်တော်မူ၏။

ထိုမင်း အလိုတော်ပြည့်၍တနှစ်မြောက် သက္ကရာဇ် ၉၁၆ ခုဝယ် ညီတော်သံတွဲမြို့စား ဥပရာဇာသည် မလျော်မသင့် မရိုမသေ့တ်ပြုလေလျှင် စစ်သူကြီး လေးယောက်နှင့်တကွ သားတော်အိမ်ရှေ့မင်းကို စေလွှတ်တော်မူ၍ တိုက်ခိုက်စေသော် ညီတော်သံတွဲစား ဥပရာဇာသည် ခမည်းတော်တူ ရှင်ရဲမျိုးနှင့်တကွ ပဲခိုးမင်း ကျော်ထင်နော်ရထာထံ ပြေးဝင်လေသည်။ ကျော်ထင်နော်ရထာမင်းလည်း သံတွဲစား ဥပရာဇာကို မွှာသောကဟူသောအမည်ကို သမုတ်တော်မူ၍ ညီတော် မုတ္တမဘုရင်စည်သူကျော်ထင် သမီးတော်အကြီးနှင့် စုံဖက်တော်မူသည်။ မင်းပါတူတော် ရှင်ရဲမျိုးကိုလည်း သမီးတော် မျိုးမြတ်ဘုန်းစည်နှင့်စုံဖက်တော်မူ၍ တမော့မြို့ကို ပေးတော်မူလေသည်။

ဥပရာဇာပြေးဝင်လေရာ ကြွင်းကျန်ရစ်သော ဆင် မြင်း လက်နက်ကိရိယာ ဘဏ္ဍာရွှေငွေတို့ကိုသိမ်းယူ၍ မင်းကြီးအားဆက်သတော်မူလာလျှင် အိမ်ရှေ့မင်း၊ စစ်သူကြီးစသော ရဲမက်ဗိုလ်ပါအပေါင်းတို့ကို ထိုက်လျော်လျောက်ပတ်သောဆုကို ပေးသနားတော်မူသည်။

ထိုဘဝရှင်မင်းတိက္ခာ၌ မိဘုရားစောမိလတ်တွင် သားတော် အိမ်ရှေ့မင်း မင်းစောလှနှင့် သမီးတော် မင်းလှထွတ်၊ မွှာဒေဝီ သုံးယောက်ဖွားမြင်တော်မူသည်။ စောကောက်မတွင် သမီးတော် စောဘုန်းထွတ်နှင့် သားတော် မောင်ကြီးဖြူ၊ စကြဝတေးနှစ်ယောက် ဖွားမြင်တော်မူသည်။ ထိုမှတပါး ကိုယ်လုပ်တော်တို့မှ မွေးဖွားသော သားတော်တကျိပ် လေးယောက်၊ သမီးတော် ရှစ်ယောက်လည်း ရှိတော်မူလေသည်။

ထိုမင်းကား မြို့၏အရှေ့မြောက်ယွန်းအရပ်၌ ကိုးသောင်းဘုရားကိုလည်း သက္ကရာဇ် ၉၁၇ ခုတွင် တည်တော်မူ၍ ကြီးစွာသော သဘင်ကိုခံတော်မူ၍ အလှူကြီးနှစ်ကြိမ် ပေးတော်မူသည်။ ထိုမင်းကား အိမ်နိမ့် ၃၉၊ သုံးဆဲ့ကိုးနှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၄၂၊ လေးဆဲ့နှစ်နှစ်။ သက္ကရာဇ် ၉၁၈ ခု၊ တပေါင်းလပြည့်ကျော် ၁၀ ရက်၊ သောကြာနေ့တွင် ကျောက်ရောဂါဖြင့် လွန်တော်မူသည်။ နံတော် တနင်္ဂနွေသားတည်း။၂။

ထိုမင်းလွန်တော်မူလေလျှင် သားတော် အိမ်ရှေ့မင်း မင်းစောလှသည် သက္ကရာဇ် ၉၁၈ ခု၊ တပေါင်းလပြည့်ကျော် ၁၀ ရက်၊ သောကြာနေ့၊ နန်းတက် မိဘုရား စောဘုန်းထွတ်နှင့် ရွှေနန်းတက်တော်မူလေသည်။

မိထွေးတော် စောသဏ္ဍာကိုလည်း တန်ဆောင်းမိဘုရား မြောက်တော်မူလေသည်။

ထိုနှစ်တွင်ဝယ် ဘိုးတော်ခမည်းတော်တို့ ဆောက်လုပ်တော်မူခဲ့ရာ၌ မပြီးမစီးအကြွင်း အကျန်ရှိရစ်သော မဟာမုနိသိမ်တော်ကိုလည်း ပြီးစီးအောင် လုပ်တော်မူသည်။ မခံစဖူးသော ရေပွဲသဘင်ကိုလည်း ခံတော်မူပြီးလျှင် ကြီးစွာသောအလှူကို ပေးတော်မူသည်။

ထိုဘဝရှင် မင်းစောလှကား ပေးကမ်းစွန့်ကြဲသောအခါ၌ ရတနာမိုးရွာသကဲ့သို့ ခပ်သိမ်းသော လူရှင်၊ ရဟန်းတို့အား အယုတ်အလတ် အမြတ်မရွေး ပေးလှူစွန့်ကြဲတော်မူ၏။ ပြည်သူရွာသားတို့အား သနားမေတ္တာကရုဏာဖြင့် လွန်စွာငြိမ်းချမ်းသာယာအောင် ကြံဆောင်ချီးမြှင့် ထောက်ပင့်မစတော်မူ၏။ ကျောင်းကြီးမိမာန်ဆောက်လုပ်တော်မူ၍ သီလဝန်ဂုဏဝန်ပုဂ္ဂိုလ်ကြီးတို့အား လှူဒါန်းတော်မူ၏။

သက္ကရာဇ် ၉၂၃ တွင် ဒုက္ကန်သိမ်၊ ဒုက္ကန်ကျောင်း၊ နန်းတက်ကျောင်း၊ ဖိနဒါသကျောင်း၊ ဆင်စွယ်ကျောင်း၊ မြောက်တန်ဆောင်းကျောင်း၊ မိကျောင်းအိုင်ကျောင်း၊ တန့်တော်ကျောင်း၊ စည်းမောင်းကျောင်း၊ ပန်းတောင်ကျောင်း၊ ဤကျောင်းဆယ်ကျောင်းတို့ကို ဆောက်လုပ်တော်မူ၍ တောင်မြင့်ဓမ္မဝိလာသစသော ပုဂ္ဂိုလ်တို့အား တင်လှူတော်မူသည်။ အုန်း၊ ထန်း၊ စံကားစသည်တို့ကိုလည်း စိုက်ပျိုးလှူဒါန်းတော်မူသည်။ ထိုမှတပါး ဒါနသီလအရာ၌ လွန်စွာ အားထုတ်ပြုလုပ်ကြိုးပမ်းတော်မူသည်။

ထိုမင်း၏ တိုင်းနိုင်ငံကျယ်ခြင်းသည်လည်း စစ်တကောင်းကိုအစိုးရသော ဦးစိကြီးနောက် သရောက်ခင်သည် ညီနှင့်သားတော်ကိုစေလွှတ်၍ ပဏ္ဏာကာရတို့ကို နှစ်တိုင်းမပြတ်ဆက်သတော်မူလျက် ကျမ်းကျိန်စာလက်ခွဲ၍ ကျွန်တော်ခံလာ၏။ ထိုသို့ ကျွန်တော်ခံလာသော ဦးစိကြီး နောက်သရောက်ခင်အား ဉဒေါင်းသက်မင်းသည် တိုင်းနိုင်ငံကို လုယက်ဖျက်ဆီးလာကြောင်းနှင့် ရှေးနားတော်လျှောက်လာသော ငါ့ကျွန်တော်အား နှိပ်စက်ရာသလော ဟူ၍ ဦးရီးတော် သံတွဲစားနှင့်တကွ ဗန္ဓာတ်စသော စစ်သူကြီးလေးပါးတို့ကို စေလွှတ်တော်မူ၍ သက်မင်းကို တိုက်စေလေသော် သက်မင်းလည်းမခံနိုင်၍ သစ္စာထမ်းရွက်လျက် ကျွန်ခံပြီးသော် ညီနှင့်သားတော်ကို ဆက်သတော်မူ၍ လက်ဆောင်ပဏ္ဏာ ရတနာရွှေငွေတို့ကိုလည်း ဆက်သတော်မူလိုက်ရလေသည်။

ထိုဘဝရှင်မင်းစောလှသည် လက်နက်ကိရိယာတို့ကိုလည်း ပြီးစီးအောင်စီရင်တော်မူ၏။ ဘိုးတော်မင်းပါ၊ ခမည်းတော် မင်းတိက္ခာတို့ စီမံလုပ်ကိုင်တော်မူခဲ့သော မြောက်ဦးမြို့တော်ကိုလည်း အနေအရပ်မလျောက်ပတ်သည်ကိုကြည့်ရှု၍ ပျင်ဆင်လုပ်ကိုင်တော်မူသည်။

အဘယ်သို့လုပ်သနည်းဟူမူကား မြောက်ပြင်မှ ငွေတောင်မြို့၊ တောင်ဖြူမြို့၊ မြို့လှမြို့၊ ဤသုံးမြို့တို့ကို ရေလျောင်၊ တန်ဆောင်း၊ ကျုံးမြောင်း၊ ပြအိုး၊ တံခါး၊ ပစ္စင်၊ ရင်လျှောက်တို့ကို ကောင်းစွာပြုပြင်စီမံပြီးမှ ဘိုးတော် ခမည်းတော်တို့ စီရင်ပြုစုခဲ့သောမြို့တို့ကိုလည်း အသီးသီး များစွာဖြည့်လျက် မြို့စားတည်ထားတော်မူလေ၏။ ထိုမြို့တို့၌လည်း ကျီကြ ဈေးနှာ ဥယျာဉ်ရေကန် ပန်းမန်စသော အသုံးအဆောင်များကိုလည်း ပြည့်စုံအောင် စီရင်တော်မူ၏။

ထိုဘဝရှင် မင်းစောလှကား နောက်နောင်မင်းရေး မင်းရာကိုဆင်ခြင်တော်မူ၍ နှမတော်ရင်းဖြစ်သော ဓမ္မာဒေဝီနှင့် ညီတော်စကြဝတေးကို ထိမ်းမြားတော်မူ၏။ ထိုသို့ ထိမ်းမြားတော်မူ၍ သမီးနှစ်ပါးဖွားမြင်တော်မူမှ ဘဝရှင် မင်းစောလှသည် သည်းထန်စွာအနာနှိပ်စက်လတ်သော် မှူးမတ်ပညာရှိတို့နှင့်တိုင်ပင်တော်မူ၍ ညီတော်စကြဝတေးနှင့် နှမတော် ဓမ္မာဒေဝီအား တိုင်းပြည်ထီးနန်းကို အပ်နှင်းတော်မူပြီးလျှင် အိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၈၊ ရှစ်နှစ်နှင့် ခြောက်လ။ နှစ်စုသက်တော် ၃၂၊ ၆ လ၊ သုံးဆဲ့နှစ်နှစ်နှင့် ခြောက်လ။ သက္ကရာဇ် ၉၂၆ ခု၊ ဝါခေါင်လပြည့်၊ တနင်္လာနေ့တွင် လွန်တော်မူလေ

သည်။ နံတော် အင်္ဂါသားတည်း။ ၃။

(ဤမင်းစောလှကိုပင် အစွယ်ခေါခေါ မင်းစော ဖြစ်ကြောင်း၊ ပုဂံပြည်သည် တနေ့ကို နှစ်ခါစီ လန့်ဖျပ်လေ၍ ပုဂံမင်းက မလွန်စားကိုစေလွှတ်၍ ဖျက်စေကြောင်းတို့နှင့် အင်းစောက်ရာဇဝင်၊ ဆရာမေည် ရာဇဝင်၊ ရာဇဝင်လင်္ကာတို့၌ ဆိုကြလေသည်။ ယင်းသို့ဆိုကြသော်လည်း ထိုအခါ၌ ပုဂံပြည်တွင်မင်းမရှိ။ အင်းဝသို့ရောက်ရှိလေပြီးဖြစ်၍ ၎င်းမင်းစောလှ လက်ထက်မဟုတ်။ ရှေး၌ပြဆိုအပ်ခဲ့သော ငတုံမင်းလက်ထက်သာ စေလွှတ်ဖျက်ဆီးလာသည်ဟု မှတ်ရမည်။ ဤကား အမှာစကားချပ်)။

ထိုမင်းစောလှ လွန်တော်မူလေလျှင် ညီတော် စကြဝတေးသည် နှမတော်ဓမ္မာဒေဝီနှင့် သက္ကရာဇ် ၉၂၆ ခု၊ ဝါခေါင်လပြည့် တနင်္လာနေ့၌ဘိသိက်ခံ၍ ရွှေနန်းတက်တော်မူလေ၏။

ထိုမင်းစကြဝတေးမင်း အလိုတော်ပြည့်သော နှစ်ဝယ် ဥဒေါင်းသက်မင်းကို မြို့ ပထန်မင်းတို့သည် တိုက်ခိုက်ဖျက်ဆီးလာသောကြောင့် ဥဒေါင်းသက်မင်းသည် မနေဝံ့၍ များစွာသော ဆင် မြင်း ရွှေ ငွေ လက်ဆောင်ပဏ္ဏာတို့ဖြင့် ဆက်သဖူးမြင် လျှောက်တင်လာသော် ဘဝရှင်စကြဝတေးမင်းလည်း စစ်အင်္ဂါလေးပါးနှင့် တကွ စစ်သူကြီးတို့ကို ခန့်တော်မူ၍ ပြည်ရွာကို ပြုစုတည်ထောင်လျက် ပေးတော်မူစေသည်။ ထိုအခါ စစ်တကောင်း ဦးစီငယ် နောက်သရောက်ခင်သည် နောင်တော် ဦးစီကြီးလက်ထက်ခါကဲ့သို့ သစ္စာထမ်း၍ ကျွန်အတိုင်းခံလေပြီးသော် လက်ဆောင်ပဏ္ဏာတို့ကို မပြတ်ပို့ဆက်၍ နေသည်ဖြစ်လျက် ဥဒေါင်းသက်မင်းသည် ရှေးကအငြိုးရှိသည်ဖြစ်၍ ဘဝရှင်စကြဝတေးမင်း ထံ ကုန်းတိုက်လျှောက်ထားလေသည်ကို နလုံးတော်သွင်းများ၍ ဗုဒ္ဓတစ်သော မျှူးမတ်အပေါင်းနှင့်တကွ ဦးရီးတော် သံတွဲစားတို့ကို တိုက်ခိုက်သော် အနေအရပ်မသင့်ချေသောကြောင့် စစ်ပျက်လေ၍ စစ်တကောင်းမြို့ လက်လွှတ်လေသည်။

စစ်တကောင်းမြို့ လက်လွှတ်လေလျှင် သက်မင်းကိုခေါ်၍မလာပဲ ရှိင်းပြလေသည်။ ထိုမင်းကား ဒါန သီလတရားနှင့်လည်း ပြည့်စုံတော်မူ၏။ ခပ်သိမ်းသော ကျေးဇူးပညာကိုလည်း ဖွေရှာတော်မူ၏။ အရောင်အဆင်းခွန်အားနှင့်လည်း ပြည့်စုံတော်မူ၏။ ပျော်ရွှင်မြူးထူးခြင်း၌လည်း အလွန်အလိုရှိတော်မူ၏။ ထိုမင်း၏ ကောင်းမှုတော်သည်ကား သက္ကရာဇ် ၉၂၇ ခု၊ ဝါကျွတ်လ၌ ကုလားမြို့ကျောင်း၊ မြတောင်ကျောင်း၊ အလယ်စေတီ၊ မြောက်စေတီ၊ ပွဲကျောင်း၊ ကျောက်ရစ်စေတီ ဤခြောက်ရပ်သော ကျောင်းစေတီတို့ကို ဆောက်လုပ်လှူဒါန်း တည်ထားတော်မူ၏။

ထိုမင်းစကြဝတေးသည် နှမတော် ဓမ္မာဒေဝီလွန်ခဲ့လေလျှင် မရီးတော် တန်ဆောင်းမိဘုရား စောသန္တာကို မိဘုရားမြှောက်တော်မူ၍ ဘိုးတော်၊ ခမည်းတော်၊ နောင်တော်တို့ ပြုလုပ်စီမံတော်မူခဲ့သော မြို့တော်တို့ကို ကြည့်ရှုတော်မူပြီးလျှင် ဤထက်ဆင့်၍လုပ်ကိုင်ရသည် ရှိသော် အလွန်ကြီးကျယ်သည် ဖြစ်လတ္တံ့ဟူ၍အရှေ့တောင်၌ ပေါက်ဆိန်တောင်ကိုဖြတ်ပိုင်းတူးထွင်း၍ ယခင်မြို့ကဲ့သို့ ကျုံးမြောင်းတံခါး ရင်တားပြအိုး ပစ္စင်ရင်လျှောက်တို့ဖြင့် ကောင်းစွာစီရင်ပြီးမှ မြို့စားတို့ကို အသင့်တည်ထားတော်မူ၏။

သက္ကရာဇ် ၉၃၀ ပြည့်၊ ဝါကျွတ်လပြည့်၊ ကြာသပတေးနေ့၊ ညဥ့်တနာရီလောက်တွင် ဥပါပျံ၍ အနောက်သို့ကျလာ၏။ ဆင်တော်ရွှေတောင်လည်း သေခဲ့၏။ နတ်တော်လဆန်း ၁၂ ရက်ကစ၍ ဘုရားကြီး၊ ပုထိုးကြီး၊ ရုပ်တုတော်၊ ဆင်းတုတော်တို့သည် ရောင်ခြည်လွှတ်တော်မူ၏။ သစ်ပင်ကြီးတို့မှ အမိုးအလျှံထွက်၏။ သစ်ရည်ယိုထွက်၏။ ပျားအုံလာ၏။ ထိုမင်းစကြဝတေးသည် ကျောက်ရောဂါဖြင့် အိမ်နိမ့် ၂၉၊ နှစ်ဆဲ့ကိုးနှစ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ သက္ကရာဇ် ၉၃၃ ခု တွင် လွန်တော်မူလေသည်။ နံတော်သောကြာသားတည်း။ ၄။

ထိုစကြဝတေးမင်း လွန်တော်မူလေလျှင် သီရိသုရိယစန္ဒမဟာဓမ္မရာဇာ အမည်ရှိတော်မူသော မင်းပါကြီးသားထွေး၊ စစ်တံတင်မြို့စား ဖွားတော်ထွေးချစ်နှောင်း မင်းဖလောင်းကို ပြည်သူမှူးမတ်တို့ ညီညွတ်တိုင်ပင်၍ သက္ကရာဇ် ၉၃၃ ခု၊ တပို့တွဲလဆုတ် ၈ရက်၊ ကြာသပတေးနေ့၊ စကြဝတေးသမီးရှင်လတ်နှင့် ဘိသိက်သွန်း၍ ရွှေနန်းတင်တော်မူလေသည်။ မင်းဖလောင်း အမည် တွင်လေသည့်အကြောင်းကား ခမည်းတော် မင်းပါကြီးလက်ထက်၌ များစွာသော သင်္ဘောသမ္ဗာန် လက်နက်ကိရိယာတို့ဖြင့် တိုက်ခိုက်လာသော ဘရင်ဂျီ ဖလောင်းစစ်ကို အောင်မြင်တော်မူသောအခါ၌ ဖွားမြင်တော်မူသောကြောင့် မင်းဖလောင်းဟု တွင်လေသည်။ ငယ်မည်ကား ဖွားတော်ထွေးအမည်ရှိ၏။ အလိုတော်ပြည့်လျှင်ကား မင်းဖလောင်းဟူ၍ ကျော်စော ထင်ရှားလေ၏။ မောင်းကွပ်၊ ပထန်၊ သက်၊ မြို၊ ဟိန္ဒူတ်၊ မုသလမ်ကုလားတို့ကို ပိုင်လေသောကြောင့် ကုလားတို့ အမည်အားဖြင့် သျောကိန္ဒြသျှာရာဇာဟု ကျော်စောထင်ရှားလေ၏။

(ဤအရာတွင် ဓညဝတီအရေးတော်ပုံ၌ မင်းပါကြီး သားတော်ငယ်မည် ချစ်နှောင်း၊ မင်းဖလောင်းကြီး ထီးနန်းတက်တော်မူလျှင် ဘထွေးတော် စကြဝတေးကို သတ်ွဲစားပေးတော်မူကြောင်းနှင့် ဆိုခြင်းသည် စကြဝတေးမင်းလွန်ပြီးမှ ထီးနန်းတက်လေရကား ရာဇဝင်ဟောင်းတို့နှင့်မညီလေ။

ထိုမင်းလက်ထက် ၉၀၅ ခုတွင် တောင်ငူမင်းတရား ရွှေထီးရောက်လာကြောင်းနှင့် ဆိုသော စကားသည် ခမည်းတော် မင်းပါမှလွန်တော်မမူသေးဖြစ်၍ ရာဇဝင်ဟောင်းတို့နှင့် မညီသောကြောင့် ဖြောင့်သားရေးခဲ့ရလေသည်။ အချို့ရာဇဝင်သစ်၌ကား သက္ကရာဇ် ၉၁၅ ခု၊ တပို့တွဲလဆုတ် ၈ ရက်၊ ကြာသပတေးနေ့၊ မင်းဖလောင်းနန်းတက်ကြောင်းနှင့် ဆိုလေသည်။ ခမည်းတော် မင်းပါနတ်ရွာစံ၍အစ်ကို မင်းတိက္ခာနန်းတက်သောနှစ်သာဖြစ်၍ ယုတ္တိမရလေ။ တောင်ငူ မင်းတရား ရွှေထီးသည် သက္ကရာဇ် ၉၁၇ ခု၊ တပို့တွဲ လဆန်း ၂ ရက်နေ့၊ လောင်းကြက်မြို့တွင် ချရပ်လာကြောင်းနှင့် ဆိုသော စကားသည်လည်း သက္ကရာဇ် ၉၁၂ခု၊ ကဆုန်လပြည့်ကျော်တရက်၊ ဗုဒ္ဓဟူးနေ့ကပင် ကသာတွင် တဲနန်း၌ လက်ဝဲဒါးမှူးလုပ်ကြံ၍ မင်းတရားရွှေထီး လွန်လေပြီးဖြစ်၍ ၉၁၇ ခုနှစ်လာနိုင်ရန် အကြောင်း မရှိလေ။ ဤမှတပါး စကားရပ်တို့မှာ ဓညဝတီအရေးတော်ပုံနှင့်အတူဆိုလေသည်။ ဤကား အမှာစကားချပ်)

ထိုဘဝရှင် မင်းဖလောင်းကြီးသည် ငယ်ကမျောက်သားတော်ဖြစ်သော စောမိတော်ကိုကား မိဘုရားခေါင်ကြီး မြှောက်တော်မူ၏။ နှောင်တော်မင်းတိက္ခာ၏ မိဘုရား စောသန္တာကို တောင်မိဘုရားအရာ၌ ထားတော်မူ၏။ ဘိသိက်သွန်းဖက်ဖြစ်သော စကြဝတေးသမီးတော် ရှင်လတ်ကိုကား နန်းထက်မိဘုရားမြှောက်တော်မူသည်။ မျောက်သားတော် စောဦးကိုကား မြောက်မိဘုရား မြှောက်တော်မူလေသည်။ ဤသို့လျှင် မိဘုရား လေးယောက်ဖြစ်သတည်း။

သားတော်ကြီးဖြစ်သော သတိုးဓမ္မရာဇာကိုကား စကြဝတေးသမီးနန်းထက်ဖွားနှင့် ထိမ်းမြားတော်မူ၍ အိမ်ရှေ့အရာကိုအပ်နှင်းတော်မူသည်။ သားတော်အလတ်ဖြစ်သော သတိုးမင်းစောကိုကား သမီးတော် ပဒုမာဒေဝီနှင့် ထိမ်းမြား၍ စစ်သူကြီးအရာကို ပေးအပ်တော်မူသည်။ သမီးတော်အကြီး ကဥ္စနဒေဝီကိုကား ညီတော်မင်းရဲရန်အောင်နှင့်ထိမ်းမြား၍ လောင်းကြက်မြို့စားပေးတော်မူသည်။ သမီးတော်အလတ် အရှင်မကိုကား ညီတော် မောင်ကြီးထွေးနှင့်ထိမ်းမြား၍ တောင်ဖက်စားအရာကို ပေးတော်မူသည်။ သမီးထွေး စလပ်ဒေဝီကိုကား နှောင်တော် ဘုရင်မင်းတိက္ခာ သားတော် ဘစောမင်းညိုနှင့် ထိမ်းမြား၍ ရာဇသင်္ကြံအရာပေးတော်မူသည်။

ဤသို့လျှင်ဘဝရှင်မင်းတရားကြီး မင်းဖလောင်းသည် ကြယ်များအောင်၌ လမင်းကဲ့သို့ မိုးတော်ဆွေတော်တို့၏အလယ်၌ မင်းစည်းစိမ်ကို ခံစားတော်မူ၍

ရှေးဟောင်းလောင်းတော် ဝါသုဒေဝ၊ မဟာစန္ဒသူရိယ၊ စန္ဒရားစသောမင်းတို့အား အခွန်ဘဏ္ဍာ ဆက်သွင်းလာရသော ထိုထိုပြည်ကြီးတို့ကို တရားသဖြင့် စီရင်တော်မူအံ့ဟု အကြံတော်ရှိသည်ဖြစ်၍ မဇ္ဈိမဒေသအရပ်၌ ကမ္ဘောဇမည်သော သက်မင်းပြည်သည် တံခါးမသဖွယ်ဖြစ်သောကြောင့် ထိုသက်မင်းပြည်ကို လက်ဦးစွာလုပ်ကြံတော်မူအံ့ဟု စီရင်ခင်းကျင်းတော်မူ၏။

အဘယ်သို့စီရင်ခင်းကျင်းတော်မူသနည်းဟူမူကား ဘဝရှင်မင်းတရားကြီးသည် အလောင်းသူမြတ်ဖြစ်၍ သူ့အား သွေးတစက်မျှထွက်ခြင်းကို အလိုတော်မရှိ။ မင်းတရားကြီးလည်း ပညာတော်ဖြင့် ဤသက်မင်းအား ပညာရေးဖြင့်သာလုပ်ကြံအံ့ဟု မင်း၏ပရိယာယ်ဗျူဟာဖြင့် မင်းစေတမန်လွှတ်၍ခေါ်ချေသော် ထိုသက်မင်းသည် ကိုယ်၏ အစီးအပွား၊ ပြည်သူတို့၏အစီးအပွားကို မမြင်သောကြောင့် ရွာလတ်တရွာ၏အခွန်ကိုသာ ဆက်လိုက်လေ၍ လာရောက်ခြင်းမပြုလေသော် ဘဝရှင်မင်းတရားကြီးသည် ပညာဖြင့်ဆင်ခြင်၍ မှူးတော်မတ်တော် အသည်အပေါင်းတို့အား သာသနာတော်မြတ်ကို တည်ထွန်းအောင်ပြုတော်မူခြင်းငှာ သက်မင်းပြည်သို့ ငါချီတော်မူမည်ဟု မိန့်တော်မူလေသော် ပညာရှိ မှူးတော်မတ်တော်တို့က အရှင်မင်းကြီး၊ သီဟိုဠ်ကျွန်း၌ ဒုဋ္ဌဂါမဏိမင်းသည် သာသနာတော်နှင့် စပ်သောကြောင့် လောရကျေးမင်းနှင့်တကွ အက္ခောဘဏီရှိသော စစ်သည်မိစ္ဆာဒိဋ္ဌိတို့၏ နေထိုင်ရာမြို့တို့ကို လုပ်ကြံသိမ်းယူတော်မူ၍ သာသနာတော်ကို ထွန်းလင်းတောက်ပတော်မူစေသကဲ့သို့ ကြွချီသိမ်းယူတော်မူ၍ သာသနာတော်မြတ်ကို တည်ထွန်းအောင် ပြုသင့်ပါကြောင်းနှင့် နားတော်လျှောက်ကြလေလျှင် ဘဝရှင်မင်းကြီးလည်း အားရတော်မူ၍ စစ်အင်္ဂါလေးပါးတို့ကိုစီရင်တော်မူ၍ သက္ကရာဇ် ၉၃၆ ခု၊ တပို့တွဲလဆန်း ၂ ရက်၊ စနေနေ့တွင် ရွှေစက်ကြွချီတော်မူ၏။

ရတနာမျိုးတို့ဖြင့် ဆန်းကြယ်သောရွှေနန်းဖောင်ပြာသာဒ်တော်ဝယ် စံမွေ့ယ်တော်မူလျက် ရွှေလောင်း၊ ရွှေမိကျောင်း၊ ရွှေကြက်၊ ရွှေကျီး၊ ရွှေစာမရှိသော အထောင်မကသော လှေကြီးတို့သည် စဉ်သင့်စွာခြံရံလျက် လှေသဘင်ဖြင့် ကြွတော်မူလေ၏။ ကြည်းကြောင်းတမူကား လက်နက်ကိရိယာ ရဲမက်ဆင်မြင်းအလုံးအရင်းတို့သည်ကား မြေပြင်နှံ့မျှ ချီကြလေကုန်၏။ ထိုအခါဝယ် ရေကြောင်းသဘင်ကို မြင်ရကုန်သောသူတို့သည် ရှေးဟောင်းလောင်းတော် မင်းထီးလက်ထက်၌ သက်ပြည်၊ မြို့ပြည်တို့ကို တိုက်ချေသောအခါ လက်နက်ကိရိယာ ရဲမက်ဗိုလ်ပါ ဆင်မြင်း အလုံးအရင်းကဲ့သို့ဟူ၍ ပြောဆိုကြကုန်၏။ ဤသို့သောအလုံး အရင်းတို့နှင့် ခြေတော်ဆန့်လေ၍ သောက်ချောင်းဝယ် တပ်တော်ချလေ၏။

သားတော် အကြီးဖြစ်သော အိမ်ရှေ့မင်းအား ခန့်ရပ်တော်မူလေလျှင် သားတော်အိမ်ရှေ့မင်းလည်း ခမည်းတော်အမိန့်ကို ဦးထိပ်ထက်တင်၍ များစွာသော စစ်သူကြီး သူရဲကောင်းစသော လက်နက်ကိရိယာ ဆင်လုံးမြင်းရံတို့နှင့် သက်မင်းမြို့ကိုလုပ်ကြံလေသော် စကြာမင်း၏ သားကြီးရတနာသည် ခမည်းတော် စကြာမင်း ခန့်အပ်တော်မူသည့်အတိုင်း အမှုခပ်သိမ်းကိုပြီးငြိမ်းအောင်မြင်စေသကဲ့သို့ ခမည်းတော် ခန့်ရပ်တော်မူသည့်အတိုင်း ပြီးမြောက်အောင်မြင်တော်မူလေသည်။ ပြီးမြောက်အောင်မြင်ကြောင်းကို ခမည်းတော်မင်းကြီးကြားသိတော်မူလေလျှင် ဝမ်းမြောက်တော်မူလျက် သက်မင်းနှင့်တကွ ကမ္ဘောဇပြည်ကိုပြုစုတော်မူ၍ သက်မင်း၏နိုင်ငံဖြစ်သော ပုရပါသျှာ၊ သံကာသလာ၊ သျှတ်သျှာ၊ စုက္ကရာ၊ သောက္ကဒန်စသော ရွာကြီး ရွာငယ်တို့ကို မပြိုမကွဲစေဘဲ ရွာစားချထားတော်မူ၍ သာသနာတော်တည်ထွန်းအောင် ပြုတော်မူစေသည်။

ဤသို့ တည်ထွန်းအောင်ပြုစေတော်မူသောကြောင့် ဘဝရှင်မင်းတရားကြီး၏တန်ခိုးအာနုဘော်သည် အလွန်ထင်ရှားကျော်စောတော်မူသဖြင့် ဇမ္ဗူဒီပါကျွန်းအပြင်ဝယ် ဘုရင်ထီးဆောင်းမင်းအပေါင်းတို့သည် ခညောင်းမိုးခိုရာသဖွယ်ဖြစ်၍ သဘော်ဆိပ်ကြီးဖြစ်သော

စစ်တကောင်းမြို့ကိုအစိုးရသော ဦးစီစလာသည်လည်း ကျွန်တော်အဖြစ်ဖြင့် လက်ဆောင်ဘဏ္ဍာမြို့ရွာ တုတ်ခွန်တို့ဖြင့် ဆက်သဖူးမြော်လာပေသည်။ ဘဝရှင်မင်းတရား၏ ခြေတော်နှစ်ဖက်ကို ဦးထိပ်တင်၍ ကျွန်ခံလာသော စစ်တကောင်း ဦးစီစလာအား မင်းတကာတို့သင်္ဂြိုဟ်ရာ အပြားလေးပါးဖြင့် သနားပြုစုတော်မူ၍ တနှစ်ချင်းဝယ် နှစ်ပြည်ထောင်တို့၏ အရေးကိစ္စကို စီရင်တော်မူပြီးသော် သက်မင်းကို ရွှေဖဝါးတော်ရင်းသို့ဆောင်ခဲ့၍ ပြန်တော်မူခဲ့လေသည်။

ဘဝရှင်မင်းဖလောင်းသည် ဒုက္ခိတသတ္တဝါတို့အား ကရုဏာသက်တော်မူ၍ သက်မင်းအား သနားတော်မူသဖြင့် မညှိုးမနွမ်းစေရ၊ ထောက်မသင်္ဂြိုဟ်တော်မူ၏။

တရံရောအခါ၌ ဘုရင်မင်းဖလောင်းသည် ရွှေနန်းတော်ဆောက်အံ့ဟု အကြံတော်ရှိသည်ဖြစ်၍ နိုင်ငံတော်အတွင်း ဇနပုဒ်တိုင်းကား ရွာကြီးရွာငယ်တို့ကို စိုးအုပ်နေကြကုန်သော မှူးတော်မတ်တော်တို့အား တံဆိပ်အမှတ်စာနှင့် စေလွှတ်တော်မူလေသော် ထိုထိုသော ဇနပုဒ်ခရိုင် မြို့ရွာကြီးငယ်တို့ကိုအုပ်စိုးနေကြ ကုန်သော မှူးတော် မတ်တော်တို့သည် အမိန့်တော် ရွှေစာကို ဦးထိပ်ထက်တင်ရွက်၍ တောတောင်အနှံ့ရှာဖွေလျက် ဗိသုကာကျမ်းနှင့်အညီ ထူးဖျားသစ်၊ ချောင်းကူးသစ်၊ သူကောင်တင်သစ်စသော တဆဲ့ခြောက်ပါးသော အပြစ်ကင်းသော သစ်တို့ကိုယူဆောင်ခဲ့၍ ဘုရင်မင်းမြတ်အား ဆက်သတော်မူကြကုန်၏။ ဘုရင်မင်းဖလောင်းသည် ကောင်းမြတ်သောသစ်တို့ဖြင့် သက္ကရာဇ် ၉၃၉ ခု၊ တော်သလင်းလဆုတ် ၁ရက်၊ တနင်္ဂနွေနေ့၊ ကန်လက်၊ ကရကဋ်စန်းဝယ် ရွှေနန်းတော်ကိုဆောက်လုပ်၍ ပြီးမြောက်စိုးစံတော်မူလေသည်။

တရံရောအခါ ဘုရင်မင်းဖလောင်းသည် သက်မင်းအား သူ့ပြည်စည်းစိမ်ကို ဆောက်နှင်းတော်မူပြန်လို၍ ဤသို့မိန့်တော်မူ၏။ အမှတ်ချွတ်ယွင်းသော ယောကျ်ားသည် ဇောတိရသအမည်ရှိသော ပတ္တမြားရတနာကို အရောင်အဝါညှိုးစေအံ့ဟု ညွန့်ရေစသည်တို့ဖြင့် လိမ်းကျံပွတ်လှည့်သော်ငြားလည်း ထိုပတ္တမြားအရောင်မညှိုး၊ တိုး၍သာပြောင်သကဲ့သို့ အမောင်တို့သည် ငါ၏ တန်ခိုး ကြက်သရေတော်ကို ယုတ်နိမ့်စေခြင်းငှာ ပုန်ကန်သောင်းကြမ်းပြုသော်လည်း ငါ၏တန်ခိုးကြက်သရေတော် မညှိုး၊ တိုး၍သာ ထွန်းကားကြွေညာလေသည်။ ယင်းသို့ ငါ၏တန်ခိုး ကြက်သရေတော်ကို ယုတ်နိမ့်စိမ့်လေအောင် ပုန်ကန်သောင်း ကြမ်းပြုလုပ်လေငြားသော်လည်း ပညာရှိသော မင်းတကာတို့သည် အပြစ်ပြုသောသူအား သည်းခံရိုးဓမ္မတာဖြစ်၍ ငါသည်းခံတော်မူ၏ဟု မိန့်တော်မူပြီးလျှင် သက်မင်းအား မင်းဆောင် မင်းယောင်နှင့်တကွ သူ့ပြည်ကို ဆောက်နှင်းချီး မြှောက်တော်မူလေသည်။

ဤသို့လျှင် သက်မင်းအား သူ့ပြည်ကိုပြန်၍ ဆောက်နှင်းလေသောသတင်းကို အရပ်ထက်ဝန်းကျင်တို့မှ ကြားလေသော် မောင်းကွပ်၊ ပထန်စသော အပြည်ပြည်သောမင်းတို့သည် ခြေတော်အောက် လာရောက်ခစားကျွန်ခံလာကုန်သည်။

တရံရောအခါ ဘဝရှင်မင်းတရား ဘုန်းတော်ကြောင့်မြတ်သော ဆင်မျိုးရတနာကို နတ်အပေါင်းတို့ ညီညာကူမ ပို့လာသကဲ့သို့ ကျည်းမသရက်မြို့ကြီး၏ အရှေ့ဖြစ်သော ပန်းပြင်အရပ်ဝယ် ဆင်ဖြူတော်ရောက်လာကြောင်း ရွှေနားတော် ကြားလေလျှင် ဘဝရှင်မင်းတရားသည် မင်းပွဲသဘင်စီရင်တော်မူ၍ သက္ကရာဇ် ၉၄၁ ခု၊ တော်သလင်းလဆုတ် ၅ ရက်၊ ကြာသပတေးနေ့ ကြွချီတော်မူ၍ ဆင်တော်ကို ဖမ်းတော်မူလေရာ နီလုစ္စာသော တမ္ဗဆင်မျိုး၏အနွယ်ဖြစ်သော ဆင်ရတနာကို ရတော်မူလေသည်။ ထိုဆင်ရတနာကို ရပြီးသည့်နောက် လေးမြို့ချောင်းတွင်လည်း ဆင်ဖြူအမတစီး ရတော်မူလေသည်။

ဤသို့လျှင် ဆင်ဖြူနှစ်စီးရှင် ဘုရင်မင်းတရားကြီးသည် ရှေးဘဝအဆက်ဆက်၌ လေ့ကျက်ဖြည့်ဖူးသော ပါရမီတော်ရှင် ဖြစ်တော်မူသောကြောင့်ဇင်း၊ ဤဘဝ၌

ဖြည့်ဆည်းပူတော်မူအပ်သော ဒါန၊ သီလစသော ပါရမီတော်၏ အစွမ်းအားဖြင့်၎င်း အလိုရှိအပ်သော ဆန္ဒတော်နှင့် ညီညွတ်စွာပြည့်စုံတော်မူသည်ဖြစ်၍ တရားသဖြင့် မင်း၏စည်းစိမ်ကို ခံစားတော်မူသည်။

တရုံရောအခါ ပဲခိုးဘုရင်ကျော်ထင်နော်ရထာသည် အလိုတော်မပြည့်မီ ယောက်ဖတော်ဖြစ်သော တောင်ငူဘုရင်မင်းတရားရွှေထီးနှင့်တကွ ငါတို့ဆင်ဖြူရှင်မင်းတရားကြီး၏ခမည်းတော် သီရိသူရိယစန္ဒမဟာဓမ္မရာဇာ မင်းပါကြီး လက်ထက်တော်၌ တကြိမ်လာရောက်လုပ်ကြံလာသော်လည်း ဘုန်းတော်တည်းဟူသော သံခြေကွန်ရက်တွင်းမှ မလွတ်ထွက်နိုင်သည်ဖြစ်၍ မိဘုရားရတနာ၊ ဆင်ကောင်း၊ မြင်း ကောင်း၊ ရွှေ၊ ငွေ၊ လှေ စသော များမြောင်စွာသော လက်ဆောင်တော် ဆက်သ၍ ပြန်ရပါမည့်အကြောင်းနှင့် ခွင့်တောင်း အသနားခံလေရာ မင်းပါကြီးလည်း သနားခွင့်ပေးတော်မူသဖြင့် ပြန်သွားကြပြီးနောက် မင်းတရားရွှေထီး သက္ကရာဇ် ၉၁၂ ခုနှစ်တွင်လွန်လေသဖြင့် ယောက်ဖတော် ကျော်ထင်နော်ရထာမင်းအလိုတော်ပြည့်လေလျှင် ကျယ်ဝန်းစွာသော တိုင်းကားနိုင်ငံကို အစိုးရတော်မူသော ငါတို့ ဆင်ဖြူရှင်မင်းဖလောင်း၏တန်ခိုးအာနုဘော်ကို မသိသည်ဖြစ် ခမည်းတော်မင်းပါလက်ထက်က အရှက်ရဖူးသော ပဲခူးမင်း ကျော်ထင်နော်ရထာသည် များစွာထူထပ်သော စစ်အင်္ဂါလေးပါးကိုစီရင်၍ မုတ္တမမြို့စား ညီတော်သီရိဓမ္မရာဇာကို ဗိုလ်မှူးခန့်တော်မူ၍ လင်းပတေးကြောင်း ငါတို့ ရခိုင်ပြည်သို့ ချီရသည်။ သမက်တော် မင်းရဲကျော်ထင်ကို ဗိုလ်မှူးခန့်တော်မူ၍ ဥယျာဉ်ပုကြောင်း ငါတို့ရခိုင်ပြည်သို့ ချီရသည်။ သံတွဲသို့ရောက်လျှင် သံတွဲတွင်ရှိသော ရဲမက်တော် ရှစ်တပ်သားတို့နှင့်ရုံးစည်း၍ ရေအားကြည်းအား ငါတို့ရခိုင်ပြည်သို့ချီလာပြီးလျှင် လောင်းကြက်ပြင်ဝယ် တပ်ချ၍နေလာ၏။ အရှေ့ဘက်က သူတို့မင်းနှင့် သျှမ်းစော်ဖွားတို့သည် ဖိုးခေါင်တောင်ကိုလွန်၍ ချီလာကြလေကုန်သည်။

ငါတို့ရခိုင်ဘုရင်မင်းဖလောင်းကား ရွှေနန်းတော်ထက်နေတော်မူလျက်လျှင် စစ်သူကြီးအားနှင့် မြို့ကိုလုံစေရမည်ဟု အမိန့်တော်ချလေသော် စစ်သူကြီးစသော ရဲမက်ဗိုလ်ပါအပေါင်းတို့သည် သောင်းသောင်းရှင်လန်း ဝမ်းသာစွာလျက် အမိန့်တော်ကို ဦးထိပ်တင်ပြီးလျှင် လောင်းကြက်မြို့တွင်ရှိသောသူ့စစ်သည်များကို ထွားထွားကြေညက်အောင် တိုက်ဖျက်နှင်ဖြိုလေသော် သူ့စစ်သည်တို့လည်း မခံနိုင်သည်ဖြစ်၍ သက္ကရာဇ် ၉၄၃ခု၊ တန်ဆောင်မုန်းလတွင် သံတွဲမြို့သို့ဆုတ်၍နေကြလေသည်။

ဘုရင်မင်းဖလောင်းလည်း သံတွဲမြို့တွင်နေသော ပဲခူးမင်းစစ်သည် ဗိုလ်ပါတို့ကို လိုက်လံတိုက်ခိုက်ရမည်ဟု ဇုန္တာဘတ်စသော စစ်သူကြီးတို့အား အမိန့်တော်သံချတော်မူလေသော် ဇုန္တာဘတ်စသော ရဲမက်ဗိုလ်ပါတို့လည်း အမိန့်တော်ကို ဦးထိပ်ထက်တင်၍ များမြောင်စွာသော လက်နက်ကိရိယာတို့နှင့်တကွ ရေကြောင်းချီလေ၍ သံတွဲတွင်ရှိသော သူ့စစ်သည်တို့ကို လက်ဝယ်ထားခဲ့ပြီးလျှင် သူ့နိုင်ငံတိုင်အောင်လိုက်၍ တိုက်ဖျက်ပြီးလျှင် လှေတက်ရှာပြည်တို့ကို မီးတိုက်၍များစွာသော သုံ့ပန်းတို့ကိုဆောင်ယူ၍ ပြန်လာခဲ့ကုန်၏။ သံတွဲတွင်ရှိသော သူ့စစ်သည်တို့ကိုလည်း အသိန်းမကသော ငါတို့စစ်သည် သူရဲတို့သည် လိုက်လံဖျက်ဆီး တိုက်ခိုက်လေသောကြောင့် မော်တင်နဂါးရစ်မြစ်ကြီးကို လှည့်ပတ်၍ပြေးလာကြရာ ငါတို့စစ်သည်နှစ်ဦးညှပ်၍ သတ်ဖြတ်တိုက်ခိုက်လေသော် ကြွမ်းထင်းကဲ့သို့ ပျောပါးသေပျောက်ကြကုန်၏။ ရွှေလှေ၊ ငွေလှေ၊ ရွှေ ငွေမှူးမတ် အစရှိသော သုံ့ပန်းတို့ကို သိမ်းယူရရှိလိုက်ပေ၏။

ကြည်းကြောင်းထွက်ပြေးသော သူ့စစ်သည်တို့ကိုလည်း လောင်းခေါင်းတောင် မြို့ကိုလှည့်၍ လိုက်လံတိုက်ခိုက် ဖျက်ဆီးကြလေသော် များစွာသောလက်နက်ကိရိယာသုံ့ပန်းတို့ကို ရခဲ့ကြလေ၏။ ဇုန္တာဘတ်စသော တပ်မင်းဗိုလ်ပါအပေါင်းတို့သည် များစွာသော စစ်လက်

ဆောင်တို့ကို ဆက်သလာကုန်၏။ ပဲခိုးဘုရင်ကျော်ထင်နော်ရထာလည်း သက္ကရာဇ် ၉၄၃ ခု၊ တန်ဆောင်မုန်းလပြည့်နေ့ လွန်တော်မူလေသည်။

ဘုရင်မင်းဖလောင်းသည် ဝမ်းမြောက်တော်မူသည်ဖြစ်၍ ဇုန္တာတ်စသော တပ်မင်းဗိုလ်ပါအပေါင်းတို့အား ကြီးစွာသော အဆောင်အယောင် ဆုလပ်တို့ကို ပေးတော်မူ၏။

ဤသို့လျှင် ပဲခိုးဘုရင်အစရှိသော စစ်သည်အပေါင်းတို့သည် သေကြေပျက်စီးရသောအကြောင်းကို ပြည်ထောင်ချင်း မင်းတကာတို့ကြားလေသော် လွန်စွာကြောက်လန့်ကြလေကုန်၏။ ထိုနှစ်တွင်ပင် ဘုရင်မင်းတရားကြီးအား ဆင်ဖြူတစီးရတော်မူပြန်လေသည်။

ဤသို့ ရန်မာန်ခပ်သိမ်းကင်းငြိမ်းပြီးလျှင် ဘုရင်မင်းတရားကြီးသည် နောက်နောင် အစဉ်အဆက်ပြည်ရေးတာဝန်ကို မျှော်လင့်တော်မူ၍ သားတော်အကြီးဖြစ်သော အိမ်ရှေ့မင်းအား များစွာသော ဆင်မြင်းရဲမက်လက်နက်ကိရိယာ ကျေးရွာခရိုင်တို့ကို သတ်မှတ်ပိုင်းခြားလျက် ဆောင်နှင်းတော်မူ၍ အိမ်ရှေ့မင်းဘုရားဟူသော အမည်ကို ပေးတော်မူပြီးသော် အလိုတော်ပြည့်စကပင်အနောက်မဇ္ဈိမဒေသတရိုးဝယ် သဗ္ဗညုရှင်တော်ဘုရား၏ သာသနာကို ထွန်းလင်းတောက်ပအောင် ကြိုဆောင်အားထုတ်တော်မူမည်ဟု မျှော်တင်းတော်မူလေသော် ဤအနောက်တရိုးကိုကား တပါးပါးသောမျိုးတော်ဆွေတော်တို့ကိုခန့်တော်မူသည်ရှိသော် ကြံတိုင်းအလိုတော်မပြည့်စုံလေရာဟု သာသနာတော် အစီးအပွားကို အကြောင်းပြု၍ သားတော်အလတ်ဖြစ်သော သတိုးမင်းစောကို များစွာသောအလုံးအရင်း ဆင်မြင်းရဲမက်ဗိုလ်ပါနှင့်တကွ အနောက်တရိုးကို ဆောင်နှင်းတော်မူ၍ အနောက်ဘုရင်ဟု အမည်ပေးတော်မူ၏။

အနောက်တရိုးကို သားတော်အလတ်သတိုးမင်းစောအား ဆောက်နှင်းတော်မူရာဝယ် ကမ္ဘောဇမည်သော သက်ပြည်ကိုအစိုးရသော သက်မင်းအပေါင်းတို့သည် အစဉ်အဆက်သော အကျိုးစီးပွားကို မမြင်ကြကုန်သည်ဖြစ်၍ ဥတ္တရစ်ပြည်ကိုအစိုးရသော မြို့မင်းထံသို့ပြေးဝင်လေ၏။ ဘဝရှင်မင်းတရား၏ ကျွန်ဖြစ်သော စစ်တကောင်းမြို့စား ဦးစီစလာ၊ ပထန်၊ ပဇီ၊ သီရိမောက်ခင် အစရှိသော ဘုရင်ကျိုတို့ကို လှည့်ပတ်ပြောဆို၍ သစ္စာဖွဲ့ကြပြီးသော် တလွန်းတည်းကြိုးကဲ့သို့ ကြံကြသောအကြောင်းကို ဘဝရှင်မင်းတရားအား ရွှေနားတော်လျှောက်လာသော် ဘဝရှင်မင်းတရားလည်း သားတော်အား ချွတ်ယွင်းသောအကြံဖြင့် ပြစ်မှားသောသူတို့ကို အဆောတလျင်စီရင်အားထုတ် ပြုလုပ်ရမည်ဟု တမန်စေလွှတ်တော်မူသဖြင့် စူးစမ်းထောက်လှမ်းပြုလေသော် အပေါ်ကား ကြောက်ရွံ့ကျိုးနွံသကဲ့သို့ အတွင်းကားတကြောင်း ကျင့်ကြံလေသောအဖြစ်ကိုသိ၍ ခမည်းတော်ထံ လျှောက်ပြန်စေသော် ဘဝရှင်မင်းတရားလည်း မင်း၏မာန်တော်ဖြင့် ကြည်းအားရေအားနှင့် သက္ကရာဇ် ၉၄၈ ခု၊ နတ်တော်လဆန်း ၆ ရက်၊ ဗုဒ္ဓဟူးနေ့၊ မကရလက်၊ မကရ စန်းဝယ် မင်းစမွယ်ခြင်းဖြင့် ရတနာရွှေဖောင်သို့ တက်စီးတော်မူလေ၏။

ထိုသို့ တက်စီးတော်မူသောနေ့၌ပင်လျှင် မြို့မင်း၏ အပင်းအသင်းဖြစ်သော စစ်တကောင်းမြို့စား ဦးစီစလာနှင့် ကပ္ပိတင်တို့သည် သစ္စာဖောက်ပျက်ခြင်းတည်းဟူသောဒဏ်ဖြင့် ရောဂါနှိပ်စက်၍ အသက်ကုန်ဆုံးခြင်းသို့ ရောက်ကြလေကုန်၏။ ပထန်၊ ပဇီနှင့် သီရိမောက်ခင်တို့မူကား အချင်းချင်းလက်နက်ထူကြ၍ အသက်၏အန္တရာယ်သို့ ရောက်ကြလေကုန်သည်။ ဤသို့ ရတနာဖောင်တော်သို့ တက်စီးသောနေ့ဝယ် မြို့မင်းတို့သည် သစ္စာဖောက်ဖျက်ခြင်းတည်းဟူသော ဘေးဒဏ်ရောဂါဖြင့် သေပျောက်လေကုန်သည်ဟူသော သတင်းစကားကို ပြည်ထောင်မင်းချင်းတကာတို့ ကြားသိလေရာ လွန်စွာအံ့ဩထောမနာ ပြုကြကုန်၏။

ဘဝရှင်မင်းတရားကြီးလည်း ခရီးအစဉ်အတိုင်း ချီကြွတော်မူလေလျှင် မိမိနိုင်ငံတော်ဖြစ်သော ပြည်ကြီး

ပြည်ငယ်တို့၏ အခွန်အတုတ်ကိုခံတော်မူ၍ များမြောင်စွာသော လက်နက်ကိရိယာ၊ ဗိုလ်ပါဆင်မြင်းစသော စစ်အင်္ဂါလေးပါးတို့ဖြင့် တန်ဆာဆင်၍ သားတော်အိမ်ရှေ့ဘုရင်၊ သားတော် အနောက်ဘုရင်အမှူးရှိသော တဆဲ့ငါးဦးသော တပ်မင်းတို့သည် ကောင်းကင်နှံ့မျှ တီးမှုတ်ကြကုန်၍ ပြာသိုလပြည့်နေ့တွင် စစ်ချီတက်တော်မူလေသည်။

ဥတ္တရစ်ပြည်ကိုအစိုးရသော မြို့မင်းသည်ကား သူ့တွင် ညီညာသင်းပင်းသောမင်းတို့သည် သေပျောက်ကြကုန်သည်ဖြစ်၍ အတောင်ကျွတ်သော ငှက်ကဲ့သို့ဖြစ်လေသဖြင့် သားတော်သုံးယောက်မျှရှိသော မြို့ပြည်အားအရောင်ရုံ ဘုရင်ကျီ အစရှိသော ကုလားဘင်္ဂါတို့ကို သုံ့ပန်းပြု၍ခေါ်ပြီးလျှင် ကောင်းစွာ မြို့၊ ပြ၊ ကျုံး မြောင်းတို့ကို စီရင်၍ ကေဇရောဟူသောခြသေ့်မြို့ဝယ်ခံလင့်သည်ကို သူရဲတော်တို့တိုက်လေလျှင် မခံနိုင်၍ထွက်ပြေးလေ၏။

တဖန်လည်းကောင်း တောင်ဘက်ကရံသော သတ္တရာမြို့ဝယ် ခံလင့်သည်ကိုတိုက်ပြန်လေလျှင် မြို့မင်းသားကိုဖမ်း၍ရလေ၏။ မြို့စစ်သည်အပေါင်းတို့သည် ပရမ်းပတာ ထွက်ပြေးလေ၍ များစွာသောဆင်ပုံ၊ မြင်းပုံ၊ လပ်သပ်ပဏ္ဏာတို့ကို လက်ဆောင်တော်ဆက်သလာကုန်သည်။ ယင်းသို့ ဆက်သလာသော်လည်း မင်း၏ မာန်တော်ကို ချုပ်တည်းတော်မမူဦးပဲ ပတ်ပတ်လည်ချောင်းကြီးခြားသော မနောပြင်ဝယ်ခံလင့်သည်ကို ရဲမက်တော်တို့အား တိုက်တော်မူစေလျှင် မခံနိုင်၍ပြေးခဲ့၏။ စန္ဒပုတ်ဟူသော မြို့ကြီးဝယ် ခံလင့်သည်ကိုလည်း ရှေးကဲ့သို့ တိုက်စေလျှင် ထွက်ပြေးပြန်လေ၏။

ပထန်၊ ရှမ္ဗီ၊ ရောင်ပတ္တဲ့ အစရှိသောသူရဲတို့နှင့် ရုံးစု၍ ခံလင့်သည်ကို ဖျက်ဆီးတိုက်ခိုက်လေသော် မြို့အလုံးတို့ ထွားထွားညက်ညက် ပျက်စီးကြလေကုန်၏။ မြို့မင်းသည်ကား ပါအပ်သောအလုံးအရင်းနှင့် တောနက်ဝယ် ပုန်းကွယ်၍နေလေသည်။

ယင်းသို့နေလေသည်ကို စစ်သည်တို့သည် လိုက်လံရှာဖွေ သတ်ဖြတ်လေသောကြောင့် မြို့မင်းသည် ကြောက်လန့်သည်ဖြစ်၍အသက်သေခြင်းသို့ရောက်လေ၏။

တောတောင်ချောက်မြောင်ဝယ် ပုန်းကွယ်၍နေကြသော သက်မင်းသား၊ သက်မင်းသမီး၊ သက်မင်းမျိုးဆွေ အမျိုးအမတ်စသော သုံ့ပန်းတို့ကို များစွာဖမ်းဆီးယူငင်၍ ရှေ့တော်ဝယ်ဆက်သလာပေသော် ဘဝရှင်မင်းတရားကြီးကား အလောင်းတော်တကာတို့၏ သဘောသည် အပြစ်ရှိသောသူအား စောင်မာန်ထွက်ငြားသော်လည်း တဖန် လည်းကောင်းတရားသဘောကို ရှုမြဲရာဓမ္မတာဖြင့် သနားတော်မူပြန်ခြင်းကြောင့် မြို့မင်း၏သား အိမ်ရှေ့မင်းသည် အဘ၏အရာဖြစ်သော ထီးနန်းစည်းစိမ်ကို ဆောက်နှင်းပါမည့်အကြောင်းနှင့် အသနားခံတော်မူရာ ထိုထိုသို့သော အရပ်ပြည်ရွာတို့ကို မပြိုမကွဲစေဘဲ ဆောက်နှင်းတော်မူလေသည်။ ယင်းသို့ဆောက်နှင်းတော်မူလေသည်ကို ပြည်ထောင်မင်းချင်းတို့ကြားလေလျှင် အလွန်ပင်ချီးမွမ်းကြလေကုန်၏။

ဤသို့လျှင် ဘုရင်မင်းတရားကြီးသည် ပုန်ကန်ရိုင်းပျသော သက်မင်းပြည်ကိုသိမ်းယူပြုစု၍ သမ္မာအယူ၌ တည်စေတော်မူခဲ့ပြီးမှ နေပြည်တော်သို့ ပြာသိုလပင်ပြန်ကြွရောက်တော်မူလာသည်။

ယင်းသို့ ပြန်ရောက်တော်မူ၍ တိုင်းပြည်စည်းစိမ်ကို ချမ်းငြိမ်းစိုးစံတော်မူလေ၏။ ယင်းသို့စိုးစံတော်မူသော ဘုရင်မင်းဖလောင်းကြီး လက်ထက်တော်ဝယ် တောကျောင်း၊ ရွာကျောင်းတို့၌ သီတင်းသုံးနေတော်မူကုန်သော အရညဝါသီ၊ ဂါမဝါသီ ရဟန်းသံဃာတော်တို့သည် ပရိယတ္တိသာသနာ၊ ပဋိပတ္တိသာသနာ၊ ပဋိဝေဓသာသနာ တည်းဟူသော သာသနာသုံးပါးကို ကြိုးစားအားထုတ်ဆောင်ရွက်တော်မူသောကြောင့် သာသနာတော်သည် နေမင်း၏အရောင်ကဲ့သို့ ပြောင်ပြောင်ထွန်းတောက်ပတော်မူ၏။

ထိုမှတပါး ပြဒါး၊ လောဟာ၊ ဘင်၊ နာ၊ သမား၊ ဆေးဝါးမန္တန်အစရှိသောအထူးထူးအပြားပြားသောအတတ်ပညာတို့သည်လည်း လွန်စွာထွန်းကားပွားများကုန်၏။

မောင်းကွပ်၊ ပထန်မင်းတို့သည်လည်း အထူးထူး အပြားပြားသော လက်ဆောင်ပဏ္ဏာတို့ကို နှစ်တိုင်းမပြတ် ဆက်သလာကုန်၏။

သီဟိုဠ်မင်း၊ ပေါတုဂီမင်း၊ ပသီမင်းတို့သည်လည်း သင်္ဘောလှေယာဉ်တို့ဖြင့် မိမိအရပ်ဝယ်ဖြစ်သော လက်ဆောင်ပဏ္ဏာကာရတို့ဖြင့် ခယရိုသေစွာ နှစ်စဉ်မပြတ် လာရောက်ဆက်သရောင်းဝယ်ခြင်း ပြုကြလေကုန်၏။

တတိယသင်္ဂါယနာမတင်မီ သာသနာသက္ကရာဇ် ၂၂၂ ခုမြောက်ရောက်သောအခါ သီရိဓမ္မာသောကမင်းကြီးသည် ဇမ္ဗူဒီပါကျွန်းဝယ် ရှစ်သောင်းလေးထောင်သော မြို့ကြီးတို့၌ မြတ်စွာဘုရား၏ သရီရဓာတ်ခုနစ်စရွက်=တဆဲ့လေးပြည်တို့ကို ဌပနာသွင်း၍စေတီတော်တည်ထားခဲ့ရာ အပါအဝင်ဖြစ်သော ငါတို့ရခိုင်ပြည်၌ရှိ စေတီတော်တို့ကိုငင်း၊ သေးတော်၊ ဘိုးတော်၊ ခမည်းတော်၊ နှောင်တော်တို့ တည်ထားပြုလုပ်အပ်သော သိမ်၊ ကျောင်း၊ ဇရပ်၊ မဏ္ဍပ်၊ စေတီတော်တို့ကိုငင်း ထပ်မံ၍ပြုလုပ်တော်မူသည်။

ငါတို့ဓညဝတီ ရခိုင်ပြည်သို့ မြတ်စွာဘုရား ကြွတော်မူလာရာ သေလာဂီရိကျောက်တောင်၌ သက်ဆင်းရပ်တန့်တော်မူ၍ ဗျာဒိတ်ပေးတော်မူခဲ့သည့်အတိုင်း မနောဓိဋ္ဌာန်ဖြင့် စီမံတော်မူခဲ့သည်ဖြစ်၍ ကြွရောက်ကိန်းဝပ်တော်မူလာသော ဓာတ်တော်မွေတော်တို့ကိုလည်း ရတော်မူလေသည်ဖြစ်၍ သက္ကရာဇ် ၉၄၇ ခုတွင် မိဂပဗ္ဗတတောင်၌ နဖူး သင်းကျစ်တော်ဓာတ်ကို ဌပနာ၍ သင်းကျစ်တော်စေတီ တည်တော်မူသည်။၁။

နန္ဒပဗ္ဗတတောင်၌ ပါးမွေးတော်ဓာတ်ကို ဌပနာ၍ ပါးမွေးစေတီတည်တော်မူသည်။၂။

ဝေဠုပဗ္ဗတတောင်၌ နားလိပ်တော်ဓာတ်ကို ဌပနာ၍ နားလိပ်စေတီတည်တော်မူသည်။၃။

မဠူပဗ္ဗတတောင်၌ ချက်တော်ဓာတ်ကိုဌပနာ၍ ချက်တော် စေတီတည်တော်မူသည်။၄။

ကာလာဂီရိတောင်၌ လျှာတော်ဓာတ်ကို ဌပနာ၍ ဇိဝှာစေတီတည်တော်မူသည်။၅။

ကပေါတဂီရိတောင်၌ လည်တော်ဓာတ်ကို ဌပနာ၍ ဂီဝါစေတီတည်တော်မူသည်။၆။

မုဠပဗ္ဗတတောင်၌ လက်ယာပါးရိုးတော်ဓာတ်ကို ဌပနာ၍ ပြိုင်းတိုင်စေတီ တည်တော်မူသည်။၇။

ရေနုသာရတောင်၌ လက်ဝဲပါးရိုးတော်ဓာတ်ကို ဌပနာ၍ ပါးရိုးတော်စေတီ တည်တော်မူသည်။၈။

ဥရပဗ္ဗတတောင်၌ ရင်ငုံတော်ဓာတ်ကို ဌပနာ၍ ရင်ငုံတော်စေတီ တည်တော်မူသည်။၉။

သေလပဗ္ဗတတောင်၌ မေးငူတော်ဓာတ်ကို ဌပနာ၍ မေးငူစေတီ တည်တော်မူသည်။၁၀။

ပဗ္ဗာသတောင်၌ အဆုတ်တော်ဓာတ်ကိုဌပနာ၍ အဆုတ်တော်စေတီ တည်တော်မူသည်။၁၁။

နေသာဒတောင်၌ သလုံးတော်ဓာတ်ကို ဌပနာ၍ သလုံးစေတီတည်တော်မူသည်။၁၂။

တဲလမူးချောင်း၊ ကဏ္ဏလောမတောင်၌ နားမွေးတော်ဓာတ်ကိုဌပနာ၍ နားမွေးစေတီ တည်တော်မူသည်။၁၃။

သာလမယတောင်၌ စမြိုတော်ဓာတ်ကို ဌပနာ၍ စမြိုစေတီ တည်တော်မူသည်။၁၄။

တာရပဗ္ဗတတောင်၌ ဦးကင်းတော်ဓာတ်ကို ဌပနာ၍ ဦးကင်းတော်စေတီတည်တော်မူသည်။၁၅။

ဒွါရာဝတီ သံတွဲမြို့ဝယ်၊ မဏိကေသာတောင်၌ ဆံတော်စေတီတော်ကို ထပ်မံ၍တည်တော်မူသည်။၁၆။

သီလပဗ္ဗတတောင်၌ ဦးရစ်တော်ဓာတ်ကိုဌပနာ၍ ဦးရစ်တော်စေတီ တည်တော်မူသည်။၁၇။

ထိုစေတီအပေါင်းတို့ငယ်စွအဆုံး လုံးပတ် အတောင်နှစ်ဆယ်ခန့်ရှိ တည်တော်မူသည်။

ထိုစေတီအပေါင်းတို့တွင် မြို့ပြည်သို့စစ်မချီမီ မြို့ပြည်ကိုရလျှင် သီလပဗ္ဗတတောင်၌ ဦးရစ်တော်ဓာတ်ကို အသစ်တမံပြုလုပ်ပါမည်ဟု ဝန်ခံသည့်အတိုင်း

မြို့ပြည်ကိုလက်ဝင်ဖြစ်၍ ပြန်တော်မူခဲ့သည်တွင် ဦးရစ်တောင်စေတီကို တည်လုပ်အံ့ဟု သီလပဗ္ဗတတောင်ကို ညီညွတ်စွာ သုတ်သင်ပြီးသော် အထောင်မကသော ပန်းရန့်အစို့သားတို့ကိုအပ်နှင်းခဲ့၍ သားတော် ဦးရစ်တောင်စားအား တာဝန်ပြုတော်မူလျက် စိမ်းညို့သောကျောက်တို့ဖြင့် မင်း၏အလံတော် ရှစ်ဆယ်လုံးပတ်ရှိသော စေတီတော်ကိုတည်ပြီးသော် အလှူကြီးကိုပေးအံ့သောငှာ စီရင်တော်မူသည်ကား။

ဘုရင်မင်းဖလောင်းကြီးသည် ဆန်းကြယ်သော ရွှေနန်းဖောင်ကို စီရင်တော်မူပြီးလျှင် များစွာသော လှေရံ အပေါင်းတို့နှင့် ကစ္ဆပနဒီမြစ်လျှောက် စုန်တော်မူလတ်၍ ဦးရစ်တော်ခေတ်နှင့် စမြို့တော်ခေတ်အကြား လမ်းဝယ် ပိုက်ချောင်းဝ၌ စခန်းချတော်မူ၍ ကမ်းနှစ်ဖက်ဝယ် ကြီးစွာသောကန်တို့ကိုတူးစေ၍ ရေပဟူသောအလှူကို ပေးတော်မူ၏။

ရဟန်းသံဃာတော် အလှူခံပုဏ္ဏားတို့အားလည်း များစွာသော ခဲဖွယ်ဘောဇဉ် အရသာရိက္ခာမျိုးတို့ကို ပေးတော်မူ၏။

ကစ္ဆပနဒီမြစ်နား စခန်းချတော်မူရာအရပ်မှသည် ဦးရစ်တော်ခေတ်ရင်ပြင် တိုင်အောင် ဥသဘကိုးဆယ် အလွန်ရှိသော လမ်းခရီးကို ဆင်မြင်းရထားဗိုလ်ပါ ကျင်းပသာအောင် တိတိညီစွာပြုလုပ်တော်မူစေ၏။ စမြို့တော်ခေတ်အကြားနှင့် ဦးရစ်တော်ခေတ်အကြားတွင် ကြီးစွာသော မဏ္ဍပ်တို့ကိုဆောက်လုပ်စေ၍ တရာ့တပါးသော လူမျိုးတို့၏ အရပ်၊ ငါးရာငါးဆယ်သောဇာတ်တို့၏ အရုပ်၊ ကြည်း၌ရှိသော သတ္တဝါ၊ ရေ၌ရှိသောသတ္တဝါတို့၏ အရုပ်၊ ကခြင်း သီခြင်းပုံသဏ္ဌာန်ကို ယန္တြားစက်တို့ဖြင့် လုပ်၍ လမ်းစဉ်အတိုင်း ကစေရကုန်၏။

တံခွန်၊ ကုက္ကား၊ မလေးပွား၊ ကြက်လျှာ အစရှိသည်တို့ဖြင့်၎င်း၊ ရေပြည့်အိုး၊ ကြာသွတ်အိုး အစရှိသည်တို့ဖြင့်၎င်း တန်ဆာဆင်ပြီးသော် သာသနာတော် သက္ကရာဇ် ၂၁၂၂ ခု၊ ကောဇာသက္ကရာဇ် ၉၅၃ ခု၊ တန်ခူးလဆုတ်တရက်၊ တနင်္ဂနွေနေ့ နံနက်အချိန့်တွင် ဌပနာသွင်းသဘင်ကို စီရင်တော်မူ၏။ စီရင်၍ပြီးမြောက်လျှင် အသောင်းမကသော သံဃာတော်တို့အား ရှစ်ပါးသောပရိက္ခရာတို့ကို လှူဒါန်းတော်မူ၏။ အရပ်လေးမျက်နှာမှ လာရောက်ကြကုန်သော လူသူအပေါင်း ဖုန်းတောင်းယာစကာတို့အားလည်း လိုအပ်သောဝတ္ထုအစုစုတို့ကို ကြည့်ရှုပေးကမ်း စွန့်ကြဲတော်မူ၏။ ခုနစ်ရက်ပတ်လုံး သုဓမ္မာ နတ်ပွဲသဘင်ကဲ့သို့ ပြုပျင်စီမံတော်မူပြီးခါ ကိုးသိန်းသော အသပြာတို့ကို သဒ္ဓါကြည်ဖြူ ပေးလှူစွန့်ကြဲတော်မူလေသည်။

ယင်းသို့စွန့်လှူတော်မူသည့်အဆုံး၌ သုံးကြိမ်တိုင်တိုင် ကြုံ့ခိုင်ပထဝီမြေမဟီသည် ကြွချီတုန်လျက် အိုးထိန်းစက်ကဲ့သို့ သွက်သွက်ခါမျှလှုပ်လေသည်။

ဘဝရှင်မင်းဖလောင်းကြီးသည် ဦးရစ်တော်ခေတ်တော်၌ အလှူကြီးပေးတော်မူပြီးနောက် သက္ကရာဇ် ၉၅၄ ခု တိုင်ရောက်လေလျှင် စစ်တံတင်မြို့သို့ထွက်တော်မူ၍ ဆင်ဖမ်းသဘင်ကို စီရင်ကြည့်ရှုတော်မူလေသော် အမတ်ဆင်ကဲကြီးသည် ပေါက်မ၊ ဟိုင်း၊ ဟံစသောအရာမကသောဆင်တို့ကို လက်ဆောင်တော်ဆက်သလေလျှင် အလွန်ဝမ်းမြောက်တော်မူလေသည်ဖြစ်၍ ရွှေနန်းတော်သို့ ပြန်တော်မူပြီးလျှင် ဘုရင်မင်းမြတ်တို့ကျင့်သုံးအပ်သော ရာဇဓမ္မဆယ်ပါး၊ သင်္ဂဟတရားလေးပါး၊ နာယကဂုဏ်ခြောက်ပါး၊ ရာဇဂုဏ်ရှစ်ပါးစသော တရားအစုစု ကောင်းမှုအဖြာဖြာတို့ကို လွန်စွာအားထုတ်တော်မူလျက် အိမ်နိမ့် ၃၇၊ သုံးဆဲ့ခုနစ်နှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၅၉၊ ငါးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၉၅၅ ခု၊ ဝါဆိုလဆန်း ၆ရက်၊ တနင်္ဂနွေနေ့ နတ်ရွာစံတော်မူလေသည်။ နံတော် စနေသားတည်း။ ၅။

ဤသည်ကား ရာဇဝင်ဟောင်း ဆရာငမည် ရာဇဝင်တို့၌လာသည်ကို ညီညာနှိုင်းဆရေးသား၍ ပြအပ်သော မင်းဖလောင်းကြီးအကြောင်းတည်း။

ဒေညဝတီအရေးတော်ပုံ၌ကား၊ ဘုရင်မင်း ဖလောင်းကြီးသည် ထီးနန်းရပြီးနောက် တောင်ငူမင်းတရား ရွှေထီး ရောက်လာကြောင်းကိုဆိုပြီးလျှင်-

တရံရောအခါ ပြည့်ရှင်သာကိဝင် မင်းဖလောင်းက မြောက်ဦးမြို့သည် မင်းသက်ကုန်ပြီ၊ ဓညဝတီမြို့ဟောင်းကို တည်တော်မူသင့်ကြောင်းနှင့် ဟူးရားဖြူ ဟူးရားညိုတို့က လျှောက်ထားသည်ကို၊ ပြောင်းသော် မည်သို့ အကျိုးရှိမည်၊ မပြောင်းလျှင် မည်သို့အပြစ်ရှိမည် များကို မေးတော်မူရာ အမတ်မဟာပညာကျော် လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ ရှေးပညာရှိတို့ ဆိုခဲ့သော ထီးနန်းစိုက်ရာ ပဋိရူပစသော စက်လေးပါး ညီသော အောင်မြေမင်္ဂလာအရပ်၌ မြို့တည်၍ ထီးနန်း စိုက်ရလေသော် မြတ်စွာဘုရား ဓာတ်တော် မွေတော်၊ ပိဋကတ်တော်ကျမ်းဂန်၊ သီလဝန်ဂုဏဝန် ဆရာ မှန်ဆရာ မြတ် မှူးမတ်ကောင်းပြည့်စုံ၍ သာသနာတော် ထွန်းလင်း ပြည့်ရှင်မင်း ဘုန်းကြက်သရေတိုးခြင်း၊ ကာဠဝက၊ ဂဇေယျ၊ တမ္ဗ၊ ပိင်္ဂလစသော ဆင်ဆယ်မျိုးထက် တန်ခိုး လွန်သောဆဒ္ဒန်ဆင်ဖြူရောက်တော်မူခြင်း၊ ခုနစ်ပြည်ထောင် မင်းတို့ ဝပ်စင်းကြည်ညို ရှိသေလေးမြတ်စွာ သားသမီး ရတနာတို့ကိုဆက်သ၍ ရွှေငွေ ကျောက်သံပတ္တမြား ပွားများခြင်း၊ ရန်သူမျိုးငါးပါး မဖျက်ဆီးနိုင်ရာ၊ ရန်မာန်တကာတို့ကို အောင်မြင်ခြင်း၊ ပညာရှိတို့မှာသော စကားထုံးပုံအရ။ ပထဝီ ဘုမ္မိမင်္ဂလ်၊ စတုမဟာလာဘ် ဟု ကျမ်းဂန်၌လည်းထွက်ရှိပါသည်။ မြောက်ဦးမြို့တည် စကသည် ယခုတိုင် ရန်သူဖျက်ဆီးနိုင်ဘူးသည် မရှိပါ။ ထိုအင်္ဂါလေးပါးပြည့်စုံစွာနှင့် တိုင်းပြည်သာယာ သတ္တဝါ တို့ငြိမ်းချမ်းဥတုရာသီဖြောင့်ညီ၍ သာသနာတော် ထွန်းလင်းလျက်ပင်ဖြစ်ပါသည်။ သတ္တဝါတို့ တရားလွတ် လေ၍ မင်းမသမာစိုးလာသော မြို့ရွာကိုပြောင်းသည်မူ လျက် သာယာမြဲမဟုတ်။ မြို့ပြောင်းများလျှင် ပြည်သား ပြည်သူ မီးသို့ဆူသည်သာ ရှေးသူဟောင်းအဆိုရှိပါသည်။ ငြိမ်းချမ်းသာယာစွာ ပြည်သူတို့အားရင်တော်သားကဲ့သို့ အုပ်စိုးတော်မူပါ။

တကြောင်းမှာလည်း- အာကာမိုးလတ်၊ နက္ခတ် နေ လ၊ နဝတာရာ၊ ရှစ်ဖြာ ဂြိုဟ်သွား၊ ဂြိုဟ်စားဂြိုဟ်စု၊ ဥတုသုံးလီ၊ ရာသီသုံးရပ်၊ နေကြပ်လပုပ်၊ မြေလှုပ်တော် လဲ၊ နတ်ပွဲအမြောက်၊ ပစ်ဖောက်အသံ၊ ဥပါပျံနှင့်၊ သည်းထန်မိုးရွာ၊ နေလည်းနှစ်စင်း၊ လထွင်းကြယ်သွား၊ နဂါးစက်နတ်၊ ထောင့်ခတ်ဖီလာ၊ ယတြာနှင့်၊ ဓာတာ စန်းလက်၊ ဂြိုဟ်ပျက် ၄က်ယုတ်၊ စုန်းဘုတ် တစ္ဆေ၊ ဖွတ် မြွေ ပျားစွဲ၊ မြေကွဲ တိမ်နီး၊ မိုးကြိုး လောင်းမီး၊ ရေစီး ညာဆန်၊ မြတ်မွန်ပုထိုး၊ အခိုးရောင်ခြည်၊ ထွက်သည် ထုံးဟောင်း၊ နိမိတ်ပေါင်းမှာ၊ လောကီ သာတည့်၊ ပညာဝေဘန်၊ အမြင်သန်မှ၊ သုတံကဝိ၊ အသိမြောက်မြား၊ တရားကိုသာ၊ လိမ္မာနိစ္စ၊ သာဓိနဓာတ်၊ ထုံးမှတ်သင့်စွ၊ သီလဝမင်း၊ နလုံးသွင်းသို့၊ ရန်တင်း ပယ်ခွါ၊ ပျောက်ရလေသည်။ မှန်ပေမှချ ယွင်းမခွဟူ၍ ရှေးပညာကျော်တို့ စပ်ဆိုတော်မူသောစကားရှိပါသည်။

လောကီမူဆိုသမျှ သူတော်ကောင်းကို အပြစ် မပြုနိုင်ပါဟု အမတ်ပညာကျော် လျှောက်လေရာ ပြည့်ရှင် မင်းကြီးလည်း အလွန်ကြိုက်တော်မူ၍ စားကျေးတမြို့ ရမ်းပြည့်ငယ်ကို ထပ်၍ပေးတော်မူသည်။

တရံရောအခါ ဥဿလင်းစား ငပေါင်တိုကို စိန်တင်စားအရာ ပေးမည်ရှိသော် အမတ်ကြီး မဟာပညာကျော် လျှောက်သည်ကား အရှင်မင်းမြတ်၊ ဥဿလင်းစားငပေါင်တိုသည် စစ်ထိုးမှု၌အလွန်လိုသူ၊ အကျိုးအပြစ်ကို အမှန်သိမည် မထင်ပါ။ စိန်တင် အရပ်သားတို့သည် ကိုက်တတ်သော ခွေးနှင့်ပမာတူပါ သည်။ ထိုသူနှစ်ဦးတို့ကိုအတူမထားသင့်ပါ လျှောက်သော် လည်း ငပေါင်တို၏သမီး မြသွင်ညိုသည် မင်း၏ ကိုယ်လုပ်တော်ဖြစ်လေ၍ အမတ်ကြီးစကားကို ယူတော် မမူ။ ဥဿလင်းစား ငပေါင်တိုကို စိန်တင်စားအရာ ပေးလျက် စိန်တင်ချောင်းသို့ ထွက်သွားနေထိုင်စေရာ ခုနစ်လရှိမှ စိန်တင်ချောင်းသားအရိုင်းများနှင့် ခြားနား

လေသောအကြောင်းကို မင်းကြီးသိတော်မူလတ်လျှင် အမတ်မဟာပညာကျော် လျှောက်သည်ကား---

အရှင်မင်းမြတ်၊ ရာဇာနာမ၊ မင်းမည်သည်ကား။ အာယံ၊ အခွန်အတုတ်ထွက်သည်မထွက်သည်ကိုင်း။ ခယံ၊ မျိုးရိက္ခာကုန်သည် မကုန်သည်ကိုင်း။ သယံ၊ ကိုယ်တိုင်။ ဉာဘ၊ သိအောင်ပြုရာ၏။ ယထာကတံ၊ အမှုထမ်းသည် မထမ်းသည်ကိုလည်း၊ သယံ၊ ကိုယ်တိုင်။ ဉာဘ၊ သိအောင်ပြုရာ၏။ နိဂ္ဂါရဟံ၊ နှိပ်ခြင်းငှာ ထိုက်သောသူကို။ နိဂ္ဂဟော၊ နှိပ်ရာ၏။ ပဂ္ဂါရဟံ၊ ချီးမြှောက် ခြင်းငှာထိုက်သောသူကို။ ပဂ္ဂဟော၊ ချီးမြှောက်ရာ၏။

ရာဇာနာမ၊ မင်းမည်သည်ကား။ ကောဓံ၊ အမျက်စောင်မာန် ကြီးလှသောသူကို။ အကောဓေန၊ အမျက်နည်းသဖြင့်။ ဇိနေ၊ အောင်ရာ၏။ အသာဓုံ၊ မတော် မမှန်သောသူကို။ သာဓုနာပိ၊ သူတော်ကောင်းတရားဖြင့် လည်း။ ဇိနေ၊ အောင်ရာ၏။ မစ္ဆရိယဥ္စ၊ ဝန်တိုသော သူကိုလည်း၊ ဒါနေန၊ ပေးကမ်းသဖြင့်၊ ဇိနေ၊ အောင်ရာ၏။ အလိကဝါဒိနံ၊ စကားမမှန်သော သူတို့ကို။ သစ္စေန၊ အမှန်ဆိုသဖြင့်။ ဇိနေ၊ အောင်ရာ၏။

အနိသမ္မာကာရီ၊ စူးစမ်းဆင်ခြင်၍ ပြုလေ့မရှိသော။ ရာဇာ၊ မင်းသည်။ နသာဓု၊ မကောင်း။ ဝေဂေန၊ လျင်စွာ။ ကိစ္စာနိ၊ အမှုကိစ္စဟူသမျှတို့ကို။ မာစကာရေသိ၊ မိမိလည်းမပြုလင့်။ မာစကာရာပေသိ၊ သူတပါးကိုလည်း မပြုစေလင့်။ ကမ္မံ၊ အမှုကို။ သဟသာ၊ အဆောတလျင်။ ကာရိတံ၊ ပြုမိမှုကား။ မန္ဒော၊ ပညာနုန့်သောသူသည်။ ပစ္ဆာ၊ နောက်မှ။ အနုတပ္ပတိ၊ ပူပန်တတ်၏။

လောကေ၊ လောက၌။ ဇလပမာဏံ၊ ရေတိမ် ရေနက်ကိုကား။ ကုမုဒမာလံ၊ ကုမုဒြာကြာကိုမြင်သဖြင့် သိအပ်၏။ ကုလပမာဏံ၊ အမျိုးယုတ်မြတ်ကိုကား။ ဝိနယောပမာဏံ၊ ကိုယ်အမူအရာ နှုတ်အမူအရာအားဖြင့် သိအပ်၏။ ဗျာတ္တိပမာဏံ၊ ပညာရှိ မရှိကိုကား။ ကထိတဝါကျံ၊ ဆိုသောစကားဖြင့် သိအပ်၏။ ပထဝီပမာဏံ၊ မြေကောင်း မကောင်းကိုကား။ တိဏမိလာတံ၊ မြက်ညှိုး သည် မညှိုးသည်ကို မြင်သဖြင့် သိအပ်၏။ ဥဒုမ္ဗရပက္ကာ၊ ရေသဖန်းသီးမှည့်တို့သည်။ ဗဟိ၊ အပဌ်။ ရတ္တကမေဝ၊ နီစွာသောအဆင်း ရှိသည်သာလျှင်တည်း။ အန္တော၊ အတွင်း၌ကား။ ကိမိလသမ္ပုဏ္ဏာ၊ ပိုးအတိသာ ပြည့်ကုန်သည်။ ဟောန္တိယထာ၊ ဖြစ်ကုန်သကဲ့သို့။ ဧဝံတထာ၊ ထိုအတူ။ ဒုဇ္ဇနဟဒယာ၊ သူယုတ်တို့၏ နှလုံးတို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

ပနသပက္ကာပိ၊ ပိန္နဲသီးမှည့်တို့သည်ကား။ ဗဟိ၊ အပဌ်။ ကဏ္ဍမေဝစ၊ ဆူးအတိသာထင်ကုန်၏။ အန္တော၊ အတွင်း၌ကား။ အမတသမ္ပန္နာ၊ အမြိန့်အရသာနှင့် ပြည့်စုံကုန်သည်။ ဟောန္တိယထာ၊ ဖြစ်ကုန်သကဲ့သို့။ ဧဝံတထာ၊ ထိုအတူ။ သုဇနဟဒယာ၊ သူတော်ကောင်းတို့၏ နှလုံးတို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

ဘာဏု၊ ရောင်ခြည်တထောင်ဆောင်သော နေမင်းသည်။ ဝိပရိတေန၊ ဖောက်ပြန်သဖြင့်။ ပစ္ဆိမေ၊ အနောက်မျက်နှာ၌။ ဥဒေတိ၊ ထွက်ရာ၏။ မေရုရာဇာပိ၊ မြင်းမိုရ်တောင် မင်းသည်လည်း။ ဝိပရိတေန၊ ဖောက်ပြန်သဖြင့်။ နမတိ၊ ညွတ်ရာ၏။ ယဒိ၊ အကယ်မလွဲ။ နရဂ္ဂိ၊ ငရဲမီးသည်။ သီတလံ၊ ချမ်းမြေ့ရာ၏။ ပဗ္ဗတဂ္ဂေ၊ တောင်ထိပ်ထက်၌။ ဥပ္ပလံ၊ ကြာသည်။ ဝိကသေ၊ ပွင့်ရာ၏။ သာဓုဝါစာ၊ သူတော်ကောင်းတို့စကားသည်။ ကုဒါစနံ၊ တရံတဆစ်မျှ။ နဝိပရိတော၊ မဖောက်မပြန်ရာ။

ခလော၊ သူယုတ်ကို။ အတိပိယော၊ အလွန်ချစ်ခြင်းကို။ နကာတဗ္ဗော၊ မပြုအပ်၊ သိရသာ၊ ဦးခေါင်းဖြင့်။ ဝဟမာ နောပိ၊ ရွက်ဆောင်အပ်သော်လည်း။ အဗုရော၊ မပြည့်သောရေရှိသော။ ဃဋ္ဌောယထာ၊ အိုးကဲ့သို့။ ကောတုဟလံ၊ အုတ်အုတ်ကျက်ကျက်ကို။ ကရောတိ၊ ပြုတတ်၏။

ဤသို့ စသည်ဖြင့် ကျမ်းဂန်လာရှိပါကြောင်းနှင့် အမတ်ကြီးလျှောက်လေသော် ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိသည်ကား---

ငပေါင်တိုငယ်သည် အဘမှာ ပြူ၊ အမိမှာသော်

ကား ကုလားရောနှောသည့်သား။ ဆင်စီးတို့လည်း မှူးမျိုးမတ်မျိုးမဟုတ်။ သင့်အဖနေးသည် ခမည်းတော်ဘုရားကုလားပြည်ကို သိမ်းယူတော်မူသည်ကာလမှ အမှုထမ်းလိုကြောင်းနှင့် လျှောက်လေသော် အပြန်တွင် အမှုထမ်းရသည်ကိုထောက်၍ ရိုးစားအရာ ပေးတော်မူလေသည်။ သင့်အဘ အသုံးရသောကြောင့် သင့်ကိုကျေးရွာပေးသည်။ သို့ရာတွင် သင့်ကိုအဘယ်သို့ပြုရမည် မေးတော်မူလေသော် အမတ်ကြီး လျှောက်ပြန်သည်ကား---

အရှင်မင်းမြတ်၊ လူမိုက်ကိုနိုင်လိုမူ မြှောက်မြှင့်၊ ရှေးသူဟောင်းတို့စကားအတိုင်းသာ ငပေါင်တိုကို မြှောက်မြှင့်တော်မူရပါမည် လျှောက်လေလျှင် ပြည့်ရှင်မင်းကြီးလည်း ရာဇပရိယာယ်ဖြင့် မြို့သစ်စားကို စေတော်မူပြီးမှ စိန်တင်စား ငပေါင်တိုကို မြို့သစ်စားအရာလည်း ကျေးရွာထပ်၍ပေးတော်မူသည်။ အမိန့်တော် အပ်တော်မူချေစေရာ ငပေါင်တိုအားမြှောက်၍ အလုံးအရင်းများပြီ ကြီးလျက် မြို့သစ်ကိုသိမ်းယူမည်။ မိုလ်ခြေနှင့်သွားလေသော် မြို့သစ်စားက ရဲမက်နှစ်ကွဲ အသင့်ထားပြီးမှ လာလမ်းက ဆီးဆို့ဖမ်းသောအခါ ငပေါင်တိုကိုဖမ်းမိ၍ ဆက်ပို့လာသည်။ ယင်းသောကာလ ငပေါင်တိုကို စီရင်မည်ရှိသည်တွင် အမတ်ကြီး လျှောက်ပြန်သည်ကား-

အရှင်မင်းမြတ်၊ ကျွန်တော်ငပေါင်တိုကို တဆယ်ကျော် ဥဿလင်းချောင်းစား ပေးတော်မူသည်ကာလ မည်သို့အကြောင်းမရှိပါ။ တန်ရာတွင် မထား၊ လွန်၍ထားချေ သောကြောင့် ငပေါင်တို မာန်မြှောက်ခြင်းသာဖြစ်ပါသည်။ အနေအထားအစားကျေးရွာ သင့်တော်မှအရှည်သဖြင့် ကျေးကျွန်အသုံးတော်ရပါမည်။ လူနှင့်မတန်လွန်လျက်ပြုချေသော် ကျွန်ကိုအရှင်စီရင်ရသဖြင့် ကျေးကျွန်ကုန်ပါမည်။ ငပေါင်တိုကို အရှင်မင်းမြတ် အမြှောက်လွန်၍ ငပေါင်တိုမာန်လွန်သည့်အမှုသာဖြစ်ပါသည်၊ လျှောက်လေသော် ငပေါင်တိုကို ချမ်းသာပေးတော်မူ၍ သားမယား စည်းစိမ်နှင့်တကွ အမတ်ကြီးသို့ အပ်တော်မူလေသည်။

ဤသို့စသည်ဖြင့် မေးတော်မူခန်း၊ တရားစီရင်ခန်းတို့သည် ၃၉၊ သုံးဆဲ့ကိုးခန်းတိုင်အောင် အကျယ်တဝင့်ပါလေသည်။ ယင်းသို့ပါရာ၌ ပါဠိအနက်၊ ယွင်းကွက်တိမ်းပါး၊ စကားမစပ်၊ မဟပ်သင့်ရာ၊ ထွေးရှုပ်လျက်ပါသောကြောင့် သိသာရုံမျှယူသင့်ရာယူဆ၍ ရေးပြလိုက်ပေအံ့။

တရံရောအခါ ပြည့်ရှင်မင်းကြီး ငယ်ကျွန် စေနေကို မယူစားခန့်တော်မူ၍ စားကျေးမယူသို့ ထွက်လေသောအခါ ရွှေကွမ်းချပ်ကိုဆောင်၍သုံးစားကြောင်းသိတော်မူရာ စေနေကိုခေါ်၍ ကျေးစားမှနတ်ပြီးလျှင် မင်းမပေးပဲ သုံးဆောင်သည်ဟု အပြစ်ပြုမည်ရှိရာ အမတ်ကြီးလျှောက်သည်ကား---အရှင်မင်းမြတ်၊ သဘင်ကြူးသောသူ၊ သတ်ပုတ်ခြင်းကို လိုလားသောသူ၊ ပညာမရှိ မိုက်မဲတွေဝေသော သူ၊ ဘုရားသားတော်ရဟန်းဖြစ်လျက် ထိုးကွင်း၊ လက်ဖွဲ့၊ ဆေးဝါး၊ မန္တန်တို့ကိုလေ့လာသော ရဟန်း၊ သေရည် သေရက်ကိုသောက်ကြူးသောသူ၊ ဦးချိ ရှိသောသတ္တဝါနှင့် ရောနှောနေထိုင်သောသူ၊ မင်း၏အချစ်ကို ယုံကြည်သောသူ၊ ဤသူရှစ်ယောက်တို့သည် သူရူးနှင့်တူပါသည်။ ထိုမှတပါး---

ခန်၊ ဥစ္စာကို။ ဣစ္ဆေ၊ အလိုရှိမူကား။ ဝါဏိဇ္ဇေယျ၊ ကုန်သွယ်ရာ၏။ ဝိဇ္ဇံ၊ အတတ်ပညာကို။ ဣစ္ဆေ၊ အလိုရှိမူကား။ သုတံ၊ အကြားအမြင်ရှိသောသူကို။ ဘဇေ၊ ဆည်းကပ်ရာ၏။ ပုတ္တံ၊ သားကို။ ဣစ္ဆေ၊ အလိုရှိမူကား။ တရုဏိတ္ထိ၊ မိန်းမငယ်ကို။ ဝသေ၊ နေရာ၏၊ ရာဇာမစ္စံ၊ မင်းအမတ်ဖြစ်ခြင်းကို။ ဣစ္ဆေ၊ အလိုရှိမူကား။ ဣစ္ဆာဂတော၊ မင်း၏အလိုသို့လိုက်၍ ပြုရာ၏။ ဘစ္စံ၊ ကျွန်သူခစားကို။ ပေသနံ၊ စေခိုင်းသဖြင့်။ ဇာနေယျ၊ ကောင်းမကောင်းကို သိရာ၏။

ဤသို့ကျမ်းဂန်စကား မိန့်ကြားလာရှိပါသည်။ အရှင်မင်းမြတ်၊ အနီးထားအပ်သောသူ၊ အဝေးထားအပ်သောသူ နှစ်ယောက်တွင် အဝေးထားသင့်သောသူအား အနီးထားချေသော် မင်းရိပ်မင်းခြည် မင်းနေမင်းသွား

မင်းပါးမကျမ်း၊ ဟော့ရမ်းသော့ သွမ်းလေရာသည်။ အနီးထားသင့်သောသူအား အဝေးထားလေသော် မင်းကျွမ်းဝင်၍ မထင်ကျင့်တတ်ပါသည်။ ရှေးပညာရှိစကားတွင်လည်း---မင်းကလွန်သော် မင်းမာန်ကို သိမ်းသင့်ကြောင်းထုံးဟောင်းလာရှိပါသည်။ လျှောက်လေလျှင် စေနေကိုအပြစ်မှချမ်းသာပေး၍ အတွင်းသုံးမြဲသုံးတော်မူလေသည်။

တရံရောအခါ ရိုးကျွန်းသို့ ဆင်ဖမ်းထွက်တော်မူလေသော် ဆင်တော်နတ်ရှင်နောင်ကိုစီး၍ ဆင်ရိုင်းဖမ်းအုံသောဌာ တောတောင်အနှံ့ လှည့်ပတ်လေရာ အစာတော်မွတ်သိပ်ပင်ပန်းတော်မူသည်ကို အကြောင်းပြု၍ အမတ်ကြီး လျှောက်ထားသည်မှာ ---အရှင်မင်းမြတ်၊ ပြည့်ရှင်မင်းတို့သည် ဆင်ထိန်းမြင်းထိန်းသဘင်၌ငှင်း၊ မုဆိုးတံငါတို့နှင့်ငှင်း အကျွမ်းမဝင်ရာ၊ သူတပါးတို့ လျှောက်ထားတိုင်း လိုက်စားခြင်းမပြုရာ။ ရှေးထုံးဟောင်းရှိသည်မှာ--- မုဋ္ဌိက လက်ပမ်းသည် လက်ပမ်းအရာ၌ အင်္ဂါစုံညီအောင် တတ်ကျွမ်းသူဖြစ်လျက် သဝံတိုဟူသော အမတ်ပေးအပ်သောဆေးကို ယုံသဖြင့် ပေါ့လျော့မိသောကြောင့် ဗလဒေဝလက်တွင် အသက်သေဆုံးရဖူးပါသည်။ မစ္ဆရိယတံငါမူလည်း အခါခပ်သိမ်း မိမိပိုက်ချက်ကို လိုလားသော တံငါတဦးသည် ငါးအများကို လှေနှင့်တင်၍ ဂင်္ဂါမြစ်ဝတွင်ရခဲ့ကြောင်းနှင့် ပြောဆိုရာ ယုံမှား၍ တပည့်သားငါးရာနှင့် ဂင်္ဂါမြစ်ဝတွင် ပိုက်ချခြင်းပြုလေရာ ပင်လယ်လှိုင်း တံပိုးကြီးစွာလာလတ်၍ တပည့်သားငါးရာနှင့်တကွ မစ္ဆရိယတံငါ သေဆုံးရဖူးပါသည်။ ဒွါရာဝတီမြို့နှင့်တကွ ဓမ္မဒီပါကျွန်းကို အစိုးရသော ဝါသုဒေဝစသော မင်းညီနောင်တကျိပ်တို့သည် ပျက်စီးချိန်နီးလတ်သော် အမတ်ယုတ် ကုန်းချောစကားကို ယုံမှား၍ ရေသဘင်ကစားရာ၌ အချင်းချင်းရိုက်ပုတ်လျက် သေကြေပျက်ဆုံး ရဖူးလေသည်။ ဤသို့ ထုံးဟောင်းလာရှိသည်ဖြစ်၍ ပြည့်ရှင်မင်းတို့သည် ထိုးထွင်းသော ဉာဏ်ပညာဖြင့် စာနာထောက်ချင့်၍ ပြုသင့် မပြုသင့် သောအရာကို ပညာရှိတို့နှင့်နှိုင်းညှိ၍သာ ပြုရပါမည်။ ရှေးပညာရှိတို့ ဆိုခဲ့သည့်စကားသည်မူလည်း----

အကြင်သသူ၊ လူတို့ဝေ့လှေ့၊ မဓမ္မရှည်ကြာ၊ မိစ္ဆာဇီဝ၊ လုံးပမ်းကြံ၍၊ အစမထင်၊ ချစ်ရှင်မြတ်များ၊ ဘုရားသာသနာ၊ ရောင်ဝါပဝင်း၊ မလင်းမနော၊ သဘောမကုန်၊ လူ့ဘုံနတ်ရပ်၊ ကြမ္မာတပ်မင်း၊ နောင်အိမ်သွင်းသို့၊ မကင်းဇာတိ၊ မိမိခန္ဓာ၊ သုရာယစ်မျိုး၊ ငါးပါးဆိုးလည်း၊ မညှိုးမကြို၊ တောခြံပိုတ်ပေါင်း၊ တဏှာချောင်းတွင်၊ ဦးခေါင်း မွှန်းနှစ်၊ အသစ်သစ်သာ၊ ဝိညာဏေန်၊ အမှန်ကပ်လျှဉ်၊ သံယောဇဉ်လည်း၊ မြဲယှဉ်သောအား၊ ကံသုံးပါးမူ၊ တံခါးဟင်းလင်း၊ သားချင်းချင်းဖြင့်၊ နိုင်နင်းတတ်စွာ၊ သတ္တဝါကို၊ ပညာဝေဘန်၊ အမြင်သန်မှ၊ သူ့ဉာဏ်သူ့ဂုဏ်၊ မသုန်မဖျင်း၊ အလင်းဝိဇ္ဇာ၊ သံသရာ၌၊ ဗီလာမသွား၊ သုံးပါးဗိန္ဒု၊ လဟုသရ၊ အမကြက်ခြေ၊ အဖြေအမေး၊ ဆိုရေးလိမ္မာ၊ သူ့ပုစ္ဆာကို၊ လွယ်ကာဖြေရ၊ တခဏချင်း၊ ကြွင်းမဲ့သိမူ၊ သူတယောက်စင်၊ ချီးမွမ်းလျှင်မူ၊ လူတွင် လူမြတ်၊ နတ်ကားကြည်ညို၊ မင်္ဂိုလ်ရကြောင်း၊ ဆုမတောင်းလည်း၊ လုံးပေါင်းပြီးစီး၊ ဆုရပြီးတည့်၊ ထုံးမှီးကျမ်းလာ၊ သို့အရာတွင်၊ ပညာမပြောင်း၊ မောဟထောင်၍၊ သံကြောင်ပဒ၊ ပရမတ္ထ၊ ဒေါသထူထူ၊ ပြူးစူစောင်းမြှောင်း၊ မကောင်းစရိုက်၊ သူမိုက်ကုဋေ၊ သချော်သချာ၊ ညီညာမြှောက်မြင့်၊ တဖြင့်စုတ်ငဲ့၊ ကဲ့ရဲ့ရှုတ်ချ၊ ဆိုပြန်ကလည်း၊ မြူမြူမသမ်း၊ မနွမ်းလေရာ၊ ဥပမာကား၊ ဂင်္ဂါရေကြော၊ တိုက်လွှင့်မျောသည်၊ သဘော်တို့တမ်း၊ ဆိပ်ကမ်း မမြင်၊ ပင်လယ်ပြင်၌၊ ဘယ်တွင်ဘယ်သို့၊ ရောက်တို့သနည်း၊ အသည်းကြွေလှူ၊ တရုရုနှင့်၊ မိုလ်ထုများစွာ၊ လူတကာထက်၊ သီတာမြစ်လမ်း၊ သိန္ဓိုင်စွမ်းသည်၊ ဖြောင့်တန်းမတိမ်း၊ ရှက်သိမ်းရှက်ဖွင့်၊ ဆိုက်သင့်အရပ်၊ လေကပ်လေကြောင်း၊ မစောင်းရအောင်၊ ဆောင်နှိုင်သူအား၊ တယောက်သားသာ၊ ထင်ရှားကျော်ချိန့်၊ မာလိန်ခေါ်ကြ၊ ထိုနှင့်ဆသော်၊ ဇင်္ဂလသား၊ တရားတီမှာ၊ သိန္ဓိုင်ရာလိမ့်၊ မိစ္ဆာတို့ကံ၊ လောဘလျှံသည်၊ မင်

ပညာဟော့ရမ်းတည်း။

ဟူ၍ သူမိုက်တို့စကားကို မယုံအပ်ကြောင်း၊ ထုံးဟောင်းကျမ်းဂန်နှင့် လျှောက်လေသော် ပြည့်ရှင်မင်းကြီးလည်း ကြည်ညိုတော်မူ၍ အမတ်ကြီးအား ရွှေကွမ်းချပ် ပေးသနားတော်မူလေသည်။

တရံရောအခါ မြောက်မိဘုရား ရှင်နှောင်းသည် မိန်းမစိုး မော်လိပ်ကုလားတယောက်ကိုဆေးပေး၍ အင်္ဂါစုံသောကာလ၊ ယဉ်ပါးကြလေသောအခါ မိစ္ဆာနတ်ဝင်၍ ခြောက်လှန့်သည်။ လင်ကောင်ပိုး ငှက်ဆိုး၊ မင်းစက်တော်ခေါ်သော အဆောင်တော်သို့ဝင်၍ မြည်သည်။ မင်းသုံးမင်းဆောင် ကျိုးပျက်သည်။ ထိုအကြောင်းကို မင်းကြီးမေးတော်မူရာ အမတ်ကြီး လျှောက်ထုံးသော်ကား-

အရှင်မင်းမြတ် ဘေးတော်ဖြစ်သော ရာဇိန္ဒမင်းသည် ဥယျာဉ်သို့ထွက်တော်မူရာ ရထားဝင်ရိုး ကျိုးလေသည်။ ထိုအကြောင်းကို အမတ်ကြီးစိတ္တဝရ လျှောက်လေသည့် ထုံး၌အဆိုသော်ကား---

ရာဇဒေဝီ၊ မင်းမိဘုရားတို့သည်လည်းကောင်း။ ရာဇပုတ္တိ၊ မင်းသမီးတို့သည်လည်းကောင်း။ ဟီနေန၊ ယုတ်သော။ ကုလေန၊ အမျိုးနှင့်။ သံဝါသေတိ၊ ရောယှက်ပေါင်းဖော်မိအံ့။ ရညော၊ မင်း၏။ ပရိဘောဂေါ၊ အသုံးအဆောင်သည်။ ဘိဇ္ဇတိ၊ ကျိုးပျက်ယွင်းယိုတတ်၏။ မိစ္ဆာဒေဝါဒယော၊ မသမာသောမိစ္ဆာနတ်ဆိုး လင်ကောင်ပိုးငှက်စသည်တို့သည်။ ရာဇနိဝေသနံ၊ မင်း၏နေရာ နန်းတော်တိုက်ခန်းသို့။ ပဝိသတိ၊ ဝင်ရောက်တတ်၏။

ဤသို့လျှောက်လေမူ ရာဇိန္ဒမင်းကြီးသည် မည်သို့မဆိုနေတော်မူ၍ မင်း၏ပရိယာယ်ဖြင့် စူးစမ်းတော်မူသော် သမီးတော်သုဝဏ္ဏကုမ္ဘာရီသည် စောင်းသမားနှင့် ယဉ်ပါးကြောင်းကို သိတော်မူလေသည်။

ဤသို့ထုံးဟောင်းလာသည်ကိုထောက်လျှင် ယခုလည်း အကြောင်းထင်လာပြန်သည်။ နန်းသူတို့ သိက္ခာ မထိန်းဆိုရန့်ရှိချေပြီ ထင်ပါသည်ဟု လျှောက်လေသော် မင်းကြီးလည်း ခပ်မဆိတ်နေတော်မူ၍ စူးစမ်းတော်မူသောအခါ မိဘုရားနှင့် ကုလားမှားကြောင်းကို သိတော်မူ၍ အမတ်ကြီးသို့ပြန်တော်မူလေရာ အမတ်ကြီးလျှောက်သော ထုံးမူကား-ဘုန်းကြက်သရေကြီးမြတ်တော်မူသော အရှင်မင်းကြီး၊ ရှေးပညာရှိတို့ ဆိုခဲ့သော ကျမ်းဂန်၌လာရှိသည်မှာ-

ထိနံ၊ မိန်းမတို့၏ အာဟာရော၊ အစာစားခြင်းသည်။ ပုရိသာနံ၊ ယောကျ်ားတို့ထက်။ ဒွိဂုဏော၊ နှစ်ဆလွန်သည်။ ဘဝေ၊ ဖြစ်ရာ၏၊ ဗုဒ္ဓိစာပိ၊ ဉာဏ်ပညာသည်လည်း။ စတုဂုဏော၊ လေးဆလွန်သည်။ ဘဝေ၊ ဖြစ်ရာ၏၊ ဝါယာမော၊ လုံ့လအားထုတ်ခြင်းသည်။ ဆဂုဏော၊ ခြောက်ဆလွန်သည်။ ဟောတိ၊ ဖြစ်၏။ ကာမောတု၊ ကာမဂုဏ်ကို တပ်မက်ခြင်းသည်ကား။ အဋ္ဌဂုဏော၊ ရှစ်ဆလွန်သည်၊ ဘဝေ၊ ဖြစ်ရာ၏။

သဗ္ဗာနဒီ၊ ခပ်သိမ်းကုန်သောမြစ်တို့သည်။ ဝင်္ကနဒီ၊ မြစ်ကောက်သာရှိကုန်၏။ သဗ္ဗေဝနာ၊ ခပ်သိမ်းသော တောတို့သည်။ ကဋ္ဌမယာ၊ ထင်းဖြင့်သာပြီးကုန်၏။ သဗ္ဗိတ္ထိ ယော၊ ခပ်သိမ်းသောမိန်းမတို့သည်။ နိဝါတကေ၊ ဆိတ်ငြိမ်ရာအရပ်ကို။ လဗ္ဘ မာနေ၊ ရသည်ရှိသော်။ ပါပံ၊ မကောင်းမှုကို။ ကရေ၊ ပြုမြဲတည်း။

ဤသို့ ကျမ်းဂန်လာပါသည်။ တရားတော်မှာလည်း သစ္စာလေးပါးတွင် သမုဒယသစ္စာ တဏှာအကြီးဆုံးဖြစ်ပါသည်။ ထိုသမုဒယသစ္စာ တဏှာ မပြတ်နိုင်ကြ၍ သတ္တဝါတို့ သံသရာ၌ ရှည်ကြာပါသည်။ အမိုက်မှောင်တရားတွင်လည်း အဝိဇ္ဇာမောဟမှောင် အကြီးဆုံးဖြစ်ပါသည်။ ယင်းသို့ အဝိဇ္ဇာနှင့်တဏှာ မူလသဘာဝတို့ကြောင့် ပြုကြလေသော ထိုသူတို့အပြစ်ကို ထိုသူတို့နှင့်ပျောက်စေရပါမည်။ ပညာရှိ သူတော်ကောင်းတို့ အပြစ်ပြုရိုးမရှိပါ။ သူ့ထိုက်နှင့်သူသာ ရှိသင့်ပါသည်ဟု လျှောက်လေသော် ပြည့်ရှင်မင်းကြီးလည်း ထိုသူနှစ်ဦးကို မည်သို့အပြစ်မပေး။ မိဘုရားနှင့် ကုလားကို မာန်အောင်ကျွန်းသို့ ပို့ထားတော်မူလေသည်။

တရံရောအခါ သားတော်အလတ် သံထောင်စားငစုံသည် သံထောင်ရွာအသည်သားတယောက်ကို အသေသတ်ကြောင်း ပြည့်ရှင်မင်းသိတော်မူသောအခါ သံထောင်စားငစုံငယ်သည် ပြည်သူတို့အား နှိပ်စက်သတ်ဖြတ်လေရာ၌ မည်သို့စီရင်ထုံးရှိသနည်းဟု အမတ်ကြီးသို့ မေးတော်မူလေလျှင် အမတ်ကြီးလျှောက်ထုံးသော်ကား---အရှင်မင်းမြတ် သားတော် သံထောင်စားသည် ခမည်းတော်အာဏာကိုပြိုင်လျက် အာဏာပိုင်အစိုးရပြုသည်လည်းတရပ်၊ နောင်တော်များတို့ မပြုမကျင့်ဝံ့သောအမှုကို ပြုကျင့်လေသည်ဖြစ်၍ နောင်တော်များကိုကျူးလွန်သည်လည်းတပြစ်၊ မှူးမတ် ပြည်သူတို့ကိုမခန့်မလေး ဆိုးသွမ်းသည်လည်း တချက်၊ ပြည့်ရှင်မင်းမှတပါး ပြည်သူတို့ ဇီဝိတ်ခြွေကို မပိုင်ချေ၊ ရှေးထုံးရှိလျက်မတည်၊ ရှေးထုံးစံများကိုဖျက်၍ ကျင့်သည်လည်းတချက်၊ ဤလေးပါးသော အပြစ်ထိုက်သော သားတော်ဖြစ်ပါသည်။ လျှောက်လေသော် စားကျေးမြို့ရွာ ဥစ္စာကျေးကျွန်များကိုသိမ်း၍ ဝမ်းဝရုံနှင့် မြို့တို့နေရပ်မရိပ်ချောင်းညာဝေလာတောင်သို့ သားတော် သံထောင်စားကို ပို့တော်မူလေသည်။

တရံရောအခါ မိုးစဲကျွန်းတွင် သေဌေးခွန်သာကြီးသေလွန်၍ တမိတည်းသား ယောကျ်ားငါးယောက်၊ မိကွဲသားသမီးနှစ်ယောက်ရှိ၍ အမွေတရားကို တရားသူကြီးလေးဦး စီရင်ချက်နှင့်မပြီးလိုကြ၍ ပြည့်ရှင်မင်းထံလျှောက်လာသောအခါ အမတ်ကြီးသို့အပ်တော်မူလေရာ အမတ်ကြီး မဟာပညာကျော် စီရင်ထုံးသော်ကား၊ တရားသူကြီးတို့ စီရင်သောဓမ္မသတ်အတွက် အနိမ့်အမြင့်အခွဲအဝေဟူသမျှသည် အမှားတစေသာများသည်၊ ထိုဓမ္မသတ်စာကိုလည်း ရှေးပညာရှိတို့ စွန့်ခဲ့ကြောင်းကျမ်းဂန်လာသည်၊ အမှန်ကိုသိဆိုတတ်မှသာ ပညာဓမ္မသတ်ဖြစ်သည်။ ထိုစာဓမ္မသတ်များမှာ သညာအကွရာမျှသာ အမှားများ၍ အမှန်နည်းသည်၊ အကြောင်းကိုရှာသော် အကယ်၍ သေဌေးခွန်သာကြီးသည် သူဟုန်ပြုလျက် အရှင်မင်းအား ပြစ်မှားသော် မယားကြီးသား၊ မယားငယ်သား အမွေစား ဓမ္မသတ်ထွက်အလိုက် မင်းပြစ်မပေးချေ။ သားချင်းအတူသာ သေလည်းသေချင်း၊ ရှင်လည်းရှင်လျှောက် မင်းပြစ်ရောက်ရာသည်၊ ယင်းသို့မိဘဆိုးသွမ်းရာ သားသမီးတို့ ဇီဝိခြွေမှတုံသော်လည်း ကင်းရလေသည်။ ဆိုးမွေခံရသောထုံးရှိလျက် ကောင်းမွေလည်း ထိုနည်းအတူသာ ခံယူကြစေ၊ စီရင်လေသော် နေ့ကာလစင်လျက် သည်းထန်စွာ မိုးကြီးရွာလေသောကြောင့် ပြည့်ရှင်မင်းကြီးက အမတ်ကြီးသို့ ပတ္တမြားလက်စွပ်တကွင်း တရားဆုပေးတော်မူလေသည်။

တရံသောအခါလည်း စစ်တကောင်းမြို့တွင် သေဌေးဦးစီရာလီ သေလွန်၍ အမွေခံသားမြေးမရှိကြောင်းနှင့် စစ်တကောင်းစားက မင်းထံလျှောက်လာသော် ပြည်သူဆင်းရဲသားတို့အမွေကို မင်းခံစားသင့်သည် မစားသင့်သည်ကို အမတ်ကြီးအား မေးတော်မူလေသော် အမတ်ကြီး မဟာပညာကျော်လျှောက်ထုံးသော်ကား၊ အရှင်မင်းမြတ်၊ ဘုရားအလောင်း မင်းကောင်းမင်းမြတ် သာကိဝင်အနွယ်တော်စဉ်လာအကြောင်း ထုံးဟောင်းကျမ်းဂန်၌ ပြည်သူတို့ လုပ်ခွန်ထွက် ဆယ်ဖို့တဖို့ မင်းတို့ဘဏ္ဍာခံထိုက်ကြောင်းကိုသာ ရှေးအမှာရှိပါသည်။ ပြည်သူတို့ သာမိက ခတ္တိယအမျိုး အစိုးရရေမြေရှင်ဖြစ်လျက် မင်းမျိုးမဟုတ်သော သူတို့၏အမွေကို ခံယူထုံးမရှိပါ။ ရေမြေရှင်မင်းဖြစ်လျက် ဆင်းရဲသားတို့ အမွေခံယူချေသော် ဝိလုပ္ပနှ လုယက်ဖျက်ဆီး၍ မင်းမှုသော မင်းမျိုးတို့ ခံယူသောထုံးလည်း ကျမ်းဂန်တွင် ဆိုလျက်ရှိပါသည်ဟု လျှောက်လေသော် ပြည့်ရှင်မင်းမြတ်အမိန့်တော်ရှိသည်ကား ငါတို့မှာကား သား မြေးမရှိ မင်းဆွေ မင်းမျိုးတို့မင်းရိုးမပျက် ထီးနန်းတက်ရသည်။ ဆင်းရဲသားတို့မှာလည်း ထိုသို့အလျောက် သားမြေးမရှိမူ ဆွေမျိုးအမွေခံရာသည်။ သေဌေးဦးစီရာလီအမွေကို ဆွေမျိုးတို့က ခံယူစေ အမိန့်တော်ရှိလေသော် ရာဇပလ္လင်၌ ကနတ္တဒန်ထီးဖြူပွင့်လေသည်။

တရံသောအခါ တန်ဆောင်းမိဘုရားသည် ဘိသိက်တော်ဆက်ပုဏ္ဏားကို အနောက်တံခါးကသွင်း၍ ခေါ်ပြီးလျှင် အဆောင်လက်ဖွဲ့တောင်းလေသော် ဘိသိက်တော်ဆက် ပုဏ္ဏားသည် မိဘုရားသို့လက်ဖွဲ့ ပေးလေ၏။ အကြောင်းကို ပြည့်ရှင်မင်းသိလေသော် ဤအကြောင်းအရာများသည် မိဘုရားအင်္ဂါမရှိသူဖြစ်သည်၊ ပုဏ္ဏားဘိသိက်တော်ဆက် မင်္ဂလာပုဏ္ဏားအရာ ပျက်သည်။ အနောက်တံခါးမှူးနှင့်မိန်းမစိုး မော်လိပ်တို့ သည် ရှေးထုံးမသိ၊ ယင်းသို့လေးဦးသောသူတို့ အပြစ်ရှိ ကြောင်းနှင့် အမတ်ကြီး မဟာပညာကျော်ကို မေးတော်မူ လေရာ အမတ်ကြီးလျှောက်ထုံးသော်ကား--- အရှင်မင်းမြတ်၊ မိဘုရားတို့၏အင်္ဂါကို ရှေးပညာရှိတို့ဆိုခဲ့ သည်မှာ---ရာဇဒေဝီ၊ မိဘုရားသည်။ သီလစာရံ၊ သီလ အကျင့်မြဲခြင်း။ ကေသမယုံ၊ ဆံပင်နက်၍ကောင်းခြင်း။ ဟတ္ထပါဒမုဒုကံ၊ ခြေလက်သေးသွယ်နူးညံ့ခြင်းနှင့်အရေး အကြောင်းနက်ခြင်း။ ရူပံ၊ အဆင်းလှခြင်း။ သဒ္ဒံ၊ အသံ သာယာဖွယ်ရှိခြင်း။ မံသံ၊ အသားနူးညံ့ခြင်း။ ကောသလ္လံ၊ များစွာသောမောင်းမတို့၏ အရိပ်အခြည်ကို နားလည်လိမ္မာ ခြင်းဟူ၍ လောကီကျမ်းဂန်ဆို သည်နှင့်အညီ ပြည့်စုံရာ သော အင်္ဂါခုနစ်ပါးရှိလျှင် မိန်းမမြတ်ဖြစ်ပါသည်။ ယခု အရှင်မိဘုရားသည် သီလစာရံ၊ သီလအကျင့် မမှန် သွမ်းသော အမှုရှိချေသည်။ မိဘုရား၊ မင်းသမီး၊ မင်းသား တို့ သွမ်းသောအမှုတို့ကို ပြုရိုးမရှိပါ။ အနောက်တံခါးက မင်းမိန်းမခံယူမသွင်းရာ ထုံးသက်သေရှိလျက် တံခါးမှူးနှင့် မိန်းမစိုးမော်လိပ်တို့ မိဘုရားအလိုသို့ပါသည်မှာလည်း မင်းသုံးသော ကျေးကျွန်တို့သည် မင်းခွင့်မရမူလျက် မင်းမိဘုရားအလိုသို့လိုက်၍ အမှုအပေါင်းတို့ကို မလျှောက် မထားရာ၊ ရှေးပညာရှိတို့ ထုံးရှိလျက် လွန်၍ကျင့်သော သူအား မင်းမသုံးအပ်။

ဘိသိက်တော် ပုဏ္ဏားတို့မှာလည်း ကန့်တာတို့ အကျင့်၊ သော့သွမ်းသောအမှု ဟူးရားဗေဒင်သင်၍ ဟူးရားတတ် ပုဏ္ဏားများကဲ့သို့ အင်းမန္တာန်လက်ဖွဲ့ လုပ်ဆောင်ပေးကမ်းဟောပြောပြုပြန်သည်မှာ ထိုပုဏ္ဏား၌ သိက္ခာပျက်ပါပြီ၊ ထိုပုဏ္ဏားပေးသောဘိသိက်ကို မခံအပ်၊ ရှေးသူကောင်းတို့ဆိုခဲ့သော လောကီကျမ်းအလာမှာ အကြင်တိုင်းပြည်၌ မင်းမိဘုရား၊ သားတော်၊ သမီးတော်၊ မှူးတော်၊ မတ်တော်တို့သည် မလျော်မသင့်သောအမှုကို ပြုကျင့်သည်ဖြစ်အံ့၊ ထိုပြည်၌ တိုင်းသူပြည်သားတို့သည် ကြီးမားသော ဆင်းရဲဒုက္ခနှင့် တွေ့ကြုံရတတ်ပါသည်။ ဥတုရာသီ မညီမဖြောင့်၊ ဓာတ်လေးပါးရှောက်ရှားလျက် ယမုနာ စသော မြစ်ရေ၊ ကမ်းရေ၊ ချောင်းရေ၊ မြောင်းရေအပေါင်းတို့သည် ခန်းခြောက်၍ ငန်သော အရသာရောက်ပါသည်။ မြေလှုပ်ခြင်း၊ တိမ်မိုးကြိုး လောင်မီးကျခြင်း အစရှိသော မင်္ဂလာမရှိသော အနိဋ္ဌရုပ် အပေါင်း မကောင်းသောအကြောင်းတို့သည် စုပေါင်းဖြစ် ရောက်တတ်ပါကြောင်းနှင့် လျှောက်ထားလေသော် ပြည့်ရှင်မင်း မိန့်တော်မူသည်ကား---ငါတို့၏ မင်းမျိုး သည် နိစဂ်လမင်းမျိုးမဟုတ်၊ မဟာသမ္မတဝံသ သကျ သာကီဝင်၊ သန့်စင်မြင့်မြတ်သော မင်းရိုးမှန်ပေသည်။ အမတ်ကြီးလျှောက်သော စကားလည်း ရှေးပညာရှိတို့ ထားခဲ့သောထုံးဟောင်း၊ သူတော်ကောင်းတို့စကား မှန်ပေသည်။ သူတော်ကောင်းတို့ ထုံးဟောင်းကိုယူသော် အကျိုး၊ သူမိုက်တို့ ထုံးဟောင်းကိုယူသော် အပြစ်ရောက် ကြောင်းကိုလည်း အဇာတသတ် မင်းသည် ဒေဝဒတ်နှင့် ပေါင်းမိချေ၍ အဘကိုအသေသတ်ပြီးမှ မြတ်စွာဘုရား အား ပြစ်မှားလေသည်၊ နောက်မှ ပညာရှိ ဇီဝကစကားကို နာခံမိ၍ ဘုရားနှင့်တွေ့လေရာ ကံကြီးမှအနည်းငယ် ချမ်းသာလေကြောင်း ကျမ်းဂန်လာရှိပေသည်။ မိဘုရား၊ ပုဏ္ဏား၊ တံခါးမှူး၊ မော်လိပ်တို့သည် သူယုတ်အကျင့် အကြံကို ပါဝင်ကျင့်ကြံကြသူဖြစ်၍ မင်းမသုံးအပ်ပြီ အမိန့်တော်ရှိ၍ မိဘုရားကိုဥယျာဉ်မှာ ဖြည့်တော်မူလေ သည်။ ပုဏ္ဏားကို ပန်းတင်အစို့မှာ ဖြည့်တော်မူလေသည်။ မိန်းမစိုးမှာ သစ်ခုတ်ဟာရာအစို့မှာ ဖြည့်တော်မူလေသည်။ တံခါးမှူးကို ရေခပ်စီရီအစို့မှာ ဖြည့်တော်မူလေသည်။

ယင်းသို့ ဖြည့်တော်မူပြီးမှ အမတ်ကြီးသို့ ငွေထွေးခံ သနားတော်မူလေသည်။

တရံသောအခါ ပြည့်ရှင်မင်းကြီးသည် မဟာမုနိဘုရားကို အဖူးထွက်တော်မူလေသော် ဝတ်ဆင်တော်မူသော ပတ္တမြားလက်စွပ်သည်ကျွတ်၍ ရေထဲသို့ကျလေရာ ငါးတခုရ၍မျိုလေသည်နှင့် တလရှိမှ ထိုငါးကို တံငါတယောက်ရလေရာ ထိုငါးဝမ်း၌ လက်စွပ်ကိုရလေလျှင် တံငါကြောက်လန့်၍လက်စွပ်ကို ငါးနှင့်အတူဆောင်ယူခဲ့၍ မင်းထံဆက်သလာလေလျှင် ပြည့်ရှင်မင်းကြီးက အမတ်ကြီး မဟာပညာကျော်ကိုမေးတော်မူလေသော် အမတ်ကြီး လျှောက်ထုံးသော်ကား-----

အရှင်မင်းမြတ်၊ လက်စွပ်သည် ရေသို့ကျသောအခါ၌ ငါးသည်မျိုသိမ်းထားလေလျှင် ထိုငါးမှတုံလည်း အသက်ကိုအသေခံလျက် တံငါထံဝင်ရောက်သည်။ တံငါလက်စွပ်ကိုရ၍ ဆက်သလာရသည်။ ဤအလိုကိုထောက်၍ မှန်တိုင်းလျှောက်သော် ဉာဏ်နည်းသူတို့ ငြင်းခြင်လေရာသော အကြောင်းရှိပါသည်။ အရှင်မင်းကြီး ဘုန်းကြက်သရေ ကြီးကျယ်ကြောင်းကို ပြည်သူတို့ သိထင်စေပြီးမှ ခုနစ်လနှင့်ပြီးအောင်စီရင်ပါမည် မင်းအားလျှောက်ပြီးသော် လက်စွပ်မှ ပတ္တမြားကိုယူလျက် သားတစ်အတွင်းမြှုပ်၍ အလုံးငယ်အောင် အတန်ငယ်လှီးလျက် ထိုပတ္တမြားရှိ သားတစ်နှင့်အတူ သားတစ်အများကို ကြဲထားလေလျှင် ကျီး၊ စွန်အများလာ၍ ချီယူကြလေရာ ထိုပတ္တမြားရှိသော သားတစ်သည်ပါလေ၍ ဆယ်ရက်ခန့်ရှိလျှင် ထိုပတ္တမြားရှိသားတစ်ကို ချီယူမျိုချထားသောစွန်ကို ငှက်ခတ်သားတဦးရလေသဖြင့် စွန်ဝမ်း၌ ပတ္တမြားကို တွေ့လေလျှင် ငှက်ခတ်သား စွန်ကောင်နှင့်တကွ မင်းထံပတ္တမြားကို ဆက်သလာပြန်သည်။

ထို့နောက် မထင်ရှားသော သူတယောက်အား ပတ္တမြားကိုအပ်၍ရောင်းစေရာ အသပြာတရာပေး၍ ကုလားတယောက်ဝယ်ယူပြီးလျှင် ကုလားရွှေနှင့်ကွင်းမည်၊ ပန်းထိမ်ထံအပ်လေသော် လက်စွပ်ကိုကွင်း၍အပြီး ကုလားသို့မအပ်မီ ပန်းထိမ်အိမ်မှ သူခိုးတယောက်ယူသွားလေသည်။ ကုလားက လက်စွပ်ကိုရလိုကြောင်းနှင့် မင်းထံလျှောက်ရာ အမတ်ကြီးသို့ အပ်ပြန်လေသည်။ အမတ်ကြီးလည်း အမှုစစ်ဆေး၍ လက်စွပ်အကြောင်းကို သိလေရာ ပြီးအောင်စီရင်မည်ဟူလျက်နေသည်နှင့် ထိုလက်စွပ်ခိုးသောသူသည် မြစ်ဆိပ်၌ရေချိုးသောအခါ လက်စွပ်ကိုချွတ်ထားခိုက် တွင်းကကြွက်ထွက်၍ လက်စွပ်ကိုယူပြီးလျှင် တွင်းသို့ဝင်လေသည်။ တရားသူကြီးကျွန်တယောက်သည် ကြွက်သားစားလို၍ ကြွက်တူးသွားလေရာ ထိုကြွက်တွင်းကိုမြင်၍ တူးလေလျှင် ပတ္တမြားလက်စွပ်ကိုရလေ၍ ထိုသူမထားဝံ့သဖြင့် တရားသူကြီးသို့အပ်လေသည်။ တရားသူကြီးလည်း လက်စွပ်ကိုမြင်လျှင် ပြည့်ရှင်မင်းလက်စွပ်ကိုသိ၍ အမတ်မဟာပညာကျော် ခုနစ်လနှင့် တံငါမှု၊ ပန်းတိမ်မှု၊ ကုလားမှု၊ ငှက်ခတ်သားမှုကို စီရင်မည် မင်းထံလျှောက်သူဖြစ်သည်။ အထက်အမွေမှုတွင်လည်း ဓမ္မသတ်ကိုပယ်၍ ငါတို့စီရင်သောတရားကိုဖျက်သူဖြစ်သည်။ ခုနစ်လလွန်မှ မင်းထံဆက်မည်ကြံလျက် လုံခြုံစွာလက်စွပ်ကိုထားလေရာ တရားသူကြီး တခြားအိမ်သို့သွားခိုက် ထိုလက်စွပ်ကို မယားထုတ်၍ကြည့်သောအခါ လက်စွပ်ကိုအနီးတွင်ထား၍ အိပ်ပျော်သွားလေသည်။ လက်စွပ်ကို ကျီးတခု ချီယူသွား၍ မိမိအသိုက်၌ထားလေသည်။

တရားသူကြီး ရောက်လတ်သော် လက်စွပ်နေရာတွင် မရှိသောကြောင့် မယားအားမေးလေလျှင် မယားလည်း ကွယ်သဖြင့် ရန်ရှက်တင်၍ကွာလိုကြောင်း မင်းထံလျှောက်လေသော် အမတ်ကြီးသို့အပ်၍ စီရင်စေရာ အမှုရင်းကို တရားသူကြီးမယားအား အမတ်ကြီးက မေးလေရာ လက်စွပ်ပျောက်သော အကြောင်းကိုပြောဆို၍ သိလျှင် စီရင်မည် ဆိုင်းဦးဆိုလျက်နေလေသည်နှင့် လက်စွပ်ရှိသော ကျီးသိုက်ကို ကျောင်းသား သူငယ်တယောက်တက်လေ၍ လက်စွပ်ကိုရလေမှ ဆရာဘုန်းကြီးသို့ ပေးလေသည်။ ထိုဘုန်းကြီးလည်း ရတနာ

ဖြစ်သည်။ ငါတို့နှင့်မတန်၊ မင်းနှင့်ထိုက်သော ဉစ္စာ မင်းအားဆက်သမည်ဟူ၍ ပြည့်ရှင်မင်းထံဆက်လေသော် မင်းကြီးက အမတ်မဟာပညာကျော်ကိုခေါ်၍ ပြတော်မူလေလျှင် အမတ်ကြီးက လက်စွပ်ကိုသားတစ်၌ထည့်၍ ငှက်စာပေးသောရက်ကစ၍စစ်သော် ရက်ပေါင်းတရာကိုးဆယ်ရှိကြောင်းကို သိလတ်မူ စီရင်ရန် ရက်နှစ်ဆယ်သာ လိုတော့သည်။ စီရင်ပါမည် မင်းထံလျှောက်၍ လက်စွပ်ကို ဆက်သောဘုန်းကြီးအား မေးလျှောက်လေသော် တပည့်သူငယ်ရကြောင်းနှင့်ပြောဆို၍ ထိုသူငယ်ကို မေးမြန်းရာ ထန်းပင်တွင်ကျီးသိုက်၍ ရကြောင်းကို အမတ်ကြီးအားလျှောက်၍ ကျီးသိုက်ကိုပြလျက် သိလေလျှင် ညအခါ ထိုကျီးမကိုရအောင်ဖမ်းစေ၍ ထိုလက်စွပ်နှင့်တူအောင် လက်စွပ်တကွင်းလုပ်ပြီးသော် ကျီးနှုတ်သီး၌ မြဲစွာချည်လျက် နံနက်ကိုလွှတ်၍ အသီးအသီး မင်းစေတမန်များကို လိုက်၍ကြည့်ရှုစေရာ ထိုကျီးမသည် တရားသူကြီးအိမ်၌ စားနေကြဖြစ်၍ နားလေသော် တရားသူကြီးမယားက ပျောက်သော လက်စွပ် ကျီးနှုတ်သီးတွင် ပါလာသည်ဟူလျက် အုတ်အုတ်ကျက်ကျက်လိုက်၍ ဖမ်းသောအကြောင်းကို မင်းစေတမန်တို့ အမတ်ကြီးထံ လျှောက်လာသော် တရားသူကြီးလင်မယားကိုခေါ်၍ မေးလေသော် ကြွက်တွင်းတူးရာ၌ ရကြောင်းလျှောက်လေ၍ ထိုကြွက်တွင်းကိုပြသောကြောင့် ထိုအရပ်၌ လူမပြတ် အစောင့်ထားလေသည်။

အထက်လက်စွပ်ခိုးသူသည် ရေချိုးအလာတွင် သည်အရပ်၌ လက်စွပ်ကိုချထားရာ ပျောက်သွားလေသည်ဟူလျက် ပြောဆိုသောစကားကို မင်းစေတမန်တို့ ကြားလျှင် ခေါ်ယူသွား၍ အမတ်ကြီးအားအပ်လေသော် သည်အရပ်တွင်ထားရာ ပျောက်သောထိုလက်စွပ်ကို အဘယ်မှာရသနည်း၊ မှန်စွာဆိုရမည်မေးလေသော် ပန်းထိမ်အိမ်တွင် ခိုး၍ရသောလက်စွပ်ဖြစ်ကြောင်းနှင့် လျှောက်လေသော် ပန်းထိမ်ကိုခေါ်၍ မေးမြန်းရာ သဘော်ကုလားက အပ်လာရာတွင်ရကြောင်း၊ ကုလားသည် အသပြာတရာပေးရကြောင်းများတို့ကို အမတ်ကြီး သိလေ၍ အကြောင်းမျိုး စုံလင်သောအခါမှ မင်းထံသို့ ဝင်လျက် အလုံးစုံသောအကြောင်းကို လျှောက်ထားပြီး၍ အမှုကိုစီရင်သောထုံးသော်ကား---

လက်စွပ်ရေသို့အကျတွင် မြေလက်မခံဝံ့၍ ငါးသိမ်းထားပြီးသော် ထိုငါးကို တံငါရလေသည်။ ထိုတံငါ လက်စွပ်ကိုမြင်လျှင်မထားဝံ့၍ မင်းထံဆက်လာသည်များမှာ မြေပိုင် ရေပိုင်တိုင်းနိုင်ငံအတွင်း၌ရှိသောသူတို့သည် အစိုးရအရှင့် ကျွန်တစေသာ ဖြစ်ကြသည်။ လက်စွပ်တော်ကို တံငါဆက်သည့်နောက် လက်စွပ်မင်းလက်သို့မရောက် ပျောက်လေမူ တံငါကပေး၍ ရသောကြောင့် မင်းဘုန်းသီလတရားမရှိ၊ လက်စွပ်တန်ဖိုးကို တံငါသို့ မင်းကပေးသင့်သည်။ တံငါဆက်လာသည့်နောက် ထိုလက်စွပ်သည် သတ္တဝါမျိုးစုံထံရောက်၍မှ မပျောက်မဆုံး ဆက်သလာရောက်ပြန်ရသည်။ တရားကျမ်းဂန်၌ သူတော်ကောင်းတို့ဥစ္စာကို ရေမှာပစ်လည်း မနစ်၊ မီးမှာပစ်လည်းမချစ်ဟူ၍ ဆိုအပ်သောစကားရှိသည်၊ အရှင်မင်းတရားကြီး ဘိသိက်ခံတော်မူသောအင်္ဂါပြည့်စုံလျက် တရားစောင့်ထိန်းသည်ဖြစ်၍ လူလည်းကြည်ညို၊ နတ်လည်းလိုသောကြောင့် သုံးကြိမ်တိုင်အောင် လက်စွပ်တော်ကို နတ်တို့ပို့ညွှန်ရာ လူလာ၍ဆက်လာရသည်။ ရဟန်းသော်ကား တရားနှင့်လျော်ညီသည်ဖြစ်၍ ပစ္စည်းလေးပါးမြဲစေသင့်ပါသည်။ တံငါနှင့်ငှက်ခတ်သမားမှာ ကိုယ်နှင့်မထိုက်တန်သောအရာကို သိတတ်သောသူဖြစ်၍ မင်းဘဏ္ဍာထိန်းအပ်သော ကျွန်ကောင်းလက္ခဏာဝင်သည်။ တရားသူကြီးမှာ ကြွက်နှင့်တူသည်၊ ပန်းထိမ်မှာ စွန်နှင့်တူသည်။ ကုလားမှာ ငါးနှင့်တူသည်၊ သူခိုးမှာ ကျီးနှင့်တူသည်၊ ထိုငါးစသော သတ္တဝါလေးကောင်တို့ ဒဏ်ရောက်သည့်နည်းတူ ကုလားစသောသူလေးဦးတို့ မင်းပြစ်သင့်ရာသည်။ စီရင်လေသော် နေ့ကာလစင်လျက် သည်းထန်စွာ မိုးရွာသောကြောင့် ပြည့်ရှင်မင်းကြီးလည်း

အားရတော်မူ၍ ဆင်တော်မူသော လက်ကောက်ကို မဟာပညာကျော်အမတ်သို့ တရားဆုပေးတော်မူလေသည်။

တရံရောအခါ ကျောင်းနေပုဂ္ဂိုလ်ရဟန်းတဦးသည် သေလွန်ရာ၌ ငွေသပြာနှစ်ထောင်၊ ရွှေသပြာတရာကျန်ရှိရစ်သည်ဖြစ်၍ ရဟန်းမိဘဆွေမျိုးတို့လည်း ရလိုသည်။ ကျောင်း၌ရှိသော ရဟန်းသာမဏေတို့ကလည်း ရလိုသည်၊ ကျောင်းဒကာကလည်း ရလိုသည်၊ သုံးဦးသားတို့ အလုအယက်အငြင်းအခုံနှင့် မင်းထံရောက်လေသော် ပြည့်ရှင်မင်းက အမတ်မဟာပညာကျော်သို့အပ်၍ ဆုံးဖြတ်စီရင်သောထုံးမှာ ရဟန်းသံဃာတို့အား ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ စတုမဓု စသောဆေး၊ ဤလေးပါးကိုသာ ဘုရားခွင့်ပြုတော်မူသည်။ ရွှေငွေစသော အနာမာသဝတ္ထုကို ခွင့်ပြုတော်မမူ။ ဘုရားခွင့်မပြုလျက် အာဏာကိုဆန့်၍ပြုသော သာသနာတော်ရန်သူဖြစ်၍ ရတနာသုံးပါးအဝင် မဟုတ်၊ လူဖြစ်လေပြီ၊ လူကဲ့သို့ သင်္ဂြိုဟ်ရမည်။ ရွှေငွေကိုပေးလှူသော်လည်း အလှူမမြောက်၊ လူချင်းပေးသကဲ့သို့ဖြစ်၍ ပေးရင်းလူများရှိလျှင် ပြန်ယူစေ၊ ထိုသူအလျောက် ကူးသန်းရောင်းဝယ်ရသော ပစ္စည်းဖြစ်လျှင် ထိုသူနှင့် အတူနေရဟန်းတို့လိုမှူ လူဝတ်လဲ၍ ထိုသူမိဘ ဆွေမျိုးတို့နှင့်ညီမျှခွဲယူကြစေ၊ ပစ္စည်းလေးပါးမှာ ရဟန်းများရစေ၊ ကျောင်းဒကာမှာ ပလပ်စေဟုစီရင်သောအခါ မင်းကြီးရှေ့ မင်းရင်ပြင်၌ ပန်းပေါက်ပေါက်တို့သည် ကြဲမြောက်ကျလတ်လေသော် ပြည့်ရှင်မင်းက အလွန်ကြည်ညို၍ ထွက်စည်ဝင်စည်ကို အမတ်ကြီးသို့ တရားဆုပေးတော်မူသည်။

(ဤအရာတွင် ပါရာဇိကကျရောက်မှု အသမဏ အသကျပုတ္တိယဖြစ်ကြောင်း ဘုရားပညတ်တော်မူသည်။ ပရိစ္စာဂစေတနာပြင္ဖဲ့ခန်းလျက် လှူမှုမည်သူမဆို ဒါနမြောက်ထိုက်ကြောင်း အဋ္ဌကထာဋီကာ အရပ်ရပ် ဖွင့်ပြတော်မူလျက်ရှိသည်။ သံသရာရေးကိုလို၍ပေးခြင်း၊ ချစ်၍ပေးခြင်း၊ ကြောက်၍ပေးခြင်း၊ မိုက်၍ပေးခြင်း၊ ပညာကိုလို၍ပေးခြင်း၊ ကာမဂုဏ်ကိုလို၍ပေးခြင်းအားဖြင့် ခြောက်ပါးတွင် သံသရာကိုလို၍ပေးရာ ပြန်မယူအပ်ကြောင်းနှင့် ရှေးမျဉ်းဓမ္မသတ်လာရှိသည်။ သို့ကြောင့် ယခင်စီရင်ထုံးကို ဆင်ခြင်ရမည်)။

တရံရောအခါ လူတဦးသည် ငွေအိုးရှိသည် စာညွှန်းကိုတွေ့၍ တယောက်ကို ပြောဆိုလေရာ ထိုသူလည်း တဦးသောသူအား ဆေးမြစ်တူးရန် လိုက်ခဲ့၊ ငါးသပြာပေးမည်ဆို၍ ခေါ်သွားတူးကြလေရာ ငွေသပြာသုံးထောင်ရလျှင် ထိုသူသုံးဦး မညီမညွတ်လေသဖြင့် မင်းထံရောက်၍ အမတ်ကြီးအားစီရင်စေရာ၌ မြေပိုင်ရေပိုင်တွင် ရသမျှမင်းနှင့်မကင်း၊ ဆယ်ဖို့တဖို့မင်းသို့ဆက်စေ၊ ငါးသပြာလို၍လိုက်သောသူမှာ ကျွန်နှင့်တူသည်၊ တကိုယ်ဖိုး ငါးသပြာသာရစေ၊ ညွှန်သောသူနှင့်သွားတူးလေသောသူမှာ လင်မယားနှင့်တူသည်။ အညီအမျှခွဲယူကြစေ စီရင်လေသော် ကနက္ကဒန်ထိုးဖြူ အလိုလိုပွင့်လေသည်။ ပြည့်ရှင်မင်းက အမတ်ကြီးကို မိဘုရားလတ်အဆောင် အရွက်ကို တရားဆုပေးတော်မူလေသည်။

တရံရောအခါ သီဟိုဠ်ကောလမ္ဗမင်းက ရွှေပေကိုလိပ်ပြီးမှ အနားတွင် မီးရေဟူသော အက္ခရာနှစ်လုံးကိုရေး၍ ရွှေပေကိုဖြန့်လျက်သေချာစွာထည့်ပြီးမှ သံစေလွှတ်လိုက်သော် ထိုရွှေပေကိုကြည့်ရာ စာတလုံးမျှမပါလတ်မှု ပြည့်ရှင်မင်းက ထိုရွှေပေကို အမတ်ကြီးသို့ အပ်တော်မူလေသည်။ အမတ်ကြီးလည်း သီဟိုဠ်မင်းသည် ပညာဖြင့်စမ်းသောအကြောင်းသာဖြစ်ချေမည်ကြံလျက် ရွှေပေကိုလိပ်၍ ပွတ်လေရာ စာလုံးညီလတ်လျှင် နှစ်လုံးသောအက္ခရာကိုတွေ့လေသည်။ ယင်းသို့တွေ့လေသော် မင်းထံတင်လျှက်ဆက်လေ၏။ စာနှစ်လုံးမှာ "မီး"၊ "ရေ" သာပါလာသည်။

ထိုအကြောင်းကို အမတ်ကြီး အဓိပ္ပာယ်ကောက်၍ လျှောက်သည်မှာ---အရှင်မင်းမြတ်၊ ရှေးပညာရှိတို့စကားသုံးပုံရပ်အဆို၌ "မီး" လွန်သော်=ချစ်သည်၊ "ရေ" လွန်သော်=ပျစ်သည်။ ရာဇမျိုးတွင်လည်း---

ပြည်ကြီးဝန်ကို၊ အိုးတန်ဆန်ခတ်၊ မင်းကျင့်ဝတ်နှင့်၊ လျောက်ပတ်သင့်စွာ၊ စီရင်ရာသည်ဟု ဆိုပါသည်။ ယင်းသို့ဆိုသည့်အလို သီဟိုဠ်မင်းကပေးသော အက္ခရာနှစ်လုံးသည် ပြည့်ရှင်မင်းကိုအမေး "မီး" ကဲ့သို့ ကျင့်သည်။ "ရေ"ကဲ့သို့ ကျင့်သည်။ ပြည့်ရှင်မင်း "မီး" ကဲ့သို့ ပြင်းစွာအာဏာရှိမှု ပြည်သူပင်ပန်းရာသည်။ "ရေ" ကဲ့သို့ကျင့်သော် မှူးမတ်ပြည်သူတို့ မလေးမခန့် ပြုရာသည်။ "ရေ" မကြီး၊ "မီး" မလွန် ကျင့်ရာသောအကြောင်း ပေးသောစာဖြစ်ပါသည်။ အမတ်ကြီးလျှောက်လေရာ သီဟိုဠ်တမန်တို့လည်း အလွန်ကြည်ညို၍ ပြည့်ရှင်မင်းကို လက်စွပ် ၁၀ ကွင်း၊ အမတ်ကြီးသို့ ၅ ကွင်း ဆက်သပူဇော်လေသည်။ သီဟိုဠ်တမန်တို့အပြန်၌ ထိုရွှေပေတွင် "နေ" "လ" ဟူသော အက္ခရာနှစ်လုံးကို အမတ်ကြီးက ရေး၍ပေးလိုက်ရာ ဆောင်ယူပြန်သွားကြလေသည်။

တရံရောအခါ သီဟိုဠ်ကျွန်း တမ္ဗူလသေဌေးမြေး ဂုတ္တိသတ်လာရောက်၍ ဘိုးတော်တမ္ဗူလသေဌေးသည် မြောက်ဦးမြို့သို့ ဘေးတော်စလင်္ကာသူမင်းလက်ထက် သင်္ဘောနှင့်အရောင်းအဝယ်ရောက်သောအခါ ပေါင်းထွတ်သင်္ဘောဆိပ်သေဌေး အုန်းအာသန်နှင့် ချစ်ကြည် ယုံမှတ်ကြ၍ အသပြာတသိန်း အပ်နှံထားခဲ့သည်။ သေဌေးအုန်းအာသန် အမွေကိုဆက်ခံရှိသူ မြေး ဒေါ်တလီ ပေးသင့်ကြောင်းနှင့် ပြည့်ရှင်မင်းထံလျှောက်လေသော် မဟာပညာကျော်သို့ အပ်၍စီရင်သောထုံးမှာ--- အုန်းအာသန်မြေးသေဌေး ဒေါ်တလီကိုမေးလျှင် အပ်သည် မအပ်သည်ကိုမသိ။ မင်းဆယ်ဆက်မြောက်၊ နှစ်တရာကျော် အစဉ်အဆက်လည်း မကြားဖူးပါဆိုလတ်မူ ဂုတ္တိသတ်က လူကြီးနှစ်ဦး ယုံမှတ်ပေးအပ်ကြသောကာလ၊ သဝန်သကလဟူသော တောင်ထိပ်၌ ညောင်ပင်ရင်းတွင် နှစ်ဦးလက်မှတ်စာ ကျောက်ဖျာကြီး၌ရေး၍ ညောင်ပင်ရင်း မြောက်ဘက်နားတွင် မြှုပ်နှံထားခဲ့ကြောင်း၊ အဘိုးသေဌေး မှတ်ထားသော မှတ်စာပါကြောင်းနှင့်ပြပေသော် ထိုညွှန်ရာသို့ သွားကြည့်ရှာဖွေစေရာ ကျောက်ဖျာမရှိ၊ ညောင်ပင်သည်ကား ခုတ်သည့်အငုတ်ရှိလျက် တွေ့လေသည်။ ယင်းသောအခါ ပေါင်းထွက် သင်္ဘောဆိပ်အကြီးကို ခေါ်၍ သဝန်သကလ တောင်ထိပ်၌ ညောင်ပင်ကို မည်သည့်ကာလ မည်သူခုတ်လှဲသည်။ ထိုတောင်က ကျောက်ခဲကျောက်ဖျာကို မည်သူယူဖူးသည်ကိုမေးလေရာ သေဌေးဒေါ်တလီ အဘ၊ ရှာအလင်တိုက်တည်သော ကာလ ကျောက်ဖျာကြီးတခု ယူဖူးပါသည်။ ညောင်ပင်မှာ သင်္ဘောသားတို့ ထင်းခုတ်ယူကြ၍ သေကြောင်း ထွက်ဆိုလျှင် ထိုကျောက်ဖျာကို အဘအဘယ်မှာထားခဲ့သနည်း။ သေဌေး ဒေါ်တလီသိရာ သည်မေးလေသော် အဘ လက်ထက် သင်္ဘောဆိပ်တွင် ကျောက်ဖျာခင်းလျက်ထားခဲ့သည် ညွှန်လေရာ ကျောက်ဖျာကို လှန်၍ကြည့်လတ်သော် သေဌေးနှစ်ဦး လက်မှတ်စာကိုတွေ့လေသည်။ ယင်းသို့အခါ အပ်ထားခဲ့သည်မှန်ပြီ။ မင်းဆယ်ဆက်၊ နှစ်ပေါင်းတရာကျော် ကြာသော်လည်း မင်းရိုးမင်းဆက်သာ ဆက်တော်မူသည်။ ထီးကျိုးစည်ပေါက်မဟုတ်၊ ကျမ်းဂန်လာသည်မှာ---

ကပိလဝတ်ပြည်၌ ရှစ်သောင်း လေးထောင်သော မင်းတို့သည် ထီးကျိုးစည်ပေါက်မရှိ စိုးစံတော်မူကြောင်း၊ ရာဇဂြိုဟ်ပြည်၊ မိဓိလာပြည်၌လည်း ထို့အတူ ထီးကျိုးစည်ပေါက် မရှိကြောင်း၊ ဝေသာလီပြည်၌ အဇာတသတ် တိုက်ခိုက်ဖျက်ဆီးသဖြင့်ငင်း၊ ပါဋလိပုတ်ပြည်၌ ပဋ္ဌမကမင်းကို ခိုးမှူးနေဒ္ဓတိုက်ခိုက် လုယက်ဖျက်ဆီးသဖြင့်ငင်း ထီးကျိုးစည်ပေါက်ရှိကြောင်းနှင့်လာသည်။ ငါတို့ ရက္ခပူရတိုင်း၌လည်း ရှေးမင်းတို့လက်ထက်လုယက် ဆိုးသွမ်းမင်းကြမ်းမျိုးခြား ဆယ်ဆက်ဖြစ်ဘူးသည်။ ဘေးတော် မင်းစောမွန် လက်ထက်လည်း ပြည်ထမ်းပိုးကျိုးလေသည်။ ယင်းသို့ အကြောင်းကြိမ်သောကာလ၌ကြုံချေမှု လွတ်လပ်စေရာသည်။ မင်းရိုးမင်းမျိုးမပျက် စိုးဆက်ရှည်ကြာ ကမ္ဘာပတ်လုံးတည်လျှင် ထိုပြည်၌ ထီးကျိုးစည်ပေါက်မရှိ။ သာကိဝင်

မင်းမျိုး မှန်သည်။ အပ်နှံလုယက် ခိုးဝှက်သမျှ ပလပ်စေ မဆိုသင့်။ သို့ရာတွင် ထိန်းသူထင်ရှားရှိ၍ တောင်းကြ ပေးကြလျှင် သဘောတူအပေးအယူနှင့် နေစေသင့်သည်။ ထိန်းရင်းအပ်ရင်း သူချင်းမဟုတ်လေ။ သားတဆက်၊ မြေးတတန့်ထိန်းသိမ်းလျက် နှစ်တရာကျော် ထိုဥစ္စာ ပျောက်ဆုံးလျှင်လည်း ပေးလျော်ရမည်ပင် ဖြစ်လေသည်။ တသောင်းသပြာကို ထိန်းသူရစေ။ ကိုးသောင်း သပြာကို သီဟိုဠ်သေဌေး ဂန္ဓိသတ်သို့ပေး၍ အထက်အဘိုးနှစ်ဦး ထားခဲ့သော သက်သေလက်မှတ် ကျောက်စာကိုဖျက် သိမ်းကြစေစီရင်လေသော် သည်းထန်စွာမိုးရွာလတ်၍ သေဌေးနှစ်ဦးကြည်လင်စွာ သပြာတထောင်စီ အမတ်ကြီး သို့ ပူဇော်ကြလေသည်။ ပြည့်ရှင်မင်းကြီးကလည်း ပတ္တမြားလက်စွပ်တကွင်း တရားဆုအမတ်ကြီးသို့ပေးတော် မူပြန်သည်။

(ဤအရာတွင် မင်းသုံးဆက်၊ နှစ် တရာကျော် ဟူ၍ပါ၏။ မင်းဆယ်ဆက်၊ နှစ်ပေါင်းတရာကျော်ဟူ၍ သာ အမှန်ယူရမည်။ ဤကား စကားချပ်)။

တရံရောအခါ သေဌေးတဦးက မြေ၌ သပြာ တသောင်းမြှုပ်ထားသည်ကို သိသူတဦး တူးဖော်ယူသွား လေရာ သေဌေးကြည့်မြဲကြည့်၍မမြင်လျှင် ချောင်းတွင် ငါးရှာနေသူနှစ်ယောက်ကိုဖမ်း၍ ရိုက်နှက်စစ်မေးလေ သော် ယူသည်မှန်၏။ မြစ်လယ်သို့ ချမိပါသည်အဆိုနှင့် မင်းထံဆက်ပို့ရာ မင်းကြီးလည်း ရိုက်နှက်သည့်ဒဏ်ကို မြင်တော်မူလျှင် သေဌေးထံ ထိုသူတို့ဆိုခဲ့သည့်စကား အမှန် မယူသာ။ ဆင်ခြင်တော်မူ၍ အမတ် မဟာ ပညာကျော်သို့ အပ်လေသော် အမတ်ကြီးစီရင်သော် ထုံးသည်ကား-

ထိုသူနှစ်ယောက်ကိုထားသော နှောင်အိမ်သို့ အရေးအရာ၌ လိမ္မာသူတယောက်ကို ပြောဆိုမှာထား လျက် အပြစ်ရှိသည်ဆို၍ သွင်းထားလေသည်။ ဆယ်ရက်ခန့်ရှိမှ လွှတ်စေ၍ အမတ်ကြီးမေးလေရာ ထိုသူနှစ်ယောက်တို့မဟုတ်ကြောင်း သိလေသော် ထိုသူနှစ်ဦးကို ယုံလောက်သောသူထံအပ်၍ လွှတ်ပြီးလျှင် သေဌေးနေသော အရပ်ဝန်းကျင် ရွာကျေးလက်သို့ မင်းစေတမန်လွှတ်လျက်ကြည့်စေသော် လူတဦးသည် အလှူပွဲသဘင်နှင့် အလှူပေးနေသည်ကိုတွေ့ရာခေါ်၍ မိတ်ဆွေဖွဲ့ပြီးလျှင် သပြာတထောင်တန်သော လက်စွပ် တကွင်းကို သပြာငါးရာနှင့်ရောင်းလေပါဟု အပ်လေလျှင် ထိုသူယူသွား၍ အခြားမှာပြလေသော် သပြာတထောင်တန် သည် ဖြတ်ဆိုကြလျှင် အဖိုးသက်သာနှင့် ရပြီအထင်နှင့် သေဌေးငွေခိုးရဥစ္စာမှ သပြာငါးရာယူပြီးလျှင်ရောင်း၍ သပြာငါးရာရသည်ဟူလျက် အမတ်ကြီးထံ ပေးလာသော် အမတ်ကြီးက ဥစ္စာရှင်သေဌေးကိုခေါ်၍ပြလေရာ သေဌေးက ကျွန်ုပ်ဥစ္စာမှန်ပါကြောင်းနှင့် လျှောက်လေလျှင် ထိုသူကို ခေါ်၍မေးစစ်လေရာ ယူမိသည်မှန်ပေကြောင်း ထွက်ဆို လေလျှင် စီရင်ထုံးသော်ကား-

ငါးရှာသူနှစ်ယောက်ကို သေဌေးနာကျင်စွာ ရိုက်နှက်လျက် ခိုးသူဖြစ်ကြောင်း အပ်လာသည့်အပြစ်၊ သပြာတထောင် သေဌေးကလျော်ပေးစေ။ ခိုးသူသည် အလှူပေးမည်ရှိလျှင် ထိုသူလက္ခဏာ ရှေးနောက်ကို ညှိနှိုင်းဆင်ခြင်၍ ဤသို့သောဥစ္စာကို အဘယ်မှာရသည်။ ကုန်ရောင်းကုန်ဝယ်ပြု၍ နှစ်လမကြာမြတ်စွန်း၍ရသည်။ မိဘဆွေမျိုးအရပ် အိမ်နီးအကြီး ဦးကိုင်တို့ မစစ်မဆေး နေကြသည်မှာ အလိုပါရာရောက်သည်။ လှူ၍ကုန်သမျှ ကို လက်သည်လုပ်သူကိုင်သူ စားသောက်သမျှသော ပရိသတ်တို့က ပေးလျော်စေ။ ခိုးသူမှာ ဒဏ်ခံစေစီရင် သောအခါ မြောက်ဦးနတ်သမီးနေသော ညောင်ပင်၌ တရွက်မလွတ် ကန်တော့လေသော် ပြည့်ရှင်မင်းက တရားဆု ဆင်ပေါက်နှစ်စီးအမတ်ကြီးသို့ ပေးတော် မူသည်။

အခါတပါးတုံမူလည်း သမက်တော် သံတွဲစား သေလွန်၍ သံတွဲမြို့ကို ပြည့်ရှင်မင်းကြီးက အမတ်သံကိုင် နှောင်သို့ပေးမည်ရှိသောအခါ အမတ်ကြီးမဟာပညာကျော် လျှောက်ထုံးသော်ကား---

သံတွဲမြို့သည် အစွန်အဖျား ပြူတလိုင်းတို့နှင့် အနီးအစပ်၊ အမတ်သံကိုင်နေခင်မှာလည်း လက်ရုံးရည်သာ ရှိသည်။ ကောက်လိမ်ဆန်းကြွယ်သော ဉာဏ်မရှိ။ ရှေးသူဟောင်းစကားတွင်လည်း ပြူကိုအမြွောက်၊ တလိုင်းကို အကောက်၊ ကုလားကို မီးပေါက်ဆိုရိုးစကားရှိပါသည်။ တတိုင်းတပြည် သံတမန်စေသော အမတ်၊ တိုင်းစွန်ပြည်ဖျားထားသောအမတ် ထိုနှစ်ဦးတို့သည် လက်ရုံးရည်မှာ အတန်သာလိုပါသည်။ လက်ရုံးရည်လွန်ခဲ့သော် နှစ်ပြည်ရန် စစ်ကြီးစွာ ထိုသူတို့ကြောင့် ဖြစ်တတ်ပါသည်။ နှလုံးရည်သော်ကား လွန်တိုင်းအကျိုးရှိပါကြောင်း ကျမ်းဂန်တွင်လာရှိသည်။ ဗာဟုဗလဟူသော စစ်သည်ဗိုလ်ပါအား၊ ဘောဂဗလဟူသော ဉစ္စာပစ္စည်းအား၊ အမစ္စဗလဟူသောအမတ်လိမ္မာအား၊ အဘိဇစ္စဗလဟူသော မင်းမျိုးမင်းရိုး မှန်သောအား၊ ပညာဗလဟူသော ပညာအားဟူ၍ ပြည့်ရှင်မင်းတို့၏အား ငါးပါးတွင် ပညာအဆင်အခြင်နှင့်ပြည့်စုံသော အမတ်အား တပါးပါဝင်ပါသည်။ သူက အကောက်အကွေ့လာခဲ့သော် ကောက်လိမ်ဆန်းကြွယ်သောဉာဏ်ဖြင့် နှိပ်နင်းချိုးဖျက်နိုင်မှ အောင်ရာသည်။ နှလုံးရည်ရှိသောသူ၌ လက်ရုံးရည်မှာ အလွန်ရှိအောင် ပြုနိုင်ကြောင်းမှာ အသဿကမင်းအမတ်နန္ဒိသေနကကိုဆိုသော စတုကနိပါတ်တော်၌ ထင်ရှားရှိပါသည်။

သံတွဲမြို့မှာထားရန် အမတ်တော် လေးမြို့စားသည် လေးထုတောင်ပေါ်သား တရားမရှိ။ သူ့စည်းစိမ်ကို ဖျက်ဆီးတတ်လျက် အလွန်ဆိုးသွမ်းယုတ်မာ နိုင်မိနိုင်ရာ သတ်ညှစ်နှိပ်စက်ပြုတတ်သော အမျိုးတုံသော်လည်း ယဉ်ကျေးစေမှု နှလုံးရည်လက်နက်တို့ဖြင့် ယဉ်ကျေးစေတတ်သော ပညာဗလရှိသူဖြစ်ပါသည်။ လေးမြို့စားဝန္ဒသူကို သံတွဲစားပေး၍ ဝန္ဒသူသားကျော်သူကို လေးမြို့စား ပေးတော်မူလျှင် သင့်လှပါသည် အရှင်မင်းမြတ်။ လက်ရုံးရည်မှာ လူမိုက်အတတ် နှလုံး၏အစေကျွန်သာ ဖြစ်ပါသည်။ နှလုံးရည်ရှိသောသူအား အမှုအပေါင်းပြီး ကုန်ပါသည်လျှောက်လေသော် မင်းကြီးလည်း ကြိုက်တော်မူ၍ လေးမြို့စားဝန္ဒသူကို သံတွဲမြို့စားအရာ ပေးတော်မူလေရာ တနှစ်ခန့်ရှိလျှင် ဟိုင်းကြီးကျွန်းတွင်ရှိသော တလိုင်း၊ ပြူ၊ ကုလား၊ လူဆိုးငါးထောင်၊ ကျွန်ခံ သံတွဲမြို့သို့ ဝင်ရောက်လာရလေသည်။

အခါတပါး၌ သားတော်သံထောင်စား ငစုံသည် မြို့တို့အရပ်က လင်းကဲ၊ မြို့၊ သက်တို့နှင့်ပူးပေါင်း၍ ခြားနားပြီးသော် ဒါဂါမြို့စား ကောင်းညွန့်သူကို အလိုသို့ ပြည့်လျှင် ပြည်ပိုင်အမတ်ကြီးခန့်မည်။ ဒါဂါမြို့သို့ စေလွှတ်ပြောဆိုစေရာ ကောင်းညွန့်သူကြသည်ကား တောသတ္တဝါကိုလိုလျှင် အိမ်သတ္တဝါနှင့် ရင်းနှီးဖမ်းရမည်။ သားတော်ငစုံ ဆိုးသွမ်းသောအကြံဖြင့် ကျင့်ကြံပြန်သည်။ အလိုပါလိုက်၍ ဖမ်းမည်ကြံလျက် သံထောင်စား ငစုံကစေသောသူအား သင့်လှပါသည်။ ရဲမက်လက်နက်များမှာ အသင့်ရှိပါပြီ။ မည်သည်ကိုမျှ စိုးတော်မမူပါနှင့်။ လက်ဆောင်ပဏ္ဏာ လျှောက်စာနှင့် လူထည့်လိုက်သည်။

ထိုအကြောင်းကို ပြည့်ရှင်မင်းကြီး ကြားသိတော်မူ၍ အမတ်မဟာပညာကျော်ကို မေးတော်မူလေသော် အမတ်ကြီး လျှောက်ထုံးသော်ကား ဒါဂါမြို့စား ကောင်းညွန့်သူ ဘီ၊ ဘိုး၊ အစဉ်အမျိုး မှူးရိုးမတ်ရိုး ဖြစ်ပါသည်။ ထီးနန်း မင်းဆက်အဝေးအနီးထားသမျှ မည်သည့်ကာလတွင်မျှ သူပုန်သူကန် လူဆိုးလူသွမ်းနှင့် ပေါင်းဖက်၍ အရှင်မင်းအား မိုက်မှားဖူးသည်မရှိ။ ခမည်းတော်ဘုရားလက်ထက် ကုလားပြည်ကို သိမ်းယူပြန်တော်မူသောအခါ ဒါဂါမြို့စား ကောင်းညွန့်သူ အဘ၊ သတိုးဖြူအမတ်သည် စီးသောလှေ၌ စစ်ချီစဉ်က ပေးသနားတော်မူသောဗောင်းဖြူကိုဆင်လျက် စီးသည်ကို မြင်တော်မူလေသော် စစ်ချီကိုသာ ငါပေးသနားတော်မူသည်။ စစ်ပြန်လျှင် သိမ်းသင့်လျက် သတိုးဖြူလည်း မာန်မြောက်လွန်းသူ ဖြစ်သည်။ မျက်တော်မူလျက် အပြစ်တော်နှင့် မာန်အောင်သို့ ပို့ထားတော်မူ၍ တနှစ်ကျော်

နေရသောအခါ အရှေ့ပြူတလိုင်းမင်းတို့ စေလွှတ်ခေါ်စေရာ မှူးကောင်းမတ်ကောင်းတို့ အင်္ဂါနှင့်စုံညီစွာပေးလိုက်သော စာမူလည်း ဝိဒေဟရာဇ်အမတ် မဟောသဓာကို ပဉ္စာလရာဇ်မင်းကခေါ်သော ကျေးဖူးသစ္စာရှင်မှစ၍ သားမြေးဆက်ကာမှန်သမျှ စိုးမိုးလျှင် ကျေးဖူးသစ္စာစောင့်အပ်ကြောင်း ထုံးဟောင်းနှင့်ညီအောင် စာပေးလိုက်ပါသည်။ အမျိုးအရိုးကို ဒါဂါမြို့စား ကောင်းညွန့်သူ ဖျက်မည်မဟုတ်ပါ။ အကြောင်းဆိုက်ရာကို ဉာဏ်ရှာ၍ ဒါဂါစားကြံသည့်အမှုသာဖြစ်ပါသည်။ အပြစ်ပေးထားသော သားတော် သံထောင်စား လင်းကဲ၊ မြို့ သက်တို့နှင့်ပူးပေါင်း ဆိုးသွမ်းသည့်အရေးမှာလည်း အရေးမဆိုလောက်ပါ။ အမတ်တော် ဒါဂါမြို့စား ကောင်းညွန့်သူ တယောက်နှင့် ပြီးကုန်ပါလိမ့်မည် လျှောက်လေရာ ပြည့်ရှင်မင်းကြီးလည်း မည်သို့မဆို နေတော်မူလေသည်။

ယင်းသို့အမတ်ကြီး လျှောက်ထားသောစကားကို ဒါဂါမြို့စား ကောင်းညွန့်သူကြားလေရာ ငါ၌အရေးရောက်ပြီကြံလျက် သံထောင်စားမှာသောနေ့ ရောက်လတ်သော် ရဲမက်လက်နက်ဗိုလ်ခြေ စည်းကြပ်လျက် သံထောင်စားရှိရာသို့ ချီသွားလေသည်။ တွေ့ကြုံလေကြသောအခါ ဒါဂါစားဆိုသည်ကား အရှင်မင်းသား တပ်ဦးချီတော်မူပါ။ ကျွန်တော်နောက်က ကွပ်စစ်အားပေးပါမည်ဆိုလေသော် သံထောင်စားကလည်း အားရ၍ချီသွားကြသည်နှင့် သက်၊ မြို့၊ လင်းကဲသို့ တောင်ခြေသာကျွမ်း၍ လှေမှူး၊ ရေမှူ မကျွမ်းသည်ဖြစ်လေလျှင် မယူမြစ်ဝသို့ရောက်ကာလ တပ်တောင်တာ လှေတက် အသင့်ထားပြီးသော် မြို့နှင့်နီးပြီဖြစ်သည်။ သံထောင်စားနှင့် တိုင်ပင်ရန်ရှိသည် ဆိုလျက် တပ်ဦးသို့လာခဲ့၏။ သံထောင်စားလည်း ယုံမှတ်သောနှလုံးဖြင့် နောက်ပါလူ အတန်သာခေါ်၍ ဒါဂါမြို့စား လှေသို့တက်လေသော် ဒါဂါစားက ရှေ့နောက်လှေပိတ်ဆို့စေပြီးမှ ဖြားရေအတက် ကြိမ်လေရာ သောင်းသောင်းဖြလျက် သံထောင်စားကိုဖမ်း၍ ရေတက်ကို ဝင်သွားလေသော် နံနက်မြို့တော်သို့ရောက်လေလျှင် သံထောင်စားကို မင်းထံဆက်လေသည်။ သက်ခေါင်းအကြီး၊ မြို့ လင်းကဲ ခေါင်းအကြီး၊ သံထောင်စားအပါအဝင် လူတို့ကိုလည်း ဒါဂါစားအမတ် သောင်းတီးစားဖမ်း၍ ဆက်လာပြန်သည်။

ယင်းသောအခါ အမတ်မဟာပညာကျော် လျှောက်သောထုံးသော်ကား အရှင်မင်းမြတ်၊ ဘုရားရှင်ဒါယကာဖြစ်တော်မူသော ဗိမ္ဗိသာရမင်းကြီး မိဘုရား၌ အဇာတသတ်မင်းကို ပဋိသန္ဓေစွဲနေသောကာလ မကောင်းသော တိတ်နိမိတ်ထင်သဖြင့် အကြိမ်ကြိမ် သန္ဓေကိုဖျက်ကြောင်း မင်းကြီးသိတော်မူလေရာ မိဘုရားကို တားမြစ်၍ မဖျက်ဆီးရကြောင်းနှင့် ကျမ်းဂန်လာပါသည်။ အရှင်မင်းမြတ်၊ ပြည့်ရှင်မင်းတို့သည် ဓိဝိတိခြွေမှ မချအပ်သောသူ ခုနစ်ယောက်ရှိပါသည်။ ခုနစ်ယောက်ဟူသည် အမိ၊ အဖ၊ ဆရာ၊ ဆွေမျိုး၊ မင်းအကျိုးကို ပြီးစီးအောင် စီရင်တတ်သော အမတ်၊ ရှူးသွပ်သောသူ၊ ရဟန်းသံဃာ၊ ပညာရှိသောသူ၊ ဤခုနစ်ယောက်တို့ကို ဓိဝိတိခြွေမှမချအပ်ကြောင်းနှင့် ထုံးဟောင်းကျမ်းဂန်လာရှိသည်ဖြစ်၍ သားတော်သံထောင်စားမှာ ဇမ္ဗုပတိမင်းနှင့်တူသည်။ သားတော်ကို ပါအောင်ခေါ်ဆောင်ယူနိုင်သော ဒါဂါစားမှာ သိကြားတမန်နှင့်တူပါသည်။ အရှင်မင်းမြတ်တုံသော်ကား ဘုရားသခင်နှင့် ဥပမာတူပါသည်ဟု ထုံးဟောင်းအတွက်နှင့် ပြည့်ရှင်မင်းမတိမ်းမပါးစေရ။ ဘုရားစသော သူတော်ကောင်းတို့ ချီးမွမ်းစေရာ မှူးကောင်း မတ်ကောင်း အင်္ဂါပြည့်စုံစွာ ပညာဗလ အားကြီးသော အမတ်ကြီးလျှောက်လေသော် ပြည့်ရှင်မင်းကြီးက ငြံငြင်ယ်သည် အလိမ္မာမရှိသောသူ ဖြစ်သည်။ လိမ္မာအောင် သွန်သင်ပြသ ဆုံးမစေခိုင်းသိမ်းထားလေတော့ အမိန့်ရှိတော်မူ၍ အမတ်ကြီး မဟာပညာကျော်သို့ အပ်တော်မူသည်။

ဒါဂါမြို့စား ကောင်းညွန့်သူကိုကား သားတော် သံထောင်စား အဆောင်အရွက် အဝတ်တန်ဆာကို ပေးတော်မူသော် ဒါဂါစားလည်း အသနားတော်မြတ်ကို

သာခံ၍ မဆောင်မသုံး ပြည့်ရှင်မင်းသို့ ပြန်အပ်၍ ဒါဂါစား လျှောက်ထားသည်မှာ အရှင်မင်းမြတ်၊ မှူးမတ်ကျေးကျွန်ကို သဒ္ဒါတော်မူ၍ သားတော် သမီးတော်တို့နည်း ပေးသနားတော်မူသော်လည်း မသုံးမဆောင်အပ်ပါ။ မှူးမတ်အသုံးအဆောင်ကိုသာ သုံးဆောင်အပ်ပါသည်။ လွန်၍ပြုချေသော် အလိမ္မာမရှိသူတို့ ထိုတန်ဆာကို ဆောင်၍ မာန်မြင့်တတ်ပါသည်။ သနားခံတော်မူရလျှင် သုံးဆောင်ရသကဲ့သို့ ဖြစ်ပါသည်။ လျှောက်လေလျှင် မင်းသားအဆောင်အရွက်ကို သိမ်းတော်မူ၍ အမတ်တို့နည်း အဆောင်အရွက်ကို ပေးသနားတော်မူလေသည်။

သားတော် သံထောင်စားအပါအဝင် သက်လင်းကဲ မြို့တို့အကြီးခေါင်းများကိုလည်း အသက်မသတ်။ ကုသိုလ်တော် ရတနာပုံဘုရားမှာ လှူတော်မူသည်။

တရံရောအခါ ရုံပြည်ပသီကုလားမင်းက ရက္ခပူရတိုင်း၌ သာကိဝင်မင်းဖလောင်းကြီးသည် ဘုန်းကျက်သရေ ပညာနှင့်ပြည့်စုံ၍ အမတ်ပညာရှိများကြောင်း ကြားသိသည့်အတိုင်း မှန်သည်မမှန်သည်ကို သိစေရာသော အကြောင်းစုံစမ်းရမည်။ အရေး၌လိမ္မာသော ကုလားတယောက်ကို သင်္ဘောနှင့်စေလွှတ်လိုက်ရာ ရောက်လာ၍ ထိုကုလားအမတ် ဒါကုစီကဆက်ရန် လက်ဆောင်တော် ပတ္တမြားခုနစ်လုံးပါသည်ဆို၍ ထိုအထုပ်ကိုပြလေသော် အမတ်မဟာပညာကျော်က ငါတို့အရှင်ကို အတိုင်းတိုင်း အပြည်ပြည်က ဆက်ရောက်လာသမျှ သဘင်ကြီးကျယ်စွာခံပြီးမှ သွင်းမြဲဖြစ်သည်ဆို၍ ထိုပတ္တမြားထုပ်ကို သံတဲပေါ်၌ အစောင့်အနေနှင့်ထားလျက် နေစေပြီးသော် အမတ်မဟာပညာကျော် မင်းထံ လျှောက်လေသည်ကား အရှင်မင်းမြတ်၊ ကုလားမျိုးတွင် ပသီကုလားမျိုးသည် အကောက်အလိမ် အဆိုးအညစ် ထူလှပါသည်။ ယခုလာသည့် ဒါကုစီလည်း ပသီကုလား၊ သင်းတို့အရှင်လည်း ပသီမင်းဖြစ်ပါသည်။ မည်သို့စေကြောင်း၊ ဆက်ရန်လက်ဆောင်တော်လည်း မည်သို့ပါကြောင်းကိုသိအောင် စူးစမ်း၍ပြီးမှ ရှေ့တော်သို့ ဝင်စေရပါမည် လျှောက်လေသော် မင်းကြီးကလည်း ကြိုက်တော်မူလေသည်။

ယင်းသောအခါ အမတ်ကြီးက ထိုအထုပ်ကို ကြည့်လေရာ ရွှေချည်ဖြင့် ရက်သည့်ပမာ လုံစွာထုပ်၍မြင်လတ်မှု အမတ်ကြီးကြံသည်ကား ဤကဲ့သို့ ထည့်ရိုးမရှိသည်ကိုထည့်ခဲ့သော် ထိုအထုပ်၌အကြောင်းပါသည် ဆင်ခြင်လျက် အဘိုးတထောင်တန်သော ပရိကပါရာ ဟူသော ပိတ်အုပ်ကို ခဝါသည်ကို အစုတ်အပြတ်မပါ ပြပြီးသော် အခေါက်အတွင်းခဝါသည် မမြင်သောအရပ်၌ တိတ်တဆိတ် ကတ်ကျေးနှင့်ကိုက်ပြီးသော် ခုံညင်းခန့်ထား လိုက်၍ ထိုအထည်ကို ခဝါသည်သို့ ပေးလိုက်လေသည်။

ခဝါသည်လည်း အိမ်သို့ရောက်လျှင် ထိုပိတ်အုပ်ကို ရေဆွတ်လျက် ဖွပ်လျှော်၍လှန်းသောအခါ ထိုအပေါက်ကိုမြင်လေသော် အလွန်ကြောက်လှသည်နှင့် သင်္ဘောဆိပ်သို့သွားပြီးမှ ထိုအပေါက်ကို ဖာတတ်သောသူအား ရှာလေသော် သင်္ဘောက အပ်လျှိုသမားကိုရခဲ့၍ ဖာစေရာ ထိုအထည်သားနှင့်အတူ အပ်လျှိုသမား ဖာပြီးမှ ခဝါသည်သည် အမတ်ကြီးသို့အပ်လေလျှင် အမတ်ကြီးလည်း ထိုပိတ်အုပ်ကိုဖြန့်၍ကြည့်လေရာ အစုတ်အပေါက်မရှိ၍ ရှာမရရှိသောအခါ၌ အမတ်ကြီးလည်း ကိုက်ယူထားလိုက်သောပိတ်ကို ခဝါသည်သို့ပြလျက်မေးလေမှု ခဝါသည်က ဖာသူကိုဆိုလေသော် အမတ်ကြီး ကြံပြန်သည်ကား မြန်မာကို=ပြဒါး၊ ကုလားကို=မဲနာ ရှေးသူဟောင်း ဆိုရိုးရှိသည်။ ထိုကုလားကိုခေါ်၍ မေးရမည် ခဝါသည်ကိုဆိုလျှင် ခဝါသည်လည်း ထိုကုလားကိုခေါ်၍ မေးရလေရာအကြောင်းကို မေးမြန်းသည့်ကာလ သူခြုပ်သောအထုပ်မှန်ကြောင်း၊ ထိုအထုပ်တွင် အဖိုးမထိုက်သော ပတ္တမြားအမျက်ခုနစ်လုံး ပါကြောင်းကို ပြောဆိုလေသော် တပါးသောသူအား ယင်းသို့မေးကြောင်းကိုမသိစေနှင့် ပိတ်ပင်လျက် သပြာတရာ ကုလားသို့ပေးပြီးမှ ထိုကျောက်ထုပ်ကို တိတ်တဆိတ်ယူစေပြီးသော် ပြည့်ရှင်မင်းကြီးထံဝင်လေ၍

ကျောက်ထုပ်ကို ဖွင့်ကြည့်လေရာ ချက်ကျောက်ပတ္တမြား ခုနစ်လုံးပါသည်ကို မြင်လတ်သော် အမတ်ကြီးက သပြာတထောင်စီတန်သော ပြည့်ရှင်မင်း ပတ္တမြား ကျောက်ကောင်းခုနစ်လုံးကို ထိုအထုပ်၌ထည့်၍ ချက်ကျောက်ခုနစ်လုံးကိုယူထားပြီးလျှင် အထက်အတိုင်း သေချာစွာ ထိုကုလားကိုထုပ်စေပြီးမှ ထားမြဲသောနေရာ သံတဲပေါ်၌ ထားလေစေသည်။

ထိုသို့ အကောက်လာသောအမှုကို အကောက် ဉာဏ်ဖြင့်အောင်စေပြီးမှ ကုလားအမတ် ဒါကုစီကို မင်းထံ သို့ လက်ဆောင်တော်နှင့်ဝင်စေသည်။ ရှေ့တော်သို့ရောက် ၍ ကျောက်ထုပ်ကို ကုလားအမတ် ဒါကုစီသို့အပ်၍ ဖွင့်စေသော် အဖိုးများစွာထိုက်သော ကျောက်ခုနစ်လုံးကို ကုလားအမတ်မြင်လတ်သော် ခိုဒါအရှင်အမှန်ဖြစ်ပေသည် ဟူ၍ ကုလားအမတ် အလွန်ကြောက်လန့်ရှိသေစွာနှင့် မကာ ဘုရား ကုလားတို့ အထွတ်အထိပ်မှန်ပေသည်ဆို လျက် အကြိမ်များစွာ ဘာသာရှိခိုးခြင်းဖြင့် ရှိခိုးလေသည်။

ထိုကုလားအမတ် ဒါကုစီပြန်သောအခါ၌ သော်ကား မင်းကြီးက အစ်ကိုတို့ အရှင်ရှုံမင်းသို့လည်း ပတ္တမြားကျောက်ခုနစ်လုံးပေးလိုက်မည်။ ကျောက်ကောင်း ခုနစ်လုံးကို ကုလားသို့ပြလျက် အမတ်ကြီးသို့ ကျောက်ကို အပ်တော်မူလေသည်။

အမတ်ကြီးလည်း မင်းကြီးပေးအပ်သော ပတ္တမြားခုနစ်လုံးကို ထိုကုလားအမတ် ဒါကုစီရှေ့ ကောင်းမွန်စွာထုပ်လေ၍ ထိုကုလားအမတ်မရှိနောက် ကုလားတွင်ပါရင်း ချက်ကျောက်ခုနစ်လုံးကို ထိုအထုပ်နှင့် တူအောင်ထုပ်စေပြီးမှ ကုလားအမတ်သို့ အပ်လေသည်။ ကုလားအမတ်သည် ကောင်းမွန်ရှိသေစွာ ဆောင်ယူပြန် သွားလေ၍ မိမိအရှင်ရှုံမင်းထံဆက်လေသော် ထိုအထုပ် ကို ဖြေ၍ကြည့်သောအခါ ပေးလိုက်ရင်း ချက်ကျောက် ခုနစ်လုံးကိုမြင်လတ်မှ ကုလားမင်းက အကြောင်းကို မေးသောအခါ ကုလားအမတ် ဒါကုစီ သိတိုင်းမြင်တိုင်း အရပ်ရပ်စကားကို လျှောက်လေသော် ကုလားမင်းက မကာဘုရားခိုဒါရှင်အမှန်ပင်ဖြစ်သည်။ ဖူးမြော်သင့်သည် ဆိုပြီးလျှင် ရှုံမင်းကိုယ်တိုင် လက်ဆောင်ပဏ္ဏာများ သဘော်အစင်းတရာနှင့် လာရောက်ဆက်သပြီးသော် မြန်မာဘာသာစာများကိုသင်၍ ခြေတော်ရင်းတွင် ကျွန်ခံ ထားပါမည်လျှောက်ပြီးမှ ရှုံမင်းသား အလတ်၊ ရှာအလင်း ကိုစေသုံးရန် ကျွန်တထောင်ပေးအပ်ထားခဲ့ပြီးမှ ရှုံမင်း ပြန်လေသည်။

ပြည့်ရှင်မင်းကြီးလည်း ရှုံမင်းသားအလတ်၊ ရှာအလင်းကို စားကျေးကုလားရွာ ဂေါ်တော်ပလ္လင်ကို ပေးတော်မူပြီးမှ အမတ်ကြီးသို့အပ်တော်မူ၍ မြန်မာဘာသာ အက္ခရာများကို သင်စေလေသည်။ (ရှုံပြည်ဟူသည် ယခု အခါ ဣတာလီယန်ပြည် ဖြစ်သည်။)

တရံရောအခါ အရှေ့ပုဂံမြို့နေ ရဟန်းတဦး လာရောက်၍ရိုးကျွန်းအမရာတောင်တွင် နေလာသည်။ ထိုရဟန်းကို ရိုးကျွန်းသားတို့ ဆည်းကပ်ကိုးကွယ်လျက် နေရာ၊ စည်းချောင်းစား သတိုးအောင်တွေ့မြင်၍ ကြည်လင် မြတ်နိုးလျက် ရဟန်းကောင်းဖြစ်ကြောင်း မင်းထံ လျှောက်တင်လေရာ အမတ်မဟာပညာကျော်သို့ မေးတော်မူသောကြောင့် လျှောက်ထားသည်မှာ---

အရှင်မင်းမြတ်၊ စည်းချောင်းစား၊ သတိုးအောင် သည် သူတော်ကောင်းကို သိတတ်သော ဉာဏ်ပညာ မရှိပါ။ မေထုန်မှီဝဲမှု၊ ဝစ္စာစားမှု၊ အိပ်စက်မှု၊ အသက် မွေးရန် ဥစ္စာရှာမှု ဤသူမိုက်အင်္ဂါလေးပါးနှင့် ပြည့်စုံ သောသူသာ ဖြစ်ပါသည်။ သူမိုက်တို့မှာ အစားမတတ် အဝစားလေရာသည်။ ခရီးမသိ အရောက်သွားလေရာ သည်။ စကားမတတ် စရိုက်ပြောလေရာသည်။ ကျိုးပြစ် မသိ ဆိုမိဆိုရာဆိုလေရာသည်။ ယင်းသို့ ထုံးဟောင်း ရှိပါသည်။ စည်းချောင်းစား သတိုးအောင်သည် ပညာရှိထံ ဆည်းကပ်သည်မရှိ။ သူယုတ်တို့နှင့် ရောပြွမ်း၊ ပေါင်းဖက်၊ သောက်စား၊ မူးယစ်၊ သားငါး၊ ထိုးသတ် ပျော်ရွှင်မှုကိုသာအားပြုလျက် နေသူဖြစ်ပါသည်။ စည်းချောင်းစားတွေ့သူသည် စည်းချောင်းစားနှင့်တူသော

သူသာဖြစ်တန်ရာပါသည် လျှောက်လေသော် မင်းကြီးလည်း မည်သို့မဆိုနေတော်မူလေသည်။

ကာလမမြင့်မီ ထိုရဟန်းသည် အမရာတောင်ထိပ်၌ရှိသော ဓာတ်တော်စေတီတော်ကို ဖောက်ထွင်းပြီးလျှင် ရှေးမင်းတို့ဌပနာထားခဲ့သော ရွှေငွေကိုအားလုံး ယူ၍ ထွက်ပြေးလေရာ ရိုးကျွန်းသားတို့ လိုက်လံဖမ်းလေမှု ဆားပြင်ကမာတောင်ကြားလမ်း၌ တွေ့မိရခဲ့၍ ထိုရှင်ယောင်ကို ရွှေ ငွေပါ မင်းထံဆက်လာလျှင် ထိုအကြောင်းကို အမတ်မဟာပညာကျော် လျှောက်ပြန်သည်မှာ----

အရှင်မင်းမြတ်၊ တရားကျမ်းဂန်လာသည်မှာ ဗုဒ္ဓပဒုဋ္ဌ၊ ဓမ္မပဒုဋ္ဌ၊ သံဃပဒုဋ္ဌ ဤရတနာသုံးပါးကို ပြစ်မှားဖျက်ဆီးသောသူသည် သံသရာဝန်အပြစ်လေးစွာ သူယုတ်မာဖြစ်ပါသည်။ ထိုသူယုတ်မာအား ပညာရှိတို့သည် ရှောင်ကြဉ်အပ်ကြောင်း ကျမ်းဂန်လာပါသည်။ ထိုသူယုတ်မာကို သူတော်ကောင်းထင်မှား၍ ရိုးကျွန်းသားတို့ပြုလေရာ အရှင်မင်းတို့ ကောင်းမှုပျက်စီးရပါသည်။ သင်တို့လည်း သံသရာဝန် အပြစ်ထိုက်လေရာသည်။ ယင်းသို့ဖြစ်၍ မိမိတို့ဆရာ ဖျက်ဆီးသော ဓာတ်တော်စေတီကို အထက်နည်းတူအောင် ကောင်းမွန်စွာ ထိုရှင်ယောင်ယူခဲ့သော ရွှေ၊ ငွေကို ဌပနာများထည့်၍ တည်စေရပါမည်။ ဓာတ်တော်စေတီ ပြီးအောင်ကိုလည်း စည်းချောင်းစား ကြီးကြပ်ရမည်။ ထိုပုဂ္ဂိုလ်သား ရှင်ယောင်ကို အများသိထင်စိမ့်သောငှါ စာထိုးပြီးလျှင် မိမိနေရပ်သို့ နှင်ထုတ်ရပါမည်လျှောက်လေလျှင် ပြည့်ရှင်မင်းကြီးလည်း ကြိုက်တော်မူ၍ အမတ်ကြီးလျှောက်တိုင်း အသီးအသီး စီရင်တော်မူလေသည်။ စည်းချောင်းစား သတိုးအောင်လည်း နောက်နောင် အမတ်ကြီးမင်းမတော်သမျှကို ဆုံးမတော်မူပါဝန်ချ၍ ဝတ်စုံတန်ဆာနှင့် ပူဇော်လေသည်။

တရံရောအခါ မီးချောင်းစားသေလွန်ရာ ပေါင်းထုပ် ကျွန်းနေကုလားမျာလီက သပြာတထောင် မိဘုရားကြီးသို့ဆက်၍ မီးချောင်းစားအရာကိုခံလေသော် မိဘုရားကြီးက ပြည့်ရှင်မင်းထံလျှောက်လေသော် မင်းကြီးက နံနက်မင်းပွဲခံရာ၌ လျှောက်စေတော့ မိန့်တော်မူသည်နှင့် နံနက်မင်းပွဲခံရာ၌ ကုလားမျာလီလျှောက်လေရာ အမတ်မဟာပညာကျော် လျှောက်သည်ကား-----

အရှင်မင်းမြတ်၊ ရခိုင်တို့ မိရိုးဖလာ အယူအကျင့်မှာ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ကြည်ညို မြဲမြံစောင့်ထိန်းမှုသာ သာသနာတော်တည်ပါသည်။ ယင်းသို့ ရခိုင်အယူနှင့် ကုလားအယူမတူချေ။ ရုပ်ပွားဆင်းတု ဓာတ်တော်မွေတော်များကို အဋ္ဌလီ လက်အုပ်ချီမိအံ့၊ လက်ကိုဖြတ်၍ပစ်စေ။ ယင်းသို့ ကုလားဘုရားအမှာ ကျမ်းဂန်ရှိသည်ဆို၍ အယူနှင့်နေသူများဖြစ်ပါသည်။ ရခိုင်တို့ မင်းကျင့်ဝတ် သင်္ဂဟတရားလေးပါး၌လည်း ဘုရားအယူကို ပြည်သူတို့အား ညွှန်ပြဆုံးမတတ်မှ မင်းကောင်း မင်းမြတ်ဟူ၍ ရခိုင်တို့ဘုရားကျမ်းဂန်လာပါသည်။ ကုလားနေရပ်များမှာ ရခိုင်ကို မှူးမတ်တင်လျှင် ကုလားအယူပျက်ကွယ်၍ ရခိုင်အယူသို့ရောက်အောင် သွေးဆောင်ပါသမျှသည် မင်းမှူးမတ်တို့၌ အကျိုးလိုရာရောက်ပါသည်။ မင်း၌လည်း သင်္ဂဟတရားတည်ရာသည်၊ ယင်းသို့မဟုတ် ရခိုင်တို့နေရပ်များမှာ ကုလားကို မှူးမတ်ထားလေသော် ကုလားတို့အယူသို့ ပါဝင်အောင် သွေးဆောင်၍ပြုလေရာ ရခိုင်တရား ကွယ်ပျက်လျက် ကုလားအယူအကျင့်သို့ပါလေသော် ပြည်သူအား သနားခြင်းမရှိ၊ ထိုမင်းအစိုးရသောနိုင်ငံ၌ မိုးမမှန်၊ အသီးအပွင့်မညီ၊ အရသာမရှိ၊ ဥတုရာသီမဖြောင့် ဓာတ်လေးပါးရောက်ရှားကြောင်း ရှေးပညာရှိတို့ အမှာရှိပါသည်။

မျာလီကို ကျေးရွာစား ပေးတော်မူလိုလျှင် တိုင်းပြည်တော်အတွင်း ကုလားမြို့ရွာအများ ရှိပါသည်။ မိမိတို့အကျင့် အယူတူရာ သဘာဝချင်းဖြစ်သောရပ်ရွာများကို ကျေးစား ရွာစားပေးရပါမည်။ အရှင်မိဘုရားလည်း သိက္ခာတော်ခုနစ်ပါးစသော သာခုနရတရားကို လွတ်တော်

မမူသင့်ပါ လျှောက်လေသော် ပြည့်ရှင်မင်းကြီးကလည်း မိဘုရားကြီး သည်တခါတရားလွတ်ချေသည်၊ အမတ်ကြီး က အကျိုးအပြစ်ကိုပြ၍ ဆုံးမလျှောက်ထားရမည် အမိန့်တော်ရှိလေသော် မိဘုရားကြီးသည် အလွန်ရှက်လှ၍ ကုလားများလီသို့ ငွေတထောင်ကို ပြန်ပေးတော်မူပြီးလျှင် အမတ်ကြီးကိုခေါ်စေ၍ နောက်နောင်မလျော်သမျှ သမီး အမှတ်ထား၍ ဆုံးမပါ အမိန့်တော်ရှိပြီးသော် အမတ်ကြီးသို့ ဝတ်စုံတန်ဆာ ဆုပေးတော်မူလေသည်။

တရံရောအခါ တောနေရဟန်းတဦးကို မိန်းမ တယောက် ဆွမ်းမပြတ်ပို့၍အပြန်တွင် သစ်ပင်အောက်၌ အိပ်နေပြီးမှ အိမ်သို့ပြန်လေသည်၊ ရှည်ကြာလတ်သော် ထို မိန်းမ၌သန္ဓေရှိ၍ ရဟန်းကိုစွဲမိလေရာ ရဟန်းက မဟုတ်ကြောင်းအဆိုနှင့် မင်းထံရောက်၍ အမတ်ကြီးထံ အပ်လေလျှင် စီရင်ထုံးသော်ကား----

ပဒုမနီ၊ စိတ္တရနီ၊ သခ်ရနီ၊ ဟတ္တရနီအားဖြင့် မိန်းမလေးမျိုးတွင် စိတ္တရနီမိန်းမမျိုးသည် ကျားစိတ်နှင့် တူ၍ အအိပ်လွန်သည်၊ ဟတ္တရနီမိန်းမမျိုးသည် ဘီလူးစိတ်နှင့်တူ၍ အစားလွန်သည်၊ လောကီကျမ်းဂန် ဆိုသည်ကိုထောက်လျှင် အအိပ်လွန်သော စိတ္တရနီမိန်းမမျိုး နှင့်တူသည်၊ ဆင်ခြင်၍စီရင်မည်၊ ဆွမ်းပို့မြဲပို့စေဆို၍ ဆွမ်းပို့ လေရာ စုံထောက်ကြည့်ရှုစေသော် ဆွမ်းပို့၍အပြန် အိပ်မြဲသစ်ပင် ရင်းကျောက်ဖျာ၌အိပ်နေရာ ထိုသစ်ပင်မှ မျောက်ကြီးဆင်း၍ စပ်ယှက်ပေါင်းဖော်သည်ကိုမြင်၍ စုံထောက်တို့ အမတ်ကြီးကိုလျှောက်လေသော် ထိုမိန်းမကို ခေါ်၍ ဟယ်---မိန်းမ၊ ကျောင်းမှအပြန်တွင် အိပ်သော သစ်ပင်ထက်၌ သင့်လင်ရှိသည်၊ သူငယ်ဖွားလျှင် မျက်နှာတွင်မျောက်မွေးပေါက်လျက် မျောက်ဦးခေါင်းနှင့် တူလိမ့်မည်ဆို၍ လွှတ်လိုက်လေလျှင်။ ။ သူငယ်ဖွားမြင် သောကာလ ဦးခေါင်းမှာ မျောက်၊ လက်ခြေမှာ လူလက် လူခြေ ဖွားမြင်လေကြောင်း ပြည့်ရှင်မင်းသိတော်မူသော် အမတ်ကြီးသို့ တရားဆုသပြာတထောင်ပေးတော်မူ၍ ထိုတောနေရဟန်းအားလည်း ပစ္စည်းလေးပါးဒါယကာ ပြည့်ရှင်မင်းခံတော်မူလေသည်။

တရံရောအခါ ပဲခူးကျော်ထင်နော်ရထာသည် ယိုးဒယားမြို့ကို ချီသွားတိုက်ခိုက် ဖျက်ဆီးလေ၏။ ယိုးဒယားမင်း ဗြသာတိရာဇာအမတ် ဘွန်စောမှိုင်း လက်လွတ်ထွက်ပြေးခဲ့၍မြောက်ဦးမြို့ ခြေတော်ရင်းသို့ ရောက်လာသော် ပြည့်ရှင်မင်းက အဝတ်အစားနေရာအိမ် များကိုပေးပြီးလျှင် အမတ်မဟာပညာကျော်နှင့်အတူ ထွက်ဝင်စေအမိန့်တော် ရှိလေသည်။ နောက်ငါးလခန့် ရှိလတ်မှ ယိုးဒယားအမတ် ဘွန်စောမှိုင်း အရည်အချင်းကို သိတော်မူလေလျှင် အမတ်ကြီး မဟာပညာကျော် လျှောက်သည်ကား---

အရှင်မင်းမြတ်၊ အမတ်ဘွန်စောမှိုင်းသည် လက်ရုံးရည်ထက် နှလုံးရည်အလွန်ရှိပါသည် လျှောက် လေသော် ပြည့်ရှင်မင်းက ငါလည်း ထိုသူ့နှလုံးရည်ကို သိပြီးဖြစ်သည် အမိန့်တော်ရှိ၍ အမတ်ဒါဂါစားသမီး ကိုယ်လုပ်တော် မင်းညိုကိုထုတ်၍ ပေးမြားတော်မူပြီးသော် ကံသာမြို့ကို ပေးတော်မူလေသည်။ တနှစ်ခန့်လျှင် ကံသာမြို့မြောက် တလဲကွာတွင်ရှိသော ကပ္ပိရူပီမင်းကို ယဉ်ကျေးအောင် နှလုံးရည်ဖြင့်လှည့်ဖျောင်း၍ ကံသာစား ဘွန်စောမှိုင်းနှင့် မိတ်ဝင်လေကြရာ ကပ္ပိရူပီမင်း မာရကွန်သမီး နာလီမလ္လာကိုဆက်သွင်း၍ ဒါးမကျိုး၊ လှံမကျိုးပဲ ကပ္ပိရူပီမင်း ခြေတော်ရင်းသို့ ဝင်ရောက်လာ ရလေသည်။

တရံရောအခါ ပဲခိုးမင်းကျော်ထင်နော်ရထာက စေဟန်နှင့် လူနှစ်ယောက် ကြိမ်သလီလမ်းကလာရာ တောင်ခွင်စားကခေါ်စေသော် အတွေ့မခံ၊ စာကိုချပစ် ထားခဲ့၍ပြေးလေသည်။ ထိုစာကို တောင်ခွင်စားယူခဲ့လျက် ပြည့်ရှင်မင်းထံ ဆက်လာသော် စာထုပ်တံဆိပ်လက်မှတ် ကို ဖြေ၍ဘတ်ကြည့်ရာ စာမှာပါသည်ကား----

အမတ် ဘွန်စောမှိုင်းသည် ကျေးဇူးသစ္စာကို စောင့်သိရှိသေစွာဆောင်၍ ရက္ခပူရတိုင်းကို အလိုပြည့်လျှင် မိတ်ကလုံမြို့ကို အပိုင်စားသနားတော်မူလိမ့်မည်။

ကတိထားတော်မူ၍ စေတော်မူလိုက်သည်။ သုံးနှစ်ကျော်ရှိပြီ။ မည်သို့အကြောင်းအရာ၊ မည်သည့်ရက်လချိတော်မူလာလျှင် အရေးကုန်မည်။ မှူးမတ်မည်သူတို့နှင့်ပေါင်းဖက်ညီညွတ်မိသည်များကို စေသူရောက်ချိန်သင့်လျက် မရောက်ကြန့်ကြာလေသည်။ ယိုးဒယားမင်းအမတ်ဖြစ်သော်လည်း မှူးမတ်ကောင်းအင်္ဂါနှင့်ပြည့်စုံသည်ဖြစ်၍ယုံကြည်သုံးတော်မူသည်။ အမှုကိုဉာဏ်ဖြင့် ကြံပြီးသော်မှာတော်မူရင်းစကားရောက်အောင် လျှောက်ရန်စေလွှတ်မှပညာရှိအင်္ဂါမြောက်မည်။ အကြောင်းပါလာသည်ကိုကြားသိတော်မူလေရာ အမတ်မဟာပညာကျော်လျှောက်သည်ကား-

အရှင်မင်းမြတ်၊ မင်းနှင့်အမတ်တို့၌ ဝဏ်တရိဘောဒ ကြံနည်းဖြင့်ကြံရသောအကြောင်း၊ ဥပကပ်ဉာဏ်ဖြင့် ကြံစည်၍ အမှာအထားစကား ရောက်ပေါက်သည်ဟူလျက် တပြည်၌ရှိသော မလိုသူတို့ကိုသေစေကြောင်းအမှာစကား စာပေချ၍ကြံခြင်း၊ ပယောဂဉာဏ်ဖြင့်အင်းမန္တန်ဆေးဝါးယတြာပြု၍ သေစေမှုကြံခြင်း နှစ်ပါးရှိပါသည်။ တကြောင်းမူလည်း အကြည်တော် ကျော်ထင်နော်ရထာမင်းသည် တလိုင်းတို့နိုင်ငံ၌ မင်းပြုလျက်စစ်မက်အလိုကြီးစွာ သတ္တဝါအပေါင်း သေကြေပျောက်ဆုံးလက်ရုံးမာနထောင်လွှား မတရားအကျင့်အကြံနှင့်သာဘုရားစသော သူတော်ကောင်းတို့ မနှစ်လိုသောအမှုနှင့်နေလေသည်။ ထိုမင်းသည် မိမိတိုင်းသူပြည်သားတို့အားငင်း၊ အခြားတိုင်းတပါး ပြည်သားတို့အားငင်း၊ ဆင်းရဲငြိုငြင်ပူပင်ပျက်စီးစေလိုသော နှလုံးဖြင့် သုံးဖန်လှဉာဏ်၊ ခြုံထဲခဲပစ်ပြုသော အကြောင်းလည်း ရှိရာသည်။ ယင်းသို့ အကြောင်းတခုနှင့်လာသော စာသာ ဖြစ်ပါမည်။ ကံသာစား ဘွန်စောမှိုင်းသည် ကျေးဇူးသစ္စာတော်ကိုဖောက်ပြန်စဉ်းလဲ ပြုမည့်သူ ဟုတ်မည်မထင်ပါဟုလျှောက်လေသော် ပြည့်ရှင်မင်းကြိုက်တော်မူ၍ ဘွန်စောမှိုင်းကိုခေါ်၍ မေးတော်မမူ။ သမီးသံဟူသောအမည်ကိုသာထပ်၍ ပေးသနားတော်မူလေသည်။

တရံရောအခါ အမ်းစားချစ်သူ သေလွန်၍ ပြည့်ရှင်မင်းငယ်ကျွန် လေးတင်က အမ်းစားအရာကိုမင်းထံလျှောက်လေသော် ပြည့်ရှင်မင်းက အမတ်ကြီးမဟာပညာကျော်ကိုဆိုချေတော့ အမိန့်တော်ရှိလေရာလေးတင်လည်း အမတ်ကြီးထံလာ၍ အကြောင်းကိုဆိုလာသော် အမတ်ကြီးက ယခုစားနေသည့် ခွန်သေရသဘော် ကင်းသာကောင်းသည်။ အမ်းစားအရာနှင့်မတော်ဆိုလိုက်သည်ကို လေးတင်မနေ။ ငယ်ကျွန်ဖြစ်သောဂုဏ်ကို ကိုးစားလျက် နံနက် မင်းပွဲခံရာ၌လျှောက်၍ပြည့်ရှင်မင်းက အမတ်ကြီးကို မေးတော်မူရာ အမတ်ကြီးလျှောက်သည်ကား---

အရှင်မင်းမြတ်၊ ရေမြေကို အစိုးရသောမင်းတို့၌အနီးအဝေးမရွေးသာ၊ ပြည်ကျိုးမင်းကျိုး နှစ်မျိုးသိတတ်သော သူအား မင်းနီးပါး၌ငင်း၊ အဝေးကျေးစား မြို့စားပေးရာ၌ငင်း ပြည်ကျက်သရေရှိ၍ ပြည့်ရှင်မင်း၌ ပစ္စုပ္ပန်သံသရာ နှစ်ဖြာသောအကျိုးလှသည်ပင် ဖြစ်ပါသည်။ မလိမ္မာသောသူတို့ ကျိုးပြစ်မသိ။ မိမိစိတ်ကြိုက်၊ မင်းလိုလိုက်သည်ဟူလျက် ပြည်သူတို့ထံ တုတ်ခွန်ပဏ္ဏာများစွာယူငင်၊ ပြည့်ရှင်နှလုံးသင့်၊ ချီးမြှင့်ခြင်းပြုလေရာ ပြည်ရွာမသာ သတ္တဝါပင်ပန်းချေက ထိုသူကြောင့် မင်းအပါယ်လားလေရာသည်။ တကြောင်းမူလည်း သူတယောက်ကိုသဒ္ဒါတော်မူ၍ ပြည်သူရွာသားတို့ အပျက်အပြား မခံကောင်းပါ။ ကျွန်တော်လေးတင်သည် ပညာရှိတို့နှင့်ပေါင်းဖက်ခြင်းမရှိ။ ကြက်တိုက်၊ အန်ခတ်၊ စောင်းညင်းပတ္တလား၊ သောက်စားပျော်ရွှင်မှုနှင့်သာ နေမိနေရာဆိုမိဆိုရာ ပညာရှိသူ မဟုတ်ပါ။ ထိုသူကို တမြို့တရွာထားချေသော် မြို့ရွာပျက်၍ သတ္တဝါတို့ ပင်ပန်းခြင်းသို့ရောက်မည် အမှန်ဖြစ်ပါသည်။ လျှောက်လေသော်ပြည့်ရှင်မင်းကြီးကလည်း ကြိုက်တော်မူ၍ လေးတင်ကိုစားမြဲ သဘော်ကင်းခွန်နှင့်သာ ထားတော်မူလေသည်။ အမ်းစားအရာကိုမူကား ကံသာမြို့စား သမီးသံညီဖြကွန်းဆိုင်ကို ဖြသမ္ဘန်အမည်နှင့် ပေးတော်မူလေသည်။

တရံရောအခါ ဒါးဝယ်သားအလောမှု တတ်ညွန့်သည် လူပေါင်းယောကျ်ား မိန်းမတထောင်နှင့် ဝင်ရောက်လာသောအခါ အမတ်ကြီးမဟာပညာကျော် လျှောက်သည်ကား----

အရှင်မင်းမြတ်၊ တတ်ညွန့်တို့သည် ရှေးဘေးလောင်းတော် မင်းများလက်ထက် မရိမ်ချောင်းနေမြို့ကိုးခေါင်းသားအမျိုးတို့ ငြိမ်သက်စွာ မနေ၊ တမြို့တရွာဖျက်ဆီးတတ်၍ အစဉ်ဆိုးသွမ်းသောကြောင့် ထိုအရပ်မှသင်းတို့ကို သိမ်းခေါ်၍ ဘေးတော်ဒသရာဇာမင်းကမာန်အောင်ကျွန်းတွင် ချထားတော်မူရာ တနှစ်ခန့်ရှိသော် ထွက်သွားလေ၍ ယိုးဒယားနှင့် ပဲခိုးနှစ်ပြည်အကြားတွင် နေလေရာ မြို့ကို ဒါးဝယ်တွင်လေသည်။ ယင်းသို့ ဇာတိရင်းပမာသော်ကား တော၌ကြီးပြင်းသော သတ္တဝါတို့ကိုယူ၍ မွေးထားလေသော် တပါးသော သတ္တဝါတို့ဖြစ်လျှင် ယဉ်ကျေးပျော်ပိုက်ကြသည်ပင်။ တောကြက်အမျိုးသည်ကား လုံ့စွာထားနိုင်မှနေပါသည်။ မလုံ့လွတ်ချေမူ တောသို့သာ သွားလေသည်။ ထိုအတူ မြို့ဒါးဝယ်၊ ပသျှူး၊ လေးထု၊ ချင်း၊ လင်းကဲ၊ ကချင် အမျိုးသားတို့သည် တောကြက်နှင့်တူပါသည်။ တိုက်ယူ လုယက်မပြုရသော် အရှည်နေမည့်လူမျိုး မဟုတ်ပါ။ လုယက်တိုက်ဖျက်နေရမှသာ ပျော်ပိုက်ကြသော လူမျိုးဖြစ်ပါသည်။ လူရှိသော မြို့ရွာအနီးအပါးမှာ ချထားချေမူ ထိုသူတို့သွေးဆောင်ရာပါ၍ လူဆိုးကြောင့် လူကောင်းပျက်တတ်ပါသည်။ သင်းတို့ချည်းတစုတည်း အုန်းကျွန်းမှာချထား၍ အုန်းသီးဘဏ္ဍာကိုသာ နှစ်စဉ်သင်းတို့က ဆက်သွင်းစေရမည်လျှောက်လေသော် ပြည့်ရှင်မင်းကြီးလည်းကြိုက်တော်မူ၍ မြို့ဒါးဝယ်တို့ကို အုန်းကျွန်းမှာချထားလေသည်။

တရံရောအခါ၌ ဒါဂါစားသို့ ကုလားသေဌေးအစ လင်ဆိုသူက အထက်မင်းပါကြီး ကုလားဘင်္ဂါ တဆဲ့နှစ်မြို့ကို သိမ်းယူတော်မူသောကာလ ဒါဂါမြို့တွင် နေတော်မူခဲ့သော နန်းတော်ရာ၌ တိုက်တည်လိုကြောင်းနှင့် ရွှေသပြာတထောင် လက်ဆောင်ပေး၍ပြောဆိုလာသော် ဒါဂါစားက ဘုရားခမည်းတော်နေတော်မူခဲ့သော နန်းတော်ရာဖြစ်သည်။ နေလေတော့မဆိုဝံ့သေး။ သေဌေးရွှေသပြာတထောင်ကို မင်းထံဆက်၍ လျှောက်တင် စေဦးမည်ပြောဆို၍ ပြည့်ရှင်မင်းကြီးထံ လျှောက်တင်လာသော် မင်းကြီးလည်း မည်သို့မဆို အမတ်ကြီး မဟာပညာကျော်ကိုသာ ကြည့်တော်မူလေလျှင် အမတ်ကြီး လျှောက်တင်သည်မှာ-

အရှင်မင်းမြတ်၊ ရှေးကာလ၌ ဝါသုဒေဝမင်းသည် အယုဇ္ဈပူရတိုင်း ဒွါရာဝတီမြို့တွင်မင်းမူ၍ ဇမ္ဗူဒီပါတကျွန်းလုံးကို အစိုးရသောမင်းဖြစ်လျက် ထိုမင်းပျက်ချိန်နီးလတ်မူ အမျိုးစောင့်ခြင်း မရှိ။ မင်္ဂလာတရားလွတ်လေခြင်းကြောင့် ထိုမင်းသေခြင်းမလှ သေရလေသည်။ ဝေသာလီမြို့တွင်လည်း ဖြဟ္မာဏရာဇာမင်း၏ အနွယ်ခြောက်ဆက်နောက် သရာဘန်မင်း၏အနွယ် တဆဲ့ခြောက်အဆုံး ဖြဟ္မသိဒ္ဓိမင်းသည် ပျက်စီးချိန်နီးလတ်သော် မိဘ၊ ဘိုး၊ ဘေး၊ အသုံး အဆောင်ကိုဖျက်၍ ရှေးမင်းတို့အသွားအနေအစား အပြောမတူ၊ ရှေးထုံးလွတ်သောကြောင့် ကပ်ဥပဒ်ဆိုက်ရောက် ပျက်စီးဖူးပါသည်။ ဓညဝတီမြို့တည် မာရယုမင်း၏အနွယ် ငါးဆဲ့လေးဆက်တို့အဆုံး မင်းငယ်ပျော်လုစည်သူသည် အကျိုးအပြစ်ကိုမသိ။ သူယုတ်အမတ်သုံးယောက်တို့စကားကို နားထောင်၍ ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်တို့ကို ပြစ်မှားလျက် ကန်သုံးဆင့်မြို့ဟူ၍ တည်ပြီးသော် ရှေးမင်းတို့လုပ်ခဲ့သောအခမ်းအနား ဘုရားပုထိုး ဂူကျောင်း ဇရပ်ကိုဖျက်ဆီး၍ အမတ်မိုက်တို့နှင့် ပေါင်းဖက်ပျော်ပါးနေလေသည်။ အမျိုးစောင့်ခြင်း တရားမရှိလွတ်လေသောကြောင့် ပြည်သူတို့ ငြိုငြင်ခြင်းရှိသောအခါ အမတ်သုံးယောက်ပုန်စား၍ ထိုမင်းသေလွန်လေလျှင် အမတ်သုံးဦး မင်းမူကြလေသည်။

ဤသည်ထုံးများကိုထောက်၍ လူတို့၌ မိကြီးဘကြီးလုပ်ဆောင်ထားခဲ့သော အခမ်းအနား အဆောက်

အဆုံတို့ကို မဖျက်ကောင်းပါ။ ဖျက်စီးချေသော် အကျိုးမရှိ။ အပြစ်သာရောက်ပါကြောင်းနှင့် လျှောက်လေသော် ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိသည်ကား ခမည်းတော်ဘုရား ကုလားပြည်သို့ချီသောကာလ စံတော်မူခဲ့သော စခန်းရာများတွင် ကျေးရွာချထားတော်မူခဲ့သည့်အတိုင်း မပျက်စေရ။ ကြီးကျယ်အောင်ပြုစုစေ၊ စစ်တကောင်း ဒါဂါများတွင် တည်ထားတော်မူခဲ့သည့် မြို့နန်းများကိုလည်း မပျက်မစီးစေရ။ ကောင်းမွန်စွာ အစောင့်အနေနှင့် ထားစေ။ ယင်းသို့အမိန့်တော်နှင့် ပညတ်တော်မူ၍ ဒါဂါစားကဆက်သော ရွှေကိုလည်း ပြန်ပေးတော်မူလေသည်။ ဒါဂါစားကလည်း ထိုရွှေကို သေဒ္ဓေအားပေးပြီးမှ အခွန့်ရှည်အောင် နန်းတော်ရာတွင် ကျောက်မော်ကွန်းတိုင် စိုက်ထားလေသည်။

တရံရောအခါ ပဲခူးမင်း ကျော်ထင်နော်ရထာ ချီလာသည်ဟုကြားလေသော် ပြင်မြို့ကြီးကို ကောင်းစွာ လုပ်၍ တံခါး၊ ပြအိုး၊ ကျုံး၊ မြောင်းများကိုလည်း လုပ်ဆောင်ရသည်။ ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိ၍ လုပ်ဆောင်ရသောအခါ လက်ဆေးကန်နှင့်အိုင်တို့အကြား မြို့တထပ်ဆီးကာလျက် လုပ်ရလေသည်။ ကျောက်အုတ် မလောက်ရှိလတ်မူ ပြည့်ရှင်မင်းကြီးက ပန်းဆေးမြောင်း များ တောင်ဘက်၌ မြို့နှစ်ထပ်ရှိသည်မှာ ပြင်မြို့သည် ရေကာလုပ်ဆောင်ထားခဲ့သောအရာသာ ဖြစ်သည်။ မြို့တံတိုင်းအဝင်မဟုတ်။ ပြင်မြို့ကိုဖျက်၍လုပ်စေ အမိန့်တော်ရှိလေသော် အမတ်ကြီး မဟာပညာကျော် လျှောက်သောထုံးမှုကား----

အရှင်မင်းမြတ်၊ ဘေးတော် ဘိုးတော် ခမည်းတော်တို့ သင့်လျှောက်တင့်သမျှ လုပ်ဆောင်ထားခဲ့သမျှကို မဖျက်ဆီးကောင်းပါ။ တကြောင်းတုံလည်း လူတို့၏အရှင် အထွတ်အထိပ်ဖြစ်တော်မူသော မင်းဧကရာဇ်တို့ စံတော်မူရာ မြို့၊ နန်းထီး၊ ပဟိုရ်စည်၊ နာရီ ထိုလေးပါးသည် စတုစက်ထွန်းရာ မင်္ဂလာချည်းဖြစ်၍ အဟောင်းအနွမ်း ဟူသမျှကို ရှေးမင်းတို့ သုံးဆောင်ဖူးသည်မရှိ၊ မသုံးဆောင်သင့်ပါ။ ဥပမာသော်ကား အပင်ထက်ပွင့်သောပန်းသည် ထိုအပင်မှကြွေကျလေမူ တဖန် ထိုအပင်သို့ ထိုပန်းပြန်၍ မရောက်နိုင်သကဲ့သို့ ရှေးသူတို့ လုပ်ဆောင်ထားခဲ့သမျှ မိမိနေရာတွင်သာ ဟောင်းနွမ်းဆွေးစေရာသည်။ နောက်သားယူ၍ မင်္ဂလာ မပြုအပ်ပါ။

တကြောင်းမှုလည်း ရေမြေသနင်းမင်းတို့ ကျင့်အပ် အဓိပတိသုံးပါးရှိပါသည်။ မင်းစက်တော်မူသော ကျက်သရေ နန်းဆောင်၊ သဘင်ခံရာ ရာဇပလ္လင်ရှိသော နန်းဆောင်၊ ဘေရီစည်ကြီး ပဟိုရ်စည်ရှိသော နန်းဆောင်။ ထိုသုံးရပ်အဓိပတိတို့သည် ပြည့်ရှင်မင်းရှိလျက် မဆိတ်ည် အပ်ပါ။ ယင်းသို့ ထုံးဟောင်းနှင့်လျှောက်လေသော် ပြည့်ရှင်မင်းကြီးကြိုက်တော်မူ၍ ထင်းမီးသမား ကုလား တသောင်း၊ ဟရာသမား ကုလားတသောင်းတို့ကို အဌနနဒီမြစ်ဖျား၌ရှိသော ကျောက်တို့ကိုဆောင်ယူစေပြီးမှ လက်ဆေးကန်နှင့် အိုင်နှစ်ခုအကြား မြို့ရိုး၊ သူရဲပြေး၊ သူရဲခို၊ ပြအိုးတံခါးရှိသမျှ မကောင်းဟောင်းနွမ်း ပျက်စီး သည်များကိုလုပ်ဆောင်၍ သူရဲလက်နက်အစုံ ကြည်းရေ အပြည့် စည်းကြပ်ပြီးမှ မော်တင်ချောင်းတွင်လည်း ဂါဒါစားနှင့် သင်္ဘော ၂၅ စင်း စောင့်နေလေသည်။ ညီတော်ကုလားတန်စားကိုလည်း သင်းတော် ကိုယ်ရံတော် သူရဲငါးသောင်းပေးတော်မူ၍ အမတ်ကိုယ်ရံကြီးနှင့် တောင်စဉ်ချောင်းပေါက်တိုင်း ဆို့ပိတ်နေရသည်။

တရံရောအခါ၌ မောက်သူဇာမြို့စား ဥတ္တမ ကျော်ခေါင်က ဒီလီမြို့ကုလားပသီမင်းသည် ပြည်သူတို့ကို နှိပ်စက်ပြုကျင့်၍ တိုင်းပြည်မငြိမ်းမသာ မြို့ရွာပျက်ပြား လျက် အလိုလိုသောင်းကျန်းရှိပါသည်။ တိုက်သိမ်းတော်မူ လျှင် အလွယ်ရပါမည်အကြောင်းနှင့် ပြည့်ရှင်မင်းထံ လျှောက်သောအခါ အမတ်မဟာပညာကျော် လျှောက်ထုံး သော်ကား---

အရှင်မင်းမြတ်၊ ရှေးဘေးတော် ဘိုးတော် အရှင်မင်းများလက်ထက် ကုလားနိုင်ငံဖြစ်သော ဒီလီမြို့ သည် ရကွပူရတိုင်း မဟုတ်ချေ။ အနောက်မျက်နှာ

မောက်သူဇာမြို့တွင် အနောက်မြောက်ဘီလက်မြို့တွင် အဆုံးဟူ၍ ကျောက်စာသမိုင်းရာဇဝင် အထင်အရှားဖြစ်ပါသည်။ ဘေးတော် မင်းစောမွန်လက်ထက် အရှေ့သက်မင်း စောကဲကြီးသား မင်းဆွေသည် မြတ်စွာဘုရား သာသနာတော်မှအပဖြစ်သော အကျင့်အယူကိုသာ နှစ်လိုသောမင်းဖြစ်၍ သူတော်ကောင်းပညာရှိတို့စကားကို မနာမယူ၊ သူယုတ်မာတို့စကားကိုသာ လိုက်နာခြင်းကြောင့် တရားလွတ်လေရာ ရှေးကအငြိုးမပြေ မကုန်သည်ဖြစ်၍ မင်းဆွေသား မင်းရဲကျော်စွာ ဖျက်ဆီးလာသောအခါ ဘေးတော် မင်းစောမွန်ထွက်ရောင်၍ အနောက်ဘင်္ဂါ တဆဲ့နှစ်မြို့ကိုသာရ၍ နေရလေသည်ကာလ ဒီလီမင်းပင်က အရှေ့ဘက်ပြူ တလိုင်းတို့ကိုတိုက်ခိုက်စေ၍ မင်းစောမွန်ကို နန်းတင်လေရာ ဘင်္ဂါတဆဲ့နှစ်မြို့ကို ကျေးဇူးအလျောက် ဒီလီမင်းပိုင်နိုင်လေတော့ ပေးအပ်၍ မင်းတဆဲ့နှစ်ဆက်၊ နှစ်ပေါင်းတရာကျော် ကုလား အပိုင်ခံ၍ နေရပါသည်။

ဘုရားခမည်းတော်လက်ထက်ရောက်မှသာ ရှေးရိုး၊ အတိုင်း ဘင်္ဂါတဆဲ့နှစ်မြို့ကို သိမ်းယူတော်မူသော ကာလတရားမရှိသောမင်းကဲ့သို့ အလွန်ပြုသော် ဒီလီမြို့ တိုင်အောင် အလွယ်နှင့်ရမည်ကိုသိတော်မူလျက် ဝိလုပ္ပန္န၊ နိဇဂ်ေလမင်းကဲ့သို့မပြုသင့် အမိန့်ရှိတော်မူ၍ ရှေးအစဉ်နိုင်ငံတော်ကိုသာ သိမ်းယူပြန်ခဲ့ပါသည်။

အရှင်မင်းမြတ်၊ လုယူတိုက်ဖျက် သတ်ညှဉ်းဆဲ လက်နိုင်ပြုသမျှအမှုတို့သည် သူတော်ကောင်း မင်းကောင်း အမတ်ကောင်းတို့ ဓလေ့မဟုတ်ပါ၊ သူယုတ်မိစ္ဆာပညာကင်းသောသူတို့ အလေ့သာဖြစ်ပါသည်။ ဥပမာထိုးမူကား သူယုတ်တို့အကျင့်အကြံသည် ခွေးနှင့်တူပါသည်။ သူတော်ကောင်း ပညာရှိသောအမျိုးသည် ကျီးနှင့်တူပါသည်။ ခွေးတို့သည် မိမိတပ်အပ်သောအမှုကိုမြင်လတ်မူ ရှက်ခြင်း၊ ကြောက်ခြင်းကင်း၍ အမျိုးစောင့်သော အကြောင်း ခင်မင်သောအကြောင်းမရှိ၊ ဒေါသပြင်းစွာ နိုင်ထက်နှိပ်စက်တတ်သော အလေ့ရှိခြင်း၊ ကျီးတို့မှာမူကား အကြောင်းရှိရာဆိုက်လတ်မူ မိမိတို့အမျိုးဝန်းအုံစုံရုံးလျက် အမျိုးသားချင်း နှိပ်စက်လေ့မရှိ၊ ကောင်းလည်းအတူ ဆိုးလည်းအမျှ ပြုလေ့ရှိခြင်း၊ ယင်းသို့ပမာ လူမိစ္ဆာမျိုးတို့သည် ခွေးကဲ့သို့နိုင်ထက် နှိပ်စက်လေ့ရှိပါသည်။ ရှေးပညာရှိစကားဆိုခဲ့သည်အကြောင်းမှာလည်း ရေမရှိသော ကန်၊ ဆန်မရှိသော စပါး၊ တရားမရှိသော မင်းမျိုး၊ အဘိုးမရှိသော မီး၊ ဤလေးခုသည် အလားတူလေကြောင်း ထုံးဟောင်းအလာတွင် ရေမရှိသော ကန်သည် သတ္တဝါတို့၏ မှီခိုရာမရခြင်းကြောင့် မစည်ကားရာ။ ဆန်မရှိသော စပါးဖျင်းသည် အသုံးမရစွန့်ရသည်၊ တရားမရှိသော မင်းမျိုးသည်ဆိုမိဆိုရာနှင့် တိုင်းပြည်မစည်ကားရာ၊ သတ္တဝါတို့ သေကြေပျက်စီး ပင်ပန်းခြင်းများရာသည်။ အဘိုးမရှိသော မီးဟူသည်ကား လူတို့၏ အသုံးအဆောင်မှန်သမျှသည် အဘိုးနှင့်ချည်း၊ မီးမှာ အဘိုးမရှိ၊ အကောင်းအဆိုးလည်း မသိ၊ လောင်မိလောင်ရာလောင်တတ်ခြင်း၊ ယင်းသို့ သဘောတူ လေးပါးရှိကြောင်း ထုံးဟောင်းထွက်ရှိပါသည်။

တကြောင်းမူလည်း ဥတ္တမကျော်ခေါင်နေရပ်နှင့် ဒီလီကုလားမင်းနယ် အနီးအစပ်ဖြစ်ကြ၍ ကိုယ်နှင့်သော်ငင်း၊ ကျေးကျွန်ချင်းသော်ငင်း ရန်ယှက်တင်ကြရာ ဒေါသအလျောက်ပျက်စီးစေလို၍ လျှောက်လာသော အကြောင်းလည်း ဖြစ်ရာပါသည်။ မောက်သူဇာမြို့စား၊ မတရားသောစကားကို လျှောက်လာသောသူအား ထိုအရပ်၌ထား၍သင့်မည်မဟုတ်ပါ အမတ်ကြီး လျှောက်လေသော် ပြည့်ရှင်မင်းကြီးလည်း ကြိုက်တော်မူ၍ တောင်ခွင်စား ဇော်တသူကို တောင်ခွင်က နုတ်၍ မောက်သူဇာမြို့စား ပေးတော်မူလေသည်။ ကင်းခြေစား ချင်းဖိုကိုလည်း ကင်းခြေကနုတ်၍ တောင်ခွင်စားအရာ ပေးတော်မူသည်။ ကင်းခြေသော်ကား ထားတိုင်းနေဆိုတိုင်းနာသောအရပ်ဖြစ်၍ မောက်သူဇာမြို့စား ဥတ္တမကျော်ခေါင်ကို ကင်းခြေစားအရာ ပေးတော်မူသည်။

တရံရောအခါ၌ အမတ်တော်ဆင်ကဲကြီး ဖေယျဗိုလ်သေလွန်ရာ မျိုးမတ်တို့အကြောင်းကို ပြည့်ရှင်မင်း သိလို၍ ဆင်ကဲကြီးအမတ်တွင် သက်ရှိသက်မဲ့ကို စာရင်းယူရမည်အမိန့်တော်ရှိ၍ မသင်္ဂြိုဟ်မီစာရင်းယူလေရာ ကျေးကျွန်၊ ကျွဲ၊ နွား၊ လယ်ယာ ဥယျာဉ်၊ မျိုးမတ် အဆောင်အရွက်များပြင် ရွှေအသပြာ ၇၀၊ ငွေအသပြာ ၁၀၀၀ သာ ရကြောင်းနှင့် ပြည့်ရှင်မင်းထံ လျှောက်လေသော် အမိန့်တော်ရှိသည်ကား--- ဆင်ကဲကြီး ဖေယျဗိုလ်သည် ဘေးဘိုးဆင်းသက်၍ ဆင်ကဲကြီးအမတ် ခမည်းတော်ဘုရားလက်ထက်တော်ကလည်း ယခုတိုင် အသက်ရှစ်ဆယ်ကျော်မှ သေလွန်သည်၊ ဥစ္စာမရှိသည့် အရာမှာ မည်သို့အကြောင်းအရာရှိသည် လျှောက်ရမည် အမိန့်တော်ရှိလေသော် အမတ်မဟာပညာကျော် လျှောက်ထုံးကား----

အရှင်မင်းမြတ်၊ သာကီယဝံသ ဓမ္မရာဇာပညာရှိသောမင်းတို့သည် မသန့်ရှင်းမစင်ကြယ်သော ရွှေငွေ ရတနာတို့ကို ရှာကြံသိမ်းယူခြင်းမရှိပါ၊ ပွဲလမ်းသဘင် ပျော်ရွှင်သော့သွမ်းသောအမှု၊ မဟုတ်မမှန်ပြောဆိုသောအမှု၊ ပညာမရှိ အကျင့်မမှန်သောမျိုးမတ်တို့နှင့် ပေါင်းဖက် ယှဉ်တွဲသောအမှုတို့ကို မပြုမကျင့်ပါကုန်၊ ပညာရှိ မင်းကောင်းထွန်းကားသော တိုင်းပြည်၌မျိုးမတ်တို့သည်လည်း မင်းအလိုနှင့်ညီအောင် ဖြောင့်မတ်တည်တံ့စွာ သမ္မာအာဇီဝဖြင့်သာ မှုတာနေထိုင်ပါသည်။ မတရားသော ဥစ္စာရွှေငွေတို့ကို မရှာမထား မစုပါ၊ လောကဓမ္မတာ၌လည်း ပညာရှိသူသည် ပညာရှိသူချင်း၊ မိုက်သောသူလျှင် မိုက်သောသူချင်း၊ သူတော်ကောင်းလျှင် သူတော်ကောင်းချင်း၊ သူယုတ်လျှင် သူယုတ်ချင်း ပေါင်းသင်းဆက်ဆံကြပါသည်။ ဆင်ကဲကြီးသည် မျိုးကောင်းမတ်ကောင်းအင်္ဂါနှင့် ညီညာသည်ဖြစ်၍ မတရားသောရွှေ ငွေကိုမရှာမှီးသောကြောင့် ဥစ္စာပစ္စည်း အရှိနည်းပါးသည် ထင်ပါကြောင်းနှင့် လျှောက်လေသော် ပြည့်ရှင်မင်းလည်း ကြိုက်တော်မူ၍ အမတ်တော်ဆင်ကဲကြီးကို တိုက်တော်မှ ငွေထုတ်၍ သင်္ဂြိုဟ်တော်မူလေသည်။

တရံရောအခါ အင်းဝမင်းစည်သူကျော်ထင်ကို ပဲခိုးမင်း ကျော်ထင်နော်ရထာ တိုက်ခိုက်ဖမ်းယူလေရာ အင်းဝမင်း စည်သူကျော်ထင်အမတ် လောင်းရှည်စား ဗလရဲကျော်၊ အမြင့်စား တုရင်မဏိသူ နှစ်ယောက် ထွက်ပြေး၍ လာရောက်လတ်မူ ပြည့်ရှင်မင်းကြီးက စားရန်ရိက္ခာနေအိမ် ပေးကမ်းမစတော်မူ၍ ထားလေသည်။

(ဤအရာတွင် ပဲခိုးကျော်ထင်နော်ရထာ အင်းဝမင်း မင်းနရပတိစည်သူကျော်ထင်ကို တိုက်ခိုက် ဖမ်းယူသည်မှာ သက္ကရာဇ် ၉၁၆-ခု၊ တပို့တွဲလပြည့်ကျော် ၄ ရက်၊ တနင်္ဂနွေနေ့ ညရီမှောင်အချိန်တွင် ဖမ်းရကြောင်းနှင့်သာ မှန်နန်းရာဇဝင်ဒုတိယတွဲ၊ ၁၀၆ နံပါတ်၌ ဆိုသောကြောင့် ထိုစစ်ပွဲတွင် ထွက်လာသည်မှန်က မင်းဖလောင်းလက်ထက်မဟုတ်၊ မင်းတိက္ခာလက်ထက်သာ ဖြစ်သင့်သည်။

စစ်ပြီးနောက် သက္ကရာဇ် ၉၃၄-ခု၊ ၅ ရက်တွင် ရောက်လာသည်ဟူသော်ကား မင်းဖလောင်းလက်ထက်ပင် ဖြစ်သင့်သည်။ ဤကား စကားချပ်)။

ရောက်လာ၍ တလခန့်ရှိလတ်သော် အင်းဝ အမတ်နှစ်ယောက်အရည်အသွေးကို အမတ် မဟာပညာကျော်အားမေးတော်မူ၍ လျှောက်ထားသည်မှာ---

အရှင်မင်းမြတ် လောကေ၊ လောက၌၊ ပတ္တာနုရူပကံ၊ အရေးအခွင့်ရောက်သည်နှင့်လျော်သော။ ဝါကျံ၊ စကားကိုငှင်း။ သဘာဝရူပကံ၊ ကိုယ်အား လျောက်ပတ်သော။ ပိယံ၊ ချစ်အပ်သောသူကိုငှင်း။ အတ္တာနုရူပကံ၊ ကိုယ်နှင့်တန်ရုံသော။ ကောဓံ၊ အမျက်ထွက်ခြင်းကိုငှင်း။ ယော၊ အကြင်သူသည်။ ဇာနာတိ၊ သိတတ်၏။ သော၊ ထိုသူသည်။ ပဏ္ဍိတော၊ ပညာရှိမည်၏။ ဟူ၍ ကျမ်းဂန် လာသောကြောင့်ငှင်း ---

သုဘာသိတံ ဥတ္တမ မာဟု သန္တော၊
ဓမ္မံ ဘဏေ နာ ဓမ္မံ တံ ဒုတိယံ။
ယမ္ပိ ဘဏေ နာ ပိယံ တံ တတိယံ၊

သစ္စံ ဘဏေ နာ လိကံ တံ စတုတ္ထံ။

သုဘာသိတံ၊ ဝါကျ ပုဒ် ပါဠိ လိန် တတ် ကိရိယာစသည်နှင့် ပြည့်စုံစွာဆိုခြင်းကို။ ဥတ္တမံ၊ ပထမ စကားအင်္ဂါဟူ၍။ သန္တော၊ သူတော်ကောင်းတို့သည်။ အာဟုဆိုကုန်ပြီ။ ဓမ္မံ၊ တရားနှင့်ယှဉ်သောစကားကို။ ဘဏေ၊ ပြောဆိုရာ၏။ အဓမ္မံ၊ တရားနှင့်မယှဉ်သော စကားကို။ နဘဏေ၊ မပြောမဆိုရာ။ တံ၊ ထိုသို့ တရားနှင့်ယှဉ်သောစကားကို။ ဒုတိယံ၊ နှစ်ခုမြောက်သော စကားအင်္ဂါဟူ၍။ သန္တော၊ သူတော်ကောင်းတို့သည်။ အာဟု၊ ဆိုကုန်ပြီ။ ပိယံ၊ ချစ်နှစ်သက်ဖွယ်သော စကားကို။ ဘဏေ၊ ပြောဆိုရာ၏။ အပိယံ၊ မချစ် မနှစ်သက်ဖွယ်သောစကားကို။ နဘဏေ၊ မပြောမဆိုရာ။ တံ၊ ထိုသို့ ချစ်နှစ်သက်ဖွယ်သော စကားကိုဆိုခြင်းကို။ တတိယံ၊ သုံးခုမြောက်သော စကားအင်္ဂါဟူ၍။ သန္တော၊ သူတော်ကောင်းတို့သည်။ အာဟု၊ ဆိုကုန်ပြီ။ သစ္စံ၊ ဖြောင့်မှန်သော စကားကို။ ဘဏေ၊ ပြောဆိုရာ၏။ အလိကံ၊ မဖြောင့်မမှန်သောစကားကို။ နဘဏေ၊ မပြောမဆိုရာ။ တံ၊ ထိုသို့ ဖြောင့်မှန်သောစကားကို ဆိုခြင်းကို။ စတုတ္ထံ၊ လေးခုမြောက်သော စကားအင်္ဂါ ဟူ၍။ သန္တော၊ သူတော်ကောင်းတို့သည်။ အာဟု၊ ဆိုကုန်ပြီ။ ဤသို့ ဟောတော်မူအပ်သောစကားအရာ အင်္ဂါလေးတန်နှင့် ဆင်ခြင်သော် လောင်းရှည်စား ဗလရဲကျော်သည် အင်္ဂါမရှိ။ မှူးရိုးမတ်စဉ် အနွယ်မဝင်။ တဒင်္ဂဖြစ်သောသူ၏လက္ခဏာ မြင်ပါသည်။ အမြင့်စား တုရင်မဏိသူမှုကား ပညာဉာဏ်လျှောက်ပတ်စွာ မှူးရိုး မတ်ရိုးလက္ခဏာ ရှိပါသည်။ ယင်းသို့အကြောင်း ထိုးဟောင်းကျမ်းဂန်လာသည်နှင့် လျှောက်လေသော် ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိသည်ကား လူနှစ်ယောက် အရည်ကို ငါလည်းသိတော်မူသည်ပင်။ သို့ရာတွင် ချမ်းသာလို၍ မှီခိုလာသောသူအား ချမ်းသာစေရာသည်။ သူမကောင်းမှုသူ့ဒွိသာအပြစ်၊ ငါမှုကား အကျိုးသာ ဖြစ်မည် အမိန့်တော်ရှိ၍ တုရင်မဏိသူမှာ မင်းပြား ကင်းစား၊ ဗလရဲကျော်ကို ပြွန်ရှည်ကင်းစားအရာ ပေးတော်မူသည်။

တနှစ်ခန့်ရှိမှ ဗလရဲကျော် ကင်းခွန်ငွေကိုခိုးယူပြီး လျှင် တရွေချောင်းလမ်းက အရှေ့ပြည်သို့ ထွက်ပြေး လေရာ ချင်းတို့က ဖမ်းမိပို့ဆက်လာသည်တွင် အမတ်ကြီး လျှောက်ပြန်သည်ကား အရှင်မင်းမြတ်၊ သူယုတ်တို့အား ဘေးရန်ရှိသောခရီးကို ကြဉ်ရှောင်ဘိသကဲ့သို့ ပညာရှိသော သူတို့သည် ကြဉ်ရှောင်ရမည့်အကြောင်းနှင့် ကျမ်းဂန်လာ ရှိပါသည်။ အပြစ်မပြုသင့်ပါ လျှောက်လေသော် ပျော်ရာသာနေလေတော့ အမိန့်တော်ရှိ၍စားသုံးရန် အသပြာတရာ ပေးတော်မူပြီးလျှင် ပြည်ကနှင်ထုတ်လိုက် လေသည်။ တုရင်မဏိသူကိုမူကား ကိုယ်လုပ်မောင်းမ သဇင်ညိုကိုထုတ်၍ ပေးမြားတော်မူပြီးလျှင် ဥသ္သလင် ချောင်းစားပေးတော်မူ၍ မှူးမတ်အရာနှင့် ထားတော်မူလေ သည်။

အခါတပါး၌ တုရင်မဏိသူ၊ ဥသ္သလင်သို့ ထွက်ရာ၌ မြို့တို့အရပ်တွင် ထူးဆန်းသော ဘဘော်ပင်ကြီး တပင်ကိုတွေ့လေမူ ထိုအပင်နှင့်တကွ အသီးများကို ရွှေချ၍ ရွှေပဒေသာပင်ရခဲ့သည်ဟု လက်ဆောင်ယူခဲ့ရာ ပြည့်ရှင်မင်းကြီးက အသုံးကင်းစား လုံးတင်ကိုစေလွှတ် တော်မူ၍ ကြိုစေရာ ရလာကင်းဆိပ်တွင် လုံးတင်နှင့် တွေ့လေမူ လုံးတင်ရှေ့တွင် သဘော်သီးတလုံးကြွေ၍ ကျသည်မြင်သော် ကင်းစားလုံးတင်ဆိုသည်ကား ပေါက်ကန်ပြည်သား စကားမတည်၊ မျက်လှည့်သည်သို့ ရှေးသူဟောင်းတို့ဆိုခဲ့သော ပြောင်းပြာစားတွင်သာ ကြားရသည်။ ယခုမှာ ကိုယ်တွေ့ပင် မြင်ရပြန်သည်။ သို့ဆိုပြီးမှ၊ ထိုသဘော်သီးအကြွေကိုယူခဲ့၍ ပြန်လေသည်။ ကင်းစားလုံးတင်ရောက်ကြောင်းကို အမတ်ကြီးသိလျှင် လုံးတင်သည် ရှေးထုံးတမ်းကို ကျွမ်းသူမဟုတ်။ ကောင်းကျိုး မကောင်းကျိုးကိုလည်း မသိသူဖြစ်သည်။ မင်းရှေ့တော်သို့မဝင်မီခေါ်စေ၍ ရောက်လတ်သော် လုံးတင်မြင်ခဲ့သည့်အတိုင်း အမတ်ကြီးသို့ပြန် ဆိုလေမူ

အမတ်ကြီးကဆိုသည်ကား တိုင်းရေးပြည်မှု မဟုတ်၊ မင်းဂုဏ်သာဖြစ်သည်။ မင်းထံမလျှောက်လင့်။ သွား၍ ကြိုမြဲကိုသာ ခန့်တော်မူရင်းအတိုင်းကြိုဆိုချေ။ အမတ်ကြီး ဆိုသောစကားကို လေးတင်မနာမယူ။ မင်းထံဝင်၍ ထိုသဘော်သီးကိုဆက်လေရာ ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိသည်ကား လေးတင်ကို ငါ အကြိုသာလွှတ်သည်။ ထိုအပင်အသီးကို အယူလွှတ်သည်မဟုတ်။ မင်းအာဏာကိုလွန်၍ကျင့်သူဖြစ်သည် အမိန့်တော်ရှိ၍ လေးတင်ကို မာန်အောင်ကျွန်းသို့ပို့လေသည်။ ဥသျှလင်စားဆက်သော သဘော်ပင်ကိုကား နန်းဦးမြေတလင်းတွင် စိုက်ပြီးမှ ရွှေဒေါင်းပြန် ကာလျက်ထားတော်မူရာ ပြည်သူအပေါင်းတို့ပူဇော်၍ မင်းဖလောင်းလက်ထက် နန်းဦးတွင် ရွှေပဒေသာပေါက်သည်ဟူလျက် ရာဇဝင်တွင်ဆိုလေသည်။

တရံရောအခါ ပဲခူးမင်းကျော်ထင်နော်ရထာက စကားတောင်စားကိုသံစေ၍ သမီးတော် မြတ်ရှင်စောကို ပဲခိုးမင်းသားတော် မင်းသစ္စာသို့ပေးပါမည့်အကြောင်းနှင့် စေရောက်လာရာ ပြည့်ရှင်မင်းက အမတ်ကြီး မဟာပညာကျော်ကို မေးတော်မူလေသော် အမတ်ကြီး လျှောက်သည်မှာကား-----

အရှင်မင်းမြတ်၊ ပဲခိုးမင်း ကျော်ထင်နော်ရထာ အနွယ်သည် မူလအစ ဆွာချောင်းနား ကမ်းပါးမြင့်ရွာစား၏သား သဝန်ကြီး သဝန်ငယ်နှစ်ဦးတို့သည် တောင်ငူမြို့ကိုတည်၍ မင်းပြုလေရာ ထီးလိုင်ရှင်ဖက်တွင် အသည်သားတယောက် ယာထွန်နေခိုက် ချွတ်ထားသော အင်္ကျီပေါ်တွင် မြွေနန်းကြီးအခွေပြုပြီးလျှင် တောင်အရပ်သို့ သွားလေသည်ကို ထီးလိုင်ကျောင်းပုဂ္ဂိုလ်က တောင်ဖက်မှာ ကောင်းစားမည်ဆို၍ တောင်ဖက်သို့သွားလေ၍ ကင်းသာအရပ်တွင်နေလေရာ မိဘမရှိသော ကရင်မငယ်ကို မွေးစားသောကြောင့် ကရင်ဘခေါ်ကြလေသည်။

ထိုကရင်ဘ၌ လူသူအပေါင်းများလျှင် တောင်ဘက်သို့သွား၍ ပေါင်လောင်မြစ် အရှေ့ဘက်ကမ်းရဲတွင် ရွာတည်၍နေလေ၏။ ထိုရွာစည်ပင်ကြောင်းကို ကြားလျှင် သဝန်ကြီး သဝန်ငယ်တို့ခေါ်၍ ထောင်မှူးခန့်လေ၏။ ထိုမှဆင်းသက်၍ မင်းတရားရွှေထီးအနွယ်သည် ပဲခိုးမင်း ကျော်ထင်နော်ရထာဖြစ်ပါသည်။ သာကီယဝံသ၊ မဟာသမ္မတ၊ စူဠသမ္မတသားတော်ဖြစ်သော သရေခေတ္တရာပြည့်ရှင် ဒွတ္တဘောင် မင်းကြီးအနွယ်တော် မဟုတ်ပါ။ ယင်းသို့ သာကီဝင်မင်းမျိုးမဟုတ်သော နိစဂံလအမျိုးမင်းတို့သည် တရားမစောင့်။ ဝိလုပ္ပန္န၊ လုယက်ဖျက်ဆီး ကြမ်းတမ်းဆိုးသွမ်းလျက် မကောင်းမှုကိုပြုခြင်း၌ ကြောက်တတ်သော သဘောမရှိပါ။ ယခု အကြည်တော် တောင်ငူမင်း၏တမန် စကားတောင်စားသည်လည်း တရားအလွတ် စကားတတ်ဖြစ်ပါသည်။ ရှေးပညာရှိတို့ အမှာကျမ်း၌လာသော ရန်အောင်ရာသော အကြောင်းမှာ ဇပ္ပေန၊ အင်းအိုင်၊ ဆေးဝါး၊ မန္တရားဖြင့်ငင်း။ မန္တေန၊ ပညာရှိတို့နှင့် နှီးနှောတိုင်ပင်ခြင်းဖြင့်ငင်း။ သုဘာသိတေန၊ ချစ်ဖွယ် နူးညံ့သော စကားကိုဆိုခြင်းဖြင့်ငင်း။ အနုပ္ပါဒေန၊ တံဆိုးအသပြာ ဥစ္စာရွှေငွေပေးခြင်းဖြင့်ငင်း။ ဓိနေ၊ အောင်ရာ၏ဟူ၍လာပါသည်။ တမန်တို့ရောက်လာသည်ကိုဆိုသော အခန်း၌လည်း --

ရာဇဝသတိ၊ အညီကျဉ်းရုံး၊ နိဒါန်းကုံးပိမ့်၊ ရှေးထုံးစဉ်လာ၊ ပြည်အချာ။ ။ မဟာမွေရာဇ်၊ တက်သစ်နေနွယ်၊ ဘုန်းတော်ကြွယ်၍၊ အံ့ဖွယ်မကုန်၊ သိမ်းပိုက်ချုံသည်၊ ဗိုလ်ပုံတိုင်းလုံးချစ်၏။ ဆန်းသစ်စ လပမာ၊ ကြက်သရေမျိုး၊ စုံပြည့်ဖြိုးသည်၊ တန်ခိုးမင်းအာဏာတည်း၊ ပညာမြေအထု၊ စုံစေ့မြောက်များ၊ မှူးမတ်အားလည်း၊ ရည်သွားသိအောင်ပြုလော၊ လူမှုအလွန်ခက်လှစွာ၊ ပြည်သူကိုယ်သား၊ ယွင်းမမှားအောင်၊ ထားရသည့်မေတ္တာနှင့်၊ ရှေးထက်စဉ်လာ၊ မင်းတို့တမ်း၊ တတိုင်းတပြည်၊ အတည်တည်ကို၊ လှည့်လည်သံစေခန်း၌၊ ထောက်လှမ်းမျှော်ရှုပြုအုပ်ရာ၊ သူကစေပြန်၊ အတန်တန်သည်၊ တမန်ရောက်တို့လာက၊ အင်္ဂါမူလ လူ့အနေ၊ မင်းတို့ဓလေ့၊ သိစုံစေ့မှ၊ အတွေ့ခံသင့်ပေ၏၊ စာပေမပါ လူ၏ချည်း၊

များမြောင်ပဏ္ဏာ၊ မင်းကိုသာလျှင်၊ ဆက်ရာအနည်းနည်းနှင့်၊ ကပ်ဆည်းလိုကြောင်း ဆိုပစေ၊ မင်းတို့ကျင့်ဝတ်၊ ယွင်းမချွတ်က၊ လပ်မငဲ့သာ၊ သဝဏ်စာမှု၊ မပါမှန်တို့ချေက၊ မင်းစေတမန်သင်းမဟုတ်၊ နှုတ်ပရိယာယ်၊ အသွယ်သွယ်လျှင်၊ ဥပါယ်ဉာဏ်ဝေဝုတ်နှင့်၊ သူယုတ်မှန်တည့်သောခါ၊ ထိုက်ရာပစ်ထား၊ ဖြောင့်ပေငြားမူ၊ ပြန်သွားစေတို့ရာ၏၊ တမန်အင်္ဂါစုံစေလှ၊ သဝဏ်လည်းပါ၊ ဖြစ်ပေလာသော်၊ ပညာပဋိဘာန်နှင့်၊ ညှိနှိုင်းယူဆ မေးမြန်းစေ၊ မင်းချစ်စုံမက်၊ မိတ်ဆွေဆက်သည်၊ ရန်ဖက်ရန်အပြေပဲ၊ တမန်သုံးထွေရှိစရိုး၊ ကောင်းကျိုးအမှန်၊ စေသည့်သံမှု၊ မင်းထံဝင်ထွက်၊ စဉ်မပျက်အောင်၊ နှုတ်ဆက်ပြုရမျိုးတည့်၊ ရန်ပျိုးရန်စ၊ ရောက်ပေလာ၊ ငြူစူအမျက်၊ ပြင်မထွက်ဘဲ၊ ချစ်လျက်ကဲ့ပမာသို့၊ ကောင်းမွန်လှစွာ ကျွေးမွေးနည်း၊ သူရဲသူခက်၊ မိုလ်လက်နက်ကို၊ ဝင်ထွက် သိစေတည်းမှ၊ နှစ်လည်းနေ့လ ရှည်မကြာ၊ တာရှည် မညောင်း၊ ပြန်သင့်ကောင်းသည်၊ ထုံးဟောင်းမှန်ဘိ ဉာဏ်ကဝိ။

ဤသို့ ရှေးပညာရှိတို့ အမှာလာသည်နှင့်အညီ ယခုရောက်လာသောတမန် စကားတောင်စား၌လည်း သဝဏ်ရွှေပေပါလျက်အစုံနှင့် ဖြစ်ပါသည်။ အတွေ့ခံတော်မူ၍ အကြည်တော်ကပေးသော သဝဏ်ရွှေပေပါသည့်အတိုင်း အမျိုးအနွယ်တော်ဆက်ကြမှ နှစ်ပြည်ထောင် သတ္တဝါ ငြိမ်းချမ်းပါမည်။ ထုံးဟောင်းသက်သေနှင့် အမတ်ကြီးလျှောက်လေရာ ပြည့်ရှင်မင်းမြတ်လည်း ကြည်လင်တော်မူလေ၍ တမန်စကားတောင်စားနှင့် အတွေ့ခံတော်မူသောအခါ၌---

ပြည့်ရှင်မင်းက တမန်စကားတောင်စားကို ဟံသာဝတီပြည့်ရှင် အကြည်တော် ကျန်းမာပါ၏လောမေးတော်မူရာ ပဲခိုးမင်းတမန်စကားတောင်စားက ရာဇာဓိရာဇာဖြစ်တော်မူသော အကြည်တော်ကျန်းမာတော်မူပါ၏ဟု လျှောက်ထားသောစကားကို ကြားတော်မူလေသော် ပြည့်ရှင်မင်းကြီးအမိန့်တော်ရှိသည်ကား----

တမန်စကားတောင်စားသည် မောဟဖုံးလွှမ်းသောကေဝဋ္ဋပုဏ္ဏား ဒေါသလွှန်၍ အယုတ်အမြတ်ကို မသိတတ်သောသူဖြစ်သည်။ လာရင်းအတိုင်း ပါရင်းရိက္ခာကိုစား၍ပြန်စေ အမိန့်တော်ရှိလေလျှင် အမတ်ကြီး မဟာပညာကျော် လျှောက်ထားသည်မှာ----

အရှင်မင်းမြတ်၊ ဘုရားသခင် ဆုံးမတော်မူအပ်သော သာသနာမတည်သောသူအား တရားလွတ်ကင်းလေ၍ အစမ္မပြုခြင်း၊ အစမ္မပြောဆိုတတ်ခြင်းအလေ့ရှိကြောင်း၊ နှလုံးလှဆိုသော်လည်း လက်ရုံးအားကိုးစကားပါလျက်ရှိကြောင်း ထုံးဟောင်းလာရှိပါသည်။ စကားတောင်စားအရှင် ပဲခိုးမင်းလည်း နှလုံးရည်ကိုသုံးသောမင်းမဟုတ်ပါ။ လက်ရုံးရည်ကိုသာ ကြိုက်သောမင်းဖြစ်ပါသည်။ မြတ်စွာဘုရား ဆုံးမတော်မူအပ်သောတရားသာသနာတော်တည်သော မင်းတို့စေသုံးအပ်သောအမတ်ကောင်းတို့သည် သုဘာသိတ၊ ပိယဝါစာ၊ သစ္စာဖြောင့်မှန်၊ အင်လေးတန်နှင့်အညီ လျှောက်ထားပြောဆိုလေ့ရှိပါသည်။ မသူတော်တို့ စိုးမိုးသောအရပ်၌ ပညာရှိသူတော်ကောင်း မထွန်းကားနိုင်ရာ။ သူတော်ကောင်း မထွန်းကားသောအရပ်၌ တရားစောင့်သော ထုံးမရှိ။ တရားမရှိချေက သာသနာတော်မတည်နိုင်ရာ။ သာသနာတော်မတည်သော အရပ်ဒေသသည် ရက်ရောကြမ်းတမ်း ဆိုးသွမ်းလုယူ ကလူနှိပ်စက်လက်ရုံးထောင်လွှား ပြုလေ့ရှိသောကြောင့် သတ္တဝါတို့သေကြေပျက်စီးများ၍ ရန်သူမျိုးငါးပါး ဆက်ဆံရာဖြစ်လျက်နှင့် စည်းစိမ်မတည်ရှိလေရာသည်။ သူတော်ကောင်းပညာရှိတို့ ထွန်းကားသော တိုင်းပြည်သည် ငြိမ်သက်ချမ်းမြေ့ရှိကြောင်းကို ထုံးဟောင်းနိဒါန်း၌ ညွှန်ပြလာရှိတော်မူသည်မှာ-----

မင်းတို့သိက္ခာ၊ စောင့်အပ်ရာသည်၊ သာသနာရေး၊ မထွေးစေရ၊ သင်္ဂဟကို၊ နိစ္စပြုပေ၊ များဝေနေအား၊ တရားမှန်ကြောင်း၊ ကောင်းသောလဲ့လ၊ အားထုတ်မှတည့်၊ လောဘတဏှာ၊ အဝိဇ္ဇာဖြင့်၊ မိစ္ဆာကျင့်ဆိုး၊ စစ်မထိုးအပ်၊

ပညတ်တချက်၊ အိပ်စက်ရန့်ကြမ်း၊ ပွဲလမ်းပျော်ရွှင်၊ ထွက်ဝင်သွားလား၊ မများစေရာ၊ မှုတကာကို၊ ယုတ္တာယုတ္တိ၊ ဆင်ခြင်ညှိ၍၊ ဇာတိမြောက်မြား၊ သူ့စကားကို၊ ကြားက ထိုးထွင်း၊ ချက်ချင်းသိပေ၊ ဆိုတတ်စေတည့်၊ ပရမေထူး၊ ကျေးဇူးမြတ်လှ၊ မိဘဆရာ၊ သူနာသူမွန်၊ တမန်တလိုက်၊ နှုတ်ပိုက်တသွယ်၊ သူငယ်တဦး၊ အရှုးကျိုးကန်း၊ ရှေးလမ်း သက်သေ၊ ရေမြေသခင်၊ မင်းမာန်ဝင်၍၊ ပြစ်တင် ကျူးလွန်၊ မင်းဒဏ်အာဏာ၊ မပေးရာတည့်၊ ဉာတကာ သားချင်း၊ သင်းပင်းတဖော်၊ ဆွေမျိုးတော်ကို၊ မလျော် နှိပ်စက်၊ ရမ္မက်ဖုံးလွှမ်း၊ မညှဉ်းပန်းကောင်း၊ တကြောင်း တမူ၊ သူ့လူကိုယ်သား၊ မမှားဂတိ၊ မငြိစေရာ၊ ဘဏ္ဍာတုတ်ခွန်၊ မလွန်ရှေးမှီး၊ အသီးအပင်၊ သည်တွင်ခံမှု၊ ဆယ်စုတပုံ၊ လုံးစုံပြီးပြေ၊ အစေအသုံး၊ ပြည်ပခုံးက၊ စသည် ရံပတ်၊ အမတ်တို့မှာ၊ အင်္ဂါရှစ်ပါး၊ ရေသွားနက်တိမ်၊ စည်းစိမ်နှိမ့်မြင့်၊ ထားသင့်တတ်ငြား၊ ဂုဏ်ကိုးပါးသည်၊ မင်းအားအလုံး စောင့်သည်ထုံး။ ဟူ၍ငဲ။

ပြည်ကြီးအချာ၊ ရာဇာပဝရ၊ နရိန္ဒတို့၊ ပြည်မှ မှူကွပ်၊ ယုံအပ်သူအား၊ ဂုဏ်ရှစ်ပါးမှာ၊ ပညာဆန်းကြယ်၊ ပရိယာယ်လည်း၊ ဆိုဖွယ်မရှိ၊ ကတိမြောက်များ၊ စကား ကွေ့ကောက်၊ သူတယောက်လည်း၊ ထွင်းဖောက်သိတတ်၊ တည့်မတ်သစ္စာ၊ ပဏ္ဍာမကြိုက်၊ ရင်၌တပါး၊ မခြားမှန်စွာ၊ အာဏာတန်းခိုး၊ မိုးသို့ထစ်ထစ်၊ ပစ်လိမ့်လန့်ကြောက်၊ တယောက်မှုကုန်၊ ပိုက်ချုံတိုင်းရေး၊ မထွေးထင်ပေါ်၊ ရှစ်ရပ် ကျော်၍၊ ပြည်တော်သာဘိ၊ မြတ်ကဝိသည်၊ အသိပြည့်စုံ ဂုဏ်ရှစ်ပုံ၊ ဟူ၍ငဲ။

မင်းနှင့်အမတ်၊ ညီညွတ်တမူ၊ အကျင့်တူသော်၊ လူလည်းကြည်ညို၊ ပဟိုရ်အောင်ချက်၊ ထီးကနက်လည်း၊ မပျက်စည်ထွန်း၊ ရွာသွန်းပဇ္ဇုန်၊ လုံသည်မထောင့်၊ မအောင့် နိုင်ငံ၊ ရေဆန်မရှား၊ တောသားမရဲ၊ ခပဲသတ္တဝါ၊ အနာမထူ၊ မပူငြိမ်းချမ်း၊ မသွမ်းစစ်မက်၊ ခိုးဝှက်မရှိ၊ ဇာတိစင်ကြယ်၊ မြက်နွယ်သစ်ပင်၊ မြင်မြဝ်သမျှ၊ ဆေးရသည်သာ၊ လူသစ္စာ ကြောင့်၊ အနှာပျောက်ကင်း၊ ဥပဒ်ရှင်း၏၊ မင်းလည်းသက်ရှည်၊ ပြည်လည်း ကြာညောင်း၊ ခန္ဓာပြောင်းလည်း၊ မကောင်းပါယ်ရပ်၊ မကပ်နိုင်ဘိ၊ ပညာရှိသည်၊ ဇာတိမသုံ နတ်ခြောက်ဘုံ။

ဟူ၍ငဲ၊ ထုံးဟောင်းလာ ရှိပါသည် ဟု အမတ်ကြီးလျှောက်လေသော် ပြည့်ရှင်မင်း ချမ်းမြေ့ ကြည်လင်တော်မူ၍ အမတ်စကားတောင်စားကို ကောင်းမွန်စွာထားမြဲပေးကမ်းပြီးသော် အခါနှစ်-လကို ဆိုတော်မူပြီးမှ လောကမွေ့နှစ်ပါး နားလည်တတ်ကျွမ်းသူ သံထောင်စားနှင့် အခါပေးပုဏ္ဏားတော် စကြဝတေးကို သံဖက်၍ ထည့်တော်မူလျက် ပြန်စေတော်မူသည်။

ဤအရာတွင် ပဲခိုးမင်း ကျော်ထင်နော်ရထာက စကားတောင်စားကို သံစေလွှတ်သည်ဆိုသောအချက် သည် ရှေး၌ကျော်ထင်နော်ရထာရှိလာကြောင်းကိုကြား၍ မြို့ကိုထပ်လျက် ပြင်ရသည်ဆိုသော မိမိစကား ရာဇဝင် ဟောင်းတို့၌ ကျော်ထင်နော်ရထာလာရောက် တိုက်ခိုက် စေလာသည်ဆိုသော စကားများကိုထောက်လျှင် ယုတ္တိမ တန် သကဲ့သို့ ရှိပေသည်။ သို့သော်လည်း ပုံပြင် ထုံးဟောင်း မှတ်ကောင်းသင့်ရာ ရေးသားလျက်ပါသော ကြောင့် ရေးပြကာသွင်းလိုက်သည်။

(စကားတောင်စားအမတ် အပြန်တွင် ဘထွေးတော် စကြဝတေးကို သံတွဲကနုတ်၍ ရမ်းပြည့်စား ပေးထားရာမှ ဘထွေးလိုက်သွားကြောင်းနှင့် ဆိုသော အချက်သည် ရာဇဝင်ဟောင်းအထွက်တို့နှင့် မညီညာ သောကြောင့် ကြွင်းချန်ကာထားခဲ့သည်။)

ထိုမှတပါး ဇမ္ဗူဒီပါကျွန်း၌တည်ထွန်းသော တိုင်းပြည်မြို့ရွာ၊ ရာဇာမျိုးမတ်၊ ပရိသတ်တို့ကျင့်အပ်သော ဝတ္တရားတို့ကို ရှေးဖျားမဆွ ပထမတွဲ၊ မျက်နှာနံပါတ် ၈၄၊ ဦးရေ နံပါတ်(၇၃)မှစ၍ ရေးပြအပ်ခဲ့ပြီးဖြစ်၍ ဖွင့်လှစ်မရေးသားလိုက်ပြီ၊ မှတ်သားရန်ကောင်းသော လင်္ကာတပုဒ်မျှ သွင်းပြလိုက်ပေအံ့။

ဧယျကြင့်နန်း၊ စိုးစံမြန်းသည့်၊ ရွှေနန်းရှင်---
ဂုဏ်ကိုးအင်မင်းတို့မှာ၊ တရားမစောင်း၊ ထီးဖြူဆောင်းတို့၊
အကြောင်းကိရိယာကား၊ သတ္တဝါပေါင်းတို့အား၊ အနီး
အဝေး၊ မရွေးပညာများကို၊ လက်သုံးဒါးပမာ၊ ထက်အောင်
သွေး၍၊ ဆိုရေးရှိလတ်ရာလည်း၊ ယုတ္တာယုတ္တိညီ၊ ဂတိမ
လိုက်၊ တိမ်တိုက်ချွန်းလွှား၊ မိုးကြိုးသွားသို့၊ စကားတည်
ကြည်၊ အရှည်ထွန်းလင်းဘိအောင်၊ ကဝိလူသမ္မာ၊ ကြား
သော်နှစ်မြို့၊ သမ်းမညှို့သည်၊ မင်းတို့လက္ခဏာတည့်၊
ရတနာစုံပြည့်ဖြိုး၊ နဝရတ်ဂုဏ်၊ ကိုးပါးချုံသည်၊
လောက်လုံ မင်းကောင်းမျိုးတို့၊ ကျင့်ရိုးဖြည့်အင်္ဂါ၊
အပရိဟာနိ၊ ကျေးဇူးရှိသည်၊ သတိမလွတ်သာတည့်၊
ကျမ်းအမှာသင်္ဂဟ၊ မခွစေလို၊ ဗြဟ္မစိုရ်မူ၊ နှလုံးဖြူ၍၊
အယူတည့်မတ်ရာ၏၊ ဗဟုသုတဆိုသည်မှာ၊ စကားနှိုက်၊
ကြားတိုင်းသိစေရာသား၊ မေးပုစ္ဆာလာသမျှ၊ ရှုရှုပြီးပြေ၊
သူ့အနေကို၊ ရိပ်ခြည်သိတတ်မှတည့်၊ ဉာဏဉာဏ်မဏ္ဍိုင်၊
ဒသဆယ်ချက်၊ ယွင်းမကွက်အောင်၊ ရွှေလက်မြဲစွာကိုင်၍၊
ခရိုင်တိုင်းတပါး၊ စကားနှုတ်ဆက်၊ မေတ္တာရှက်အောင်၊
အမျက်မလွှန်၊ ထုံးနည်းညွန်လျက်၊ မတ်မွန်စေလွှတ်ထား
ရှင့်၊ မိုက်မမှားအဝိဇ္ဇာ၊ မိစ္ဆာဖုံးလွှမ်း၊ မင်းကြမ်းမင်းဆိုး၊
နည်းကိုခိုး၍၊ စစ်ထိုးမပြုရာတည့်၊ လုပ်စာသီးပွင့်မျိုး၊
ဆယ်ဘို့တဘို့၊ မင်းတို့အခွန်၊ မလွန်ခံစားရိုးက၊ တိုး၍မယူ
သာ၊ သူလှောင်လျှောက်ထား၊ ကုန်းစကားကြောင့်၊
အမှားမဆိုရာသည်၊ မဟာဓမ္မရာဇ် တို့စောစစ်။

ဟူ၍လျှောက်ထားလေကြောင်းနှင့်လာသည်။ ဤသည်ကား ဓညဝတီအရေးတော်ပုံ၌လာသော မင်းဖလောင်း အကြောင်းတည်း။

ထိုမင်းဖလောင်း နတ်ရွာစံတော်မူလေလျှင် သားတော်အိမ်ရှေ့မင်း သတိုးဓမ္မရာဇာသည် မျောက်သားတော် ဝိဇလာနှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၉၅၅ ခု၊ ဝါဆိုလဆန်း ၆ ရက်၊ တနင်္ဂနွေနေ့၊ ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။

ထိုမင်းသည် အလွန်ဘုန်းတန်ခိုးကြီးသောကြောင့် ခပ်သိမ်းသောပြည်ထောင်ချင်း မင်းအပေါင်းတို့သည် အာဏာလက်ရုံး ဘုန်းတန်ခိုးအရှိန်အစော်သတင်းကို ကြားလေလျှင် ရွှေပေဆက်စာ များစွာသောပဏ္ဏာကာရနှင့် တကွ နှိမ့်ချရိုညွတ်ဆက်ကပ်ပူဇော်လာကုန်၏။

ထိုသတိုးဓမ္မရာဇာမင်းသည် ရွှေနန်းစိုးအုပ်တော်မူလျှင် မင်းရာဇာဟူသော ရှေးဘွဲတော်၏အမည်ကို ခံယူတော်မူသည်။ တရံရောအခါ ဘုရင်မင်းရာဇာသည် ညီတော်ရင်းဖြစ်သောအနောက်ဘုရင် သတိုးမင်းစောလှကို စစ်တကောင်းမြို့စား ပေးတော်မူလေသည်။ နှစ်နှစ်ရှိလျှင် ကုလားဘင်္ဂါတဆဲ့နှစ်မြို့၊ သက်မင်း ကောင်းလှဖြူ၊ မြို့လင်းကဲတို့နှင့်ပေါင်း၍ သောင်းကြမ်းလေသော် သက္ကရာဇ် ၉၅၇ ခုတွင် ပြည့်ရှင်မင်းကိုယ်တိုင် ချီတော်မူသောအခါ ညီတော်စစ်မပြိုင်ဝံ့၍ ကျိုးနွံဝင်ရောက်လာပေသည်။ စစ်တကောင်းမြို့စားကချီသွားလေ၍ ဒါဂါမြို့သို့ရောက်သောကာလ သင်းတို့မြို့ရွာသည် အကြိမ်များစွာ ဆိုးသွမ်းသူဖြစ်သည်။ ကုလားအကြီး ဒေးဝန်းနပတ်ကို သစ္စာမစောင့်သောကြောင့် မျက်တော်ဝင်၍ဒေးဝန်နပတ်ထားမှာ လူပေါင်းတရာကို တန်ဆာသိမ်းပြီးမှ မော်လိပ်အစို့မှာ ဖြည့်တော်မူလေသည်။

စစ်တကောင်းမြို့ကိုလည်း ခမည်းတော်နည်း အမတ် မဟာပညာကျော်သို့ ပေးမြဲပေးတော်မူ၍ မဟာပညာကျော် သား ကျီးညိုကို ရောင်ဖြူမြို့စားပေးတော်မူပြီးမှ သားတော် ဒီဃကို မောက်သူဇာတွင်အုပ်ချုပ်စေ၍ ကုလားတဆဲ့နှစ်မြို့ကို အပ်ထားတော်မူခဲ့သည်။ ထိုသို့ အသီးသီးခန့်တော်မူပြီးလျှင် သက္ကရာဇ် ၉၅၇ ခု၊ တပို့တွဲလ ပြန်တော်မူခဲ့သည်။

သက္ကရာဇ် ၉၅၉ ခုတွင် ကျော်ထင်ရာဇာ ညီတော်မင်းခေါင်၏သား မင်းရဲကျော်ထင်အမည်ရှိသော တောင်ငူ မင်းသီဟသူသည် ဘကြီးတော် ကျော်ထင်နော်ရထာ၏ သား ဟံသာဝတီပဲခိုးမင်းကိုလုပ်ကြံလို၍ အထူးထူးသော လက်ဆောင်ပဏ္ဏာ ရွှေပေလွှာများနှင့်

ကြည်းတောင်စား၊ ကသာစားနှစ်ယောက်ကိုစေလွှတ်၍ ရောက်လာသောစာတွင်ပါသည်ကား --- ပဲခိုးမြို့ကို ကူညီတိုက်ယူ၍ပေးတော်မူပါ။ ပဲခိုးမြို့ရလျှင် သမီးကညာ ဆင်ဖြူရတနာကိုဆက်ပါမည်။

ယင်းသို့စာတွင် ပါလာသည်ကိုကြားသိတော်မူလျှင် ပြည့်ရှင်မင်းက ချီတော်မူမည်။ အနောက်မျက်နှာ ဘင်္ဂါတဆွဲနှစ်မြို့၊ သက်မင်းကောင်းလှဖြူ လင်းကဲ မြို့ မြို့စားရွာစား၊ ကျေးစားတို့ကို လက်နက်ရဲမက်အစုံနှင့် ပင်လယ်ကြောင်းမှာ ကုလားတဆွဲနှစ်မြို့ သင်္ဘောနှင့် အသင့်ရောက်စေ။ သက်၊ မြို လင်းကဲတို့မှာလည်း ကြည်းကြောင်းမျိုး ရိက္ခာလက်နက်အစုံ မြို့စားတို့က ကြီးကြပ်ခန့်ထား၍ရောက်စေ။ မြို့မှာလည်း တတ်သိ လိမ္မာသူကို အစောင့်အနေထားခဲ့စေ။ အသီးသီးအမိန့်တော် မြွက် ဆင့်ဆို၍ချီတော်မူမည်။ စနည်းနာစေသော် အဋ္ဌနနဒီ လေးမြို့ချောင်းတွင် သူငယ်တို့ လေ့လော့်၍ ဆိုကြသော တြင်းသံမှာ-

**ဆင်ဖြူပေါင်ကျိုး၊ ထီးဖြူညှိုး၍၊**
**ပဲခိုးဘုရင်၊ တို့အရှင်ထံ ဝင်လိမ့်မည်။**

ထိုသူငယ်တို့အခြင်း၊ တြင်းသံအလိုကို အမတ် မဟာပညာကျော် လျှောက်ထားသည်မှာ----- အရှင်မင်းမြတ်၊ ကျမ်းဂန်တွင်လည်း မိတ်ဆွေဝင်သော မင်းတို့၌ အရေးအကြောင်းဆိုက်ရောက်သော် ကူညီ သင့်ကြောင်း ထုံးဟောင်းရှိပါသည်။ ယခု အကြည်တော် တောင်ငူမင်းကပေးလိုက်သော ရွှေပေတွင်လည်း အရှည် ထွန်းလင်းရာသောအကြောင်း ဖြစ်ပါသည်။ သူငယ်တို့ ဆိုသည့် တြင်းအလိုမှ အမှုလွယ်ကာ ပြီးကုန်ပါမည် လျှောက်လေသော် ချီတော်မူမည့်တပ်စဉ် အစီရင်ခန့် ရပ်တော်မူသည်ကား-

လက်ဝဲကိုယ်တော်ရဲ နှစ်သောင်းမှာ အမတ် ကုလားတန်စား စောနုတဗိုလ်၊ အမတ် မြို့ချောင်းစား ရဲအောင်နိုင်တဗိုလ်၊ လက်ယာသင်း ကိုယ်တော်ရဲ နှစ်သောင်းမှာ အမတ်တရွေးစား ဂါမဏိတဗိုလ်၊ အမတ်မြို့ချောင်းစား တဗိုလ်၊ ကမ်လေးကိုင် သူရဲတထောင် မှာ တောင်ကုတ်စား ရန်မျိုးအောင်တဗိုလ်၊ ဒါးကိုင်လေးစွဲ သူရဲတထောင်မှာ အမတ်သံထောင်စား တုံးညိုတဗိုလ်၊ ကာစွဲဒိုင်းကိုင် သူရဲတထောင်မှာ အမတ်အမ်းစား တုရင်သူ တဗိုလ်၊ သက်သူရဲသုံးသောင်းမှာ သက်မင်းကောင်းလှဖြူ မှူးမတ်နှင့် သက်မင်းတို့ အစုစုသူရဲတသိန်းတို့ကို အမတ်တော်ကိုယ်ရံကြီး ဓမ္မသောကအချုပ် တပ်ဦးချီရ သည်။

မောက်သူဇာ ဘင်္ဂါကုလား သူရဲငါးထောင်မှာ အမတ်တော်ဆင်ကဲကြီး မနုဟာအချုပ်၊ သင်္ဘောသုံးရာနှင့် ပသျှူးကျွန်း၊ မော်တင်ဝက အမတ်ချရပ်၍ ကျွန်းတိုင်း မြစ်ပေါက်တိုင်း စောင့်နေရသည်။

ပြည့်ရှင်မင်းကြီး တပ်တော်မှာ လက်ဝဲသင်း ကိုယ်တော်ရဲ သုံးသောင်း၊ လက်ယာသင်း ကိုယ်တော်ရဲ သုံးသောင်း၊ ဒိုင်းနက်သူရဲတသောင်း၊ သက်သူရဲ တသောင်း၊ ထီးလောင်းကာ မီးပေါက် ပြောင်းဒိုင်းလွှဲစွဲ သူရဲနှစ်သောင်း၊ ရဲမက်တသိန်း တပ်မတော်တွင်ပါသည်။ ကမ်းရံသူရဲ သုံးသောင်း၊ ကုလားထီးလောင်းကာ မီးပေါက် ပြောင်းဒိုင်းလွှားစွဲ သူရဲနှစ်သောင်း၊ သူရဲပေါင်း ငါးသောင်း နှင့် သားတော် အိမ်ရှေ့မင်း မင်းခမောင်းကို စိန်တင်စား ဥက္ကာပျံတို့နှင့် သက္ကရာဇ် ၉၆၀ပြည့်၊ တန်ဆောင်မုန်း လဆန်း ၁၁ ရက်နေ့၊ မော်တင်ကိုလှည့်၍ သန်လျင်မြို့သို့ ချီတော်မူစေသည်။

ပြည့်ရှင်မင်းလည်း ၎င်းသက္ကရာဇ် ၎င်းလပင် နောက်ကချီတော်မူ၍ ဒွါရာဝတီ သံတွဲမြို့သို့ ရောက်တော် မူလေလျှင် အံတော်စေတီသို့တက်တော်မူ၍ များစွာသော ပန်းပေါက်ပေါက် ဆီမီးတို့ဖြင့်ညီထွန်းပူဇော် ရှိခိုးပြီးလျှင် သစ္စာဓိဋ္ဌာန်ပြုတော်မူလေက အံတော်စေတီ အထွဋ်သံတိုင် သည် မင်းထံသို့ညွှတ်လျက် ရောင်ခြည်တော်ကွန့်မြူး၍ တန်းခိုးပြာဋိဟာပြတော်မူပြီးမှ နေမြဲအတိုင်း သံတိုင်နေတော် မူသည်။ ဤသို့သော တန်းခိုးပြာဋိဟာကို မင်းရာဇာကြီး

မြင်တော်မူလေလျှင် ကြည်လင်ဝမ်းမြောက်တော်မူ၍ လှေဖောင်သို့ ဆင်းတော်မူခဲ့၏။

ထိုအခါဝယ် လှေဖောင်တော်ဦးတွင် သိမ်းနား၏။ ဗဟိုတွင် ဖျိုင်းနား၏။ ပဲ့တွင် လင်းတနား၏။ ဤသို့သော တိတ်နိမိတ်ကို သံတွဲမြို့တွင် သီတင်းသုံးနေသော ရဟန်းတော်တဦးကို ပင့်ဘိတ်လျှောက်ထားရာ-

ဦးတွင် သိမ်းနားသည့်အလို=ဟံသာဝတီ ပဲခိုးမြို့ကို သိမ်းတော်မူအံ့။ ဗဟိုတွင် ဖျိုင်းနားသည့်အလို= ဆင်ဖြူ ရတနာရအံ့။ ပဲ့တွင် လင်းတနားသည့်အလို = လင်ကို တသောမိန်းမရတနာရအံ့ဟူ၍ ဘတ်လျှောက်လေ၏။

မင်းရာဇာလည်း ဟောတိုင်းမှန်ပါမူ ရွှေကျောင်းဆောက်၍ လှူပါမည်လျှောက်၍ ပဲခိုးပြည်သို့ချီတော်မူ၍ အမတ်ကိုယ်ရံကြီးတပ် မုတ္တမမြို့သို့ ဆိုက်ရောက်လေရာ မုတ္တမမြို့အရှေ့ ကျွန်းကြီးမြို့တွင် လက်ဝဲသင်းကိုယ်တော်ရံသူရဲတသောင်းနှင့် ကုလားတန်စား စောနကို တပ်နှင့်ထားလေသည်။ ချုံးချုံးကျမှာ လက်ယာသင်း ကိုယ်တော်ရံသူရဲ တသောင်းနှင့် တရွေးစားကို တပ်နှင့်ထားလေသည်။ လက်ယာသင်း ကိုယ်တော်ရံတသောင်းနှင့် မြို့သစ်စား ဇလတင်ကို အလံတရချောင်းတွင် တပ်နှင့်ထားလေသည်။ ဖောင်ဆိပ်တွင် သူရဲတသောင်းနှင့် သံထောင်စား တုံးညိုကို တပ်နှင့်ထားလေသည်။ မုတ္တမမြို့ အရှေ့မြောက်ထောင့် သရောမြစ်ညာလမ်း မြရာဝတီမြို့ကသည် ကမော်ကလိုတောင်ထိ သက်မင်း ကောင်းလှဖြူကို သူရဲသုံးသောင်း အဖြီးအခိုင်ထားလေနှင့်သည်။

သားတော် အိမ်ရှေ့မင်းလည်း သန်လျင်သို့ ရောက်လေလျှင် သန်လျင်မြို့ကိုလုပ်ကြလေသည်။ မခံနိုင်၍ ပြေးထွက်လေလျှင် စစ်သည်အလုံးအရင်းနှင့် မြို့တွင်းသို့ ဝင်၍ အခိုင်အလုံနေကြလေသည်။

သက္ကရာဇ် ၉၆၀ ပြည့်၊ တန်းခူးလ၊ တောင်ငူဘုရင်က မြို့ကြီးစား တတပ်၊ မြို့လုစား တတပ်၊ ဘယနန်သူ တတပ်၊ အဲမြဗိုက်တတပ်၊ ညီတော်မင်းရဲကျော်ထင် တတပ်၊ သားတော် နတ်ရှင်နောင် တတပ်၊ တောင်ငူဘုရင် တပ်မပြ၍ပေါင်းခုနစ်တပ်၊ စစ်သည်သူရဲ ငါးသောင်းနှင့်ချီ၍ ကောလိယတွင် အခိုင်နေသည်။

သက္ကရာဇ် ၉၆၀ ပြည့်တွင် ဟံသာဝတီသို့ချီး၍ တောင်ငူဘုရင်မြို့အရှေ့ကရသည်။ တောင်ငူဘုရင်သား နတ်ရှင်နောင် မြို့မြောက်က ရသည်။ အိမ်ရှေ့မင်း မင်းခမောင်း တောင်ကရသည်။ မင်းရာဇာကြီး အနောက်က ရသည်။ ယင်းသို့ နှစ်ပြည်ထောင်မင်းတို့ မြို့ကိုရံကြသည်တွင် မြို့တွင်းသားတို့ အစားရိက္ခာရှားပါးတော်မွတ်သည်ဖြစ်၍ အချို့လည်း တောင်ငူဘုရင်တပ်သို့ ဝင်သည်။ အချို့လည်း မင်းရာဇာကြီး တပ်သို့ဝင်သည်။ အချို့လည်း လွတ်ရာထွက်ပြေးလေသည်။ ထိုအခါ ဟံသာဝတီ ပဲခိုးမင်းသားတော် မင်းရဲကျော်စွာလည်း တောင်ငူမင်းတပ်သို့ ဝင်လေသည်။ ယင်းသို့ဝင်ကြောင်းကို ဟံသာဝတီပဲခိုးမင်းကြီးကြားလေသော် ငါကား သားဘို့ စုသည်။ ငါ့သားပင် တဖက်ပြုချေသော် ငါ့စည်းစိမ်ကို ငါညီယူပါစေတော့ဆို၍ အပ်ရလေလျှင် ဟံသာဝတီ ပဲခိုးမင်းကို တောင်ငူသို့ ပို့ထားလေ၍ တောင်ငူဘုရင်သည် ဟံသာဝတီပြည့်ရှင်မင်း မြောက်နန်းမိဘုရား နမတော်သမီး တူမတော် ခင်မရွှေတုံးနှင့် ဟံသာဝတီ ပဲခိုးပြည်ကို စိုးအုပ်တော်မူလေသည်။ ဤသည်ကား မှန်နန်းရာဇဝင်အလိုတည်း။

ဆရာမည် ရာဇဝင်၊ ဧဥဝတီအရေးတော်ပုံတို့၌ကား ၉၆၀ ပြည့်၊ တန်ဆောင်မုန်းလဆန်း ၁၁ ရက်မှ ချီတော်မူကြောင်း၊ ဟံသာဝတီဘုရင်လည်း တောင်ငူသို့ ပြေးလေကြောင်းနှင့် ဆိုကြလေသည်။ ဆရာမည်ရာဇဝင်၌ ဟံသာဝတီပဲခူးဘုရင်သည် မင်းရဲကျော်စွာဖြစ်ကြောင်း၊ မင်းရဲကျော်စွာပင် ငါတို့မင်းရာဇာသို့ စစ်ကူတောင်းကြောင်း၊ ၎င်း မင်းရဲကျော်စွာပင် တောင်ငူသို့ ထွက်ပြေးလေကြောင်း ကဲ့သို့ဆိုသည်။ ရှေ့နောက်ဆင်ခြင်လေ။

ယင်းသို့ စိုးအုပ်တော်မူပြီးလျှင် ဆွေတော်၊ မျိုးတော်၊ မှူးတော်၊ မတ်တော်အပေါင်းတို့က အထူးထူးသော ပုဆိုးကောင်း၊ ခါသာ၊ ပင်ကာ၊ ဇော်ကရက်၊ မူရီ၊ ပတ္တမြား၊ သဟာန်၊ ဖဲ၊ မှိုင်းလုံး၊ သက္ကလတ်၊ စာပယင်း စသော လက်ဆောင်ပဏ္ဏာ ဆက်သတော်မူရသည်။

ဆက်သစေပြီးနောက်မှ ငါတို့ဘုရင်မင်းရာဇာကြီး တပ်သို့ အထူးထူးသော ပုဆိုးကောင်း၊ ခါသာကောင်း၊ မှိုင်းလုံး၊ ရွှေဖျင်၊ မုန့်၊ ယို၊ သနပ်များကို လူသုံးထောင်ကိုင်စေ၍ မင်းညီမင်းသားမှူးမတ်အပေါင်း ကြပ်မတ်စေလျက် ပို့ဆက်တော်မူရသည်။ နောက်မှ ဆင်ဖြူတော်တစီးနှင့် တကွ ဟံသာဝတီ ရှင်ဘုရင်သမီးတော် မင်းသမီး ခင်မနှောင်းကို မိဘုရားကြီးတို့ အဆောင်အယောင်နှင့်တကွ အထိန်းအချီ ကတော်လေးယောက်၊ ကိုယ်လုပ်သုံးကျိပ် ပေးတော်မူ၍မှူးမတ် အပေါင်းဝန်းရံစေလျက် ဝေါနှင့် ထမ်းဆောင်၍ ငါတို့ဘုရင်မင်းရာဇာကြီးအား ဆက်သတော် မူစေသည်။

ယင်းသောအခါ ယိုးဒယားဘုရင် ဗြနရာဇ်သည် ဟံသာဝတီပြည်သို့ချီလာ၍ တောင်ငူဘုရင်သည် ငါတို့ဘုရင်မင်းရာဇာအား ဟံသာဝတီကိုအပ်နှင်းတော်မူခဲ့၍ တောင်ငူသို့ပြန်လေသည်။ ယိုးဒယားဘုရင်လည်း တောင်ငူသို့ချီ၍ ဝန်းရံလျက် လုပ်ကြံသော်လည်း မရနိုင်ရှိလေသည်။

ငါတို့ဘုရင်မင်းရာဇာကြီးလည်း ယိုးဒယားဘုရင် ဗြနရာဇ်ချီလာကြောင်းကို ကြားတော်မူလျှင် ဟံသာဝတီပြည်မှ ရခိုင်ပြည်သို့သွားလိုသော ဘုန်းတော်ကြီးများနှင့် ဘုရားရုပ်တု၊ ပိဋကတ်ကျမ်းဂန်တို့ကို လှေနှင့်တင်၍ ပို့တော်မူရသည်။ ကျမ်းဂန်တတ်သိ လိမ္မာတော်မူသော ပိဋကတ္တယဘုန်းတော်ကြီးကိုလည်း ရခိုင်ပြည်သို့ လှေနှင့် ပို့တော်မူလိုက်သည်။

အိမ်ရှေ့မင်းခမောင်းလည်း အလုံးအရင်းနှင့် တောကနေ၍ ယိုးဒယားက ရေကြောင်းရိက္ခာပို့လာသော လှေတက်တို့ကို ဆီးကြို၍တိုက်လေသည်။ လာသမျှပျက်လျှင် ယိုးဒယားမင်းသို့ ရိက္ခာမရောက်၍ ငတ်မွတ်လေသောကြောင့် တလခန့်ရှိလျှင် ယိုးဒယားမင်း တောင်ငူကခွာ၍ ပြန်လေသော် သက်မင်းလမ်းကဆို၍ တိုက်လေရာ ယိုးဒယားမင်း ညီဖြသမွန်ကိုရ၍ ပြည့်ရှင်မင်းရာဇာသို့ ဆက်လာသည်။ ပင်လယ်ကြောင်း ယိုးဒယားက ချီလာသည့် တပ်ကိုလည်း သင်္ဘောကြောင်း ဖိစီးတိုက်လေရာ ပျက်စီး၍ လက်နက်လူသူအများရလေသည်။ ယိုးဒယား မင်း ညီဖြသမွန်ကို ကောင်းစွာထားတော်မူ၍ ယိုးဒယား ပြည်ရှိ လက်နက်ဘဏ္ဍာများကိုတောင်းရာ ပြောင်းမီး ပေါက် သုံးထောင်၊ နားမဖောက်သော ပြောင်းကြီး၊ မြရွှေဘဏ္ဍာ သိဟူသော ပြောင်းများကို ဆက်သတော်မူလာသည်။ ယိုးဒယားမင်း ညီတော်ကိုလည်း ပြန်ပေးတော်မူလိုက်သည်။ တောင်ငူမင်းကလည်း ဟံသာဝတီသို့ ဘကြီးတော် ကျော်ထင်နော်ရထာ လက်ထက်ယူဆောင်ခဲ့သော ယိုးဒယားမင်း ဗြသာဓိပတိ ရာဇာအရုပ်၊ မိဘုရားကြီးအရုပ်၊ ယိုးဒယားမင်းဆရာအရုပ်၊ ဧရာဝဏ်ဆင်ရုပ်၊ ယိုးဒယားတို့ ကိုးကွယ်သော ရာမရုပ်၊ ဟနုမန် မျောက်ရုပ်၊ အလမ္ပာယ်မြွေသမားအရုပ် အစရှိသော ကြေးရုပ်များနှင့်တကွ ရွှေငွေဘဏ္ဍာတို့ကို ဆက်သတော်မူလေသည်။

မင်းရာဇာကြီးလည်း ယိုးဒယားမင်း၊ တောင်ငူမင်းတို့ ဆက်သအပ်သောပဏ္ဏာလက်ဆောင်နှင့်တကွ ဟံသာဝတီမြို့ရှိ ယိုးဒယားအိမ်ထောင်စု သုံးသောင်း၊ တလိုင်းအိမ်ထောင်စု သုံးသောင်း၊ လူပေါင်း ခြောက်သောင်းတို့ကို သိမ်းခေါ်တော်မူပြီးလျှင် သက္ကရာဇ် ၉၆၁ ခုတွင် ပြန်တော်မူခဲ့သည်။ လမ်းခရီးအကြား မော်တင်သို့ရောက်သောအခါ အမတ်မဟာပညာကျော် သေလွန်လေသော် ကြီးကျယ်စွာသင်္ဂြိုဟ်တော်မူ၍ အမတ်ကြီးကို သင်္ဂြိုဟ်သော သင်္ချိုင်းရာပေါ်တွင် ဘုရား စေတီတည်ထားတော်မူခဲ့လေသည်။ ထိုစေတီကြီးကို ယခုတိုင် မော်တင်စေတီဟု ထင်ရှားစွာ ခေါ်ဝေါ်လျက် ရှိကုန်၏။

ထိုမှသည် စခန်းသင့်အစဉ်အတိုင်း ချီလာတော်မူ၍ ဒွါရာဝတီသံတွဲမြို့သို့ရောက်တော်မူလာလျှင် စစ်ချီစဉ်အခါ၌ နိမိတ်ဟောဖတ်လိုက်သော ရဟန်းတော်အား နှုတ်ကတိရှိတော်မူသည့်အတိုင်း ရွှေကျောင်းဆောက်၍ လှူတော်မူလေသည်။ ထိုအရပ်ကို ရွှေကျောင်းပြင်ဟူ၍ ယနေ့တိုင်အောင် ခေါ်တွင်သမုတ်ကြလေသည်။

ဘုရင်မင်းရာဇာလည်း အလွန်တင့်တယ်လျောက်ပတ်သော ရွှေငှက်ဖောင်တော်ကို ပြုပျင်စေပြီးလျှင် ရွှေပြောင်ပြောင်ဆင်လျက် ရတနာဆင်မြူကိုတင်တော်မူ၍ ရွှေလှေ၊ ငွေလှေအစရှိသောလှေရံအပေါင်းတို့ဖြင့် ကောင်းစွာလှော်ခတ် ချီလာတော်မူ၍ ရွှေမြို့တော်သို့ ပြန်ရောက်တော်မူလေလျှင် ယိုးဒယားတို့ကို အတီးအကၤ၊ စကျောအစို့၊ ၎င်းပြင်ကြွေတဲတပ်၊ ကြွေမသိတပ်၊ ရာဇဂြိုဟ်တပ်၊ တောင်ဘက်တပ်၊ မြို့သစ်တပ်၊ မှိုင်းတပ်၊ တောင်ငူတပ်၊ ကျွန်းကောင်းတပ်၊ ရှစ်တပ်အစုဖွဲ့တော်မူ၍ ကဋ္ဌပနဒီ အရှေ့ဘက် ဖွဲ့တားကျွန်း၊ တောင်ရင်းကျွန်း၊ မြစ်အနောက်ဘက်၊ ပေကျွန်း၊ ဦးရစ်တောင်ကျွန်း၊ မရိုးကျွန်း၊ ရမောင်ကျွန်းများမှာ ချထားတော်မူသည်။

ထို့ပြင် တလိုင်းသုံးသောင်းကို ဆင်အောက်မသင်းများမှာ ဖြည့်တော်မူ၍ ငါးဇင်ရိုင်းကျွန်းတွင် ချထားတော်မူသည်။

ယိုးဒယားသဘင်အကၤ၊ လေးစို့သားတို့ကို အမတ်သူငယ်တော် သွေးသောက်သို့ အပ်တော်မူလေသည်။ စစ်တကောင်းမြို့စားအမတ်ကြီး မဟာပညာကျော်သား ကျီးညိုကိုလည်း အာနည်း သူကောင်းပြုတော်မူ၍ စစ်တကောင်းမြို့ကို မြို့စားပေးတော်မူပြီးလျှင် ပညာဝံသ အမည်ကို ပေးတော်မူလေသည်။

ဤသည်ကား ဆရာငမည် ရာဇဝင်၊ ဥဒ္ဒဝတီ အရေးတော်ပုံ၊ မှန်နန်းရာဇဝင်တို့ကို ထောက်ဆ၍ရေးပြအပ်သော မင်းရာဇာ ပဲခူးသို့ကြွချီခန်းအကြောင်းတည်း။ ရာဇဝင်ချင်း မညီညွတ်သည်ကို ညှိ၍ရေးလိုက်သည်။

ထိုမှတပါး ဘုရင်မင်းရာဇာသည် ရေအုန်းမျိုးကို ယူခဲ့စေ၍ ငှက်ကြီးချောင်းတွင် ကောင်းစွာစိုက်ပျိုးလျက် ထားတော်မူစေသည်။ ယင်းကစ၍ယခုတိုင်ရှိကြလေသည်။

ဟံသာဝတီပဲခိုးပြည့်ရှင်သမီးတော် ခင်မနှောင်းကို တန်ဆောင်းမိဘုရား မြှောက်တော်မူလေသည်။ တရံရောအခါ တန်ဆောင်းမိဘုရား ခင်မနှောင်းသည် မြှောက်ဦးမြို့ နန်းတော်ကိုကြည့်ရှုတော်မူလျက် ချီးမွမ်းတော်မူသည်မှာ-

(၁) တက်ထွန်းလတ်နေ၊ လယ်ယာခွေ၍၊ ဥဒေတောင်ထွတ်၊ သောင်းကျွန်းပတ်၍၊ ထွန်းတတ်သောင်းသောင်း၊ မောင်းလည်းပြန်ခေါက်၊ သောက်ခြည်ရောက်က၊ ထွန်းတောက်ပြောင်သူ၊ နေနှစ်ဆူလျှင်၊ ထွက်ပြူသည်လော၊ တွေးထင်မောစွ၊ ပေါပေါတောင်ညို၊ လယ်ထိပ်ပိုထက်၊ ပဟိုရ်ရွှေနန်း၊ ခေါင်စွန်းငါးဆင့်၊ ခြသေ့်သင့်လျက်၊ ယပ်နှင့်စမြင်၊ မိုးပြင်ကြွားကြွား၊ သိကြားလျှပ်စွဲ၊ ပျံ့ဝဲဘနန်း၊ မကန်းကွက်စုံ၊ ပွင့်ငုံချပ်ကြာ၊ ကိန္နရာသွင်၊ ထောင့်တွင်ယွင်းမို့၊ ရို့ရို့ရှားရှား၊ စောင့်နတ်သားနှင့်၊ ယပ်မားဆင့်တန်း၊ ဒေါင်းလျှပ်ပန်းရုံ၊ ပဒုံကြာလျောက်၊ ကြက်မောက် ကြက်တိုက်၊ ထီးစိုက်ထောင်တန်၊ ရွှေဒေါင်းတွန်သို့၊ လုံ့ချွန်မှန်ဖူး၊ လင်းရောင်မြူးသည်၊ စည်ရှူးထွန်းချက်ဟန်တကား။

(၂) စက်ဝန်းပတ်ခွေ၊ ကျွန်းလုံးမွှေမျှ၊ ဥဒေခေါ်မှန်း၊ ဗွေယွန်းများမြောင်၊ ကုဋ္ဌေထောင်ထိ၊ မြင့်တောင်ထိပ်မှာ၊ ဝေယန္တာနှင့်၊ ပမာတမျှ၊ တူမောလှရှင့်၊ ပါဒနက်သန်၊ ဗိတာန်ညောင်ရွက်၊ ကွမ်းချက်တောင်တဲ၊ အောင်ဆွဲလူလူ၊ ချူလည်းသွင်သွင်၊ ကြယ်လပြင်တီ၊ ပျံဝင်ကိုးပါး၊ မျက်စုံနားလျက်၊ ချူးသားပြောက်နွယ်၊ ဆန်းကြယ်ပေါ်ထုတ်၊ ဖွေနတ်ညွှတ်ညောင်း၊ စုံပေါင်းများဖျင်၊ လည်တင်ရင်ဘက်၊ စိန်ရွက်ငုံချွန်း၊ ပန်းလည်းချိန်သင့်၊ ဆိုင်၍ပွင့်သို့၊ ဝတ်ရင့်ချိုပျား၊ ယူစားကျေးငှက်၊

တောင်ယှက်စာပြန်၊ ခွံ့ဝယ်ဟန်လည်း၊ သဏ္ဌာန်မခြား၊ ထွေထွေများကို၊ သိကြားဘုံမှာ၊ သာကြပါလိမ့်၊ ဘယ်မှာခွဲခြမ်း၊ ရေနှိုင်စွမ်းချိမ့်၊ မှောင်ထွန်းညဥ့်တွင်း၊ မီးသို့ဝင်းသည်၊ လှျံလင်းမချွတ်ဟန်တကား။

(၃) ဘက်ကျွန်းလွတ်ထွေ၊ ဇမ္ဗူမြေဦး၊ မင်းနေဘုံသာ၊ လောကနာ၏၊ ရတနာစုံ၊ ရောင်ဟုံလျှံမြေ့၊ ကွေ့ကွေ့လက်လိမ်၊ မွမ်းထိမ်လက်တန်၊ ငုံဟန်စိကား၊ ဆတ်သွားရိုးစိုင်၊ မြင့်ဆိုင်ပလ္လင်၊ ဥက္ကသံလုံး၊ ကုံးသို့အဟန်၊ မျက်ပျံချယ်ပြီး၊ စံထီးရောင်ရွှန်း၊ ကြငှန်းဥရူ၊ နှစ်ဆူပြိုင်တောက်၊ ထီးဖြူအောက်ဝယ်၊ ပြိုးပြောက်ပျံ့ထွား၊ ဝေပူဖွားဝယ်၊ အုန်းတားလက်တင်၊ မျက်ရှင်မြနှစ်၊ နားရစ်ခြည်သန်း၊ ခါးပန်းသွယ်မျှောင်၊ စိန်ကြောင် မျက်မြတ်၊ နဝရတ်တီ၊ ရုပ်ဓာတ်ဆင့်ပွား၊ မိုးသားပဖျန့်၊ စမြုံကြာပြန့်၊ ရွှေသလွန်ထက်၊ မိုးစွန်တိမ်သွင်၊ ဓာဘရင်ကို၊ ပုံပြင်လွမ်းထား၊ အုန်းသားရွှေပြောက်၊ ခနေဖောက်လျက်၊ ရိုက်ခေါက်သံတောင်း၊ အနီမောင်းသည်၊ ညောင်စောင်းနတ်စက်ဟန်တကား။

ဟူ၍ ကဗျာသုံးပိုဒ်စီလျက် နန်းတော်ကိုချီးမွမ်းတော်မူသည်။

ဤသို့လျှင် တောင်ငူဘုရင်က နောင်တော်ဟံသာဝတီ ဘုရင့်သမီးတော် ခင်မနှောင်းကို လက်ဆောင်ဆက်သလိုက်သဖြင့် တောင်ငူမင်းက ငါတို့ဘုရင်မင်းရာဇာကို တူတော်ဟုခေါ်တော်မူသည်။ ငါတို့ဘုရင်မင်းရာဇာကလည်း တောင်ငူဘုရင်ကို ဦးရီးတော်ဟုခေါ်တော်မူ၍ မပြတ် မင်းစေတမန်လွှတ်၍ သင့်မြတ်ချစ်ကြည်စွာရှိကြလေသည်။

တရံရောအခါ ခရီးတွင်နေ သူပြေးလူပုန်းတို့သည် ဖျက်ဆီးလုယက်ပြုလေသည်။ ထိုအကြောင်းကို ငါတို့ဘုရင် မင်းရာဇာကြားတော်မူလေလျှင် လူသုံးရာကျော်ခန့်ကို လက်နက်ကိရိယာနှင့် အလုံအခြုံပြုစေ၍ တောင်ငူဘုရင်သို့စေလိုက်သည်မှာ-

ကေတုမတီနှင့် ဓညဝတီအကြားတွင် လူပြေးသူပုန်တို့ ဖျက်ဆီးလုယက်သော် သံတမန် အစေအပါးမရောက်နိုင်ရှိရသည်။ ကျွန်ုပ်အလုံးအရင်းနှင့် သန်လျင်မြို့တွင် နေစေရသည်ဖြစ်မှ နှစ်ပြည်ထောင် သံတမန်အရောင်းအဝယ်ရောက်ပေါက်လွယ်၍ ရွှေတပြားတည်းကဲ့သို့ ဖြစ်မည်ဟူ၍စေလိုက်လျှင်-

တောင်ငူဘုရင်လည်း ငါတို့ဘုရင် မင်းရာဇာကစေလိုက်သည့်စကားကို နှစ်သက်သည်ဖြစ်၍ တူတော်အလိုရှိရာ အလုံးအရင်းနှင့်သန်လျင်တွင် နေပါစေဟူ၍မှာတော်မူလိုက်သည်။

ငါတို့ဘုရင်မင်းရာဇာလည်း ဘိုးတော်မင်းပါကြီးသား ကုလားအေါ်ကို သင်္ဘောသုံးစင်း၊ လွမ်းကျင်လေ့တရာကျော်၊ လူနှစ်ထောင်ကျော်ခန့်နှင့် သန်လျင်တွင်အနိုင်အလုံနေစေသည်။ အေါ်လည်း သန်လျင်သို့ရောက်လျှင် မြို့ပြ၊ ကျုံး၊ မြောင်းတို့ကိုခိုင်လုံအောင်လုပ်ဆောင်ဖျင်ဆင်ပြီးလျှင် သင်္ဘောသားကုန်သည်များနှင့်မသင့်သင့်အောင် ဖြားယောင်းခေါ်ငင်၍ ရောင်းဝယ်ခြင်းပြုလေသည်။

ငါတို့ဘုရင်သို့၎င်း၊ တောင်ငူဘုရင်သို့၎င်း၊ လက်ဆောင်ပဏ္ဏာ မပြတ်ဆက်သရသည်။ အရှေ့ဘက်မုတ္တမကိုမင်းပြုသော ဗညားဒလနှင့်လည်း အထပ်သင့်အောင် မိတ်ဆွေခင်ပွန်းပြုသည်။ နောက်ဗညားဒလသား ဗညားနွယ်နှင့် အေါ်သမီးကိုပေးမြား၍ သမီးခမက်ဖြစ်ကြသည်။

သက္ကရာဇ် ၉၆၅ ခုတွင် သန်လျင်၌နေစေသောအေါ်သည် မုတ္တမမင်း ဗညားဒလကို အမှီပြုရလျှင် ငါတို့ဘုရင်ကိုလည်း မကျိုးနွံ၊ တောင်ငူဘုရင်ကိုလည်း မကျိုးနွံ၊ လက်ဆောင်ပဏ္ဏာမဆက်၊ အနိုင်နေလေသည်။ ငါတို့ရခိုင်ပြည်မှ တောင်ငူသို့ တောင်ငူမှ ငါတို့ရခိုင်ပြည်သို့ အစေအပါ အရောင်းအဝယ်လူများကို ချုပ်ထားလေ၏။

ယင်းသို့အကြောင်းကို ပြည်ထောင်မင်းနှစ်ပါးတို့ သိတော်မူလေလျှင် တောင်ငူဘုရင်က သားတော်အိမ်ရှေ့မင်းစသော စစ်သည်သူရဲငါးသောင်း၊ ငါတို့ဘုရင်မင်းရာဇာက သားတော် အိမ်ရှေ့မင်း မင်းခမောင်းကို ကတ္တူလှေမ်းကျင် တိုက်လှေကြီး တရာ၊ တံစွက်လှေငယ်တရာကျော်ခန့်နှင့် သန်လျင်သို့ ချီစေသည်။

အောင်ဒါလည်း ပြည်ထောင်မင်းနှစ်ပါးချီလာလျှင် ခံနိုင်မည်မဟုတ်၊ အကြံရှိလျှင် ကတ္တူလှေမ်းကျင်သင်္ဘောတွင် ပြောင်းသေနတ်အပြည့်စီစဉ်၍ သင်္ဘောမှာ စားနပ်ရိက္ခာအပြည့်အစုံနှင့် ထွက်ပြေးမည်ဟု ထွက်လေရာ ငါတို့အိမ် ရှေ့မင်းသားတပ်နှင့်တွေ့၍ တိုက်ကြလေသော် အိမ်ရှေ့မင်း၏လှေသည် သင်္ဘောကို အားမတန်၍ ကွဲပေါက်ပျက်စီးချေ၍ အိမ်ရှေ့မင်းကို အောင်ဒါတို့ရလေသည်။

ငါတို့ဘုရင်မင်းရာဇာလည်း ပြေးလာသူတို့ လျှောက်ထားလေလျှင် အလုံးအရင်းနှင့် ကိုယ်တိုင်ချီလာ၍ တောင်ငူ အိမ်ရှေ့မင်းနှင့်အတူ သန်လျင်ကိုလုပ်ကြသော်လည်း မရနိုင်ရှိလေရာ မင်းနှစ်ပါးတိုင်ပင်၍ အိမ်ရှေ့မင်းကို တောင်းလေသော် သန်လျင်စား အောင်ဒါလည်း မလေးမစား ငါတို့ ကျွန်ဟူ၍မဆိုနှင့်၊ ပြည်ထောင်ချင်းမင်းဟူ၍ ဆိုမှ ပေးမည်ဆိုလေလျှင် မင်းနှစ်ပါးလည်းတိုင်ပင်လျက် အောင်ဒါအလိုသို့လိုက်၍ အရေးပြီးငြိမ်းလျှင် နောက်နောင် သန်လျင်မြို့ကို မလုပ်မကြံပြီ ကတိကဝတ်ထားလျက် မင်းနှစ်ပါးပြန်သွား လာရောက်ကြလေသည်။ ဤသည်ကား မှန်နန်းရာဇဝင်အလိုတည်း။

ဆရာမေည်ရာဇဝင်၌ကား အိမ်ရှေ့မင်း မင်းခမောင်းသည် သရေခေတ္တရာ ပြည်ဆံတော်စေတီကို အဖူးအမြော်သွား၍ ဖူးမြော်နေခိုက်မင်းရာဇာ၏ ကျွန်တော်ဖြစ်သော ဘရင်ဂျီစီကာငယ် လာရောက်ဖမ်းယူလေသည်ကိုကြား၍ ချီတော်မူမည်ကြံရာ ရှစ်သောင်းဘုန်းတော်ကြီး အဂ္ဂသိဒ္ဓေယျက တောင်သူဒါးမ၊ ရေဝယ်ကျ၊ ရှာ၍မရ၊ 'မို' ကိုးလဟူ၍ သိုက်နိဒါန်းရှိပါသည်။ ကိုးလလွန်လျှင် ပြန်ရောက်မည့်အကြောင်းနှင့် လျှောက်ထားဟန်ဆိုသည်။

ဓညဝတီအရေးတော်ပုံ၌ ပညာဝံသအမတ်က ကျောက်သလင်း ဖြူဆွဆွ၊ ရေတွင်ကျ၊ ရှာ၍မရ၊ 'မို' ကိုးလ၊ ဟူ၍ တြင်းသံရှိသောကြောင့် ကိုးလလွန်လျှင် ပြန်ရောက်ပါမည် လျှောက်ကြောင်းဆိုနှင့်သည်။

အောင်ဒါကိုလည်း ပဲခူးကအပြန် ၉၆၃ ခုနှစ်ကပင် သန်လျင်တွင်ထားခဲ့ကြောင်းနှင့် ဆိုသည်။ ထိုအောင်ဒါလည်း မင်းပါကြီးသားဖြစ်ကြောင်းနှင့်ဆိုသည်။ အောက်၌ မင်းဖလောင်းလက်ထက် အောင်ဒါသည် သံတွဲစားနှင့်ပင်း၍ တောင်ငူဘုရင် မင်းတရားရွှေထီးထံ ရောက်ကြောင်းနှင့် ဆိုသော မိမိစကားနှင့်ပင် မညီလေ၊ ပညာရှိတို့ သတိထားတော်မူပါလေ။ မှန်နန်းရာဇဝင်မှာ အောင်ဒါကို ဘရင်ဂျီကုလားဖြစ်ကြောင်းမျှသာ ဆိုသည်၊ အခြေအမြစ် မပါလေ။

သက္ကရာဇ် ၉၆၆ ခုရောက်လတ်သော် ကြွေထဲတပ် တလိုင်းတထောင်ထွက်ပြေး၍ တောင်ခွင်စား ဆီးကြိုဖမ်းမိရကြောင်းနှင့် မင်းထံလျှောက်လေရာ ဘိုးတော်မင်းပါကြီး ကုသိုလ်ဆံတော်၊ အံတော်၊ နံတော်၊ ဘုရားသုံးဆူမှာထပ်၍ ကျောက်စာထိုးပြီးလျှင် လှူတော်မူသည်။ ဘိုးတော်လှူခဲ့သော ကုလားလေးထောင်ကိုလည်း နောက်ထပ် လှူတော်မူသည်။ တလိုင်းတထောင်ဘုရားအသည်၊ သံချိုတို့ စားရန်မြေများကိုလည်း ကြိမ်သလီ၊ မီးကျောင်းရဲ၊ သလူ၊ ကမျစ်၊ မော်တင်ထိ လယ်ချည်းနှစ်သောင်း ဝတ်မြေထပ်၍လှူတော်မူပြန်သည်။

သက္ကရာဇ် ၉၆၇ ခုရောက်သောအခါ သားတော်အိမ်ရှေ့မင်း မင်းခမောင်း ဘေးတော်ကုသိုလ် ဆံတော်၊ အံတော်၊ နံတော်ဘုရားသုံးဆူကို အဖူးအမြော်သွားလိုကြောင်းနှင့် ခမည်းတော်အားလျှောက်လေရာ ခွင့်ပေးတော်မူလေ၍ သံတွဲသို့သွားလေသည်။ သံတွဲမြို့သို့ရောက်သောကာလ ဘုရားသံချိုတလိုင်းခေါင်းတော်ကျွန်၊

ကုလားခေါင်း၊ အင်ရွာ၊ မတူလာ၊ နောပ်၊ ကဒ်ါ၊ ထိုင်းယောက်က ခမည်းတော်လည်း ကြီးရင့်ပြီဖြစ်၍ သားတော်သမီးတော်လည်း အများရှိသည်။ နောင်သောအခါ နန်းလုပွဲဖြစ်ရာသည်။ ခမည်းတော် ထင်ရှားရှိစဉ် ထီးနန်းတက်၍ ခမည်းတော်ကို သက်နှင်းနှင့်ထားရလျှင် သံသရာပစ္စုပ္ပန်အကျိုး နှစ်ပါးပင်လှသည်ဖြစ်ပါမည်။ လှည့်ဖြား၍လျှောက်လေသော် အိမ်ရှေ့မင်း မင်းခမောင်းမှောက်မှား၍ ခမည်းတော်ကို နန်းချမည်အကြံနှင့် သင်းပင်းစည်းကြပ်၍ ဘုရားသံချီ ငါးထောင်ကို သူရဲအစွဲဖွဲ့လေ၍ တပ်ဦးထားသဖြင့် ချီလာခဲ့သော် ထိုအကြောင်းကို ခမည်းတော်ကြားသိသဖြင့် ကြည်းရေအပြည့် သူရဲလက်နက်ကိုင် အသင့်ထားပြီးမှ ငါးဖင်ရိုင်းကျွန်းဘားမြို့က ဆီးဆို့တိုက်ခံဖမ်းဆီးလေရာ သားတော်အိမ်ရှေ့မင်း မင်းခမောင်းကိုဖမ်းမိရလေသည်။ သံချီအကြီးခေါင်း လူပေါင်းသုံးထောင်တို့သော်ကား သက္ကရာဇ် ၉၆၇ ခုတွင် အရှေ့ပြည်သို့ သားမယားကိုဆောင်ယူ၍ သင်္ဘောချောင်းဖျားက ထွက်ပြေးလေသည်။ ကျန်ကုလားငါးရာ၊ တလိုင်းငါးရာတို့မှာ အလှည့်နှင့်သာ စောင့်နေစေ၊ သင်းတို့ကို သံတွဲမှာ မနေစေနှင့်၊ သိမ်းခေါ်ပြီးလျှင် ရတနာပုံဘုရားမှာ ငါးရာ၊ မဟာမုနိဘုရားမှာ ငါးရာထပ်၍ လှူတော်မူလေသည်။

ဤအရာတွင် ဥဂ္ဂါပုံအမတ်ကြီးကို လက်ဖြတ်၍ မဟာမုနိဘုရားမှာ လှူတော်မူကြောင်းနှင့် ဓညဝတီအရေးတော်ပုံ၌ဆိုသောစကားသည် ပြလတ္တံ့သော ရာဇဝင်တို့နှင့် မညီထင်၍ ချန်ခဲ့သည်။

သားတော်ကို အပြစ်ပေးမည်ရှိလေရာ အမတ်ပညာဝံသလျှောက်ထားသည်မှာ- - -အရှင်မင်းမြတ်၊ ရှေးသောအခါ ဘုရားလောင်းဆင်မင်းသည် အရံတထောင်သော ဆင်တို့နှင့် သစ္စာပြုလျက်နေတော်မူသည်။ အဂေါလဟတ္ထိဆင်လည်း ဆင်ပေါက်တထောင်နှင့် နေလေသည်။ ထိုအခါ ဘုရားလောင်းဆင်မင်းတွင် အမိန္ဒကဟူသော ညီတော်ရှိသည်။ အဂေါလဆင်က လှည့်ပတ်လျက် အရွယ်ကောင်းစွာ သန်မာသောကာလ၌ မင်းမူရမှသာ ကျေးဇူးထွန်းရန်ရှိနိုင်မည်။ ဒိုသောအခါ ပဇာအကျိုးရှိအံ့နည်း။ နောင်တော်ဆင်မင်းကို ပြစ်မှားစေမှု ဆိုလေသော် ညီတော် အမိန္ဒကလည်း အဂေါလပေးသော ဆင်ရံငါးရာကို သင်းပြုလျက်ချီလာသော် ဆင်မင်းက သင်းပင်းဆင်တို့အား ငြိမ်စွာနေစေ၍ စီးချင်းထွက်ခံတိုက်သောအခါ ငါးရာသောဆင်တို့ မခံနိုင်ခြင်းကြောင့် ထွက်ပြေးရှောင်ရှားကြလေသော် ညီတော်ကိုရလေသည်။ အကြံပေးသောသူ အဂေါလဆင်မင်းလည်း ကြောက်လန့်၍ နေရာလွှဲပြောင်းပြေးလေလျှင် အဂေါလဆင် သင်းပင်းတဝက် ဘုရားလောင်းဆင်မင်းထံရောက်လာသည်တွင် ထိုတောင်ကို မှီတင်းပြုလျက်နေသော ဆင်တို့သည် ကြောက်လန့်၍ ဝင်ရောက်လာကြပြန်သည်။

ထိုအခါ ညီတော်အား ဆင်မင်းမိန့်တော်မူသည်ကား ငြိမ်စွာနေသောကာလ ငါ့ဘုန်းလက်ရုံးကို အများဆင်တို့မသိ၍ မကြောက်မလန့်။ ငါ့ညီတော် အမိန္ဒက နောင်တော်ခွန်အားဗလကြီးကျယ်ကြောင်း အများသိအောင်ပြုသည်တွင်မှ ဆင်အပေါင်းတို့ ဝင်ရောက်သည်မှာ ညီတော်အမိန္ဒက ကျေးဇူးပင်ဖြစ်သည်။ ညီတော်အား ဆင်မင်းချီးမွမ်းကြောင်း ထုံးဟောင်းရှိပါသည်။

ယခုလည်း သားတော်အိမ်ရှေ့မင်းသည် အယုဇ္ဈပူရ တိုင်းဒွါရာဝတီမြို့က သူရဲလက်နက် ဆင်လုံးမြင်းရုံနှင့်ချီလာခဲ့၍ ခမည်းတော်ဘုရား ဘုန်းလက်ရုံးကို ထင်ရှားစွာပြသည့်အမှုမှာ ပြည်ထောင်မင်းတို့တိုး၍ ကြောက်လန့်စေရာသောအကြောင်းသာ ဖြစ်ပါသည်ဟူ၍ လျှောက်လေသော် ပြည့်ရှင်မင်းကြီး အမိန့်တော်ရှိပြန်သည်ကား- - -ပဲခိုးမင်း ရာဇာဓိရာဇ်သည် သားတော်မောလောကြမ်းတောသည် အဘအဘားပြစ်မှားမှုလည်း မရှိသေးစဉ်လျက် ဆင်အစွယ်ကို ချွန်သည့်အမှုနှင့် စီရင်ကြောင်း

ထုံးဟောင်းသက်သေနှင့် ထင်ရှားထွက်ရှိသည် မိန့်တော်မူလေသော်-

အမတ်ကြီး လျှောက်ပြန်သည်ကား--- မြင့်မြတ်သောတရားကိုသာ အနွယ်တော်မင်းဆက် စောင့်ထိန်းတော်မူပါသည်။ လက်ရုံးအားကိုပြုသော မင်းများကို ဘုရား စသောသူတော်ကောင်းတို့ ကြိုက်တော်မမူပါ။ ကမ္ဘာအစ၊ မဟာသမ္မတ၊ ဝံသစဥ်လာ သာကီယ အနွယ်ဝင်မင်းတို့ အမျိုးစောင့်သောတရားကို ဖျက်ခြမဟုတ်ပါ။ သာကီဝင်မင်းဖြစ်လျက် သာကီဝင်မင်းမျိုး မဟုတ်သော မိန်းမနှင့်စုံဖက်လေရာ ဖွားမြင်သော သားသမီး သော်၎င်း၊ သာကီဝင်မင်းသမီးနှင့် ယောကျ်ားတပါး စုံဖက်လေရာ ဖွားမြင်သောသားသမီးသော်၎င်း၊ လက်ရုံးအားကို မင်းမျိုးခြား မင်းမူသော်၎င်း တရားမစောင့်၊ မဖြောင့်မမှန်၊ ဖောက်ပြန် ဆိုးသွမ်းတတ်ကြောင်း ထုံးဟောင်းကျမ်းဂန် ရှိပါသည်။ မုတ္တမမြို့ကိုသမုတ်၍ အစတည်လာသူ မကာတူးလည်း ဖင်္ဂလမျိုး၊ ထိုသူကိုအကြောင်းပြုလျက် ပဲခိုးမင်း ရာဇာဓိရာဇ်တိုင်အောင် ဆိုခဲ့သော ထုံးရာဇဝင်တို့သည် ဘုရားစသော သူတော်ကောင်းတို့ ချီးမွမ်းဖွယ်ရာ မပါ။ ရာဇာဓိရာဇ်ကဲ့သို့ အဘိဓ္ဈာဗျာပါဒလွန်ကျူး၍ သူတထူးကို တိုက်ခိုက်ဖျက်ဆီး သတ်ဖြတ်သော မင်းသူညတို့သည် ကိုယ့်အသက်စည်းစိမ်ကိုသာစုံမက်၍ သူတပါးအား သနားခြင်းကင်းလျက် ရက်ရောစွာ ပြုကျင့်လေသော ထုံးဆိုးသာ ဖြစ်ပါသည်။ ယင်းသို့ ထုံးကောင်းမဟုတ်၊ထုံး ဆိုးထုံးသွမ်းသည် သာသနာတော်မှ အပ ဖြစ်သော မင်းသူညတို့၏ထုံးသာဖြစ်၍ မင်းကောင်းမင်းမွန်တို့ မလိုက်အပ်ပါကြောင်းနှင့် အမတ်ပညာဝံသလျှောက်လေရာ အမျက်ပြေ၍ သားတော်ကို အမတ်ကြီးသို့ အပ်တော်မူလေသည်။

တရံရောအခါ မြောက်ဦးရွှေမြို့တော်၏ အနောက်ဘက်အဘို့ဖြစ်သော ရွှေဆည်ဝ၏ကမ်းထိပ်အနီး ရေပြင်ဝယ် မြတ်စွာဘုရား၏ရုပ်တုတော်သည် အလိုလိုပေါ်လတ်သည်ဟု ကျော်စောလေလျှင် ဘဝရှင်မင်းရာဇာသည် ဆန်းကြယ်စွာသော ပွဲလမ်းသဘင်ကို စီရင်တော်မူလျက် မှူးတော်၊ မတ်တော်တို့နှင့်တကွ သိန်းသန်းမကသော ဗိုလ်ပါတို့ စုရုံးညီညွတ် ဆွဲငင်ပင့်ဖိတ်အပ်သော်လည်း ရုပ်တုတော်သည် ရေပေါ်ကမကြွမတက်ရှိလေသော် ဘုရင်မင်းရာဇာသည် များစွာသော ပန်းပေါက်ပေါက်တို့ဖြင့် ကြဲမြှောက်ပူဇော်၍ ဤသို့သစ္စာဓိဋ္ဌာန်ပြုတော်မူ၏။ ငါသည် မြတ်စွာဘုရားရုပ်တုတော်အား ပူဇော်ထိုက်သည် ဖြစ်အံ့၊ သိကြားနတ်မင်းသည် ကူညီထောက်ပံ့လာစေသတည်းဟု ဓိဋ္ဌာန်တော်မူ၏။

ထိုသို့ ဓိဋ္ဌာန်ပြုသောခဏဝယ် အာကာသကောင်းကင်မှ ပဥ္စင်တူရိယာ၊ သာယာချေင်း၊ တီးမှုတ်သံတို့ဖြင့် စီမံခင်းကျင်းလျက် သိကြားမင်းကူညီလာမှ မြတ်စွာဘုရားရုပ်တုတော်သည် ကမ်းပေါ်သို့ရောက်တော်မူလေသည်။ ကမ်းပေါ်သို့ရောက်တော်မူလေလျှင် ဘုရင်မင်းရာဇာနှင့်တကွ တိုင်းသားပြည်သူအပေါင်းတို့သည် သောင်းသောင်းနမော် သာဓုခေါ်၍ ပူဇော်လျှုဒါန်းကြလေသည်။

ဘုရင်မင်းရာဇာလည်း ရုပ်တုတော် အရှင်မြတ်အား ရွှေဆည်ဝကမ်း မြောက်ဘက်နားဝယ် ကြီးမားလျောက်ပတ်စွာ မဟာရံတံတိုင်းနှင့်တကွ သိမ်ကျောင်းတော် ဆောက်လုပ်တော်မူ၍ ဆွမ်း၊ ပန်း၊ ဆီမီး၊ ထီး၊ တံခွန်၊ ကုက္ကား၊ မုလေးပွား ကြက်လျှာ စုံလင်စွာတို့ဖြင့် ပူဇာဝိသေသပြုတော်မူပြီးလျှင် သင်္ချိုလယ်မြေ ဥယျာဉ် ပန်းမန် အရံစောင့်များကိုချထားပေး လှူတော်မူလေသည်။ ထိုရုပ်တုတော် အရှင်ဘုရားကို ရေထဲမှပေါ်တော်မူလာသောကြောင့် ဘုရားပေါ်ဟု ယခုတိုင်အောင် ခေါ်ကြလေသည်။ ထိုရုပ်တုတော်ဘုရားပေါ်အရှင်မြတ်သည် မင်းရာဇာကြီးလက်ထက် သက္ကရာဇ် ၉၆၇ခု အတွင်း ပေါ်ထွန်းတော်မူသည်ဟု ယူသင့်သည်။

ဘုရင်မင်းရာဇာသည် မြောက်ဦးမြို့ အရှေ့ဘက်

ဆင်ကျုံးအရပ်ဝယ် ခေတ်မွေတော်တို့၏ ကိန်းဝပ်တော်မူရာ စေတီအိမ်နှင့်တကွ ကိုးဆောင်းသော ရုပ်တုတော်ဆင်းတုတော်တို့ကို ကောင်းမွန်သန့်ရှင်းကြယ်စွာပြုပြင်စီမံ၍ တံတိုင်းမီးတားနှင့်တကွ တည်ထားပြုစုတော်မူ၍ ရဟန်းသံဃာတို့၏နေတော်မူရန် ရွှေငွေရတနာတို့ဖြင့် ခြယ်လှယ်မွမ်းမံလျက် ဇေတဝန်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းတော်မူသည်။ ဥယျာဉ်ရေကန် ပန်းမန်စုံစွာမွေ့လျော်ရာတို့ကို များစွာပြုစုလှူဒါန်းတော်မူလေသည်။

ထိုမှတပါး မြတ်စွာဘုရားကြွလာတော်မူစဉ်အခါ ရုပ်တန့်တော်မူခဲ့သော သေလာဂိရိတောင်၌ ကျောက်တော်စေတီနှင့်တကွ လေးဆဲ့ခုနစ်ဆူသော စေတီတော်တို့ကိုလည်း ထပ်မံပြုပြင်၍ တည်တော်မူလေသည်။

စရပ်တန်ဆောင်း ကျောင်းကန် သိမ် ပုထိုး ဥယျာဉ် လယ်မြေအထွေထွေတို့ကိုလည်း ခွဲဝေပိုင်းခြား၍ တည်ထား လှူဒါန်းတော်မူသည်။

ဂါမဝါသီ၊ အရညဝါသီ ရဟန်းသံဃာတော် အရှင်မြတ်တို့အား ပစ္စည်းလေးပါး တို့ဖြင့်မပြတ်လှူဒါန်းအပ်သည်ဖြစ်၍ ရဟန်းသံဃာတော်တို့သည် ပရိယတ်၊ ပဋိပတ်တရားကို ကြိုးစားအားထုတ် ဖြည့်ကျင့်တော်မူရသဖြင့် သာသနာတော်သည် အလွန်တောက်ပ ထွန်းလင်းတော်မူ၏။

ယင်းသို့ သာသနာတော် စည်ပင်ထွန်းလင်းတော်မူကြောင်း သတင်းစကားကို လင်္ကာဒီပသီဟိုဠ်ကျွန်းကို အစိုးရသော ဝိမလဓမ္မသူရိယမင်းကြီးလေလျှင်များစွာသော လက်ဆောင်ပဏ္ဏာတို့ကိုစီရင်၍ သာမဏေကြီးတပါး နောက်လိုက်နောက်ပါ အခြံအရံတို့ကို သင်္ဘောကြီးတစင်းနှင့် စေလွှတ်လိုက်ရာ ဆက်စာ၍ပါလာသည်မှာ-

သီဟိုဠ်ကျွန်း၌ သာသနာတော် ညစ်နွမ်းပျက်စီး၍ သာမဏေကြီးတို့သာ ပေါများနေပါသည်။ အဆွေတော်မင်းမြတ်က ဆရာတော်သံဃာတော်များကို လျှောက်ထားတောင်းပန်၍ သာသနာပြုစေလွှတ်တော်မူစေချင်ပါကြောင်း ပါလေသည်။

ယင်းသို့ ပါလာသည်ကို မင်းရာဇာကြီးကြားတော်မူလေလျှင် မှူးမတ်အပေါင်းတို့နှင့်တိုင်ပင်၍ မြောက်တန်ဆောင်းဆရာတော် စန္ဒဝိလာသအား လျှောက်ထားတောင်းပန်၍ အရံသံဃာနှစ်ဆယ်နှင့်တကွ သက္ကရာဇ် ၉၆၈ ခု၊ တန်းဆောင်မုန်းလ သင်္ဘောနှင့်ကြွတော်မူလျက် သီဟိုဠ်ကျွန်းသို့ရောက်တော်မူလျှင် မောင်ရှင်သာမဏေ စသောသူတို့အား ရဟန်းပဉ္စင်းခံစေတော်မူသဖြင့် သာသနာတော်ကိုတည်စေပြီးမှ ပြန်ကြွရောက်တော်မူလာသည်။

ဘုရင်မင်းရာဇာသည် ဘေးတော်ဒသရာဇာမင်းဆောက်လုပ်တော်မူခဲ့သော မဟာမုနိသိမ်တော်ကို အသစ်ထပ်မံ၍ ကောင်းမွန်စွာဆောက်လုပ်တော်မူလျက် နိုင်ငံတော်အတွင်းရှိ ရဟန်းသံဃာတော်တို့ကို ပင့်ဖိတ်တော်မူ၍ ပဉ္စင်းတသောင်းခံတော်မူသည်။ အဉ္စနနဒီမြစ်နားတွင် ကြီးကျယ်စွာသော စရပ် ပြာသာဒ် တန်ဆောင်းတို့ကို ကောင်းစွာဆောက်လုပ် ပြုပြင်စီရင်ဖန်ဆင်းစေလျက် ကမ်းရံနှစ်ဖက်တို့၌ အထူးထူးသော အရုပ်အထပ်၊ ကခြင်း၊ သီခြင်း၊ တီးမှုတ်ခြင်းတို့ကိုပြုလုပ်စေလျက် မှူးကြီးမတ်ကြီးအစရှိသော မြို့စားရွာစားတို့အား သားမယားတို့နှင့်တကွ အထူးထူးသော အဝတ်တန်ဆာတို့ကိုဝတ်ဆင်၍ အသီးသီးနေစေ၏။

ဘုရင်မင်းရာဇာသည် မိဘုရားမောင်းမမိဿံ၊ မင်းသား မင်းသမီးတို့အားလည်း အထူးထူးသော အဝတ်တန်ဆာတို့ကို ဆင်ယင်လျက် ခြံရံ၍နေကြစေပြီးသော် ဆရာတော်၊ သံဃာတော်အပေါင်းတို့ကို ပင့်ဖိတ်တော်မူစေ၍ သက္ကရာဇ် ၉၆၉ ခုနှစ်၊ တပို့တွဲလဆန်း ၂ ရက်၊ ဗုဒ္ဓဟူးနေ့တွင် ဆွမ်းစသောအလှူကြီးကို ပေးလှူတော်မူသည်။

ထို့နောက် နှစ်နှစ်ခန့်နီးအခါ အရှေ့ပြည်အင်းဝဘုရင်အနောက်ဘက်လွန်မင်းတရားက လက်ဆောင်

ပဏ္ဍာကာရတို့ဖြင့် မေတ္တာဆက်ပေါင်းဖက်လိုပါကြောင်း နှင့် တမန်စေလွှတ်ရောက်လတ်သော် ငါတို့မင်းရာဇာကလည်း အမတ်ကြီးဥဂ္ဂါပျံကို ရာဇသကြံနှံအမည်ဖြင့် သံတမန်အဖြစ်ခန့်လျက် သက္ကရာဇ် ၉၇၁ ခု၊ နတ်တော်လဆန်း ၅ရက်၊ အင်္ဂါနေ့သံဖက်၍ ထည့်တော်မူလိုက်သည်။ အင်းဝသို့ရောက်လျှင် မြန်မာမှူးမတ်တို့နှင့် နီးနှော တိုင်ပင်ပြောဆိုပြီးနောက် အတန်ကြာလျှင် မြန်မာအမတ်တို့က ဥဂ္ဂါပျံအမတ်၏သတ္တိဗလကို သိကြလိုသောကြောင့် ရတုနှစ်ပိုဒ်ကို ထောင်သင်းမှူးအမတ်ရေးသားလျက် အဖြည့်ခံလေသည်။ ရတုနှစ်ပိုဒ်မှာ---

(၁) မမျှသောင်းထောင်၊ နန်းညာတောင်ဝယ်၊ အခေါင်စံထား၊ နတ်မင်းသား လျှင်၊ နောင်ဖွားကြင်ဖော်၊ မျှောက်သားတော်ကြောင့်၊ မူးမော်သေပြတ်၊ ဖိုမလွတ်သို့၊ မချွတ်ကေန်၊ နောင်မှာဟန်ကား၊ ဖြည့်သွန်လေညင်း၊ စိမ့်စိမ့်ချင်းလျက်၊ အင်ကြင်းဝါးနွယ်၊ အလှယ်လှယ်ကို၊ စံပယ်ပျော်ပါး၊ ရှေ့ဝယ်ထား၍၊ ဦးနားထိပ်ပြင်၊ ပန်ဆင်မတတ်၊ လေးမြတ်ယုယ၊ ပေးချင်လှ၏၊ ဆယ်ဆရွှေထက်၊ ပြစ်မစက်သည်၊ ဖြူညက်ထွတ်လောပြာလတ်လော။

(၂) မလှတောင်းအောင်၊ ခန်းသာချောင်ဝယ်၊ မြူမှောင်မသန်း၊ ခြည်မတန်းတည့်၊ လဝန်းတန်ဆောင်၊ နေမပြောင်တည့်၊ ကိုယ်ရောင်လျှံလည်၊ ထွန်းတောသည် ဟု၊ မွေးကြည်ပျံ့ရှား၊ ကျွန်ုပ်နားဝယ်၊ စကားကိုသာ၊ မူးမော်ရာမျှ၊ ကြံကာတွေးတော၊ သီချင်မောစွ၊ သဘောဆက်ဆက်၊ မေးကာမြွက်သည်၊ ဖြူညက်ထွတ်လော ပြာလတ်လော။

ဤရတုနှစ်ပိုဒ်ရေး၍ အဖြည့်ခံထားသည်ကို ဥဂ္ဂါပျံအမတ်ကြီး ဖြည့်ဆိုအပ်သော ရတုတပိုဒ်ကား--

(၃) မရကြောင်းဆောင်၊ ပန်းရှာအောင်လည်း၊ နောင်မှူးကြံထွေ၊ စိတ်သာဝေမျှ၊ မြောက်သေနှံစွန်၊ သရက္ခန်မွေး၊ လေသွေးပျံ့ကြူ၊ မဥ္ဇူနံ့ရှင်း၊ ဖြည့်လေသွင်းက၊ အင်ကြင်းသနွေ၊ သံသေဒ၏၊ ဂန္ဓလည်းဟူ၊ လူဟုဆိုရေး၊ ဝေးကြီးဝေးခဲ့၊ မာန်သွေးရာဂီ၊ ဣရန္တီနတ်၊ ဥပပတ်လျှင်၊ ဟုတ်မောထင်၏၊ စုံအင်စုံဖက်၊ ချစ်ဘွဲ့သက်သည်၊ ဖြူညက်ထွတ်လော ညာဝတ်လော။

ဟူ၍ဖြည့်ဆိုလေသည်။ ထို့နောက်လည်း အမတ်ကြီး ဥဂ္ဂါပျံသည် ရတုပိုဒ်စုံပေါင်း ၅ ပိုဒ်ကိုလည်း ရေးသားလသည်။ စပ်ဆိုရေးသားသော ရတုများကား-

(၁) မယ်ဖွဲ့ပိုဒ်စုံ

(၁) ချိန့်ဆတွက်သည်၊ နစ်ဝက်အပ၊ လလည်း ကျူးထွေ၊ နေမိမာန်လည်း၊ ယုဂန်အနား၊ ဆင်လမ်းသွား၍၊ ဖဝါးစထွန်း၊ တည့်မွန်းမထင်၊ ကိုယ်ရိပ်ဝင်က၊ စုံပြင်မြိုင်ကြောင်း၊ ဥဒေါင်းဟသာ၊ ငှက်တကာလည်း၊ မကွာယှဉ်တွဲ၊ သိုက်ဝင်မြဲ၏၊ ဖော်ရှဲကိုယ်ထူး၊ မိန်းမူးမပြေ၊ ပျော်ထွေမသာ၊ နေလှည့်ရာကို၊ နောင်မှာမြဲချေ၊ မယ်ကစေသို့၊ ဆော်ထွေရင့်ကြွေး၊ တချေးချေးသည်၊ ရစ်ထွေးနှုတ်သံ ညင်းသည်လော။

(၂) ထိန်မျှပြက်သည်၊ လျှမ်းစက်ရွှေရည်၊ နတ်ပြည်မဆုံ၊ ဆယ်ရပ်နံ့မျှ၊ လောင်း အုံ့တနန်း၊ မြတိမ်စွန်းက၊ သွန်းသွန်းရစ်ဆင့်၊ ဘုန်းမြောင်တင့်သား၊ ကျူးရင့်သံညောင်း၊ တချောင်းချောင်းလျှင်၊ ရှင်နောင်းလည်း-ရ၊ အလှလွန်ကျူး၊ ရှင်ဦးလည်း-မည်၊ နီးသည်သားချင်း၊ စိုးမင်းနေရာ၊ ဆီကသာလျှင်၊ လှစ်ခွာတိမ်မှုန်၊ မြူးကခုန်သည်၊ ပဒုန်မယ်က ပင်းသည်လော။

(၃) စိန်ကဆက်သည်၊ ဖိုးနဂ်သိန်းခန့်၊ တိမ်နွယ်ညွန့်မျှ၊ ကွေးရွှန့်ချူစား၊ နဂါးဆိုင်မျိုး၊ မီးခိုးတသွယ်၊ အလှယ်လှယ်ကို၊ စိတ်ဝယ်အလျောက်၊ ချုံထပ်လှောက်လည်း၊ လွမ်းအောက်မေ့ထွေ၊ ချမ်းမပြေတည့်၊ ဖျော်ဖြေသက်မျှ၊ သခင်ကလျှင်၊ ကြောင်းစထွေလာ၊ သဝဏ်စာနှင့်၊ စေပါတမန်၊ ရောက်ကောင်းတန်လျက်၊ ပြင်းထန်ရေးကြီး၊ ချောင်းမြောင်းဆီး၍၊ ခရီးလမ်းမှာ၊ ဖင့်နွဲ့ကြာသည်၊ ကျွန်သာမိုးကြောင့်ထင်သည်လော။

(၂) အရိမေတ္တယျဘုရားဖွဲ့ပိုဒ်စုံ

(၁) တသောင်းနေပြောင်း၊ ညီးလျှံဆောင်သား၊ တင့်ခေါင်သွယ်ညွတ်၊ ဂီရိထွဋ်ဝယ်၊ လူနတ်များစွာ၊ ဗြဟ္မာအပေါင်း၊ ဆယ်ချောင်းလက်ဖျား၊ ဦးထိပ်ထား၍၊ ခစားမှီခို၊ တောင်းဆုဆိုက၊ မငြိုလျှင်လှည့်၊ သျှင်ချစ်ဖြည့်လော၊ မိတေညွှး နောင်တော်၊ မြတ်ဘုန်းကျော်။ ။ ကြင်ဖော်သက်ပေး၊ ပျိုငြိမ့်လေးလျှင်၊ ရှည်ဝေးမြင့်ကြာ၊ ဆီးသာဝေမျှ၊ ကြွေပြိုက်ကျလျက်၊ နတ်လကပေ၊ ရင်ရွှေခွာပြောင်း၊ မြစ်ကြောင်းဇရော၊ စုန်ရလာသော်၊ မြင့်ကြာမနေး၊ ရှည်ဝေး မညောင်း၊ ခြိမ့်မောင်းသံပြိုင်၊ ကျူးရင့်ဆိုင်သည်း၊ တော်လည်း ငလျှင်၊ ဆယ်ခွင်ရပ်လုံး၊ မဖုံးခင်မီ၊ ပြန်လည်ချီအောင်၊ ဘုန်းခေါင်ရှင်တိ၊ ဉာဏ်တော် သိလော၊ မုနိရတနာ၊ မြတ်သကျာသည်။ တေဇာလျှံတက် မြူးလှည့်သောဝ်။

(၂) အမောင်းရွှေရောင်၊ တောသုံးထောင်လည်း၊ ကွာရှောင်ရွက်ပြောင်း၊ ဖူးညောင်းသန္တာ၊ စိမ်းပြာညိုလွဲ၊ ချစ်ဖွဲ့အပ၊ ငှက်မျှစုံနှစ်၊ လည်ရစ်ယှက်တင်၊ လူတွင်စတော၊ တူနေရွှင်လန်း၊ ချူခက်နန်းထက်၊ အဆန်းထူးလည်၊ ရင့်ရှုမြည်က၊ မြိုင်စည်တောယံ၊ ငှက်ပေါင်းသံကို၊ တရံမောင်နား၊ ဆွတ်မျှကြားသော်၊ သည်းဖျားလန့်ယောင်၊ လိပ်ပြာရောင်ကြောင့်၊ သန်ခေါင်သန်လျှမ်း၊ လွှမ်းပန်းခွေခွေ၊ အောက်မေ့မတည်၊ ဖြေဆည်မတတ်၊ ကြာနယ်ညွတ်ခဲ့၊ တို့နတ်ဘုန်းခေါင်၊ ရန်မှောင်ပယ်ခွင်၊ ဆဒ္ဒန်ရှင်ကား၊ ကြာ တင်လှဘိ၊ တရိနွာမ၊ ဒွေသတ္တာနှင့် သုညအလယ်၊ ပစ်ပယ် အင္ဂ၊ ဓကေအက္ခရာ၊ ကျမ်းလာဗေဒင်၊ သိမြင်သသူ၊ ကြံ၍ယူလော၊ ဖြိုးထူးများမြောင်၊ ရာထောင်ကုဋေ၊ ရုံမိုလ်တွေလည်း၊ ဘုံရွှေနန်းမြင့်၊ ပြန်ချိန့်ခွင့်ကို၊ လင့်စပကာ၊ တင်းသံနှာ၍၊ ထိုမှာတစု၊ မှာတခုလျှင်၊ ရောရုတိုင်ပင်၊ ဆိပ်ပြင် လမ်းကြောင်း၊ ဝှကျောင်းရှိရာ၊ ထိုင်ကာရေရွတ်၊ တတွတ်တွတ်သည်၊ ရင်ဘတ်သတ်ကာမူးလှည့်သောဝ်။

တရိနွာမ အဓိပ္ပာယ်မှာ- မင်းရာဇာလက်ထက် ၉၇၂ ခုနှစ်တွင်ဟု ဆိုလိုသည်။

(၃) မသောင်းစေအောင်၊ နှုတ်ရွှေစောင်နှင့်၊ ချစ်ယောင်သာဖြား၊ ဆိုသည်များကို၊ နောင်နားကြာတင်၊ စစ်ပွဲခွင်က၊ မရွှင်ပျောင်းရိ၊ မရှိတာတ်ပဲ၊ ဝမ်းကွဲပူဆာ၊ နေလှည့်ရာ၌၊ အာကာလုံးဝယ်၊ မြူနယ်အဆင်း၊ ဝါဝင်းတရစ်၊ ဝင်းလျှပ်ချက်ထင်၊ ပတ်ကုံးဆင်၍၊ သံတင်ရင့်မြည်၊ ရှာလတ်သည်ကား၊ ရွှေပြည်ရပ်သူ၊ ပြာဖြူထွားပျို၊ လဲ့လဲ့ညိုလျှင်၊ နဂိုရ်ခြောက်ထိပ်၊ စိုးမိုးနှိပ်သည်၊ ဘုန်းရိပ် လျှံပြောင်၊ သူဇာမောင်ကို၊ လက်ဆောင်ဆယ်မြွာ၊ ဆယ်စုံ ကြာနှင့်၊ ပန်ထွာကြားချေ၊ နှုတ်ရွှေချိုမြ၊ ဗျာဒိတ်ရ၍၊ ရှာကြသည်လော၊ တွေးတောလှည့်ကာ၊ အောက်မေ့ရှာသော်၊ ဒေဝါမာဃ၊ ဝသဏ္ဍနွာ၊ မေခလာတို့၊ လွမ်းရှာလှောက်ကူ၊ နားပူနားဆာ၊ အာကာဖွေချက်၊ ပြိုအက်ဘာနန်း၊ ခေါ်မှန်းမသိ၊ စိတ်ရှိတိုင်းသာ၊ ထောက်မစာသည်။ ချိန့်ခါကိုမှဲ့ ကျူးလှည့်သောဝ်။

အမတ်ကြီးဥက္ကါပျံသည် ကိုယ်ပြည်သို့ပြည်ခါနီး၌ ရေးသားထားခဲ့သည့်ကေပိုဒ်။

(၁) အထူးအထူး၊ ဥဒါန်းကျူးပိမ့်၊ စန္ဒကူးပင်မွှန်၊ သရက္ခန်ကို၊ မချုန့်လုံးကျွတ်၊ အကုန်ဖြတ်၍၊ ပြမှတ်ဝေပူ၊ မြန်နှင့်တူဟု၊ ကြက်ဆူညွန့်ရှင်၊ ပန်းတိုင်းပင်ကို၊ စီရင်တတ်မှု၊ စောင်ရန်းပြုသို့၊ ချစ်မှုညွတ်ပျောင်း၊ တွန်သံညောင်းလျက်၊ ဥဒေါင်းကြိုးကြာ၊ ရွှေဟင်းသာကို၊ မတာညှည်းဆဲ၊ ကလူမဲ၍၊ စွန်ရဲကျီးနက်၊ ခင်ပုပ်ငှက်ကို၊ နှစ်သက်ရွှင်ပျ၊ မွေးယုယသို့၊ မုန့်ဝရဲခေါင်၊ ဆင်ပြောင်မြေခွေး၊ ပုံသွေးနှိုင်းချိန်၊ ဘုမ္မသိန်=ပြာ၊ အမျှသာဟု၊ ပမာပြုအပ်၊ ထိုအရပ်ကို၊ လျှပ်လျှပ်လျင်စွာ၊ စွန့်အပ်ရာဟု၊ ပညာရှိများ၊ ကျမ်းစကားကို၊ မှတ်သားကြကုန်လူအပုံ။

(၅) ငှင်းအမတ်ကြီး ဥဂ္ဂါပျံရေးသားအပ်သော ရတုကေပိုဒ်

မိုးဖွဲ့၊ မထိဦးပြည်းချ။

(၁) အောက်အာကာ- ဠီ၊ ဝါယော- ထွီ၍၊ လွှိထက်ကား-ရီ၊ ရီထက်မြိနှင့်၊ ပထဝီဟု၊ ထုထုနှစ်သိန်း၊ လေးသောင်းကိန်းထက်၊ ရံထိန်းစကြဝဠာ၊ ညီစွာဝန်းသည်၊ ကျောက်တိတည်သား၊ လှည့်လည်ပတ်ရစ်၊ သမုဒ်မြစ်မှ၊ တက်သစ်ဖိုးမျှ၊ ပဓ္မနှနတ်၊ တန်ခိုးမြတ်ကြောင့်၊ ရဟတ်နှင့်တင်၊ စက်နှင့်ငင်သို့၊ ကောင်းကင်ကသာ၊ နတ်တောအာဖြင့်၊ သီတာရေခဲ၊ လှစ်ခွဲတိမ်ကြား၊ ယန္တရားစက်၊ သန်လျက်လှည့်ဝန်း၊ လည်၍ထွန်းမျှ၊ ရစ်သန်းပြီးပြောင်၊ ဘယက်ရောင်နှင့်၊ စက်ရောင်လျှံတက်၊ တလက်လက်လင်း၊ တဝင်းဝင်းလျှင်၊ အုန်းအင်းထစ်မောင်း၊ ရိုက်ချောင်းပုံတင်၊ ကောင်းကင်အလုံး၊ မည်းမည်းဖုံးမျှ၊ ရွှာလတ်ကလျှင်၊ အလျှကြင်တန့်၊ သည်ရန့်မွှေးမိ၊ မသိပါလေ၊ ရစ်ခွေဖျာပါ၊ မယ်မှာကိုယ်လွမ်း၊ နောင်မှာချမ်းခဲ့၊ ညိုသြမ်းဝါလ၊ မရရိပ်ပွတ်၊ နတ်လည်းမနိုး၊ ရက်ကိုးဆယ်လုံး၊ မကျုံးရာသီ၊ လင့်ကာလီသည်၊ သန်္တိကုန်၍ ပဓ္မနှဝဿကာလ ငံ့ရဦးမည်လော။

ဟူ၍ရေးသားခဲ့လေသည်။ နောင်လာနောက်သားတို့ သိကြားစေခြင်းအကျိုးငှာ အစိုးရတို့ ထုတ်ဝေသော မြန်မာစာညွှန့်ပေါင်းကျမ်းမှ ရေးသားထုတ်ပြလိုက်သည်။

ဤသို့လျှင် မိမိကြားလွယ်ခြင်း၊ သူတပါးကို ကြားလွယ်အောင်ဆိုတတ်ခြင်း၊ အားထုတ်၍မှတ်တတ်ခြင်း၊ အမှတ်မြဲခြင်း၊ အရိပ်အခြည်ကိုသိခြင်း၊ သူတပါးတို့ကို သိလွယ်စေတတ်ခြင်း၊ အစီးအပွားရှိသည် မရှိသည်၌ လိမ္မာခြင်း၊ အငြင်းအခုံ မပြုတတ်ခြင်းဟုဆိုအပ်သော တမန်တို့၏အင်္ဂါရှစ်ပါးနှင့်ပြည့်စုံညီညွတ်သော အမတ်ကြီး ဥဂ္ဂါပျံသည်ရှက်ဆောင်ရန်ကိစ္စဟူသမျှတို့ကို လောက်င ပြည့်စုံစေပြီးလျှင် ကိုယ့်တိုင်းခွင်ဌာနသို့ ပြန်လာခဲ့ရပေသည်။

ဘုရင်မင်းရာဇာကြီးသည် မင်းကျင့်တရားဆယ်ပါး၊ သင်္ဂဟတရားလေးပါးတို့နှင့်အညီ တိုင်းသားပြည်သူရှင်လူ ရဟန်းအပေါင်းတို့အား ဝမ်းထွက်သားကဲ့သို့ သနားကြင်နာ သာယာသိမ်းအုပ်တော်မူသောကြောင့် ပြည်သူအပေါင်းတို့ ငြိမ်းချမ်းသာယာ ဝပြောစွာရှိလေသည်။ ပညာအမြော်အမြင်နှင့်ပြည့်စုံသော မျိုးကြီးမတ်ကြီး၊ သေဌေးသူကြွယ်တို့သည် ပေါများကုန်၏။ ပိဋကတ်ဗေဒင်အရာ၌ လိမ္မာတတ်မြောက်တော်မူသော ရဟန်းသံဃာအပေါင်းလည်း များစွာရှိကုန်၏။

ရှေးဘေးလောင်းတော် ဘိုးလောင်းတော်တို့ ပြုလုပ်ထားခဲ့သော မြို့ပြကျုံးမြောင်း ရေလောင်း ပစ္စင်ရင်တား အဆောက်အအုံများကိုလည်း ထပ်ဆင့်ပြုလုပ်တော်မူသည်။

ထိုမင်းရာဇာ၏ မိဘုရားတို့သည် ကားစကြဝတေးမင်း သမီးတော်နန်းထက်ဖွားလည်းတယောက်၊ မင်းစောသမီး ပဉ္စာလစန္ဒာလည်းတယောက်၊ နှမတော် သုပဘာဒေဝီလည်းတယောက်၊ နှမတော်နန်းထက်မိဘုရားလည်း တယောက်၊ မိဘုရားခေါင် ဝိဇလလည်း တယောက်၊ ပဒုမဒေဝီလည်းတယောက်၊ နှမတော် အလတ်ဇလောကဒေဝီလည်း တယောက်၊ ပဲခိုးမင်းသမီး ခင်မနှောင်းလည်း တယောက်၊ မိဘုရားဖြူလည်း တယောက်၊ ဤသို့အားဖြင့် ကိုးယောက်တည်း။

မိဘုရားငယ်တို့မူကား မင်းခေါင်သမီး ဝင်းဖြူ၊ စလင်းစားအောင်လှ သမီးတန်ဆောင်မိဘုရား စောကြမ္မာ၊ စစ်တကောင်းစား မင်းညိုသမီးအောင်ဖြူ၊ ရာဇသင်္ကြံသမီး ဒေါ်ဖြူ၊ သားများမိသမီး ရှင်ထွေး၊ မိဘုရားအဖြူ၊ ညီမကောက်ဖြူ၊ အကျာမင်း သမီး၊ မြို့မင်းသမီး၊ သီရိပုတ်စား ရတ္တာရေနှမ သုန္ဒရေ၊ မွံသိသခင်သမီး သျှာပါမှတ်စား သမီးနှင့်သော် မိဘုရားငယ် တဆဲ့တယောက်တည်း။

မင်းစောသမီး မိဘုရားပဉ္စာလစန္ဒာတွင်

သားတော်မာန်ကြီး မျက်နှာလှ၊ သားတော် ဥပရာဇာဟူ၍ နှစ်ယောက်တည်း။ မိဘုရားခေါင် ဝိဇလတွင် သမီးတော် နန်းထက်ဖွား တယောက်သာတည်း။ ရှင်ထွေးတွင် သားလတ်အလတ် စကြဝတေး၊ တောင်ဘက်စား မင်းဖြူ၊ သမီးတော်ကား အနောက်ဘက် ဘုရင်မင်းညို မျောက် သားတော်ခေါင်ပေါက်မ၊ ဦးရစ်တောင်စား နတ်ရှင်နောင် မယား သုရာဒေဝီ၊ နတ်ရှင်နောင်ညီမင်းလတ် မယား အတုလသီရိ၊ ပေါင်းငါးယောက်တည်း။ တန်ဆောင်း မိဘုရားတွင် စစ်တကောင်းစား မာန်ကြီး မိုးပေါက်၊ မယား ပရိဝတ္တနသခ်ါရဒေဝီ တယောက်၊ ကိုယ်လုပ်တော် အထွတ်တွင် သားတော်တောင်ဘက်စား မင်းကာစော တယောက်တည်း။ ကိုယ်လုပ်တော် အဖွားတွင် မင်းကြီးဖြူ၊ မင်းကြီးညို နှစ်ယောက်တည်း။

ဤမှတပါး မောင်းမမိဿံတို့တွင် ဖွားမြင်သော သားတော်တို့သည်ကား ဥက္ကာမုခ၊ သမ္မတ၊ နရိန္ဒ၊ သီဟပတိ၊ ကလမသျှာ ငါးယောက်တည်း။ သမီးတော်တို့သည်လည်း များစွာရှိလေသေးကုန်၏။

တရံရောအခါ သားတော် အနောက်ဘုရင်သည် မဇ္ဈိမဒေသအရပ်သားတို့နှင့် ကျွန်တော်သောင်းတီးစား ဘရင်ဂျီတို့သည် ညီညာ၍သောင်းကြမ်းလေသည်ဟု ကြားတော်မူလတ်လျှင် များစွာသောအလုံးအရင်းနှင့်တကွ သားတော် ဥပရာဇာကိုစေလွှတ်တော်မူ၍ ချီသွားလေသော် သားတော်အနောက်ဘုရင်မင်းညိုသည် အာမာနက် အနာဖြစ်၍ လွန်နှင့်လေ၏။ သမီးအနောက်မိဘုရားခေါင် ပေါက်မသည် များစွာသောအလုံးအရင်းနှင့် ဦးရီးတော် စစ်တကောင်းစားထံဝင်၍ ခံနှင့်၏။ ဥပရာဇာချီသွား၍ ရောက်လေသော် စစ်တကောင်းစား အလိုလိုပင်ခန္ဓာ ပြောင်းလေ၏။ ညီတော်မိဘုရားခေါင် ပေါက်မနှင့် အလုံးအရင်းကိုရတော်မူလေ၏။ စစ်တကောင်းမြို့ကိုလည်း သားတော်အလတ် စကြဝတေးကို မြို့စားပေးတော်မူလေသည်။

ဤသို့လျှင် ပြည်သူတို့၏အကျိုး၊ သာသနာတော် အကျိုး၊ သားတော်၊ မြေးတော်၊ ဆွေတော်၊ မျိုးတော်တို့၏ အကျိုးစီးပွားကို ရွက်ဆောင်တော်မူလျက် အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၁၉၊ တဆဲ့ကိုးနှစ်။ နှစ်စုသက်တော် ၅၅၊ ငါးဆဲ့ ငါးနှစ်။ သက္ကရာဇ် ၉၇၄ ခု၊ ဝါဆိုလဆန်း၊ ရှစ်ရက်၊ ဗုဒ္ဓဟူးနေ့တွင် လွန်တော်မူလေသည်။ နံတော်တနင်္လာသားတည်း။ ၆။ (အရေးတော်ပုံမှာ ၉၉၀ ပြည့်တွင် လွန်ကြောင်းနှင့်ဆိုသည်)

ထိုမင်းရာဇာ လွန်တော်မူလေလျှင် သားတော် အိမ်ရှေ့မင်း မင်းခမောင်းသည် မျောက်သားတော် ဓမ္မာဒေဝီနှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၉၇၄ ခု၊ ဝါဆိုလဆန်း ၁၀ ရက်၊ သောကြာနေ့ဝယ် ပြည်ကြီးစည်းစိမ်ကို အုပ်စိုးတော်မူလေ၏။

ထိုမင်းခမောင်းသည် ရွှေထီးရွှေနန်းကို သိမ်းမြန်း စိုးအုပ်တော်မူလေလျှင် နရာဓိပတိဝရဓမ္မရာဇာဟူသော အမည်ကိုခံတော်မူ၏။ မင်းခမောင်းဟူ၍ တွင်ခြင်းသည်ကား ဘိုးတော်မင်းဖလောင်းသည် အဠနနဒီမြစ်ညာသို့ ဆန်တော်မူသောအခါ အဠနနဒီမြစ်ကမ်းရံ ခမောင်းဆိပ်၌ ရတနာတဲနန်းတော်ဝယ် ဖွားမြင်တော်မူသောကြောင့် မင်းခမောင်းဟူသော အမည်တွင်သည်ဟူ၏။

ဖွားမြင်တော်မူသောအခါ ကြီးစွာသော ကြယ်အလုံးသည် မီးရှူးရောင်ကဲ့သို့ ပြောင်ပြောင်ထွန်းပကြကုန်၏။ ထိုသို့ထွန်းတောက်ပသော တိတ်နိမိတ်ကို ထောက်၍ ပညာရှိတို့သည် ဤမင်းသား မချွတ် ဘုန်းတန်ခိုးကြီးသော မင်းတရားဖြစ်လတ္တံ့ဟု နိမိတ်ဘတ်ကြလေကုန်၏။

တရံသောအခါ ဘုရင်မင်းဖလောင်းသည် ထူပါရာမစေတီကိုတည်အံ့ဟု နေရာရှာလေသော် ရွှေနန်းတော်၏ မြောက်မျက်နှာအဖို့ဝယ် ရတော်မူ၍ စည်မျက်နှာကဲ့သို့ သုစ်သင်စီရင်တော်မူပြီးသော် အထောင်မကသော ပန်းရန်သမားတို့အား များစွာသော ဆုလပ်ကိုပေးတော်

မူလျက် တံတိုင်းမီးတားနှင့်တကွ သက္ကရာဇ် ၉၇၅ ခုတွင် စေတီတော်မွေတော်တို့ကို ဌပနာလျက် တည်စေတော်မူသည်။ စေတီအနီးတွင် သိမ်တော်ကြီးနှင့်တကွ ရတနာ ဗိမာန်ကျောင်းတော်ကို ဆောက်လုပ်တော်မူ၍ သံဃရာဇာ ဆရာတော်အား သက္ကရာဇ် ၉၇၅ ခု၊ ဝါဆိုလပြည့်၊ စနေနေ့တွင် တင်လှူတော်မူသည်။

အရညဝါသီ၊ ဂါမဝါသီ ရဟန်းသံဃာတို့အား လည်း ပရိက္ခရာရှစ်ပါးအစုံ လှူတော်မူသည်။ အလိုတော် မပြည့်မီ တည်လုပ်တော်မူခဲ့သော ကောင်းမှုတော် ရန်အောင်မြင်စေတီတော်ကိုလည်း ထပ်မံ၍ပြုလုပ်တော် မူပြီးလျှင် ကြီးကျယ်စွာသော ပွဲလမ်းသဘင်ဖြင့် အလှူကြီး ကို ပေးတော်မူသည်။

တရံရောအခါ အနောက်ပြည်သို့ ချီတော်မူသည် ဖြစ်၍ များစွာသောသင်္ဘော ကျွတ်လှေ ဆင် မြင်း လက်နက်ကိရိယာတို့ကိုစီရင်တော်မူ၍ သက္ကရာဇ် ၉၇၆ ခု၊ တန်ဆောင်မုန်းလဆန်း ခုနစ်ရက်၊ စနေနေ့တွင် ချီလာတော်မူကြောင်းကို မောင်းကွပ်မင်း၊ ပထန်မင်းတို့ ကြားလေလျှင် များစွာသော ဆင် မြင်း လက်နက်ကိရိယာ တို့ကို ရုံးစု၍ တက္ကတျာကခံလာကုန်၏။

ဘဝရှင်မင်းခမောင်းလည်း တက္ကတျာသို့ရောက် တော်မူလေလျှင် ကျွန်တော် သောင်းတီးစား ဘရင်ဂျီကို ရေကြောင်းစေလွှတ်တော်မူသော ရဲမက်ဗိုလ်ပါတို့အား မောင်းကွပ်သတ်လေသည်ဟု ဘဝရှင်မင်းခမောင်းအား လျှောက်လာသောခဏဝယ် ရဲမက်ဗိုလ်ပါအပေါင်းတို့ သည် ချုပ်တည်းကွပ်ညှပ်၍မနိုင်ပဲ ပြိုကွဲလန့်ဖျပ်ရွေ့လျား ကြသောအကြောင်းကို မောင်းကွပ်၊ ပထန်မင်းတို့သိလေ လျှင် များစွာသောဆင် မြင်း ရဲမက်ဗိုလ်ပါ ကိရိယာတို့နှင့် လာရောက်တိုက်ခိုက် ရှက်တင်သတ်ဖြတ်ရှိနေကြစဉ် ဘဝရှင်မင်းခမောင်းသည် ဆင်တော်ရတနာ ရန်အောင် ထက် တက်စီးပြီးသော် ရတနာချွန်းကို လက်စွဲတော်မူ လျက် ဖြိုဖျက်တိုက်နှင်တော်မူလေမှ မောင်းကွပ်၊ ပထန် မင်းတို့သည် အပြင်းဆုတ်ခွာလျက် ပြေးကြလေသည်။ ရဲမက်ဗိုလ်ပါတို့လည်း များစွာသေကြေကြလေသည်။ လက်နက်ဗိုလ်ပါတို့ကိုလည်း များစွာရတော်မူလိုက်သဖြင့် ရန်စစ်အောင်ပြီးလျှင် နေပြည်တော်သို့ ပြန်တော်မူခဲ့ပေ သည်။

ယင်းသို့ ပြန်လည်တော်မူခဲ့သည်ကို စစ်သည် ရဲမက်ဗိုလ်ပါတို့ သေကြေပျက်စီးသည့်အကြောင်းကို အမှတ်ပြုလျက် သက္ကရာဇ် ၉၇၇ ခု၊ ဝါကျွတ်လပြည့်၊ အင်္ဂါနေ့တွင် သင်္ဘောကြီး၊ လှေကြီး၊ လှေငယ်တို့နှင့်တကွ ကျွန်တော် သောင်းတီးစားဘရင်ဂျီယ်သည် ဘရင်ဂျီ စစ်နှင့်တကွ ဦးရစ်တောင်တိုင်အောင်ရောက်လာ၏။ ယင်းသို့ရောက်လာသည်ကို ကြားသိတော်မူလျှင် စစ်အင်္ဂါ လေးပါးနှင့်တကွ ကိုယ်တိုင်ချီတော်မူ၍တိုက်ဖျက်လေရာ များစွာသော ဘရင်ဂျီစစ်သည်ရဲမက်တို့သည် ပျက်စီး သေကြေခြင်းသို့ရောက်သဖြင့် ရှုံကြောက်ဆုတ်သွားကြလေ သည်။ ဘဝရှင် မင်းခမောင်းလည်း နောက်ထပ်ချီ လိုက်တော်မူလျက် သောင်းတီးတိုင်အောင် တိုက်ခိုက် ဖျက်ဆီးတော်မူလေသည်။

ထိုအခိုက်တွင် သားတော် ဘိုးတော်ခမည်းတော် တို့ လက်ထက်က ကျွန်ရင်းခံကြသူ ဥတေပုတ်၊ မြို့စောင့် သျှောက်မဏိတို့သည်လည်း ပုန်ကန်သောင်းကြမ်းပြုကြ သည့်အဖြစ်ကို ကြားသိတော်မူလေလျှင် သောင်းတီးက သည် ဥတရစ်သို့ချီတော်မူလေသော် ဥတေပုတ်၊ မြို့ကို အကြေအညက် ဖျက်ဆီးတော်မူပြီးလျှင် ဆင် မြင်း ဗိုလ်ပါ လက်နက်ကိရိယာတို့ကို များစွာသိမ်းယူတော်မူလျက် နေပြည်တော်သို့ ပြန်တော်မူခဲ့လေသည်။

ဤသို့ သောင်းတီးဥတေပုတ်တို့ကို ဖျက်ဆီး နှိပ်နင်းတော်မူလာကြောင်းကို ပြုတုကာမင်း၊ ပိတ်တာရစ် မင်းတို့သည် ဝပ်စင်းရိုသေစွာ ပဏ္ဏာကာရ များစွာတို့ဖြင့် နှစ်စဉ်မပျက် ဆက်သလာကြကုန်၏။

တရံရောအခါ ဘုရင်မင်းခမောင်းသည်

ခမည်းတော်လက်ထက် မီးကြီးလောင်၍ပါလေသော ရွှေဆင်းတု ငွေဆင်းတုတို့ကို ရွှေငွေထပ်လောင်း၍ ဆန်းကြယ်စွာ ရွှေဆင်းတု၊ ငွေဆင်းတုတို့ကို သွန်းလုပ်တော်မူပြီးလျှင် နန်းတော်မြောက်ဘက်တောင်ခေါင်းဝယ် နိုင်ခံ့စွာသော တံတိုင်း၊ မီးတားတို့နှင့်တကွ ဆန်းကြယ်စွာသော ရတနာပြသဒ်ကျောင်းတော် ဆောက်လုပ်တော်မူလျက် သက္ကရာဇ် ၉၈၃ခု၊ ကဆုန်လဆန်း ၆ ရက်၊ အင်္ဂါနေ့ဝယ် တည်ထားတော်မူ၏။

မြောက်သားတော် မိဘုရားခေါင်ကောင်းမှု၊ ရွှေဘုရားကိုလည်း ရတနာပြာသာဒ်ကျောင်းတော်ဝယ် တည်ထားတော်မူ၏။

မြောက်သားတော် မိဘုရားခေါင်သည် ဒါန သီလ ဥပုသ် သီတင်းသုံးခြင်းတို့၌ မြဲမြံစွာ ဆောက်တည်တော်မူ၍ ဘဝရှင်ကောင်းမှုတော် ထူပါရာမစေတီနှင့်အတူ ပြိုင်လျက် ထူးဆန်းလျောက်ပတ်စွာ ရတနာနှင့်တကွ ရတနာရွှေကျောင်းတော်ကိုလည်း ဆောက်လုပ်လှူဒါန်းတော်မူ၏။

ဘဝရှင်မင်းခမောင်းသည် ကောင်းမှုတော် ရန်အောင်မြင်စေတီတော်အနီး၌ ဆန်းကြယ်လျောက်ပတ်သော ရွှေကျောင်းဗိမာန်ကို ဆောက်လုပ်တော်မူ၍ တိုင်းပြည်အတွင်းရှိ အရိယာသံဃာတော် သီလဝန်၊ ဂုဏဝန်ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့အား အပ်နှင်းလှူဒါန်းတော်မူ၍ ကြီးစွာသောအလှူကောင်းမှုကို ပြုစုအားထုတ်တော်မူသည်။

ထိုဘဝရှင်မင်းခမောင်း၏ သားတော်၊ သမီးတော်တို့သည်ကား မြောက်သားတော် မိဘုရားဆင်ဖြူရှင်မြစ် ရှင်ထွေးတွင် သမီးတော် နတ်ရှင်မယ်၊ သမီးတော် မှောက်တော်၊ သမီးတော် ကြောင်မ၊ သားတော် မာန်ကြီးမင်းကောင်းအားဖြင့် လေးယောက်ဖွားမြင်တော်မူသည်။

ကိုယ်လုပ်တော် သောက်ရေစိုး ဒေါ်ဖြူတွင် သားတော် တောင်ဘက်စား သတိုးမင်းထွေးတယောက် ဖွားမြင်တော်မူသည်။

စားတော်ခံအကြီး မိခင်ထွေးတွင် သားတော် ကျောက်လှေကားစား ရွှေဒေါင်းတယောက် ဖွားမြင်တော်မူသည်။

စားတော် ကွမ်းစိုးမိမင်းတွင် သားတော်မာန်ကြီး ဟရိဖြူတယောက် ဖွားမြင်တော်မူသည်။

သောက်ရေတော်စိုး ကြမ်းမတွင် မာန်ကြီး သတိုးဖြူ၊ မာန်ကြီးမင်းလတ်၊ မာန်ကြီးမင်းမျိုး၊ သမီးတော် ရတနာရွှေဆိုင်း လေးယောက် ဖွားမြင်တော်မူသည်။

သောက်ရေစိုးမင်းလှထွတ်တွင် တန်းလွဲစား မင်းဖြူတယောက် ဖွားမြင်တော်မူသည်။

စားတော်ကွမ်းစား သန္တာမတွင် သမီးတော်ကြီး အဖြူ၊ သမီးတော်အလတ် မာန်ကြီးမိညီနှစ်ယောက် ဖွားမြင်တော်မူသည်။

မင်းပြောင်ကဲ့သို့ထားသော မင်းလှတွင် သမီးတော် မယ်ကြီးတယောက် ဖွားမြင်တော်မူသည်။

စားတော်ကွမ်းစိုး ဒေါ်ဖြူမတွင် သမီးတော် ရှင်မင်းတယောက် ဖွားမြင်တော်မူသည်။

စားရေးတော်စိုးအလတ်တွင် မင်းကြီးဥဂ္ဂါစာရ တယောက် ဖွားမြင်တော်မူသည်။

ဒါးစွဲသူကြီး ပေပင်သမီးတွင် မင်းကြီးမင်းပုတယောက် ဖွားမြင်တော်မူသည်။

မြောက်သားတော်ရင်း သုပဘာဒေဝီတွင် မင်းကြီး မင်းဟရိတယောက် ဖွားမြင်တော်မူ၍ ဆင်ဖြူရှင်မြစ်မြောက်သားတော် မိဘုရားရှင်ထွေးတွင် ဖွားမြင်တော်မူသော နတ်ရှင်မယ်နှင့် ထိမ်းမြားတော်မူ၍ အိမ်ရှေ့အရာ ပေးအပ်တော်မူလေသည်။ ပေါင်းသားတော်၊ သမီးတော် တဆဲ့ကိုးယောက်ရှိတော်မူ၏။

ဤမှတပါး ကိုယ်လုပ်တော် မောင်းမမိသံတို့မှာ

ဖွားမြင်တော်မူသော သားတော်၊ သမီးတော်တို့သည်ကား များစွာရှိလေကုန်သေး၏။

တရုံရေအခါ အနောက်ပြည် ဘင်္ဂါတဆဲ့နှစ်မြို့တို့သည် ပုန်ကန်သောင်းကျန်းလေကြောင်း ကြားသိတော်မူ၍ သက္ကရာဇ် ၉၈၃ ခု၊ နတ်တော်လတွင် စစ်အင်္ဂါလေးပါးနှင့် ချီကြွသိမ်းအုပ်ငြိမ်ဝပ်စေပြီး၍ ပြန်ရောက်တော်မူလတ်လျှင် သည်းစွာသောရောဂါဝေဒနာတို့သည် ကပ်ရောက်တော်မူသည်ဖြစ်၍ မိဘုရားခေါင်နှင့်တကွ သားတော်၊ မြေးတော်၊ အမတ်၊ သေနာပတိ၊ သက်ရှည်ကျော်ထင်၊ နန္ဒကျော်ထင်၊ လက်ယာရာဇသင်္ကြံ၊ သီရိဓမ္မကျော်ထင်တို့အား တိုင်းပြည်ဝန်ကို ဆောင်ရွက်ကြလေဟု မှာထားတော်မူပြီးလျှင် အိမ်နိမ့် ၃၅၊ သုံးဆဲ့ငါးနှစ်။ နန်းစံ ၁၀၊ ဆယ်နှစ်။ နှစ်စုသက်တော် ၄၅၊ လေးဆဲ့ငါးနှစ်။ သက္ကရာဇ် ၉၈၄ခု၊ နံယုန်လဆန်း ၄ ရက်၊ စနေနေ့တွင် လွန်တော်မူလေသည်။ နံတော်တနင်္လာသားတည်း။ ၇။

ထိုမင်းခမောင်း လွန်တော်မူလေလျှင် သားတော် အိမ်ရှေ့မင်း မင်းဟာရီသည် နတ်ရှင်မယ်မိဘုရားနှင့် အဘိသိက်ခံ၍ သက္ကရာဇ် ၉၈၄ ခု၊ နယုန်လဆန်း ၁၀ရက်၊ သောကြာနေ့တွင် ပြည်၏စည်းစိမ်ကို စိုးအုပ်တော် မူလေ၏။ သီရိသုဓမ္မရာဇာအမည်ကို ခံတော်မူ၏။ ငယ်မည်ဖြင့် မင်းဟာရီဟူ၍ခေါ်ခြင်းသည် ဟာရီတောင်၏ အရှေ့ဘက်က ခမည်းတော် ရွှေနန်းဗိမာန်ဝယ် ဖွားမြင်တော်မူသောကြောင့် မင်းဟာရီဟူ၍ခေါ်လေသည်။

ထိုသီရိသုဓမ္မရာဇာမင်းသည် ဘေးလောင်းတော် မင်းပါကြီးပြုလုပ်တော်မူခဲ့သော မြို့တော်၊ ကျုံးမြောင်း ရေလျောင် ပစွင် ရင်တား တံခါး ပြအိုး တန်ဆောင်ပြသာဒ် ဇရပ် တံတား ရေတွင်း ရေကန် ကျောင်းကန်ဘုရား စသည်တို့ ပျက်စီးဟောင်းနွမ်းရှိသော အရာများကို ထပ်မံ ပြုပြင်၍ လုပ်ကိုင်တော်မူသည်။ လက်နက်မီးပေါက်၊ အမြောက်စိန်ပြောင်းတို့ဖြင့် ပတ်လည်ဝန်းကျင်ရံကာလျက် အသင့်စီမံတော်မူသည်။

ဘုရင်သီရိသုဓမ္မရာဇာမင်းသည် များစွာသော လှေရုံအပေါင်းနှင့် ဆင် မြင်း ဗိုလ်ပါ လက်နက်ကိရိယာ စစ်အင်္ဂါလေးပါးတို့ကို စီရင်တော်မူ၍သက္ကရာဇ် ၉၈၄ခု၊ တန်ဆောင် မုန်းလဆန်း ၁၀ ရက်၊ တနင်္ဂနွေနေ့တွင် အနောက်ပြည် ဘင်္ဂါတဆဲ့နှစ်မြို့သို့ချီတော်မူ၍ မိမိ၏ တိုင်းနိုင်ငံ အပိုင်းအခြားကို မှတ်သားထားတော်မူခဲ့ပြီးလျှင် နေပြည်တော်သို့ ပြန်လည်တော်မူ၍ ရွှေနန်းတော်သို့ ရောက်တော်မူပြီးလျှင် မကြာမမြင့်မီဝယ် ဘဝရှင်မင်းကြီး မိဘုရားမောင်နံ နှစ်ပါးတို့သည် ပစ္ဆိမဒိသမြစ်၏အရှေ့ဘက် ကမ်း သေလာဂိရိအမည်ရှိသော ကျောက်တော်တောင်ထိပ်ဝယ် စေတီတော်ကို ဖူးမြင်အံ့ဟု ကြွသွားဖူးမြင်တော်မူပြီးလျှင် သက္ကရာဇ် ၉၈၅ ခု၊ တန်ခူးလဆုတ် ၇ ရက်၊ သောကြာနေ့၌ ရွှေငွေရတနာတို့ဖြင့် ဆန်းကြယ်စွာ ဆောက်လုပ်အပ်သော ရတနာမဏ္ဍပ်အတွင်း အရိယာသံဃာပုဂ္ဂိုလ်သူမြတ်အပေါင်းတို့အား များစွာသော အလှူကြီးပေးလှူစွန့်ကြဲတော်မူပြီးလျှင် ကစ္ဆပနဒီမြစ်ကို စုန်ဆင်းတော်မူ၍ ပြန်လည်တော်မူခဲ့ပြီးလျှင် ရွှေမြို့တော်၏ အရှေ့ဘက် အဥ္စနနဒီမြစ်ကို ဆန်တက်တော်မူ၍ ဘိုးတော်မင်းဖလောင်း ပဥ္စင်းတထောင်ခံတော်မူခဲ့သော ဆိပ်ကမ်းအရပ်ဝယ် ကြီးကျယ်စွာသော အလှူမဏ္ဍပ် ဇရပ် တန်ဆောင်းကို ဆောက်လုပ်တော်မူ၍ အလှူကြီးကို ပေးတော်မူသည်။

သက္ကရာဇ် ၉၈၆ ခု၊ ကဆုန်လတွင် ငွေစင် အဆင်းနှင့်တူသော ဆင်ဖြူမတစီးကို အနောက်မြို့သစ်က ဆက်သတော်မူ၍ ရတော်မူသည်။ ထိုဆင်ဖြူမရတနာကို နန်းတော်အရှေ့တောင်ထောင့်ဝယ် တန်ဆောင်းပြသာဒ် ဆောက်လုပ်တော်မူ၍ ထားတော်မူသည်။

တရုံရေအခါ ဒါဂါမြို့သည် သောင်းကြမ်းလေကြောင်း ကြားသိတော်မူသဖြင့် စစ်အင်္ဂါလေးပါးတို့နှင့် သက္ကရာဇ် ၉၈၇ ခု၊ နတ်တော်လတွင် ချီတက်တော်မူ၍

တိုက်ဖျက်လေလျှင် ဒါဂါစားသည် မခံနိုင်၍ ထွက်ပြေးလေ၏။ ရဲမက်ဗိုလ်ပါ လက်နက်ကိရိယာ ဆင်မြင်းနှင့် တကွ မြို့အလုံးတွင်ရှိသော ရွှေ ငွေ ဝတ္ထု ဝန်ဆန်တို့ကို ရတော်မူလေသည်။ ထိုအကြောင်းကို အနောက်ဘင်္ဂါတရိုးမင်းတို့ကြားလေလျှင် ထိတ်လန့်ကြောက်ရွံ့ကြကုန်သည် ဖြစ်၍ ခန်ပြားရှိသေစွာ ပဏ္ဏာလက်ဆောင်အများတို့ဖြင့် ညွတ်တွားဖူးမြင် ဆက်သလာကြကုန်သည်။

ယင်းသို့ ရွှေ ငွေ ဘဏ္ဍာ ဆင်မြင်း လက်နက်ကိရိယာ ပဏ္ဏာလက်ဆောင်တို့ကို သိမ်းပိုက်ခံယူတော်မူပြီးလျှင် နေပြည်တော်သို့ ပြန်လည်တော်မူခဲ့လေသည်။

တရံရောအခါ သန်လျင်၊ ဟံသာဝတီပြည်တို့သည် သောင်းကြမ်းလေကြောင်းကို ကြားသိတော်မူ၍ သက္ကရာဇ် ၉၈၈ ခု၊ နတ်တော်လတွင် ဘုရင်သီရိသုဓမ္မရာဇာသည် များစွာသော ရဲမက်ဗိုလ်ပါ အပေါင်းတို့နှင့် ချီကြွတော်မူ၍ ဒွါရာဝတီ သံတွဲမြို့သို့ ရောက်တော်မူလျှင် ဆင်ကဲကြီး နန္ဒကျော်ထင်က အမှုတော်ကို ပြီးစီးအောင်ထမ်းရွက်ပါမည်။ ဘုန်းကြီးသော အရှင်သည် ဒွါရာဝတီ သံတွဲမြို့တွင်သာ စံနေတော်မူပါဟု လျှောက်ထားပြီးလျှင် ဆင်ကဲကြီး နန္ဒကျော်ထင်သည် များစွာသော ရဲမက်ဗိုလ်ပါအပေါင်းတို့နှင့် ချီတက်လေ၍ သန်လျင်၊ ဟံသာဝတီမြို့များကို အကြေအညက်တိုက်ဖျက် သိမ်းယူလျက် အခွန်အတုတ်လက်ဆောင်ပဏ္ဏာကာရတို့ကို များစွာသိမ်းယူခဲ့၍ ဘဝရှင်မင်းကြီးအား ဆက်သတော်မူလာလျှင် ဆင်ကဲကြီး နန္ဒကျော်ထင်အား မှူးမတ်အဆောင်အယောင်ကို ထပ်လောင်း၍ပေးတော်မူလေသည်။

ယင်းသို့ ဆက်သတော်မူသော လက်ဆောင်တို့ကို သိမ်းပိုက်ခံယူတော်မူပြီးလျှင် နေပြည်တော်သို့ ပြန်လည်တော်မူခဲ့လေသည်။

ဤသီရိသုဓမ္မရာဇာမင်းကြီးသည် ဒွါရာဝတီ သံတွဲနယ်က ဆင်နီတစီး၊ အနောက်မြို့သစ်က ဆင်ဖြူတော်မ တစီးရတော်မူသောကြောင့် ဆင်ဖြူသခင်၊ ဆင်နီရှင်ဟူ၍ ခေါ်တွင်တော်မူလေသည်။

ထိုဆင်ဖြူသခင်၊ ဆင်နီသခင်ဖြစ်တော်မူသော ငါတို့ရခိုင် ရွှေနန်းရှင်ဘုရင် သီရိသုဓမ္မရာဇာမင်းကြီးနှင့် အရှေ့ပြည် အင်းဝမြို့ ရွှေနန်းသခင်ဘုရင် သီရိသုဓမ္မရာဇာမဟာ ဓိပတိဘွဲ့ခံသာလွန်မင်းတရားကြီးသည် မင်းစေတမန် ရာဇသံရေးသားမှာကြားပို့ကြသဖြင့် သဟာယမိတ်စစ်ဖြစ်တော်မူကြလေသည်။ ဤသို့ဖြစ်တော်မူကြသော အရာကို သိသာရှုညွှန်ပြလိုက်ပေအံ့။

သက္ကရာဇ် ၉၉၆ ခု၊ တော်သလင်းလတွင် ဇေယျတမန်၊ ဝုန္ဓရာဇတမန်၊ ဒေဝတမန်တို့နှင့် လူအပေါင်း တကျိပ်နှစ်ယောက်တို့ကို ငါတို့ရခိုင်ရွှေနန်းရှင် သီရိသုဓမ္မရာဇာမင်းက ရာဇသံဖြင့် စေလွှတ်တော်မူလိုက်သည်။ ရာဇသံကား-

ပစ္ဆိမဒေသအနောက်တရိုးပြည်ကြီးများကို အစိုးရသော အယုဇ္ဈပူရတည်းဟူသော ရခိုင်ရွှေနန်းသခင် ဆင်ဖြူများသခင် ဘဝရှင် သီရိသုဓမ္မရာဇာ ချစ်ကြည်သဖြင့် မြတ်နိုးစွာကြားရောက်လိုက်သော အရှေ့တရိုးသုနာပရန္တအစရှိသော ထိုထိုသောအတိုင်းတိုင်းများကို အစိုးရသော ရတနာရွှေတွင်းများသခင် အဝရွှေနန်းသခင်။ ။ အချစ်တော် ဘဝရှင်မင်းတရားကြီးက လက်ဝဲသိဥ္စည်း၊ ဝေလုသမန်၊ ပိုက်နရဲတို့ ရွှေပေစာကို ဦးထိပ်ထက်ရွက်ဆောင်လျက် ရောက်လာ၍ ဓင်းမယ်ပြည်ကြီး၌ အချစ်တော် ကိုယ်ချမ်းသာခြင်း၊ နှလုံးချမ်းသာခြင်းဖြင့် သာသနာတော်ပြန့်ပွား စည်ပင်ကြောင်း သုတ်သင်ချီးပင့်သည်အဖြစ်ကိုကြားရလျှင် အလွန်ဝမ်းမြောက်သည်။ အချစ်တော်အကျွရာစာဝယ် ပါလာသည့် စကားကြောင်း အဓိပ္ပာယ်ကိုလည်း သိကြားရပြီ။ ဆိုတွယ်မဲ့ မှန်တော့သည်ချည်း။ အချစ်တော်သို့ ပို့ရောက်လေသည့် အကျွရာ၌ ဘိုးတော်ဘုရား ဆင်ဖြူသခင် သနားမေတ္တာရှိခြင်းသည်လည်း သင့်လှသည်ပင်။ ထိုသို့ မင်းသုံးပါး သင့်တင့်ရာ

တွင် တောင်ငူမင်းအကြီးနှင့် ဘိုးတော်ဘုရားသည် ကိုယ်တော်ချင်း မြဲမြံခြင်း၊ သဘောတော်ချင်း မြဲမြံခြင်း အဖြစ်ဖြင့် သင့်တော်မူလေသည်ကား ပြည်ထောင်ချင်းမင်းတကာတို့သည်၎င်း၊ တိုင်းကားနိုင်ငံ ပြည်သူတို့သည် ၎င်းမင်းနှစ်ပါးသည် ရာဇဝတ်ဖြင့်သာ ဆက်ဆံချစ်ခင်တော်မူကြသည်မဟုတ်၊ သဘောချစ်ပင်ဟူ၍ စိတ်နှလုံး အဝပ်ချချမှတ်သည့်အကြောင်း ဖြစ်ပေသည်။ သဘောရိုးကို သိမည်သူကား အလွန်သိခဲလှသည်။ ထိုကြောင်းနှစ်ရေးတွင် အချစ်တော်အကြိုက်ကို သိချင်သည်ဟူ၍ပါလေသည်။ ။ အချစ်တော်ကမူကား ဘိုးတော် ခမည်းတော် တောင်ငူမြို့တည် မင်းသုံးပါး အချစ်ဖွဲ့ခြင်းသည်လည်း သင့်သည်ပင်။ ယင်းသို့ရာဝယ် သာသနာတော် အရှည်ပွားပြန့်ကြောင်း၊ ပြည်သူ လူရဟန်းတို့ အကျိုးစီးပွားများကြောင်း၊ သားတော် မြေးတော် မြစ်တော် အစဉ်အဆက်ရှည်မြင့်စွာ အချစ်မြဲအောင် ဆွေတော်မျိုးတော်အဖြစ် မြဲနောင်ခြင်းသည် လျောက်ပတ်လေ၏ဟူ၍ ပညာရှိ သူတော်ကောင်းတို့ ဆိုပါလေဖွယ်သည့် အကြောင်းများကို ထောက်သဖြင့် ချစ်သောသဘောရှိသော်ကား ပစ္စုပ္ပန် အနာဂတ်ကိုသိနိုင်သော ဖြောင့်ဖြောင့်စိုက်စိုက်ဖြစ်သော နှလုံးရှိသော ပညာရှိအဆွေခင်ပွန်းဖြစ်သော အမျိုးဟူ၍ မှတ်စေလိုသည်ဟူ၍ပါလတ္တံ့။ သည်အကြောင်းမှ ရတနာ ရွှေပေထက် အချစ်ဟူသော အက္ခရာစာရေးလိုက်သည့် နေ့ကပင် အဆွေမှတ်တော့သည်။ အမျိုးမှာတုံလည်း မှတ်သည်မဟုတ်။ အမျိုးပင်ဖြစ်ကြတော့သည်။ သို့ကိုလည်း အချစ်တော်စိတ်ဝယ် မိတ်အပြားတို့တွင် မဟာမိတ်ဖြစ်ကြောင်း၊ အမျိုးထက် မြဲကြောင်းကို မှတ်ပိုက်လေဟန်ရှိသည်လည်း သင့်လှသည်။ အရေးမူကား လောက မှန်ကင်းတည်းဟူသော အဆက်ဆက်သော မြတ်စွာဘုရားတို့သည် ပစ္စုပ္ပန် သံသရာ၌ အကျိုးစီးပွား၏အကြောင်းကို မစကယ်တင် ချီးမြှောက်တော်မူပေသည်။ အဆွေကိုသာလျှင် အလွန်ချီးမွမ်းခြင်း အားထုတ်တော်မူကြသည်။ မဟာမိတ်တည်းဟူသော မြစ်သက်ပင် စည်းပွားပြန့်နိုင် ပြီးလေကသတ္တဝါအစရှိသော အရိုင်းမျိုးတို့၌ကား မင်းတကာမင်းသားတို့အကျိုးစီးပွားရှိ၍ တမင်းအကျိုး စီးပွားမရှိသော်လည်း လူတကာတို့ နှစ်လိုခြင်း မဖြစ်ရာသည့်အကြောင်း၌၎င်း၊ မင်းမူ၊ မင်းရာ၊ မင်းရေးဟူ၍ အကြောင်းသုံးပါးတို့၌၎င်း၊ ပညာရှိတကာတို့ အပြစ်တင်ခြင်းမှ လွတ်မည့်အကြောင်းကို၎င်း၊ ပညာရှိတကာတို့ ချီးမွမ်း ဌပနာမည့်အကြောင်းကို၎င်း၊ သာသနာတော်တိုင်းကား နိုင်ငံတော် ကာလရှည်မြင့်စွာ ပွင့်လင်းသာယာမည့် အကြောင်းကို၎င်း၊ မင်းနှစ်ပါးသည် စိစစ်ဖွေရှာ ကြံစည်ကြမည့် အရေးသာထင်သည်။ သို့ဖြစ်၍ ထိုမင်းနှစ်ပါးသည် စိုက်စိုက်မတ်မတ် စိတ်တဝမ်းတည်း ကြည်လင်သန့်ရှင်းစွာ အချစ်မေတ္တာရှိရာသည်ကို ထောက်သဖြင့် ရတနာရွှေပေ၌ရေးကြားလိုက်သည်။ အချစ်တော် ရွှေနှမ်းရှင်၏မြတ်သောဉာဏ်ဖြင့် ထင်သည့်အတိုင်းကိုသာ သိကြားပြန်စေချင်တော့သည်။ အချစ်တော် မင်းစေတို့ ကြားပလေသည့် အကြောင်းမူကားတို့ နားဝယ် မကြားဝံ့သည့်သတင်းကိုကြားခြင်းကြောင့် စူးစမ်းရာတွင် ကြားပလေသည်။ ဓေယျတမန်၊ ဂုန္တရာဇတမန်၊ ဒေဝတမန်တို့ အလျင်ရောက်လာလွယ်မှ အချစ်တော် ဤကျွန်းခံ့သည့် သတင်းနှင့် အရေးခပ်သိမ်းကို ကြားသိမည်ဟူ၍ ရာဇသံတွင်ပါလေသည်။

စေလွှတ်အပ်သော ဓေယျတမန်၊ ဂုန္တရာဇတမန်တို့သည် ၎င်းသတ္တရာဇ် တန်ဆောင်မုန်းလဆန်းတရက်၊ သောကြာနေ့၊ အင်းဝဘုရင် သီရိသုဓမ္မရာဇာ မဟာဓိပတိ ဘွဲ့ခံ သာလွန်မင်းတရားကြီးအားဖူးမြင်ရသဖြင့် လက်ဆောင်ပဏ္ဏာဆက်သ၍ မေးမြန်းတော်မူပြီးလျှင် ရွှေငွေ ဘဏ္ဍာစသော ဆက်သရန်လက်ဆောင်နှင့်တကွ ရာဇသံရွှေပေရေး၍ နန္ဒဓေယျအမတ်တို့ကို ငါတို့ရခိုင်ဘုရင် သီရိသုဓမ္မရာဇာမင်းကြီးထံ စေလွှတ်တော်

မူလိုက်သည်။ ရာဇသံကား---

သုနာပရန္တတိုင်း၊ တမ္ပဒီပတိုင်း၊ ကမ္ဘောဇတိုင်း၊ ရာမညတိုင်း၊ ခေမာရဋ္ဌတိုင်း၊ ဇောတိနဂရတိုင်း၊ ရတနာပူရ ရွှေပြည်ကြီး၊ သရေခေတ္တရာပြည်၊ အရိမဒ္ဒနပြည်၊ ကေတုမတီပြည်၊ ဟံသာဝတီပြည်၊ သာယာဝတီပြည်၊ မြဝတီပြည်၊ မုတ္တမပြည်၊ ဒါးဝယ်ပြည်၊ ဇင်းမယ်ပြည်၊ ကျိုင်းသေည် ပြည်၊ ကျိုင်းတုံပြည်၊ အနန်းပြည်၊ ကျိုင်းရုံးပြည်၊ သေည် ဝီပြည်၊ မိုးမိတ်ပြည်၊ သီပေါပြည်၊ မိုးနဲ့ပြည်၊ ညောင်ရွှေပြည်၊ ဗန်းမော်ပြည်၊ မိုးကောင်းပြည်၊ မိုးညှင်းပြည်၊ ကလေးပြည်၊ မိုင်းလျှည်းပြည်၊ ကိုင်းမားပြည်၊ မိုင်းမော်ပြည် တိုင်းကြီးများ အပေါင်းနှင့်တကွ ပြည်ကြီးများ အပေါင်းကိုအစိုးရသော ငွေတွင်းသခင်၊ ရွှေတွင်းသခင်၊ ပယင်းတွင်းသခင်၊ ပတ္တမြားတွင်းသခင်၊ ရွှေနန်းသခင် ဘဝရှင်သီရိသုဓမ္မရာဇာ မဟာဓိပတိ ချစ်ကြည်စွာ ကြားရောက်လိုက်သော မဇ္ဈိမဒေသ အနောက်တရိုး ပြည်ကြီးများကို အစိုးရသောဆင်နီသခင် အချစ်တော် ဘဝရှင်သီရိသုဓမ္မရာဇာဟူ၍ ပါလေသည်။ (ရှည်အံ့စိုး၍ မရေးလိုက်ပြီ။ ဤသည်ကား ရာဇသံပေးတော်မူကြသည့် အကြောင်း)။

ထိုသီရိသုဓမ္မရာဇာမင်း၏ မိဘုရားတို့သည် နမတော်ရင်းဖြစ်သော မိဘုရားနတ်ရှင်မယ်လည်း တယောက်၊ ညီမတော်ဖြစ်သော မိဘုရားမှောက်တော်မလည်း တယောက်၊ ရာဇသူသမီးဝင်းလုံးလည်း တယောက်အားဖြင့် မိဘုရားသုံးယောက်ရှိသတည်း။

ကိုယ်လုပ်မောင်းမတို့သည်ကား များစွာရှိလေ၏။ သားတော်သမီးတော်တို့သည်ကား နမတော်ရင်း မိဘုရားခေါင် နတ်ရှင်မယ်တွင် အိမ်နိမ့်သားတော် မင်းစနေ၊ မာန်ကြီးစွာနှင့် သမီးတော် ရွှေကြင်စွာ သုံးယောက် ဖွားမြင်တော်မူသည်။

ဤမှတပါး သားတော်၊ သမီးတော်တို့သည် တဆဲ့ခြောက်ယောက်ရှိသေးကြောင်းနှင့် ဆိုသည်။ အမည်နာမ မဖော်ခဲ့လေ။

ထိုမင်း၏ ကောင်းမှုတော်ဘုရားမှာ သကျမဥ္ဇူ အမည်ရှိတော်မူ၏။ ထိုမင်းမိဘုရားတို့သည် ဒါန၊ သီလ စသော ကုသိုလ်ကောင်းမှုကို ပြုစုအားထုတ်တော်မူ၏။

မိဘုရားခေါင် နတ်ရှင်မယ်သည် မင်းခေါင်ရွှေဂူ ကျောင်းတော်ကိုဆောက်လုပ်၍ ရဟန်းသံဃာတော်တို့ အား လှူဒါန်းတော်မူ၏။

ထိုမင်းသည် အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၁၆၊ တဆဲ့ခြောက်နှစ်။ နှစ်စုသက်တော် ၃၆၊ သုံးဆဲ့ ခြောက်။ သက္ကရာဇ် ၁၀၀၀၊ တထောင်ပြည့် နယုန်လဆုတ် ၂ရက်၊ တနင်္ဂနွေနေ့တွင် လွန်တော်မူလေသည်။ နံတော် အင်္ဂါသားတည်း။ ၈။

ဤသည်ကား ဆရာမေည် ရာဇဝင်၌ပြဆိုအပ်သော သီရိသုဓမ္မရာဇာ အခန်းတည်း။

ညေဝတီအရေးတော်ပုံတွင် လာသည့်အကြောင်းမှာ မင်းခမောင်းသားတော် သီရိသုဓမ္မရာဇာမင်း လက်ထက်တွင် အမတ်ပညာဝံသသားလေးမြို့စား လေက်ရုံးလည်း တယောက်၊ လောင်းကြက်စား ကေုသလလည်း တယောက်ရှိသည်။ လောင်းကြက်စား ကေုသလနှင့် မိဘုရားနတ်ရှင်မယ် ချစ်ကြိုက်လေသော် လောင်းကြက်စား ယတြာအလွန်တတ်သည်ဖြစ်၍ ပြည့်ရှင်မင်းနံကိုနှိပ်လျက် အင်းအိုင်ယတြာဖြင့်လုပ်ပြီးမှ မင်းထံ လျှောက်သည်ကား အရှင်မင်းကြီး၊ ဆင်ဖြူတော် ရောက်လိမ့်မည်လျှောက်၍ ဆင်စာ စပါးဟင်းစွကို ရေကန်တူး၍ ချထားစေသည်။ ယင်းသို့ပြီးမှ သူငယ်တို့ကို ကေုသလကသင်၍ ဆိုစေသည်ကား ----

ညောင်ပင်ကြီးရင်း၊ ဟင်းစွချင်း၊ မင်းထီးတို့ရှင်၊ ဘုရင်နန်းရဖြစ်လိမ့်မည်ဟူ၍ ဆိုလေသည်။

ယင်းသို့ သူငယ်တို့ဆိုသောစကားကို ပညာရှိ လေက်ရုံးကြားလျှင် ပြည့်ရှင်မင်း သီရိသုဓမ္မရာဇာထံ လျှောက်သည်ကား အရှင်မင်းမြတ်၊ ဟင်းစွသည် အင်္ဂါနံ၊

ဟိန္ဒူဟူသော အမှုသည် ယုတ်သောစကား၊ အရှင်မင်းကြီး လည်း အင်္ဂါသား၊ နံကိုဆင်စီးနှင်းသည်။ ဗုဒ္ဓဟူးသား အမတ်လောင်းကြက်စား ကေသလဖြစ်ပါသည်။ ဆင်ကားရောက်မည်မဟုတ်၊ ဆင်နံဗုဒ္ဓဟူးသား မင်းဖြစ်လို သောကြောင့်တဘောင်ကို ကေသလဖော်သည်သာ ဖြစ်ပါသည်။ အင်းအိုင်ယတြာ ဆေးဝါးပယောဂနှင့် လောင်းကြက်စား ကေသလလုပ်ထား၍ အရှင်မင်းကြီး ကိုယ်တော်၌ ဝေဒနာကပ်ရောက်လျက် ယခုရှိပါသည်။ ခုနစ်လနှင့် အရှင်မင်းကြီး နတ်ရွာလွန်မည်အမှန်ဖြစ်ပါသည် လျှောက်လေသော် ပြည့်ရှင်မင်းကြီး မယုံ၍ ငါ့ကို ထင်မြင်အောင်ပြရဦးမည် အမိန့်တော်ရှိလေသော် လူတယောက်ကို မြို့တွင်း မြို့ပြင် တြင်းနာချေအမတ် လက်ရုံးကစေလွှတ်လိုက်ရာ ကြားခဲ့သောတြင်းသံ တော်ကား---

(ပထမတြင်း) မင်းဟာရီမှောက်မှား၊ အလားလား၊ ဟာရီလည်းသေ၊ ပြည်လည်းကြေ။

(ဒုတိယတြင်း) ကျွန်နှင့်မတန်၊ မင်းဖြစ်ကြံသည်၊ အမှန်တန့်တန့်၊ ခုနစ်လတွင်၊ မင်းဖြစ်အံ့။

(တတိယတြင်း) ဖွတ်က မိကျောင်းဖြစ်လျှင်၊ ချောင်းမြစ် မခံသာ၊ ကျွန်က သူကောင်းဖြစ်လျှင်၊ တိုင်းပြည် မစည်ရာ။

ယင်းသို့ကြားခဲ့သော တြင်းသုံးရပ်အရကို ပညာရှိအမတ် လက်ရုံးလျှောက်သည်ကား အရှင်မင်းမြတ်၊ အရှင့်ငယ်မည်တော်သည် မင်းဟာရီ ဖြစ်ပါသည်။ အရှင်မင်းလည်းသေ၊ ပြည်လည်းကြေပါ မည်။ ကျွန်က သူကောင်းဖြစ်မည်မှာ ကေသလ ဆင်နံ မင်းဖြစ်မည့်အကြောင်းထွက်ပါသည်။ ကေသလ လက်ထက် နိုင်ငံသူသတ္တဝါတို့ မီးကဲ့သို့ ပူပါမည်ဟု လျှောက်ထားလေရာ---

သီရိသုဓမ္မရာဇာမင်းကြီးအား မိဘုရား နတ်ရှင်မယ်က လှည့်ဖျားလျက် ပြောဆိုလျှောက်ထားလေ၍ လောင်းကြက်စား ကေသလမှာ အပြစ်မည်သို့မရှိ၊ ချမ်းသာစွာအရာ မပျက်ထားလေရာ အမတ်ပညာရှိ လက်ရုံးလည်း ပညာနည်းသောမင်းထံ ဆည်းကပ်၍ နေရချေသော် နောင်အပြစ်ကြီးစွာ ဖြစ်ရာသည်ကြံလျက် မင်းထံခွင့်တော်ပြီးလျှင် ရဟန်းပြု၍နေလေသည်။ ခုနစ်လ စေ့သောကာလ သီရိသုဓမ္မရာဇာမင်းသည် ပြင်းစွာဝေဒနာ တိုးလတ်၍ လွန်တော်မူလေသည်ဟုဆိုသည်။ ဤသည်ကား ဧည့်ဝတီအရေးတော်ပုံ၌လာသော သီရိသုဓမ္မရာဇာ မင်းအကြောင်းတည်း။

ရာဇဝင်ဟောင်းမြို့တည်ခန်းတွင် မင်းဖလောင်း လက်ထက်တော်၌သိုက်၊ ဓာတ်နိဒါန်းကျွမ်းကျင်လိမ္မာတော် မူသော ပိန်နဲတောင်ဘုန်းတော်ကြီး ဟူးရားသူကြီး ကေ၊ ဆင်ကဲကြီးအမတ် ပေတို့အား ငါ၏အနွယ်တော်သည် မည်မျှဖြစ်ထွန်းမည်နည်း တွက်ချက်၍လျှောက်ရမည် အမိန့်တော်ရှိ၍ တွက်ချက်လျှောက်ထားကြသည်မှာ--

အရှင်မင်းကြီး အနွယ်တော်သည် ကိုးဆက်တွင် ပြတ်ပါမည်။ ပြတ်မည်ကား သက္ကရာဇ်တထောင်စေ့တွင် စနေသားလက်ထက် ပြတ်ပါလိမ့်မည်ဟူ၍၎င်း၊

အရှင်မင်းကြီးအနွယ်တော် စနေသားလက်ထက် သက္ကရာဇ် ၉၉၉ ခုကပင်စ၍ အကျွန်ုပ်တို့ လက်ငုတ် လက်စကိုဖျက်ပါလိမ့်မည်။ တထောင်စေ့တွင် ယင်း စနေသားကို ဗုဒ္ဓဟူးသား ဟိန္ဒူဝင်မင်းဖြတ်ပါလိမ့်မည် ဟူ၍၎င်း-

လျှောက်ထားဟောပြောခဲ့ဖူးသည့်အတိုင်း ခမည်းတော်မင်းခမောင်းသည် သက္ကရာဇ် ၉၈၄ ခု၊ နယုန်လဆန်း တဆဲ့သုံးရက်၊ သောကြာနေ့ လွန်တော် မူလေလျှင် ၎င်းနေ့ ညဥ့်သန်းခေါင်လွဲ သုံးနာရီအချိန်တွင် သားတော် မင်းဟာရီသည် မင်းဖြစ်တော်မူလေ၏။ အမည်တော်ကို သီရိသုဓမ္မရာဇာဟူ၍ အမည်ခံတော်မူ၏။

မင်းအဖြစ်သို့ရောက်တော်မူလေလျှင် ဘိုးတော်ခမည်းတော်တို့ ပြုလုပ်တော်မူခဲ့သော ပြည်ထဲအရေးကို မပြုလုပ်မရွက်ဆောင်၊ စည်းစိမ်ချမ်းသာကိုသာ ခံစားလျက်နေတော်မူ၏။

တရံရောအခါ၌ အောက်မေ့တော်မူလျက် သိုက်တတ်လက်ရုံးနှင့် ပုဏ္ဏားရာသူကြီး မင်းကျော်တို့ကို ခေါ်တော်မူ၍မေးတော်မူ၏။ ငါတို့အနွယ်သည် ဘယ်သူ့အဆက်တွင် ပြတ်မည်နည်း၊ အဘယ်သူလျှင် အဘယ်အရပ်က အဘယ်ရက်သားဖြစ်လတ္တံ့မည်နည်းဟု မေးတော်မူ၏။ သိုက်တတ် လက်ရုံးနှင့် ပုဏ္ဏားရာသူကြီး မင်းကျော်တို့ လျှောက်ထားကြသည်မှာ--- အရှင်မင်းကြီး၊ အရှင်မင်းကြီး အနွယ်တော်သည် စနေသားလက်ထက်တွင် ပြတ်ပါမည်။ အဘယ်အရပ်က အဘယ်ရက်သားဖြစ်မည်နည်းဟု မေးတော်မူသည်မှာ တောင်ဘက်အရပ်ကလျှင် ဗုဒ္ဓဟူးသားဖြစ်ပါလတ္တံ့ဟု လျှောက်ကြကုန်၏။

သီရိသုဓမ္မရာဇာမင်းလည်း ငါ့လက်ထက်တွင်ဖြစ် လတ္တံ့လောမေးတော်မူပြန်၏။ သိုက်တတ် လက်ရုံး၊ ပုဏ္ဏားရာသူကြီးမင်းကျော်တို့က လျှောက်ကြားသည်မှာ အရှင်မင်းကြီးလက်ထက်၌ မဖြစ်ပါသေး၊ အရှင်မင်းကြီးလွန်တော်မူပြီးမှ သားတော်မင်း စနေလက်ထက်တွင်သာ ဖြစ်လတ္တံ့ရှိပါမည်ဟု လျှောက်ကြကုန်၏။

သီရိသုဓမ္မာမင်းကြီးလည်း ဟယ်--သိုက်တတ်လက်ရုံး၊ ငါ၏အနွယ်တော်ပြတ်လျှင် အဘယ်အနွယ်က အဘယ်ရက်သားဖြစ်လတ္တံ့နည်းဟု မေးတော်မူ၏။ သိုက်တတ်လက်ရုံးလည်း အရှင်မင်းကြီးအနွယ်တော်ကို ကျွန်မျိုး ဗုဒ္ဓဟူးသားဖြစ်လတ္တံ့မည်ကို---

ငှက်တွင် ငှက်ယုတ်၊ ငှက်ခေါင်းပုတ်ကို၊
ငှက်များခြံရံပြုလိမ့်မည်။
လူတွင် လူယုတ်၊ လူစက်ဆုပ်ကို၊
လူများရိုသေ ပြုလိမ့်မည်။

ဟု သိုက်ကျမ်းလာကြောင်းနှင့် လျှောက်ပြီးလျှင် အရှင်မင်းကြီး၊ အရှင်မင်းကြီး၏အနွယ်ကို ဖြတ်လတ္တံ့သောမင်းတို့၏ ရက်စဉ်မှာ စနေသားကို ဗုဒ္ဓဟူးသားဖြတ်လိမ့်မည်။ ဗုဒ္ဓဟူးသားကို စနေသားဖြတ်လိမ့်မည်။ စနေသားကို တနင်္လာသားဖြတ်လိမ့်မည်။ တနင်္လာသားကို သောကြာသားဖြတ်လိမ့်မည်။ သောကြာသားကို ဗုဒ္ဓဟူး သား ဖြတ်လိမ့်မည်။ ဗုဒ္ဓဟူးသားကို စနေသားဖြတ်လိမ့်မည်။ စနေသားကို အင်္ဂါသားဖြတ်လိမ့်မည်။ အင်္ဂါသားကို ကြာသပတေးသား ဖြတ်လိမ့်မည်။ ကြာသပတေးသားကို တနင်္လာသားဖြတ်လိမ့်မည်။ တနင်္လာသားကို စနေသားဖြတ်လိမ့်မည်။ စနေသားကို ရာဟုသား ဖြတ်လိမ့်မည်။ တရာ့ရှစ်ဆယ်တိုင်ပြီးမှသာ စနေသားတယောက်ဖြစ်လိမ့်မည်ဟု သိုက်တတ်လက်ရုံးလျှောက်ပေ၏။ သီရိသုဓမ္မရာဇာ မင်းကြီးလည်း ဆိတ်ဆိတ်နေတော်မူ၏။ ဤသို့လျှောက်ထားကြပြီးနောက် ပုဏ္ဏားရာသူ ကြီးမင်းကျော်သည် သေလွန်သဖြင့် သိုက်တတ်လက်ရုံးတယောက်တည်းသာ ရှိသည်ဖြစ်၍ တိုင်ပင်ဖော်တိုင်ပင်ဖက်မရ ဖြစ်လေသည်။

ထိုအခါမင်းပါ၏မြစ်တော်ဖြစ်သူ လောင်းကြက်မြို့စား အမတ်ကေသလသည် မိမိမင်းဖြစ်စေရန် မန္တန်ယတြာအဖြာဖြာတို့ကို များစွာအားထုတ် ပြုလုပ်စီမံလေ၏။

သိုက်တတ် လက်ရုံးလည်း အရှင်မင်းကြီးဘိုးတော် ကေသလကား ဗုဒ္ဓဟူးသားနံပေါ်ဖို့သာဟု လျှောက်၏။ သီရိသုဓမ္မရာဇာမင်းလည်း သိုက်တတ်လက်ရုံးစကားကို မနာမယူမှု၍ ရွှေလူးမီးပေါက်သုံးချက်နှင့် ထီးဖြူဆင့်လျက် မြှင့်တော်မူ၍ တောင်ထက်တွင် နန်းထိုင်တော်မူ၏။

မိဘုရားနှင့် ကေသလသည် သင့်တင့်ကြလေ၏။ လောင်းကြက်စား ကေသလသည် ကိုယ်နံပေါ်ဘို့၊ ဆင်အိုးတည်ဘို့၊ ဗုဒ္ဓဟူးနံပေါ်ဘို့၊ မိမိမင်းဖြစ်ဘို့တို့ကို ကြံပါသည်ဟု လျှောက်၏။ လျှောက်သည့်စကားကို

မနာမယူမူ၍ ဆင်အိုးကို သီရိသုဓမ္မရာဇာမင်း တည်ပြု တော်မူစေသည်။ ဆင်အသစ်ဝင်သောအခါ ရေအိုင်တို့ဝယ် ကစားသာအောင် ကန်တူးစေ၏။ ကျောက်စာတိုင်၌ ဘီလူးရုပ်၊ နတ်သားရုပ်ထုလုပ်စေ၍ ကန်လေးထောင့်တွင် စိုက်စေ၏။ ဆင်ကိုလည်း နံယုန်လဆင်းစေ၏။ ဆင်ဝင်သောအခါ ဆင်စားဘို့ ဟင်းနုံးစောစပါးခင်း ကန်မြောက်က စိုက်ပျိုးစေ၏။

ဤသို့သော အခြင်းအရာစကားများကို ပရက္ကမ တိုက်နေ ဘုန်းတော်ကြီးတပါးနှင့် စစ်ကွပ်ဆရာတို့ ကြားလေလျှင် သီရိသုဓမ္မရာဇာမင်းအား သိုက်စာကို ဆက်လေ၏။ သိုက်စာဆက်ကြောင်းကို လောင်းကြက်စား ကေသလအားခေါ်၍ ပြတော်မူလေလျှင် လောင်းကြက်စား လည်း အကျွန်အဘိုးကိုမကြိုက်သဖြင့် သံတော်ဦးတင်ခြင်း သာ ဖြစ်ပါသည်လျှောက်၏။ သိုက်တတ်လက်ရုံးက အရှင်မင်းကြီး၊ ဤလောင်းကြက်စားလျှင် မင်းဖြစ်လတ္တံ့ မည်ဟုလျှောက်၏။ သီရိသုဓမ္မရာဇာလည်း အနည်းငယ် ယုံမှားလျက်နေ၏။ လောင်းကြက်စားသည် ဆင်အိုးကို အားအန်ထုတ်လျက်လုပ်၏။ သိုက်စာဆက်သော ဘုန်းတော်ကြီးကိုရှာစေသော် ပရက္ကမတိုက်တွင်တွေ့၍ လောင်းကြက်စားထံ ပင့်၍ပေးလေ၏။ ရောက်လတ်လျှင် လောင်းကြက်စားသည် ဤသို့လျှောက်၏။ အရှင်ဘုရား၊ ဤပြည်တွင် အရှင်ဘုရားနှင့် အကျွန်ုပ်တို့နှယ် နှစ်ယောက် ထက်မရှိပါ။ သို့ဖြစ်၍ အရေးအရာတို့ကို ကြံတော်မူပါဟု ဒင်္ဂါးငါးရာယူလျက် အရှင်၏လက်တောင့်ကြားတွင် ထိုး၍လှူလိုက်၏။ ယင်းသို့ပြုပြီးလျှင် စစ်ကွပ်ဆရာ ဘုန်းတော်ကြီးကို အိမ်သို့ပင့်စေ၍ အတိုင်အပင်ပြုပေ၏။

စစ်ကွပ်ဆရာဘုန်းတော်ကြီးလည်း ဤသို့ဆို၏။ မင်းကြီး၊ မင်းဖြစ်လျှင် ပြည်ကားပျက်လိမ့်မည်။ အနွယ် တော် တဆွဲတဆက် ဖြစ်လိမ့်မည်ဟုဆို၏။ လောင်းကြက် စားလည်း ဤသို့လျှောက်၏။ အရှင်ဘုရား၊ ဆင်အိုးပြီး လျှင် ဆင်တို့ဝင်လျှင် ဆင်စာသည် အဘယ်သို့ပေးရအံ့ နည်းဟုလျှောက်၏။ စစ်ကွပ်ဘုန်းတော်ကြီးလည်း မင်းကြီး၊ ဆင်စာစပါး ဟင်းနုံးစောကို နတ်သားကန် မြောက်ဘက်ကကြဲပြီးသော် အရှေ့တံခါးဖြင့် ထွက်လတ် လျှင် တြင်းတခုကြားလိမ့်မည်။ ယင်းတြင်းအတိုင်းလျှင် မင်းကြီးမင်းဖြစ်လတ္တံ့မည်ဟု စစ်ကွပ်ဘုန်းတော်ကြီး ဆိုပေ၏။ ဆိုသည့်နေ့၌ပင်လျှင် ဆင်စာ စပါးကြဲလေ၏။ ကြဲ၍လာလတ်လျှင် အရှင်စစ်ကွပ် ဘုန်းတော်ကြီးဆိုသည့် အတိုင်း အရှေ့တံခါးဝတွင်ရပ်၍ တြင်းနာခံသော် သူငယ်တို့ တြင်းဆိုလတ်သည်ကား-

**တောင်ပြိန်းပြိန်းပြောင်၊ ဝန်လယ်ကောင်၊ ကန်ပေါင် ကန်ရင်း၊ ဟင်းနုံးစောခင်း၊ နင့်ဘလယ်လုပ်၊ အကြံထုတ်၍၊ လယ်လုပ်ဟန်လို၊ ထိုသူအိုနှင့်၊ ဝါဆိုလ တွင် စမ်းကြမည်။**

ဟူသောစကားကို လက်ဝဲဘက်ကကြားခဲ့၍ စစ်ကွပ် ဘုန်းတော်ကြီးအား ကြားခဲ့ကြောင်းကိုလျှောက်၏။ စစ်ကွပ် ဘုန်းတော်ကြီးလည်း ဤစကားတြင်းအတိုင်းဖြစ် လတ်မည် မချွတ်ဟုဆိုပေ၏။ လောင်းကြက်စားလည်း ဒင်္ဂါးငါးရာကိုယူလျက် အရှင်ဘုရား လက်တောင့်ကြား တွင် ထည့်လိုက်၏။ အရှင်ဘုရားလည်း ကျောင်းသို့ သွားလေ၏။

သိုက်တတ်လက်ရုံးက ထိုစကားကိုကြားလေ လျှင် သီရိသုဓမ္မာရာဇာအား ကြားလျှောက်လေ၏။ အရှင်မင်းကြီး၊ ဘိုးတော်လောင်းကြက်စားသည် မင်းဖြစ် လတ္တံ့မည် မချွတ်ဟုလျှောက်၏။ မင်းကြီးလည်း ငါ့လက်ထက်ဖြစ်မည်လောဟုမေးတော်မူ၏။ သိုက်တတ် လက်ရုံးလည်း အရှင်မင်းကြီး သားတော်လက်ထက်တွင် သာ ဖြစ်ပါမည်။ သိုက် စာကျမ်းတွင်ဆိုသည်မှာ---

**နဂါးအနွယ်၊ အကယ်ကိုးဆက်၊**
**မြောက်လိမ့်မည်။**
**အဆုံးနဂါး၊**
**တိုင်လေဗြားနဂါးအနွယ်ပြတ်လိမ့်မည်။**

ဟူ၍ သိုက်စားကျမ်းဂန် ရှိပါသည်။ သို့ဖြစ်၍ ဗုဒ္ဓဟူးသား ဘိုးတော်လောင်းကြက်စား ဂေကသလသည် အနွယ်တော်ကို ဖြတ်ပါလိမ့်မည်ဟုလျှောက်၏။

မင်းကြီးလည်း ဖြစ်ပေါ်လတ်မည့်သူ အမှန်ဖြစ်၍ နေ့လုံးကုန်လေသော်လည်း နလုံးမသွင်းမိလေ။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ အကျွန်ုပ်ယတြာပြုပေအံ့ဟုလျှောက်၏။ မင်းကြီးလည်း ဆိတ်ဆိတ်သာနေတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း ခေါသုံးဆယ်၊ ပန်းဖွားသုံးဆယ်နှင့်လောင်းကြက်စားအိမ်တွင် ယတြာပြုချေ၏။ လောင်းကြက်စားသိလေလျှင် ယတြာကို ပဋ္ဌရာပြုမည်အခြင်းအရာကိုကား သိရှိသုဓမ္မရာဇာသည် အင်္ဂါသားဖြစ်သောကြောင့် စေည်ဟူသော ပဋ္ဌရာကို ဆို၏။ ဆိုသည်စကားမှာ---

- ကိုးရာကိုးဆယ်၊ ကိုးခုဝယ်ပင်၊ တွေင်စရေ၊ ညရေတန်းစွ၊ ပြည်မမတ်ကျွန်၊ ဟန်ပန်ကောင်းစွ၊ ကျွန်ရည် ကောင်းသည်ပါရဲဘ။
- ဟုတ်တည့်လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်းဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယူ၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ မရတကား ပါရဲဘ။
- စေည်ဂူပေါက်၊ ငါရကောက်မှာ ရှိလေသည်လည်း ပါရဲဘ။
- ကျေးကတုပ်ပင်ရင်း၊ စေည်တွင်း၊ နင်းလေမောင်မင်း၊ တယောက်ချင်း၊ နင့်မိမောင်ကြီး၊ နင့်ဦးရီးမှာ၊ တူးရှင်းငှားချေ၊ တူးရှင်းမရ၊ ရန်တင်းရှာ၊ ခရာစိုးမည် အိုမိန်းမ၊ နင့်မိမောင်ကြီး၊ နင့်ဦးရီးမှာ၊ အိုးပျည်ငှားချေ၊ အိုးပျည်မရ၊ ရန်တင်ရှာ၊ ခရာစိုးမည် အိုမိန်းမ၊ စေည်ယူယူ၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ မရတကား ပါရဲဘ။
- သားပါရဲကို၊ ကျောင်းမှာမထား၊ အိမ်မှာထား၍၊ ရှင်များပြုမည်၊ ကြံပါသည်။ အခေါင်းကိုင်လည်း၊ အခေါင်းမရ၊ ရမ်းရမ်းတကား ပါရဲဘ။
- အမြီးကိုင်လည်း အမြီးမရ၊ ရမ်းရမ်းတကား ပါရဲဘ။
- လမူးနိတောင်ရိုး၊ ယာပုံးဆိုးမှာ၊ ဂူပေါက်တခု ရှိလေသည်လည်း ပါရဲဘ။
- ဟုတ်သည့်လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်းဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယူ၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ မရတကား ပါရဲဘ။
- ဘီ,ဘိုးနန်းသုံး၊ လမန်တုန်းတွင်၊ အခြင်းသုံးဆယ်၊ ပြလတ်မည်လည်း ပါရဲဘ။
- အင်းဝပုဂံ၊ နိုင်ငံဒေသ၊ ပြည်သုံးခွတွင်၊ ဂူပေါက် တခုရှိလေသည်လည်း ပါရဲဘ။
- ဟုတ်တည့်လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်းဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယူ၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ မရတကား ပါရဲဘ။
- မာန်အောင်အဆုံး၊ ကျောက်တလုံးမှာ၊ ဂူပေါက်တခု ရှိလေသည်လည်း ပါရဲဘ။
- ဟုတ်တည့်လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်းဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယူ၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍မရတကား ပါရဲဘ။
- ကုလားတန်အများ၊ ကုလက်နားတွင်၊ ဂူပေါက်တခုရှိလေသည်လည်း ပါရဲဘ။
- အနောက်မှာလည်း၊ ပစရာအကြား၊ အုရျာများတွင်၊ ဂူပေါက်တခုရှိလေသည်လည်း ပါရဲဘ။

- ဟင်းမစားသဓိး၊ ဟန်လုံးကြီးနှင့်၊ နားဒေါင်း ဝတ်ကာ၊ ကၡ်လာသည်၊ ငါလည်းတချက်၊ လမန်တောတွင်၊ ပြောလိုက်လျက်၊ ဟုတ်တည့် လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်းဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယု၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ မရတကား ပါရဲဘ။
- ခေါင်းကိုကိုင်လည်း၊ ရမ်းရမ်းတကား၊ အမြီးကိုင် လည်း၊ ရမ်းရမ်းတကား ပါရဲဘ။
- စေည်သားကို၊ တန်အောင်မစား၊ အလွန်စားလို့၊ က်ကောက်ချေးရည်၊ ယိုလတ်မည်လည်း ပါရဲဘ။
- ဟုတ်တည့်လင်ချာ၊ လင်နွဲ့နှောင်း၊ လင်ကောင်း ဆိုသည်၊ ကောင်းလတ်မည်၊ စေည်ယူယု၊ နှာရောင်ဖြူကို၊ မောင်ဖြူကျုံး၍ ရသတည့်လေ ပါရဲဘ။

ဟူ၍ဆိုလေသည်။ ဤသို့ဆိုသော စေည် အခြင်းအရာကို သိုက်တတ်လေက်ရုံးကြားလျှင် အရှင် မင်းကြီး၊ ဘိုးတော် လောင်းကြက်စား ငကုသလသည် ဘိုးတော်ကိုယ်ရုံကြီး ငလုံးတင် လွှန်တော်မူလေလျှင် အထူးထူးယတြာ ပဋ္ဌရာကိုကြံစည်ပါသည်။ အရှင် မင်းကြီး မသိပါလော။ သိကြားမင်း စည်းစိမ်ကဲ့သို့သော စည်းစိမ်ကိုခံစား၍သာနေတော်မူ ဘိသည်။ အနွယ်တော် ပြတ်ပါလတ်မည်ကြံသည်။ ဘိုးတော် ငကုသလ မင်းဖြစ်ဆစ်ရှိပါသည်။ အရှင်မင်းကြီးအား ဖိစား၍မနိုင် ပါလျှင် အကျွန်ုပ်လည်း တပြည်တရွာသို့ ပြေးရပါမည် သာ။ အရှင်မင်းကြီး စဉ်းစားတော်မူပါလေ။ ကျောက်ဆိပ် နှင့် စိုးရွှေပန်းနတ် ကျောက်ဗီလာတွင် တြင်းနာပါလေဟု သိုက်တတ် လေက်ရုံးလျှောက်၏။

သီရိသုဓမ္မရာဇာလည်း နန်းရှင်လုလင်ထောင် စားနှင့်ဘုန်းတော်စားတို့ကို တြင်းနာစေတော်မူသော် ကျောက်ဆိပ်နတ်သည်။ ။ မင်းဟရိကို ပြည်စောင့် ထားသည်။ ဟရိလည်းသေ၊ ပြည်လည်းကြေဟု ငိုသံကို ကြားခဲ့၏။

စိုးရွှေပန်းနတ်တွင် တြင်းနာသော်စိုးရွှေပန်းနတ် လည်း။ ။ ကျွန်ကလူသည်၊ အကယ်တန့်တန့်၊ တထောင်စေ့ တွင် ဖြစ်လတ္တံ့ဟူ၍ ဆိုသံကိုကြားခဲ့၏။

ကျောက်ဗီလာတွင် တြင်းနာသော် ဖွတ်က မိကျောင်းဖြစ်သော် ချောင်းမြောင်း မချမ်းသာ၊ ကျွန်က သူကောင်းဖြစ်သော် ပြည်ရွာမချမ်းသာဟူသော တြင်းသံ ကိုကြားခဲ့၏။

ကြားခဲ့သည့်အတိုင်း နားတော်လျှောက်ကြလေ လျှင် မင်းကြီးသည်ကြောက်သဖြင့် သိုက်တတ်လေက်ရုံး ကို ခေါ်၍ မေးတော်မူ၏။ သိုက်တတ်လေက်ရုံးသည် အရှင်မင်းမြတ်၊ ကျောက်ဆိပ်နတ် ငိုသည့်အလိုမှာ အရှင် မင်းကြီး ပျက်စီးအံ့သောအကြောင်း၊ စိုးရွှေပန်းနတ်ဆိုသော တြင်းအရမှာ ကျွန်က မင်းဖြစ်အံ့သောအကြောင်း၊ ကျောက်ဗီလာ တြင်းအရမှာ ကျွန်က မင်းဖြစ်လျှင် ပြည်ရွာမချမ်းသာ ပျက်စီးသိမ် ဖျင်းအံ့သောအကြောင်း ဖြစ်ပါသည်ဟုလျှောက်၏။

သီရိသုဓမ္မရာဇာလည်း သိုက်တတ်လေက်ရုံးကို သိုက်ဓာတ်ကိန်းခန်းတို့နှင့် တွက်ချက်၍ကြည့်ပါဟု မိန့်တော်မူ၏။ သိုက်ဓာတ် ကိန်းခန်းတို့နှင့် တွက်၍ကြည့်ရှု သော် သက္ကရာဇ် တထောင်စေ့တွင် တောင်က ဗုဒ္ဓဟူး သားအနွယ် တဆဲ့တဆက်မင်းတို့ ဖြစ်လိမ့်မည်။ ပြည်ရွာ ပျက်လိမ့်မည်ဟုလျှောက်၏။ မင်းကြီးလည်း ဆိတ်ဆိတ် နေတော်မူ၏။

မင်းဖြစ်လတ္တံ့မည်ကြံသော ငကုသလမှာလည်း ပဋ္ဌရာစေည်ကိုဆိုစေ၏။ ဆိုစေသောစကားကို ပြည်သူ ပြည်သားတို့သည် တခါမျှမကြားဖူးသောကြောင့် ပြည်အလုံးသည် လက်ခုပ်တဖြောက်ဖြောက်တီးလျက် ဆိုကြလေကုန်၏။ သိုက်တတ်လေက်ရုံးလည်း စေည် အခြင်းအရာနှင့် ပဋ္ဌရာဆိုသော စကားကိုကြားလျှင်

အရှင်မင်းကြီး၊ ဘိုးတော် လောင်းကြက်စားသည် အင်္ဂါနံကိုနင်း၍ စေည်ခြင်းကိုဆိုပါသည်။ အရှင်မင်းကြီး နာခံတော်မပြုသင့်ပါဟုလျှောက်၏။ မင်းကြီးလည်း ဆိတ်ဆိတ်နေတော်မူ၏။

တရံရောအခါ လောင်းကြက်စား ကေသလသည် စေည်နှစ်သားကိုခေါ်လျက် နှုတ်ထည့်၏။ ယောက်ကျား၊ ငါသည် မနက်စောစော မင်းအိမ်သို့တက်မည်။ နင်သည်ဆည်ဝတွင် လေ့ရုံ၌စေည်အခြင်းအရာကို ပြနေနှင့်ဟုမှာလိုက်၏။ လောင်းကြက်စားလည်း မနက်စောစောကသည် မင်းအိမ်သို့တက်လတ်၏။ ဆည်ဝလေ့ရုံတွင် စေည်ဆိုသော စကားကိုကြားလျှင် ထမ်းစင်နှင့် ရပ်၍နားခံ၏။ နားခံသောစကားကို မင်းအိမ်သို့တက်လျှင် သီရိသုဓမ္မာရာဇာ မင်းကြီးကိုလျှောက်၏။ အရှင်မင်းကြီး၊ စေည်ဟူတုံ၏ရှင့်၊ အကျွန်ုပ်အသက် တဘို့တွင်သည်သာ ကြားဘူး၏ရှင့်ဟု လျှောက်၏။ ယင်းအခါတွင် ရှစ်သောင်း ဘုန်းတော်ကြီး ဂုဏာမဥ္စူနှင့် သိုက်တတ်လေကံရုံးတို့ ရှိကြ၏။

ရှစ်သောင်းဘုန်းတော်ကြီး ဂုဏာမဥ္စူက ဤသို့မိန့်တော်မူ၏။ ဤစေည်စကားကို မင်းကြီးကြားက ခုနစ်ရက်အတွင်း ပျက်စီးအံ့ဟုမိန့်တော်မူ၏။ သိုက်တတ်လေကံရုံးလည်း ဤသို့လျှောက်၏။ အရှင်မင်းကြီး၊ ဤစေည်စကားကိုကြားက ခုနစ်ရက်အတွင်း ပျက်စီးအံ့ဟု ဆရာတော် မိန့်တော်မူပါသည်။ မိန့်တော်မူသည့်အတိုင်း မှန်ကောင်းမှန်မည် ထင်ပါသည်ဟုလျှောက်၏။

မင်းကြီးလည်း မနာမယူမှု၍ နန်းရင်ပြင်သို့ သွင်းပြီးလျှင် မြေတလင်းတွင် စေည်နှစ်၍ပြစေ၏။ မင်းကြီးသည် မိဘုရားမောင်းမမိဿံတို့နှင့်တကွ ထွက်၍ကြည့်တော်မူ၏။ စေည်စကားကိုကြားတော်မူလျှင် သက္ကရာဇ် တထောင်ပြည့်တွင် နယုန်လဆုတ် ၂ ရက်၊ တနင်္လာနေ့ သီရိသုဓမ္မရာဇာမင်းသည် လွန်တော်မူလေသည်ဟုဆိုတော်မူသည်။ ဤသည်ကား ရာဇဝင်ဟောင်း မြို့တည်ခန်း၌လာသော သီရိသုဓမ္မရာဇာမင်း၏ အခန်းတည်း။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်းလွန်တော်မူသော တနင်္လာနေ့၌ပင် အိမ်နိမ့်မှမွေးဖွားတော်မူသော သားတော် မင်းစနေသည် နန်းထက်မိဘုရားနှင့် မင်းပြုတော်မူလေ၏။ မင်းပြုတော်မူစဉ် ကျောက်ရောဂါ ပေါက်လတ်၍ မယ်တော်မိဘုရားနတ်ရှင်မယ်သည် လောင်းကြက်စားကေသလနှင့် ဟူးရားတတ် ရဲထွတ်တို့နှင့် တိုင်ပင်၍ နန်းတော်အရှေ့ မြောက်ထောင့် ကမ်းနားဝယ် ဝင်းစားမအရပ်သို့ ယာယီပြောင်း၍ နေစေသော် ရောဂါချမ်းသာပါမည်ဟု ဟူးရားတတ်ရဲထွတ် လျှောက်သောစကားကို လိုက်နာယုံကြည်၍ ယာယီပြောင်းနေရာ မယ်တော်နတ်ရှင်မယ် အဆိပ်ဆေးခတ်၍ ပေးသဖြင့် အိမ်နိမ့် ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ အရက် ၂၀၊ အရက်နှစ်ဆယ်။ နှစ်စုသက်တော် တဆဲ့ရှစ်နှစ်နှင့် အရက်နှစ်ဆယ်၊ သက္ကရာဇ် တထောင်ပြည့်၊ ဝါဆိုလဆန်း ၆ ရက်၊ ကြာသပတေးနေ့တွင် လွန်တော်မူလေသည်။ နံတော် စနေသားတည်း။ ၉။

ဤမင်းစနေတွင် သာကီဝင်မင်းဆက် ပြတ်လေပြီ။ ဒုတိယမြောက်ဦးမြို့တည် မင်းပါကြီးအစ၊ မင်းစနေအဆုံးရှိသော မင်းကိုးဆက်တို့၏ နန်းစံနှစ်ပေါင်း ၁၀၇ နှစ်တည်း။

ဤသည်ကား ဒုတိယမြောက်ဦးမြို့တည် မင်းပါကြီးအစ၊ မင်းစနေအဆုံးရှိသော မင်းကိုးဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုအပ်သောအကြောင်းတည်း။

(ဤမင်းပါကြီးအဆက် ကိုးဆက်တွင် မင်းပါကြီး နန်းတက်သက္ကရာဇ်ကို ၈၉၃ ခု၊ နယုန်လဆန်း ၁ ရက်၊ စနေနေ့တွင် နန်းတက်ကြောင်းနှင့် ရာဇဝင်ဟောင်း၊ ရာဇဝင်လင်္ကာ၊ ဆရာမည်ရာဇဝင်တို့၌ ဆိုကြလေသည်။ ဓညဝတီအရေးတော်ပုံ၌ကား သက္ကရာဇ် ၈၇၈

ခုတွင် နန်းတက်တော်မူပြီးမှ သက္ကရာဇ် ၈၇၉ ၊ တပေါင်းလဆန်း ၅ ရက်၊ နံတော်စနေနေ့ သဘင်ကြီးစွာနှင့် ဗောဓိပင်မှာ အလှူတော်ကြီးစွာ ပေးလှူတော်မူကြောင်း စသည်ဖြင့် ဆိုလေသည်။

အချို့ရာဇဝင်သစ်၌မူ နန်းတက်သက္ကရာဇ်ကို ၈၉၃ ခု၊ နယုန်လဆန်း ၁ရက်၊ စနေနေ့တက်ကြောင်းနှင့် ၁၄၃ နံပါတ်တွင်ဆိုပြီးလျှင် မင်းပါကြီးအနောက်သို့ စစ်ချီခန်း၌ ဧညဝတီအရေးတော်ပုံအတိုင်း ၈၇၉ ခု၊ တန်ဆောင်မုန်းလဆန်း ၉ ရက်နေ့၊ အောင်တပ်ထွက်တော်မူကြောင်းနှင့် ၁၄၆ နံပါတ်တွင် ဆိုပြန်လေသည်။ နံပါတ် ၁၅၀ တိုင်ရောက်သည်ကာလ သက္ကရာဇ် ၈၇၈ ခုတွင် ထီးနန်းတက်တော်မူကြောင်း စသည်ဖြင့် ဧညဝတီ အရေးတော်ပုံသို့လိုက်၍ ဆိုလေသည်။ ရှေ့နောက်ဆင်ခြင်၍ယူလေ။

ဤမှတပါး မင်းဖလောင်းအခန်းများတို့၌လည်း ရာဇဝင်ဟောင်းတို့နှင့် ဧညဝတီအရေးတော်ပုံတို့ စကားသည် ကွဲပြားချွတ်ယွင်းရှိလေသည်။ ရှိကြောင်းများကို ၎င်း မင်းတို့၏အခန်း၌ ရေးညွှန်ပြဆိုအပ်လေပြီ။ ပြဆိုအပ်သည့်အတိုင်းသာလျှင် လိုက်နာမှတ်သား နှလုံးထားကြပါလေ ပညာရှိသူအပေါင်းတို့။ ဤသည်ကား စကားချပ်)

ဤတွင်ရွှေ့ကား ရမ်းပြည့်မြို့ တောင်ကျောင်း ဆရာတော် ဦးစန္ဒမာလာသည် ကောင်းစွာပြုပျင် စီရင်ရေးသားအပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ မြောက်ဦးမြို့တည် မင်းစောမွန်အနွယ်တော် တဆဲ့နှစ်ဆက်၊ ဒုတိယ မြောက်ဦးမြို့တည် မင်းပါကြီးအနွယ်တော် ကိုးဆက်၊ မင်းပေါင်း နှစ်ဆဲ့တဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ထောက်ထား စာနာကျမ်းဂန်လာတိုင်း သေချာပြုပျင်စီရင်ရေးသားအပ်သော ပဥ္စမတွဲသည် ပြီးစီးခြင်းသို့ရောက်ပြီ။

**ပု၊ ဒိ၊ အာနှင့် ပြည့်စုံရပါလို၏။**

**ရခိုင်ရာဇဝင်သစ်ကျမ်း ပဥ္စမတွဲ ဤတွင်ရွှေ့ပြီးပြီ။**



# ရခိုင်ရာဇဝင်သစ်ကျမ်း

## ဆဋ္ဌမတွဲ

### နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဤသို့လျှင် ပဉ္စမတွဲဖြင့် မင်းစောမွန် အစ၊ မင်းစနေအဆုံးရှိသော မင်းနှစ်ဆဲ့ တဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသားပြဆိုပြီး၍ ယခုအခါ၌ ဆဋ္ဌမတွဲဖြင့် ကုသလနရပတိမင်းအစ၊ သမ္မတမင်းအဆုံးရှိသော မင်းနှစ်ဆဲ့ရှစ်ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသား ပြဆိုလိုက်ပေအံ့။

**(၁၆၄) နရပတိမင်း အစ သမ္မတမင်းအဆုံးရှိသော မင်းနှစ်ဆဲ့ရှစ်ဆက်တို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကိုရေးသားပြဆို အပ်သော အကြောင်း**

မင်းစနေလွန်တော်မူလေလျှင် မင်းပါကြီး၏မြစ်ဖြစ်တော်မူသော လောင်းကြက်စား ငကုသလသည် မိဘုရားနတ်ရှင်မယ်နှင့်ဘိသိက်ခံ၍ မှူးမတ်တို့ညီညွတ်လျက် သက္ကရာဇ် တထောင်ပြည့်၊ ဝါဆိုလဆုတ် နှစ်ရက်၊ စနေနေ့ နံနက်တပပဟိုရ်ကျော်တွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူ၍ နရပတိကြီးဟူသောအမည်ကို ခံယူတော်မူသည်။

ထိုမင်းကား မင်းသား၊ မင်းမြေး၊ မင်းမျိုး၊ မင်းဆွေ၊ မှူးမတ်တို့ကိုနေ့တိုင်း ညဉ့်၌ခေါ်လျက်သတ်ပစ်လေ၏။

ဤသို့ သတ်ပစ်လေသည်မှာ လောင်းကြက်မြို့၌ ထီးနန်းစံတော်မူသော နန်းကျကြီးမင်းဖြစ်သောအခါ စိတ္တရ၊ နာရဒရှင်ငယ်တို့သတ်ခါနီးတွင် လက်ယာနားမှ ယိုကျသောသွေးကို လက်ယာလက်ဝါးဖြင့်ခံ၍ မြတ်စွာဘုရားရုပ်တုပေါင်တော်တွင် လက်ဝါးစုံဟပ်ပြီးလျှင် အရှင်ဘုရား၊ အကျွန်ုပ်သည် ဤပြည်၌ မင်းတဖန်မင်းဖြစ်လျှင် အကျွန်ုပ်ရန်သူတို့၏ဆွေမျိုးစသောသူတို့ကို သတ်ဖြတ်ရလို၏။ သတ်ဖြတ်ရပြီးမှ အကျွန်ုပ်လိမ်းကျံထားခဲ့သော လက်ယာပေါင်တော်၌ သွေးလက်ရာသည် ကြေပျက်ပါစေသတည်းဟု မိဋ္ဌာန်သစ္စာပြုခဲ့သည့်အတိုင်း

ဖြစ်၍ သတ်ဖြတ်ရလေသည်။ ယင်းသို့ သတ်ဖြတ်လေပြီးမှ ရုပ်တုတော်၏ လက်ယာပေါင်တော်၌ သွေးလက်ရာသည် ကြေပျက်လေသောဟူ၏။ ထို့ကြောင့် မှော်ကတော်ခြေင်း၌---

ဧးပိမ့် ပြတ်ပြတ်၊ ကျူးရေရွှတ်ပိမ့်၊ ထိုမတ်နှစ်ပါး၊ ကြံစည်ထား၍၊ ဆေးဝါးမန္တန်၊ တတ်ပွန်အင်္ဂါ၊ ဇော်ဂီဝိဇ္ဇာ၊ ပညာစီရင်၊ ဘီလုံးသွင်သို့၊ ရှင်စိတ္တရ၊ နာရဒတို့၊ မိဖုရားပြစ်၊ ရလစ်မသတ်၊ ဆရာမှတ်၍၊ ကြည်ညွတ်ရှိသေ၊ တောင်းပန်လေမူ၊ ထွေထွေလာလာ၊ နာနာရုပ်ဟန်၊ ဘန်ဘန်ဆင်းဆင်း၊ လိုက်လေလျှင်းသော်၊ လွတ်ခြင်းမထင်၊ ဂူထဲဝင်၍၊ ရှင်တော်ရုပ်တု၊ ကိုယ့်ကောင်းမှုတွင်၊ ပြုတုံသစ္စာ၊ ထိုမိဇ္ဇာကား၊ ယင်းခါကဝယ်၊ မြောက်ဦးနွယ်၍၊ နှစ်ဆယ်နှင့်ဒွေး၊ နန်းတက်ဝေးမှ၊ ရှင်ဘေးတော်မင်း၊ ရှင်ရင်းခွင်းခါ၊ သွေးလက်ရာမူ၊ ကြေသောဟူသည်။ နတ်လူအံ့မိ မှူးတည့်လေ၊ မှူးတည့်မှော်ကတော်၊ ဟုတ်၏သြော်၊ ရေသော်နှစ်ကျိပ်၊ ဖြူရိပ်ဖွေးဖွေး၊ နှစ်ယောက်ဝေးဝယ်၊ ရှင့်ဘေးတော်ချစ်၊ မင်းခေါင်ဖြစ်မှ၊ ကြေလစ်တည့်နီတွေး၊ လက်ရာသွေး၊ ဧးလည်းယဉ်ယဉ်ဧးဟူ၍ စပ်ဆိုတော်မူလေသည်။

ယင်းသို့ မင်းသား၊ မင်းမြေး၊ မင်းဆွေ၊ မင်းမျိုးမှူးမတ်၊ ပညာရှိတို့ကိုသတ်ဖြတ်လေလျှင် သိုက်တတ်ငလက်ရုံးနှင့် စစ်ကွပ်ဆရာတော်တို့သည် အနောက်ကုလားပြည်သို့ ထွက်ပြေးကြလေကုန်၏။ လိုက်လံ၍ရှာစေသော် ကံသာရေကြည်ပြည်တွင် သိုက်တတ်ငလက်ရုံးကိုရခဲ့၍ ပြည်စိုးကြီးနှင့် မင်းတိုင်ပင်အမတ်ပြု၍ထားပေ၏။

ထိုနရပတိမင်းသည် ပြည်ထောင်ချင်းမင်းတို့ထံ ရွှေကျေးတမန်စေလွှတ်တော်မူသည်။ ၎င်းစာမှာ ---

နဝပဘာ၊ ကိုးရောင်လာ၍၊ ဖြူပြာပြိုးပြက်၊ ဘိတ်လက်ရောင်ဆီး၊ ပြောင်ညီးရှုဖွယ်၊ ကိုးသွယ်လည်ရစ်၊ ကျစ်လျစ်ယုယ၊ အိုသူဝ။ ။ ဒီပကျွန်းညို၊ လုံးကိုစိုးရန်၊ ခါချိန့်တန်၍၊ ဝေယန်သခင်၊ သူဇာလင်ကို၊ မောင်ရှင်ပြောလေ၊ မှာလွှတ်စေ၏။ ဟုတ်ပေသလော၊ သဘောကျူးလွန်၊ မြောက်စွန်မှိုင်းလုံ၊ ကောင်းတုံပရာ၊ သျှမ်းရှာတဆွယ်၊ ဇင်းမယ်အုန်းပေါင်၊ မိုးခေါင်အင်းဝ၊ ဟံသာဝတီ၊ နောက်ဆီပဆာ၊ မင်းတို့မှာကား၊ ဖူးလာမည်ကို၊ သာကြည်ဆို၍၊ မောင်ညီကျေးရွှေ၊ လျှင်လတ်စေတည့်၊ ဟုတ်ပေသလော၊ သဘောဆန်းကြွယ်၊ ပြယာယ်မာယာ၊ တတ်လိမ္မာသည်၊ သူဇာမွေးလော တောမွေးလော။ ဟူသောစာဖြင့် စေမှာတော်မူလိုက်သည်။

ထိုမင်းနရပတိသည် ရှေးကတည်ထားခဲ့သော ဘုရားရုပ်တု၊ ဆင်းတု၊ ဂူ၊ ကျောင်းတို့ကိုထပ်ဆင့်၍လုပ်တော်မူသည်။ ချေးချောင်းဖျားတွင်လည်း ထင်ရှားစွာကုသိုလ်ကောင်းမှုကိုပြုစုပေးလှူတော်မူသည်။ တရံရောအခါ ကိုယ်တော်မကျန်းမာ မသာယာရှိလတ်၍ ဘဏ္ဍာတိုက်တော်မှ ဥစ္စာပစ္စည်းကိုထုတ်တော်မူစေ၍ အလှူကြီးကို ပေးတော်မူပြီးလျှင် သားတော်သတိုးဥပရာဇာကို သမီးတော် ရတနာကုမ္မာရီနှင့် ပေးမြားတော်မူလျက်ထီးနန်း အပ်နှင်းပါလေဟု မိဘုရားနတ်ရှင်မယ်အားမှာထားတော်မူပြီးမှ အိမ်နိမ့်သက်တော် ၅၆၊ ငါးဆဲ့ခြောက်နှစ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၆၃၊ ခြောက်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၁၀၀၇ ခု၊ နတ်တော်လပြည့်ကျော်တဆဲ့တရက်၊ ဗုဒ္ဓဟူးနေ့ လွန်တော်မူလေသည်။ နံတော်ဗုဒ္ဓဟူးသားတည်း။ ၁။ ဤသည်ကား ဆရာငမည် ရာဇဝင်၌လာသော နရပတိမင်း အကြောင်းတည်း။

အင်းစောက်ရာဇဝင်အဆိုမှာ ထိုနရပတိမင်း စိုးစံတော်မူသောအခါ အနောက်ပစ္စိမဒေသ ပဆာပြည်၌ မင်းခေါင်းရောင် မင်းပြုတော်မူ၍ အိုမင်းလတ်သော် သားတော်အကြီး အိမ်ရှေ့မင်း တလသောကျူကို တိုင်းပြည်ကိုအပ်နှင်း၍ မင်းပြုတော်မူစေ၏။ ထိုမင်းသား တလသော ကျူသည် မတရားပြုကျင့်သဖြင့် ညီတော်နှရောင်စီသည် ပုန်ကန်သောင်းကြမ်း၍ မနိုင်သဖြင့် နှမတော်သက်သူဇာတို့နှင့်တကွ ထွက်ပြေးဝင်ရောက်လာ

သည်ကို သာယာငြိမ်းချမ်းနေထိုင်စေ၍ သက်သူဇာကို သိမ်းပိုက်တော်မူလျက် အရောင်အဆင်းစသည်ကို ချီးမွမ်းတော်မူသည်ကား--

ကျော်ဆန်းပြား၍၊ ဘုရားရှင်ပင့်၊ ဘုန်းတော်ပွင့်သား၊ နောက်ခွင့်ပစ္ဆိမ၊ ဒေသစိုးဆောင်၊ မင်းခေါင်းရောင်လျှင်၊ ပြည်ထောင်ရှည်လျား၊ အိုလတ်ကြား၍၊ သားဩရသ၊ တလသောကျူး မင်းမူသောခါ၊ ကျင့်ရာမသင့်၊ လင့်၍ပြည်သူ၊ လူတို့တညီ၊ နှရောင်စီနှင့်၊ တူပြီစစ်မက်၊ ပုန်ကန်ဖျက်၍၊ ပြေးထွက်သွားရာ၊ သက်သူဇာလည်း၊ နောက်ပါတညီ၊ နှရောင်စီနှင့်၊ တူပြီမကွာ၊ ရဲဗိုလ်ပါနှင့်၊ မတ်ရာခမ်းနား၊ သားမယားတို့၊ ပြေးသွားဝင်မြောက်၊ ကျွန်ခံရောက်သည်၊ လျှံတောက်စက် ရွှေတော်ဝယ်သောဝ်။

စက်ရွှေတော်ရောင်၊ ထွန်းလျှံပြောင်သား၊ ပြည်ထောင်နောက်မှာ၊ ပဆာထိုမင်း၊ ဝင်လာလျှင်းသော်၊ ဖြည့်တင်းသိမ်းမြန်း၊ ရာနန်းတည်ဆောက်၊ ဝမ်းမြောက်ကြည်ဖြူ၊ ကြင်တော်မူ၍၊ ရန်သူမမှတ်၊ ပညတ်လေကြား၊ သိမ်းမြန်းထားသည်၊ ဘုရားဆုယူ မျှော်ရွှေသောဝ်။

ဘုရားဆုယူ၊ မျှော်တော်မူ၍၊ သက်သူဇာသွေး၊ အထွေးအကြီး၊ မင်းသမီးကို၊ ထံနီးမကွာ၊ စေပါတော်ထား၊ မိသံများနှင့်၊ မျက်ဝါးစိမ်၊ မြတံထွေထွေ၊ ရွှေငွေဒင်္ဂါး၊ ရေသော်များ၏၊ တိုင်းသားပြည်သူ၊ လူရဟန်းအား၊ သနားတော်မူ၊ ထိုဘုန်းတူ၏။ မြစ်လူဝေချာ၊ စကြာပြောင်ရွှန်း၊ တင့်ထူးဆန်းသည်၊ ရံဝန်းတော်များ ရွှေလှည့်သောဝ်။

ရံဝန်းတော်ရွှေ၊ ပျော်စံနေ၍၊ တင့်ထွေလှစွာ၊ သိင်္ဂါရောင်ရွှန်း၊ လွန်ထူးဆန်းသည်၊ ရွှေနန်းဥကင်၊ သပလ္လင်ထက်၊ နေသွင်ရွှေ့တူ၊ ထွက်တော်မူက၊ လျှံလူပြောင်ဝင်း၊ ရာမင်းဗျာဒိတ်၊ ထိုတံဆိပ်၏၊ ဘုန်းရိပ်တော်သည်၊ လွန်ချမ်းကြည်သား၊ နောက်ပြည်လွန်ကျော်၊ ရာဇာမော်ခါ၊ ဒါဂါပြည်ထောင်၊ တဘောင်သူရတန်၊ မင်းပထန်တို့၊ ရှင်လွန်ကြည်စွာ၊ သိုက်မှာနိဒါန်း၊ ကျိန်းခန်းသို့လျှောက်၊ ကျွန်ခံရောက်သား၊ ဤကြောင်းလျားကို၊ ရွှေနားလျှောက်တင်၊ မော်ကွန်းဆင်သည်၊ ဝန်းကျင်ကျော်ဆန်းပြားလှည့်သောဝ်။

ပလ္လွမ်းထင်၍၊ ထိပ်ပြင်ဦးစွန်း၊ လရောင်ထွန်းသို့၊ တို့ကျွန်းအားလုံး၊ ကိုယ်ရောင်ဖုံးသည်၊ တင့်ဆုံးဝင်းပြောင်၊ လှထွတ်ခေါင်မူ၊ ဖြူရောင်ပြာထွား၊ ရွှေအသားနှင့်၊ မြလားစိန်သွယ်၊ လကိုယ်နှယ်သို့၊ ကြင်ဖွယ်လှတင့်၊ ခြောက်ပြစ်လွှင့်၍၊ လှချင့်အရည်၊ ခြောက်ထပ်ပြည်လည်း၊ ရှိမည်မထင်၊ မြင်လျှင်ကိုယ်လုံး၊ သက်ဆုံးတိမ်းမတ်၊ ခန္ဓာပြတ်လိမ့်၊ နတ်လည်းမတူ၊ လူလည်းမက၊ ဘယ်ဒါနကြောင့်၊ အလှသို့ စင်လွန်သနည်း။

ညှို့မှောင်တွင်၍၊ အပြင်ဆဲ့လေး၊ ဝင်းရောင်ပြေးသား၊ ငယ်သွေးရှိန်းရှိန်း၊ ဆင်းမြစိမ်းကို၊ ခပ်သိမ်းရှင်လူ၊ နှလုံးမူလိမ့်၊ မဥ္ဇူပန်းမြတ်၊ ပွင့်ရောင်လွှတ်သို့၊ မိမြတ်ပြာစင်၊ သက်လုံးကြင်မျှ၊ ဥဒကုံ၊ တွင်မူသညာ၊ မြဂေါယာနှင့်၊ ပြူဗွာရပ်ဘောင်၊ တောင်ညာဇမ္ဗူ၊ ကျွန်းလေးဆူတွင်၊ ရှင်လူပြိုင်ဘက်၊ ရမည်ခက်၏၊ ပြုံးပြက်ရောင်သွယ်၊ သော်တာနှယ်သို့၊ နှိုင်းဆွယ်မလျော်၊ အစုပေါ်တွင်၊ သင်္ကော်ဒေဝ၊ နတ်ကပြတ်ပြတ်၊ သံချိုလွှတ်သည်၊ ဘယ်နတ်သင့်ကို ဖန်သနည်း။

လှစ်တင့်၍၊ ကေသျှင့်မြနှစ်၊ ထုံးကျစ်လျစ်နှင့်၊ ရေသစ်မွမ်းဖျင်း၊ မြတေဝင်းမျှ၊ အဆင်းရွှေရောင်၊ ခန်းလုံးပြောင်သား၊ တန်ဆောင်အတူ၊ ထွားပြာဖြူလျှင်၊ မိုးသူနတ်ရပ်၊ နှိုင်းမစပ်တည့်၊ ခြောက်ထပ်တံခွန်၊ လှတင့်ဟန်နှင့် ယုဂန်ထိပ်ဖျား၊ ဘယ်သိကြားသည်၊ မှတ်သားနှောင်ဖွဲ့ရန်သနည်း။

ဟူသော ဤပို့ကဗျာတို့ဖြင့် ပဆာမင်းသမီး သက်သူဇာကို သက္ကရာဇ် ၁၀၀၁ ခုနှစ်က နရပတိမင်းကြီး ချီးမွမ်းတော်မူသည်ဟု အင်းဇောက်ရာဇဝင်၌ ဆိုသည်။ ဤသည်ကား အင်းဇောက်ရာဇဝင်၌လာသော နရပတိမင်းအကြောင်းတည်း။

ရာဇဝင်ဟောင်း မြို့တည်ခန်း၌လာသော အကြောင်းမူကား မင်းစနေလွန်တော်မူလေလျှင် မှူးမတ်

တို့ကို လောင်းကြက်စားအကြံနှင့် ခြေချင်းခတ်လျက် မင်းလျာရွေးစေ၏။ လောင်းကြက်စားလည်း ခြေချင်းခတ်ခံပေ၏။ နောက်မှလောင်းကြက်စားကိုလွှတ်၍ မင်းလျာရွေးစေ၏။ မင်းလျာမရရှိလေသည်ကို ဂုဏမဥ္ဇူဆရာတော်မြင်လျှင် အမျက်တော်ထွက်၍ ကျွန်ကိုသာ လင်ပြုလေဟု ဆိုတော်မူလျက် ကမ္ဗလာကို လက်ဖြင့်တက်တက်ခတ်၍ ဆင်းသွားတော်မူလေသည်။

ယင်းသို့ ဆင်းသွားလေလျှင် သက္ကရာဇ် တထောင်ပြည့် ဝါဆိုလဆုတ် ခုနစ်ရက်၊ စနေနေ့ တက်နေ တပဟိုရ်ကျော်တွင် လောင်းကြက်စား မင်းပြုတော်မူ၏။ လောင်းကြက်စား မင်းပြုတော်မူလတ်လျှင် မှူးမတ်တို့နှင့် မင်းသား မင်းမျိုးတို့ကို ညဥ့်ရောက်လတ်လျှင်ခေါ်၍ သတ်ဖြတ် ဖျောက်ဖျက်ပစ်လေ၏။ ဂုဏမဥ္ဇူဆရာတော်ကိုလည်း တောကျောင်းသို့ လျှိုထားလေ၏။ စစ်ကွပ်ဘုန်းတော်ကြီးလည်း အနောက်သို့ ပြေးလေ၏။ သိုက်တတ် လေက်ရုံးလည်း ကံသာရေကြည်ပြည်သို့ ပြေးလေ၏။

လောင်းကြက်စားလည်း နရပတိဟူသော အမည်ကိုခံတော်မူ၏။ စစ်ကွပ်ဘုန်းတော်ကြီးနှင့် သိုက်တတ်လေက်ရုံးတို့ကို ခေါ်တော်မူစေ၍ ပြေးကြောင်းကို သိလေသော်လိုက်၍ရှာစေ၏။ ရေကြည်ပြည်မှာ သိုက်တတ်လေက်ရုံးကိုရခဲ့၏။ စစ်ကွပ်ဘုန်းတော်ကြီးကိုကား မရခဲ့လေ။ သိုက်တတ်လေက်ရုံးကိုရခဲ့၍ သွင်းပြုလေလျှင် နရပတိမင်းကြီးလည်း သိုက်တတ်လေက်ရုံးကို မြင်လျှင်၊ ဟယ်--သိုက်တတ်လေက်ရုံး၊ မင်းသည် အဘယ်ကြောင့်ပြေးလေသနည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီးသည် အကျွန်ုပ် ဆိုသောစကားကို နလုံးထားတော်မူသဖြင့် အသက်ကို ကြောက်သောကြောင့် ပြေးပါသည်ဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဤသို့မိန့်တော်မူ၏။ ဟယ်---သိုက်တတ်လေက်ရုံး၊ ဤပြည်တွင် မင်း တယောက် ငါတယောက်သာရှိသည်။ ရဟန်းတွင်လည်း စစ်ကွပ်ဆရာတော်တပါးသာ ရှိတော်မူသည်။ စစ်ကွပ်ဆရာတော်ကိုလည်း ငါရှာစေတော်မူသည်။ ရတော်မမူခဲ့ဟု မိန့်တော်မူပြီးလျှင် ဟယ်---သိုက်တတ်လေက်ရုံး၊ အတတ်ပညာသည်ကို အဘယ်မင်းစိုးလျှင် သတ်အံ့နည်းဟု မိန့်တော်မူ၏။

ဟယ်---သိုက်တတ်လေက်ရုံး၊ မင်းသည် သိုက်အရာမှာ ငမှန်ကန်၊ သိကြား၊ ရသေ့အတတ်မသာပေ။ ဘားမဲ့၊ နတ်သမီး၊ ဗျာဒိတ်ရနတ်သား၊ ဘီလူးမ သိုက်ကျမ်းတို့၌ အတုလွတ်တတ်သည်။ စစ်ကွပ်ဆရာတော်လည်း အတုလွတ်တတ်သည်။ ဘုရားပညာကဲ့သို့ မြော်မြင်သောပညာရှိပေသည်ဟု မိန့်တော်မူ၏။

သိုက်တတ်လေက်ရုံးကို ဟယ်---သိုက်တတ်လေက်ရုံး၊ ငါတရင်းနာလိုသည်ဟု မိန့်တော်မူ၏။ သိုက်တတ်လေက်ရုံးလည်း မွန်းလွဲငါးနာရီတွင် တရင်းနာထွက်လေသော် ထွက်ချင်းလျှင် တရင်းကိုမြင်လေ၏။ မြင်သောတရင်းမှာ မိန်းမတယောက်သည် ဆံပင်သုံးစုခွဲထုံးလျက် ဆန်ကောတချပ်တွင် ဖွဲတစု၊ ပြာတစု၊ ထမင်းတစု၊ ကျည်တောက်တလုံးတွင် ရေထက်ဝက်လောက်နှင့် လေ့ကားမှသက်သည်ကို မြင်လေ၏။ မြင်ပြီးလျှင် နန်းတော်သို့ပြန်လတ်၍ နရပတိမင်းထံ လျှောက်၏။

အရှင်မင်းကြီး၊ အကျွန်ုပ်သည် တရင်းနာချေသော် တခုသောတရင်းကို မြင်ခဲ့ပါသည်။ မိန်းမတယောက်သည် ဆံပင်သုံးစုခွဲထုံးလျက် ဆန်ကောတချပ်တွင် ဖွဲတစု၊ ပြာတစု၊ ထမင်းတစု၊ ကျည်တောက်တလုံးတွင် ရေထက်ဝက်လောက်နှင့် လေ့ကားမှသက်လာသည်ကို မြင်ခဲ့ပါသည်ဟုလျှောက်၏။

မင်းကြီးလည်း ဤတရင်းကိုမင်းပင်ဖတ်ဟု သိုက်တတ်လေက်ရုံးကို မိန့်တော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ တရင်းကိုဖတ်သည်ရှိသော် အရှင်မင်းကြီးဖတ်မည်နှင့် တူပါမူကားကောင်းပါမည်။ မတူပါမူ အမျက်တော်ခံရပါမည်ဟုလျှောက်၏။မင်းကြီး

လည်း သိုက်တတ်လေက်ရုံး၊ မင်းဖတ်မည့်စကားကို ငါ့နှလုံး၌ဝင်မည်ဟု မိန့်တော်မူလေ၏။

သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ တရင်းအလိုကား--- ဆံပင်သုံးစုခွဲ၍ထုံးသည်မှာ အနွယ်တော် လက်ထက်တွင် သုံးစုခွဲ၍ သတ်ကြလတ္တံ့။

ဖွဲတစု၊ ပြာတစု၊ ထမင်းတစုအလိုမှာ အနွယ်တော် လက်ထက်တွင် ဖွဲပြာကဲ့သို့ လွင့်ပြိုပျက်စီးလတ္တံ့။

ကျည်တောက်တွင် ရေထက်ဝက်လောက် အလိုမှာ အနွယ်တော်လက်ထက်တွင် တိုင်းပြည်ရှောက်ရှား ရှိလတ္တံ့ဟူ၍ ဘတ်လျှောက်ပေ၏။ နရပတိမင်းကြီးလည်း ငါလည်း ယင်းသို့ထင်သည်ဟု မိန့်တော်မူ၏။

နရပတိမင်းကြီးလည်း သိုက်တတ်လေက်ရုံးအား ဟူးရားတတ်တို့နှင့် ငါ၏အနွယ်အဆက်သည် မည်မျှဆက် ဖြစ်မည်နှင့် ပြည်ကိန်းခန်းကို တွက်၍ကြည့်ရမည်ဟု မိန့်တော်မူ၏။ သိုက်တတ်လေက်ရုံးလည်း တွက်၍ ကြည့်သော် တဆဲ့တဆက်မြောက်ရသဖြင့် ပြည်ကိန်းခန်းသည် တထောင်စေ့ကစ၍ပျက်လတ်ပြီးလျှင် တထောင် ငါးဆဲ့ကိုးတွင် ဤမြောက်ဦးမြို့သည် ဖွဲပြာကဲ့သို့ ထောင်းထောင်းပျက်လတ္တံ့၊ တထောင်ခြောက်ဆယ်စေ့တွင် မုန်တိုင်းထလိမ့်မည်။ လျှောင်ကြီးလှုပ်လိမ့်မည်။ သေပျောက် ပျက်စီးများလိမ့်မည်။ သင်းတို့အတွက်က မျိုးမတ်ပြိုလျက် သုံးစုသုံးဖြာခွဲ၍သတ်ကြလိမ့်မည်။ အရှင်မင်းကြီးအနွယ်တော်သည် တဆဲ့တဆက်မြောက်တွင် သောက်ကြာသား ဖြစ်လိမ့်မည်စသည်ဖြင့် လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လေက်ရုံး၊ သိုက်စကားကို ငါ့အားသံတော်ဦးတင်ဟု မိန့်တော်မူ၏။ သိုက်တတ်လေက်ရုံးလည်း သံတော်ဦး တင်ပါမည်ဟုလျှောက်၏။ နရပတိမင်းကြီးလည်း ဟယ်--သိုက်တတ်လေက်ရုံး၊ ဆင်မည်းဆင်ဖြူ ဖြစ်လတ် မူကား ဆင်ဖြူအမြီးပြတ်လတ္တံ့ဟူသည် အဘယ်ကို ဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ် လေက်ရုံး လည်း အရှင်မင်းကြီး၊ အရှင်မင်း၏ အနွယ်တော်တွင် အရှင်နှင့်တကွ သုံးဆက်သာ အကောင်းဖြစ်လတ္တံ့၊ အရှင့် အနွယ်တော်တွင် ဗုဒ္ဓဟူးသား သုံးဆက်ဖြစ်လတ္တံ့၊ ဗုဒ္ဓဟူးသား သုံးခါလည်လျှင် တိုင်းပြည်ပျက်လတ္တံ့၊ ပြတ်လေပြီးမှ သင်းတို့အတွက်က ဆက်လတ်မည်ဟု လျှောက်၏။

အရှင်မင်းကြီး၊ တနည်းတဲ့သော်ကား ဘေးတော် စောမွန်သည် ပထမဤ မြောက်ဦးမြို့ကို တည်လာသည်။ ဘေးတော်စောမွန် ကြာသပတေးသား အဆက်ပြတ်ခါ လည်း၊ ကြာသပတေးသား မင်းခေါင်ရာဇာတွင် ပြတ်ပါ သည်။ ဘိုးတော်မင်းပါကြီး စနေသားအဆက်ပြတ်မည့် အခါတွင်လည်း စနေသား မင်းစနေတွင် ပြတ်ပါသည်။ အရှင်၏အနွယ်တော်ကိုလည်း ဗုဒ္ဓဟူးသားဖြတ်ပါလိမ့် မည်။ ဤမင်းတို့အနွယ်ကိုဖြတ်မည့်အခါ ပဋ္ဌပြတ်၊ ဆပြတ်သားတို့သာ ဖြတ်ပါလိမ့်မည်ဟုလျှောက်၏။

အရှင်မင်းကြီး၊ တနည်းတဲ့သော်ကား ဤပြည် တွင် အဆုံး၌ စနေသားဖြစ်လာမည်။ ယင်းစနေသားသည် ဤမြို့ကိုကိုင်တတ်လျှင် မင်းကောင်းဖြစ်လိမ့်မည်။ နန်းထက်သုံးဆယ်နေရလိမ့်မည်။ အနွယ်ခုနစ်ဆက် ဖြစ်လိမ့်မည်။ အစွန်းငါးခုတွင် ဖြစ်လိမ့်မည်။ စနေသားကို ဗုဒ္ဓဟူးသားဖြတ်လိမ့်မည်။ ဗုဒ္ဓဟူးသား အကွာရာလေးခုနှင့် ပေါင်း၍ အစွန်းရှစ်ခုထက်တွင်ပျက်လိမ့်မည်ဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လေက်ရုံး၊ သိုက်စာကိုသာသံတော်ဦးတင်ဟု မိန့်တော် မူ၏။ သိုက်တတ်လေက်ရုံးလည်း သံတော်ဦးတင်ပါမည် ဟုလျှောက်၏။

အရှင်မင်းကြီး အတွင်းကန်မှာ ကြာနီထောင် သောင်း၊ ကြာကောင်းထောင်ရာ၊ ပွင့်သောခါလည်း၊ မယ်တို့ပန်ရာ၊ ပဒုမာလည်း မပါသေး၊ ယင်းကြာပွင့်ကား၊ သာယောင့်သာယာ၊ ရှိုင်မှာသာ ပွင့်စပါမည်၊ ယင်းကြာပွင့်ကို နဂါးအရ ကြိုးလတ်မည်၊ နဂါးမရ၊ တန်ခိုးကြီးစွာ၊ ခြင်သေ့သာလျှင်၊ ရလိမ့်မည်၊

ခြင်သေ့ဆွတ်ပြီး၊ ဘုရားကြီးမှာ တင်လတ္တံ့၊ ခြင်သေ့၊ နှစ်ခု၊ အမြီးလှုပ်ကာ၊ မယောက်သာ၊ သင်းလည်းဘာသာ၊ တခုခြင်သေ့၊ အမြီးလှုပ်ကာ၊ ယောက်လေကာ၊ ပဋိက္ခရား၊ ခြားနားရှာပြည် ပြုလိမ့်မည်၊ အရှေ့တခြား၊ သံတံခါးကို၊ ခြားလိမ့်မည်ဟု လျှောက်၏။

နရပတိမင်းလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ နဂါးဟူသည်၊ ခြင်သေ့ဟူသည် အဘယ်ကိုဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ နဂါး၊ ခြင်သေ့ဟူသည်မှာ အရှင်မင်း၏ အနွယ်တော်တွင် ကြွင်းကျန်ရစ်သော နဂါး၊ ခြင်သေ့တို့ ဖြစ်လာမည်။ အရှင့်အနွယ်တော်အဆုံးတွင် သောက်ကြာသားဖြစ်လာမည့် သောက်ကြာသားကို ဗုဒ္ဓဟူးသား ဖျက်လာမည်။ ယင်းဗုဒ္ဓဟူးသား ခြောက်ဆက်အဆုံးတွင် အင်္ဂါသား ဖြစ်လာပါမည်။ ယင်းအင်္ဂါသားကို နဂါးအရကြီးလိမ့်မည်။ နဂါးအဆုံးတွင် အင်္ဂါသားဖြစ်လာမည်။ အင်္ဂါသားအဆုံးတွင် ကြာသပတေးသားဖြစ်လိမ့်မည်။ ထိုမင်းလက်ထက် ပြည်ထွားထွားညက်ညက် ပျက်လိမ့်မည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ဖြားလည်းပုံးပုံး ပြည့်လတ်မည်၊ တောင်သူ အိမ်ပါး ချဉ်းလတ်မည်၊ အတွင်းသူငယ်၊ မိမယ်ရင်ခေါင်း ဆာလတ်မည်၊ ထမင်းခဲကို၊ အုဍ္ဍခဲဟူ၍ ပစ်လတ်မည် ဟူသောစကားသည် အဘယ်ကိုဆိုသောစကားနည်းဟု မေးတော်မူ၏။

သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ ဖြားလည်းပုံးပုံးပြည့်လတ်မည်ဟူသည်မှာ သင်္ကရာဇ် တထောင်ပြည့်လတ်မည်ကိုဆိုပါသည်။ တောင်သူ အိမ်ပါးချဉ်းလတ်မည်ဟူသည်မှာ အရှင်မင်းကြီးသည် ဆင်နံ့တောင်သူ အိမ်ပါး နန်းပါးချဉ်းလတ်မည်ကို ဆိုပါသည်။ အတွင်းသူငယ်၊ မိမယ်ရင်ခေါင်း ဆာလတ်မည် ဟူသည်မှာ အရှင်၏နမတော်သည် အရှင်မင်းဖြစ်မည်လော၊ မဖြစ်မည်လောဟု တွေးတောပူပန် ဆာလောင်ခြင်း ရှိသည်ကိုဆိုပါသည်။ ထမင်းခဲကိုအုဍ္ဍခဲဟူ၍ ပစ်လတ်မည်ဟူသည်မှာ မင်းသား၊ မင်းမြေး၊ မှူးကြီးမတ်ကြီးတို့သည် ရေဝယ်ကျလိမ့်မည်ကိုဆိုပါသည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်--- သိုက်တတ်လေက်ရုံး၊ မင်းနှင့်စစ်ကွပ်ဆရာ ဘုန်းတော်ကြီးသည် ဂေါတမမြတ်စွာဘုရားကဲ့သို့ သိမြင်ပေသည်ဟု မိန့်တော်မူ၏။

နရပတိမင်းကြီးလည်း ဟယ်--- သိုက်တတ်လေက်ရုံး၊ ချောင်းရိုးကားတိမ်၊ ကျွန်ရိုးမတိမ်ဟူသည် အဘယ်ကိုဆိုသနည်း မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း --- အရှင်မင်းကြီး၊ ချောင်းရိုးတိမ်၍ ကျွန်ရိုးမတိမ်ဟူသည်မှာ အရှင်မင်းကြီး၏ အနွယ်တော်သည် ချောင်းရိုးတိမ်သော်လည်း အနွယ်တော်မတိမ်ဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ဆဒ္ဒန်ဆင်မျိုး၊ ဆယ်ဆက်စိုး၊ အကျိုးပြည်မှာ၊ မရှိပါဟူသည်အဘယ်ကိုဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ ဆဒ္ဒန်ဆင်မျိုး၊ ဆယ်ဆက်စိုး၊ အကျိုးပြည်မှာ၊ မရှိပါဟူသည်မှာ အရှင်၏ အနွယ်တော်ဆယ်ဆက် စိုးအုပ်သော်လည်း တိုင်းပြည်သူတို့၌ အကျိုးစီးပွားရှိမည်မဟုတ်ဟု ဆိုပါသည်ဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ အရှင်မင်းကြီး ရွှေထီးအကယ်ဆောင်းလတ်မည်လည်း တဦးသာဟူသည် အဘယ်ကိုဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ အရှင်၏အနွယ်တော်သည် ဆဲ့တဆက်မြောက်ပါလတ်မည်။ တဆဲ့တဆက်တွင် တဆက်သာရွှေထီးဆောင်း ရပါလိမ့်မည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ငါ့အနွယ်တော်သည် အနှစ်ဘယ်မျှတိုင်အောင် ဖြစ်လိမ့်မည်နည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံး

လည်း အရှင်မင်းကြီး အနွယ်တော်သည် ၇၂ ခုလောက်တိုင်ဖြစ်လိမ့်မည်။ ၇၃ ခု လောက်တွင် ပြတ်ပါလိမ့်မည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ကျွန်နှင့်မတန်၊ တပွင့်ပန်၊ *တသန်လုံးလုံး၊ တကုံးကျွန်နှင့် မရာလေဟူသည် အဘယ်ကိုဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ ကျွန်နှင့်မတန်၊ တပွင့်ပန်ဟူသည်မှာ အရှင်၏အနွယ်တော်သည် တသန်လုံးလုံးပြည့်ပါမည်မဟုတ်၊ တကုံးလည်းတပွင့်ဟူသည်မှာ အရှင်မင်းကြီး အနွယ်တော်တဆုံတဆက်တို့တွင် ထီးတယောက်သာ ပြန့်ပါလိမ့်မည်။ ကြွင်းသော မြေးတော်၊ မြစ်တော်တို့လည်း ထီးဆောင်းရလိမ့်မည်မဟုတ်ပါဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ငါ့ကိုမြေးတော် သီရိသုဓမ္မရာဇာသည်ကိုယ်တို့ဟူးရားတတ်၊ သိုက်တတ်တို့နှင့်တိုင်ပင်၍ ငါ့ကိုမင်းမဖြစ်ရအောင် အင်းမန္တန်ယတြာတို့ဖြင့် ငါ့အိမ်ကြွင်းအောက်တွင် ပြုလာသည်။ ငါယခု မင်းဖြစ်လာသည်တကား။ ယင်းကြွင်းအောက်တွင် တူး၍ရချေသည်တကား။ မင်းဖြစ်ထိုက်သောသူကို အဘယ်နတ်လူဖျက်၍ဖျက်နိုင်အံ့သနည်း။ အလျှုကောင်းမှုကံသာ လိုရင်းတည်းဟု မိန့်တော်မူ၏။

သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ အရှင်မင်းကြီးသည် အလျှုကောင်းမှုကံနှင့်သာ နေတော်မမူဘဲ ပဋ္ဌာရာပေါ်ကြောင်းနှင့် အဘယ်ကြောင့် ကြံတော်မူပါသနည်းဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ ယောက်ျားဝီရိယ ထွန်တုံးကသို့ဟူသောစကားရှိသောကြောင့် ငါ့လုံ့လဝီရိယပြုသည်။ ဂေါတမမြတ်စွာဘုရားသည် လုံ့လအားထုတ်တော်မူပြီးမှ ဘုရားအဖြစ်သို့ ရောက်တော်မူသည်။ ငါတုံသော်လည်း လုံ့လပြုပြီးမှသာလျှင် မင်းအဖြစ်သို့ရောက်လာသည်။ သို့ဖြစ်၍ လုံ့လဝီရိယသာအရင်းဟု မိန့်တော်မူ၏။

သိုက်တတ်လေက်ရုံးလည်း အရှင်မင်းကြီး၊ အရှင်မင်းကြီးသည် မြေးတော် သီရိသုဓမ္မရာဇာမင်းကိုစေည်အခြင်းအရာကိုဆိုသောကြောင့် လှူပြည်ငြီး၍နတ်ပြည်စံရသည်။ အရှင်မင်းကြီးလည်း အလိုကုံတန်၊ အကြံလိုရင်းဟူသောစကားဖြင့် ဝီရိယလုလ္လစကားသာ မှန်၏ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ်လေက်ရုံး၊ မင်းတို့သည် စည်းစိမ်မပျက် အသက်ရှည်ကြောင်း ကျင့်အပ်သောတရားကို ငါ့အားလျှောက်ဟု မိန့်တော်မူ၏။ အရှင်မင်းကြီး၊ မင်းတို့ကျင့်အပ်သောတရားမှာ ဒါန၊ သီလစသော မင်းကျင့်တရားဆယ်ပါးကို ကျင့်ရခြင်းလည်းတပါး။

ရတနာသုံးပါးကို ညွတ်တွားကြည်ညို ရှိသေလေးမြတ် ဆည်းကပ်ရခြင်းလည်းတပါး။

ငါးပါးသီလကို အမြဲကျင့်သုံးဆောက်တည်ရခြင်းလည်းတပါး။

ရတနာသုံးပါးတို့၏ အမှုကြီးငယ်ကို ရွက်ဆောင်လျက် ကျေးကျွန်ပြုလုပ်ရခြင်းလည်း တပါး။

ရတနာသုံးပါးတို့အား စွန့်ကြဲလှူဒါန်းပြီးမှ သုံးဆောင်ရခြင်းလည်း တပါး။

ရတနာသုံးပါးတို့၏ ပစ္စည်းဝတ္ထုကို မင်းကိုထားဘိဦး။ လူသတ္တဝါတို့ သုံးဆောင်စားသောက်သည်ရှိသော် ဖွဲမီးကဲ့သို့ တမွေ့မွေ့လျှင် ပျက်စီးလေရာသည်။ အကြင်မိဘတို့သည် သားမြေးရဟန်းဖြစ်လျက် မိမိအမှုကိစ္စကို ပြုလုပ်စေခိုင်းငြားအံ့။ ထိုမိဘတို့သည် ပျက်စီးလေရာ၏။ မိဘတို့ ဆင်းရဲပင်ပန်းလတ်သော် သားမြေးရဟန်းတို့သည် သလုံးမြင်းခေါင်းဖြင့်ရင်း၍ လုပ်ကျွေးခြင်းကိုပြုအပ်၏။ ရဟန်းပုဏ္ဏားတို့အား နှိပ်စက်ညှဉ်းဆဲခြင်းကို မပြုရာ။ မျိုးစဉ်ပြုန်းတီးရာ၏။ သို့ဖြစ်၍ ရေမြေကိုအစိုးရ

---
* ပန်းသီတံသို့-ဆိုသည်။

သော မင်းတို့သည် မကျင့်မပြုပေရာ။ ပြုမိမှားမူကား သားစဉ်မြေးဆက် ပျက်စီးရာ၏ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လေကရုံး၊ ငါ့ကိုမင်းဖြစ်လတ်မည်ဟု ‹လယ်ပိုင်၊ အုန်းပိုင် ကျေးကို မြေးတော် သီရိသုဓမ္မရာဇာတည်တော်မူခဲ့သည်။ ယင်းကမူလျက် သံချိုလယ်တွင်ဖြည့်သည်။ အုန်းကိုလည်း သချိုမြေယောက်သောအုန်းကိုသာ တည်ခဲ့သည်။ သို့ဖြစ်လျက် ငါမင်းဖြစ်လာသည်တကားဟုမိန့်တော်မူ၏။ သိုက်တတ် လေကရုံးလည်း အရှင်မင်းကြီး၊ သီဟိုဠ်ကျွန်း၌ မင်းတဦးသည် နန်းသက်လေးဆယ် ရှည်ရန်ရှိလျက် သံချိုကို အပါးတော်တွင်ထား၍ စေစားလေသောကြောင့် ဘုန်းလည်းမကြီး၊ အသက်အတိုင်းလည်းမနေရ၊ သားစဉ်မြေးဆက် မထွန်းကားပါလေ။ အရှင်လည်း ရတနာသုံးပါးတို့၏ ပစ္စည်းဝတ္တုကို ရှောင်ကြဉ်လေခြင်းကြောင့် အနွယ်အစဉ်တော်သည် ပြန့်ပွားတိုးတက်လေသည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လေကရုံး၊ မင်းကားကိုးနွယ်၊ ကိုးဆယ်ကိုးဆက်၊ တထောင်ထက်တွင်၊ မပျက်အကျန်၊ ဖြစ်တုံပြန်အံ့ဟူသည် အဘယ်ကိုဆိုသနည်းဟုမေးတော်မူ၏။ သိုက်တတ် လေကရုံးလည်း အရှင်မင်းကြီး၊ ဤမြောက်ဦးမြို့ထက်တွင် မင်းစောမွန်အဆက်တနွယ်၊ ညီအလီခင် ငါးဆက်တနွယ်၊ ဘစောညို တဆက်တနွယ်၊ စလက်ာသူ တဆက်တနွယ်၊ မင်းစောအို တဆက်တနွယ်၊ မင်းခေါင်ရာဇာ တဆက်တနွယ်၊ မင်းပါကြီးသုံးဆက်တနွယ်၊ စကြဝတေးတဆက်တနွယ်၊ မင်းဖလောင်း ငါးဆက်တနွယ်အားဖြင့် မင်းပေါင်းကိုးနွယ်အဆုံး ကိုးရာ့ကိုးဆဲ့ကိုးခုအဆက်၊ တထောင်ထက်တွင် အရှင်မင်း၏အနွယ်အကျန် မင်းတို့ဖြစ်လာမည်။ မင်းကိုသက်တို့ မြို့ကိုထောင်ပြု၍ တည်လေသောကြောင့် တထောင်စေ့တွင် ပျက်မည်ဟု ဆိုပါသည်။ (စာမူရင်းတွင် မင်းကိုးနွယ်ဖြစ်လာမည်။ ကိုးဆယ်ကိုးဆက်ဖြစ်ပြီးမှသာ ဤမြောက်ဦးမြို့ ပျက်လိမ့်မည်ဟုဆိုသည်။ မြောက်ဦးမြို့၌ မင်းအနွယ် ကိုးဆက်ဖြစ်သော်လည်း မင်းဆက်ကိုးဆဲ့ကိုးဆက် မဖြစ်မရလေသောကြောင့်ငှင်း ---

မင်းဖလောင်းအား ပိန်နဲတောင်ဘုန်းတော်ကြီး၊ ဟူးရားသူကြီးကော၊ ဆင်ကဲကြီး ပေုတို့လျှောက်ထားကြရာ အရှင်မင်းကြီး၊ ဤမြောက်ဦးမြို့ အသက်သည် တရာကိန်းသာ၊ တဆဲ့နှစ်မြို့နှင့် တွဲဆက်သောကြောင့် မြို့သက်တထောင်ဟုဆိုပါသည်။ နောင်လာဟူးရားတတ်တို့သည် ဤမြို့ကို ဆက်တတ်လိမ့်မည် မဟုတ်ပါဟု လျှောက်ထားကြသည်ကိုငှင်း----

ကိုးရာ့ကိုးဆဲ့ကိုးခုကစ၍ ပျက်လိမ့်မည်။ တထောင်စေ့တွင် ဟိန္ဒဝင်ဗုဒ္ဓဟူးသားဖြစ်လိမ့်မည်။ ယင်းအနွယ်ဆယ်ဆက်၊ မြောက်ဦးထက်တွင်ဖြစ်လိမ့်မည်။ မပျက်အကျန် နှစ်ဆက်ထိုခါဖြစ်လိမ့်မည်ဟူ၍ငှင်း--

ဟိန္ဒဝင်သည် စည်ပင်ဆယ်ဆက်ဖြစ်လတ္တံ့၊ သုံးဆက်အပ၊ ဖြစ်ကြမရှည်၊ မစည်မထွန်း၊ ဖြစ်လိမ့်မည်လည်း အယွန်းယွန်း၊ နဂါးရင်သွေး၊ ဂဠုန်မွေးသည် မချွတ်ပါ၊ ဂဠုန်ရင်သွေး၊ နဂါးမွေးသည်မချွတ်ရာဟု သိုက်စာအရ လျှောက်ထားသောကြောင့်ငှင်း

ကိုးဆဲ့ကိုးဆက်ကို မင်းဟူ၍မယူသာ။ ကိုးရာ့ကိုးဆဲ့ကိုးခုကိုသာ ယူသင့်သည်သဘောရ၍ ရေးပြ ပျင်ဆင်လိုက်ပေသည်။ နောက်ဟိန္ဒဝင်သည်၊ စည်ပင် ဆယ်ဆက်ဖြစ်လတ္တံ့ဆိုသည်၌လည်း နရပတိ မင်းနောက် ဆယ်ဆက်ဟူ၍ယူလေ)။

နရပတိမင်းလည်း ဟယ်---သိုက်တတ် လေကရုံး၊ ငါလည်း အသက် ၅၆ နှစ်မှ မင်းဖြစ်လာသည်။ ကိုယ်၏အသက်ကား ဘယ်မျှရှိပြီနည်းဟု မေးတော်မူ၏။ သိုက်တတ်လေကရုံးလည်း အရှင်မင်းကြီး၊ အကျွန်ုပ်အသက် ၇၇ နှစ်ရှိပါပြီ။ ရက်သော်ကား တနင်္လာသားဖြစ်ပါသည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လေကရုံး၊ သိုက်ဟူသော စကားကိုကြားသိရပြီ။

နိဒါန်းဟူသည် အဘယ်ကိုဆိုသနည်းဟု မေးတော်မူ၏။ သိုက်တတ်လက်ရုံးလည်း အရှင်မင်းကြီး၊ နိဒါန်းဟူသော စကားသည်ကား သူငယ်တို့ဝမ်း၌ နတ်တို့ဝင်၊ နတ်တို့ ပြောဆိုအပ်သောစကားသည် နိဒါန်းမည်ပါသည်ဟု လျှောက်၏။

အရှင်မင်းကြီး၊ တနည်းတုံသော်လည်း လူတို့၌ ပျို့၊ ကဗျာ၊ လင်္ကာ၊ အဲ၊ အန် စကားသည်လည်း နိဒါန်းမည်ပါသည်ဟု လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လက်ရုံး၊ နိဒါန်းစကားလည်း မှန်သည်လောဟု မေးတော်မူ၏။ သိုက်တတ်လက်ရုံးလည်း အရှင်မင်းကြီး၊ ဘုရားဟောတော်မူသော စကားလည်း မှန်ပါသည်။ သမ္မာဒေဝနတ်တို့ ဟောအပ်သော နိဒါန်းစကားလည်း မှန်ပါသည်။ ရသေ့၊ ဆတ်မ၊ ဘီလူး၊ ဘားမဲ့၊ သိကြား၊ ငမှန်ကန်၊ ဂဝမ္ပတိ၊ နတ်သမီး၊ နတ်သား၊ ဗျာဒိတ်ရ အစရှိသောသိုက်တို့သည်လည်း မှန်ပါသည်သာ။ ဤသုံးပါးသော စကားတို့သည်မှန်သည် ချည်းဟူ၍ လျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လက်ရုံး၊ ပါရာသခင်ကျမ်းတို့၌ ဆိုအပ်သောစကားသည် မှန်၏လောဟုမေးတော်မူ၏။ သိုက်တတ်လက်ရုံးလည်း အရှင်မင်းကြီး၊ ပါရာသခင်ကျမ်းတို့၌ ဆိုအပ်သော စကားသည် မမှန်ပဲရှိမည်လော။ ကမ္ဘာဦးစာသည် မှန်ပါ၏ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---သိုက်တတ် လက်ရုံး၊ ပါရာသခင်ကျမ်းတို့တွင် အဘယ်နိမိတ်တြင်း တို့ကိုဆိုသနည်းဟုမေးတော်မူ၏။ သိုက်တတ်လက်ရုံး လည်း အရှင်မင်းကြီး၊ အထက်အာကာသကောင်းကင်၌ ပြသော နိမိတ်မှာ---

လစွန်ထိပ်ဖျား၊ ကြယ်များချင်းနင်း၊ ဖောက်ကြ ထွင်းမူ၊ မင်းတို့ခန္ဓာ၊ ပျက်စီးရာ၏။ လယ်မှာ၌ကား၊ ကျေးငှက်များတို့၊ ပျံသွားသောင်သဲ၊ လူးလာဝဲသော်၊ ခပဲသတ္တဝါ၊ ပျက်စီးရာ၏၊ မြေမှာသော်ကား၊ ကျွဲ နွား ဆိတ် ဝက်၊ ကြောင် ခွေး ကြက်တို့၊ ခြေလက်ပွားများ၊ ဖြစ်တုံငြားမူ၊ တိုင်းကား ပြည်ရွာ၊ ပျက်စီးရာ၏။ မင်းမှာ ဥပဒ်၊ ဖြစ်တုံတတ်သည်၊ ကျမ်းမြွက်ပါရာ အထွက်တည်း ဟူသောစကားသည် ပါရာကျမ်း၌လာသော စကား ဖြစ်ပါသည်ဟုလျှောက်၏။

ဤသို့စသည်ဖြင့် လျှောက်ထားပြီးနောက် သိုက်တတ်လက်ရုံးသည် အသက်ရှစ်ဆဲ့နှစ်နှစ်၊ သက္ကရာဇ် ၁၀၀၅ ခု၊ ကဆုန်လဆုတ် တဆဲ့လေးရက်၊ စနေနေ့ မိုးသောက်လေးပဟိုရ်ရုပ်အချိန်တွင် လွန်လေ သည်။

နရပတိမင်းကြီးလည်း မဟာမုနိသိမ်တော်တွင် ယင်းစနေနေ့ အလှူကြီးပေးတော်မူ၍နေစိုက် သိုက်တတ် လက်ရုံးလွန်လေကြောင်းကို ကြားတော်မူလေလျှင် ငိုယို တော်မူလျက် ငါသည်အဘယ်သူနှင့် တိုင်ပင်ရပါအံ့နည်း ဟု ဆိုတော်မူ၍ မီးပေါက် ခုနစ်ချက်ပစ်ဖောက်စေလျက် မင်းမျိုးကို ဘုတ်ကြည်းသင်္ဂြိုဟ်သကဲ့သို့ ဘုတ်ကြည်း သင်္ဂြိုဟ်တော်မူသည်။

သားစဉ်မြေးဆက်တို့ကို စစ်ဆေးမေးမြန်းတော် မူ၍ ကျေးရွာပေးတော်မူလျက် အနီးအပါးထား၍ စေစားတော်မူသည်။

သိုက်တတ်လက်ရုံးကို အားကျတော်မူလျက် ဂေါတမဘုရားကဲ့သို့ မေးတိုင်းကို မယိုင်မယွင်း သမုဒ္ဒရာ ကဲ့သို့ အပြည့်ပင်ရှိသည်ဟု ချီးမွမ်းတသတော်မူလေသည်။

သိုက်တတ်လက်ရုံးလွန်လေလျှင် အမတ် ပြည်စိုးကြီးကိုခေါ်တော်မူ၍ ဟယ်---ပြည်စိုးကြီး၊ သိုက်တတ်လက်ရုံးသည် သိုက်ဓာတ်ကိန်းခန်း ဟူးရား ဗေဒင်အရာ၌ အတုလွတ်တတ်ပေသည်ဟု မိန့်တော်မူ၏။ ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ ကျွန်တော်လက်ရုံး သည် သိုက်ဓာတ်ကိန်းခန်း၊ ဟူးရားဗေဒင်အရာ၌ အတုလွတ်တတ်ပါသည်။ ဉာဏ်ပညာလည်း အလွန် ကြီးကျယ်ပါသည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ဟယ်---ပြည်စိုးကြီး၊ အစ်ကိုသည်လည်း သိုက်ခေတ်ဟူးရားအရာမှာ အတုလွတ်တတ်သည်ဖြစ်၍ သိုက်တတ်လေက်ရုံးကဲ့သို့ သာဟု ငါထင်တော်မူသည်ဟု မိန့်တော်မူ၏။ ပြည်စိုးကြီး သည် အသက်ကိုကြောက်၍ ဆိတ်ဆိတ်နေ၏။

နရပတိမင်းကြီးလည်း ဟယ်---ပြည်စိုးကြီး၊ သိုက်တတ်လေက်ရုံးလည်း သိုက်ခေတ်ကိန်းခန်းဟူးရား အရာမှာအတုလွတ်တတ်သည်။ အစ်ကိုလည်း ငါတို့ ယောင်နှယ်တတ်သည်။ သို့ဖြစ်၍ အစ်ကိုသည် ငါအတိုင် ပင်ရမည်ဟု ငါမှတ်တော်မူသည်ဟု မိန့်တော်မူ၏။ ပြည်စိုး ကြီးလည်း ဦးချ၍နေ၏။

နရပတိမင်းကြီးလည်း ခေတ်ကိန်းခန်းနှင့် ပြည်ကိန်းခန်းကို သံတော်ဦးတင်ဟု မိန့်တော်မူ၏။ ပြည်စိုးကြီးလည်း ခေတ်ကိန်းခန်းကို သံတော်ဦးတင်ပါ မည်ဟုလျှောက်၍ တွက်ကြည့်ပြီးသော် တထောင်စေ့တွင် အန္တယ်တော်ကို တောင်က ဗုဒ္ဓဟူးသား အရှင်မင်းကြီး ဖြစ်လာပါသည်ဟု လျှောက်၏။ ပြည်ကိန်းခန်းကို လျှောက်ဟူသည်မှာကား ကျွန်တော် သိုက်တတ်လေက်ရုံး ထက် အကျွန်ုပ်တတ်မည်မဟုတ်ပါဟု လျှောက်၏။

ဟယ်---ပြည်စိုးကြီး၊ သိုက်ဟူးရားအရာမှာ အဘယ်လူနတ်လျှင် ဟောပြော၍ ကုန်နိုင်မည်နည်းဟု မိန့်တော်မူ၏။ ဤသို့ပြောဟောနေစဉ် ဈေးကြီးတွင် မုဆိုးမတအိမ်ကိုမီးလောင်လတ်၍ မုဆိုးမကိုဖမ်းယူပြီးလျှင် မင်းကြီးကို ဆက်လာ၏။ မင်းကြီးလည်း ပြည်စိုးကြီးကို မိန့်တော်မူသည်မှာ ဟယ်---ပြည်စိုးကြီး၊ ဘေးတော် ဘိုးတော်တို့လက်ထက်က အိမ်ကိုမီးလောင်လျှင် အိမ့်ရှင်ကို မီးတွင်ပစ်ချသည်မှာ အဘယ်အကျိုးရှိအံ့နည်းဟု မိန့်တော်မူ၏။ ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ အကျိုးမရှိပါ၊ အပြစ်သာရှိပါသည်ဟု လျှောက်၏။ နရပတိမင်းကြီးလည်းယနေ့မှစ၍ မီးတွင်မပစ်စေနှင့်၊ ကြိမ်၊ သိုင်း၊ ဒုတ်၊ လှင်ကန်ဖြင့်ဆုံးမ၍ အသက်အန္တရာယ်ကို လွှတ်ရမည်ဟု မိန့်တော်မူ၏။

တရံရောအခါ နရပတိမင်းကြီးက ဟယ်--- ပြည်စိုးကြီး၊ သိုက်တတ်လေက်ရုံးသည် ဂေါတမဘုရား ကဲ့သို့ ငါ့လက်ကိုကိုင်၍ ပြနိုင်လေသည်မဟုတ်လောဟု မိန့်တော်မူ၏။ ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ သိုက်တတ်လေက်ရုံးသည် ဗေဒင်လေးပုံတွင် တပုံခန့် တတ်ပါသည်။ ပညာဉာဏ်လည်း ကျယ်ဝန်းပါသည်။ သိုက်တတ်လေက်ရုံးနှယ် ယောင်လူသည် နှစ်ယောက်မရှိ ပါ။ သိုက်ခေတ်ကိန်းခန်းအရာတွင်လည်း နှစ်ယောက် မရှိပါ။ ရှေ့နောက်ဖြစ်မည်ကို သကတ်၊ ဒြပ်ကိုင်၍ ပြနိုင် ပါသည်။ အကျွန်ုပ်ကား ဗေဒင်လေးပုံတွင် ပုံခွဲမျှကိုသာ တတ်ပါသည်။ ကျွန်တော် သိုက်တတ်လေက်ရုံး နှယ်ယောင် မတတ်ပါဟုလျှောက်၏။

နရပတိမင်းကြီးလည်း ပြည်စိုးကြီးပုံခွဲသော ဗေဒင်အတတ်သည် ဟောပြော၍ကုန်မည်လောဟု မိန့်တော်မူ၏။

နရပတိမင်းကြီးလည်း ဟယ်---ပြည်စိုးကြီး၊ ငါ၏အန္တယ် အဘယ်မျှအဆက်တွင် ပြတ်မည်နည်း၊ သိုက်ကျမ်းအရလျှောက်ဟု မိန့်တော်မူ၏။ ပြည်စိုးကြီး လည်း လျှောက်ပါမည်ဟုဝန်ခံပြီးလျှင်---

ဆဒ္ဒန်တောင်ထိုး၊ နဂါးမျိုးကို ဖြတ်လတ္တံ့။

အန္တယ်ဆယ်ဆက်မြောက်လတ္တံ့။

ဒါးအိမ်ချွတ်၍၊ ဒါးကိုင်ခွဲလျက်၊ သူရဲထောင်သောင်း မြောက်လိမ့်မည်။

မြောက်ဦးမြို့နှယ် လွှင့်လိမ့်မည်။

နံမဲ့ထိုခါများလိမ့်မည်။

အလင်္ကာနှင့်၊ ဒုဿီရှင်ကြမ်းများလိမ့်မည်။

ဒုတ် ဒါးလျှံညီး၊ လက်ကိုင်ပြီး၊ ရှင်ကြီးသူရဲ ထွက်လိမ့်မည်။

ရှင်ငယ်သေသောက်များလိမ့်မည်။

သုခ်သင်မစပြုလိမ့်မည်။

ဟိန်းတုတ် စစ်ချီ၊ အညီသောင်းကြမ်းများလိမ့်မည်။

ကင်းခွန်၊ ဆိပ်ခွန်၊ သူ့ထက်လွန်၍
ကောက်လိမ့်မည်။
မြောက်ဦးမြို့နယ် လွင့်လိမ့်မည်။
သာသနာလည်း၊ ရောင်ဝါထိုခါ ညှိုးလိမ့်မည်။
သင်းတို့အတွက်၊ မှူးမတ်ထိုခါ ပြုလိမ့်မည်။

ဤသို့သိုက်ကျမ်းလာရှိပါသည်ဟုလျှောက်၏။ နရပတိမင်းကြီးလည်း ငါ့သားမြေးလက်ထက်တွင် ဖြစ်လတ္တံ့မည်လောဟု မေးတော်မူ၏။ ပြည်စိုးကြီးလည်း အရှင်သားတော်တို့လက်ထက် မဟုတ်ပါ။ မြေးတော်တို့ လက်ထက်သာ ဖြစ်ပါလိမ့်မည်ဟု လျှောက်၏။ (ဤသို့ စသည်ဖြင့် သိုက်တတ်လက်ရုံးနည်းတူ မေးတော်မူသမျှ သိုက်ဓာတ်ကိန်းအရပ်ရပ်ကို ဖြေဆိုလေသည်။ ကျယ်အံ့စိုး မရေးလိုက်သည်)။

တရံရောအခါ နရပတိမင်းကြီးသည် ပြည်စိုးကြီး ကို ဟယ်---ပြည်စိုးကြီး၊ ငါသည် အစ်ကိုသိုက်ဓာတ် ကိန်းခန်းတို့ကို လျှောက်ထားတတ်သည်ဟု သိတော်မမူ။ ယခုမှသာ ငါသိတော်မူသည်။ ငါသည် အများတကာ အလိုက်ပြုမိလေသော် အလူပင်မဆုံးလေလောဟု မိန့်တော်မူ၍ အစ်ကိုနှင့် ငါသည် အတိုင်ပင်ရပေသည်။ သိုက်တတ်လက်ရုံးလည်း သေခဲ့သည်။ စစ်ကွပ် ဆရာတော်လည်း အနောက်သို့ ပြေးခဲ့သည်။ အစ်ကိုသည် ဆရာပြုလျက် ငါ့ကိုဆုံးမပါ။ ငါသည် မင်းသား၊ မင်းသမီး၊ မှူးမတ်ပညာရှိတို့ကို ဖျောက်ဖျက်၍ ရှစ်သောင်း ဆရာကိုလည်း တောကျောင်းသို့ လျှိုထားမိလေသည်။ ငါသည် အဝီစိငရဲသို့သွားရလိမ့်မည်ဟု ကြံမိသည်။ အစ်ကိုသာလျှင် ငါ့ကိုဆရာပြုလျက် ကွပ်ညှပ် ဆုံးမပဲ့ပြင် ပါဟု မိန့်တော်မူ၏။

ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ သိုက်တတ် လက်ရုံးနှင့် စစ်ကွပ်ဆရာတော်တို့သည် ဂေါတမမြတ်စွာ ဘုရား ဟောတော်မူသကဲ့သို့ ဟောပြောသမျှ မှန်ကန် ပါသည်။ သမုဒ္ဒရာကဲ့သို့ ပညာအမြော်အမြင်ကြီးကျယ် ပါသည်။ သမုဒ္ဒရာ၌ ကျက်စားသော ငါးကြီးအာနန္ဒာ နှင့်တူပါသည်။ အကျွန်ုပ်သည်ကား ချောင်းတွင်ကျက်စား သော ငါးစလုံးနှင့်သာ တူပါသည်ဟုလျှောက်၏။

နရပတိမင်းကြီးလည်း ပြည်စိုးကြီး၊ ငါသည် မှူးမတ်ပညာရှိတို့ကို တွက်စာဆင်ခြင်မပြု၊ လက်လွန် လေသောကြောင့် ပြည်စိုးကြီးနှင့် ပေချောင်းစားသာ ကြွင်းကျန်လေသည်ဟု မိန့်တော်မူ၏။ ပြည်စိုးကြီးလည်း အရှင်၏ဖဝါးတော်အောက်တွင် ကျွန်တော်ခံထိုက်၍ ကျန်ရစ်ပါသည်ဟု လျှောက်၏။

တရံရောအခါ အရှေ့ပြည်အင်းဝမြို့ သာလွန်မင်း တရားက မြန်မာအမတ်တို့ကို ရာဇသံနှင့်စေလွှတ်၍ ရောက်လာသည်။ ရာဇသံတွင် ရွှေပေပြင်၌ရေး၍မပါ။ လိပ်၍ ထောင့်စောင်း၌သာလျှင်ပါရှိလေသည်။ ရွှေပေကို ဖြန့်၍ကြည့်သော် စာကိုမမြင်သောကြောင့် အမိန့်တော်ရေး ထောင်စားနှင့် ရှေ့တော်ဖတ်တို့ကို ဂုဏမဥ္ဇူ ဆရာတော်ထံ သို့ လွှတ်၍အသနားခံစေတော်မူ၏။ အရှင်ဂုဏမဥ္ဇူလည်း ဆွမ်းသုံးဆောင်ခါနီးဆဲဆဲတွင် ရောက်ကြလေ၏။ အရှင် ဂုဏမဥ္ဇူလည်း သုံးဆောင်တော်မမူဘဲဆိုင်းနေတော်မူ၏။ အမိန့်တော်ရေးထောင်စားနှင့် ရှေ့တော်ဖတ်တို့သည် အသနားခံဝင်၍ ရာဇသံကို ဆက်ကပ်လေ၏။ ရာဇသံကို ဖြန့်၍ကြည့်သော် စာကိုမမြင်သောကြောင့် ကျစ်ကျစ် လိပ်၍ကြည့်လေသော် ထောင့်စောင်းတွင် ရာဇသံပါလတ် သည်ကား--ဘုရားပလ္လင်ကျသည်၊ ဟုတ်တည်လော၊ ရာဇပလ္လင်မှာ၊ ခွေးသေးဖြန်းသည်၊ ဟုတ်တည်လော၊ ကြယ်များအပေါင်း၊ ရေဝယ်ကျသည်၊ ဟုတ်တည်လော ဟူ၍ပါလတ်သည်ကို မြင်တော်မူလေ၏။

မြင်တော်မူပြီးလျှင် ရာဇသံအလိုကိုပြန်ဆိုသည် ကား--- နင်တို့အရှင်သည် ငါ့ကိုတောကျောင်းသို့ လျှိုထားသည်ကို ဘုရားပလ္လင်ကျသည်ဟု ဆိုလိုသည်။ ကျွန်ကမင်းဖြစ်သည်ကို ရာဇပလ္လင်ကို ခွေးသေးဖြန်းသည် ဟုဆိုလိုသည်။ မင်းသား မင်းသမီး၊ မှူးကြီးမတ်ကြီးတို့ကို သတ်ဖျက်၍ ရေဝယ်ပစ်သည်ကို ကြယ်များအပေါင်း ရေဝယ်ကျသည်ဟုဆိုလိုသည်။ ဤစကားအတိုင်း

နင်တို့အရှင်ကို လျှောက်လေဟု မိန့်တော်မူလိုက်၏။

အမိန့်တော်ရေး ထောင်စားနှင့် ရှေ့တော်ဖတ်တို့သည်လည်းလာလတ်၍ နရပတိမင်းကြီးကို လျှောက်ကြလေ၏။ နရပတိမင်းကြီးလည်း ရာဇသံအလိုစကားကို ကြားတော်မူလျှင် ရာဇသံပြန်ပေးရန် ငါမကျွမ်းကျင်ပေတကားဟု မိန့်တော်မူ၏။ အမိန့်တော်ရေး ထောင်စားနှင့် ရှေ့တော်ဖတ်တို့က အရှင်မင်းကြီး၊ ရာဇသံပြန်ပေးရန်ကို ဆရာတော် ဂုဏမဥ္ဇူနှယ်ယောင်ကို အဘယ်သူလျှင် ရှိပါအံ့နည်းဟုလျှောက်၏။ နရပတိမင်းကြီးလည်း ဂုဏမဥ္ဇူဆရာတော်ထံသို့ အမိန့်တော် ရေးထောင်စားနှင့် ရှေ့တော်ဖတ်တို့ကို လျှောက်ထားတောင်းပန်ရန် လွှတ်တော်မူလိုက်၏။ အမိန့်တော်ရေး ထောင်စားနှင့် ရှေ့တော်ဖတ်တို့ ဂုဏမဥ္ဇူဆရာတော်ထံသို့ ရောက်လေလျှင် ဒကာတော်မင်းတရား လျှောက်ထားအသနားခံစေလွှတ်ပါသည် ဆရာတော် အရှင်ဘုရား၊ တိုင်းပြည်၏ အရေးအကျိုးစီးပွားကို ထောက်ရှုတော်မူသောအားဖြင့် ရာဇသံတစောင်စီမံ၍ပေးတော်မူပါဟု လျှောက်ထားအသနားခံကြလေ၏။

လျှောက်ထားသည့်စကားကို ကြားတော်မူလျှင် ဂုဏမဥ္ဇူဆရာတော်သည် အမျက်တော်ထွက်၍ နင်တို့အရှင်သည် မင်းသား မင်းသမီး မှူးကြီးမတ်ကြီးတို့ကို သတ်ဖြတ်၍ ပစ်မည်ကိုကား ပြုတတ်သည်။ ရာဇသံပြန်ပေးလိုက်ရန်ကိုကား မတတ်လေလောဟု မေးတော်မူ၏။ အမိန့်တော် ရေးထောင်စားနှင့် ရှေ့တော်ဖတ်တို့ လျှောက်ထားကြသည်မှာ အရှင်ဘုရား တမူကားဘုရားကဲ့သို့ မြင်သိတော်မူပေသည်။ ဒကာတော်တို့ကား မြင်ရာကိုသာ မြင်ပါသည်။ မမြင်ရာကို မမြင်ပါဟု လျှောက်ကြပေ၏။ ဂုဏမဥ္ဇူဆရာတော်သည်လည်း အမိန့်တော်ရေးထောင်စားနှင့် ရှေ့တော်ဖတ်တို့ကို မှာထားတော်မူလိုက်၏။ နင်တို့အရှင်ကို ငါမှာလိုက်မည်။ မင်းစေတမန်တို့ကို အဖူးအမြင်ခံလျက် ရာဇသံကိုဖတ်၍ ကြားတော်မူလတ်လျှင် မေးမြန်းစုံစမ်းခြင်းကိုပြုလျက် ကကုသန်မြတ်စွာဘုရားသားတော် ကောဏာဂုံလော၊ ကောဏာဂုံ ဘုရားသားတော် ကဿပလော၊ ကဿပဘုရားသားတော် ဂေါတမလော။ ဤသို့မိန့်တော်မူ ပြီးလျှင် ရာဇသံကို ဤနည်းအတူ ရွှေပေတွင်ရေး၍ပေးတော်မူလိုက်ဟု မှာတော်မူလိုက်၏။

အမိန့်တော်ရေးထောင်စားနှင့် ရှေ့တော်ဖတ်တို့သည်ပြန်လတ်၍ နရပတိမင်းကြီးကို ထိုစကားအတိုင်း လျှောက်ကြ၏။ နရပတိမင်းကြီးလည်း အလွန်ဝမ်းမြောက်ဝမ်းသာရှိတော်မူ၍ အရှင်ဂုဏမဥ္ဇူဆရာတော်သည် ငါ၏ဆရာတော်ဖြစ်သည်ကိုထားဘိဦး၊ မန္တာတ်မင်း၏ ဆရာတော်ဖြစ်ခြင်းနှင့်သာ တန်ပေသည်ဟု ချီးမွမ်းတော်မူပြီးလျှင် စိတ်ဆန္ဒကား ဆိုးသည်ဟုမိန့်တော်မူ၏။

ဟယ်---ပြည်စိုးကြီး၊ ငါမင်းဖြစ်၍ နှစ်နှစ်မြောက် သက္ကရာဇ် ၁၀၀၂ ခုတွင် အရှေ့ပြည် အင်းဝဘုရင် သာလွန်မင်းတရားကြီးက ရာဇသံနှင့်စေလွှတ်၍ မြန်မာအမတ်တို့ရောက်လာသည်ကို ငါကရာဇသံဖြင့် ပြန်ကြားလိုက်ရသည်။ ယင်းအခါ ပြည်စိုးကြီး မရှိပါလောဟုမေးတော်မူ၏။ ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ ယင်းအခါ အကျွန်ုပ်အသက်သည် မည်သည်မှာနေမှန်းကိုမသိပါ။ ခြေရင်းတော်တွင်ကား ရှိပါ၏။ ညဥ့်အခါ မှူးမတ်တို့ပျောက်လေသည်ဖြစ်၍ ကြောက်လန့်ခြင်းနှင့်နေရသောကြောင့် မမှတ်မိပါဟု လျှောက်၏။

နရပတိမင်းကြီးသည် သားတော်အိမ်ရှေ့ သတိုးမင်းသားတို့သည် တိုင်းပြည်ကိုအုပ်စိုးနိုင်ကြမည်လောဟု ပြည်စိုးကြီးကို မေးတော်မူ၏။ ပြည်စိုးကြီးလည်း အရှင်မင်းကြီး၊ သိုက်ကျမ်းတွင်---

**ဝမ်တီတဖက်၊ ရှင်ငယ်ထက်၊ နှစ်ဖက်အကြား၊**
**ဆည်ပေါင် နားတွင်၊ နဂါးစမ္ဘာယ် လယ်လတ္တံ့။**
**နဂါးသုံးနှယ်၊ တခွေသုံးပတ်လယ်လတ္တံ့။**
**နဂါးစံပြူ၊ ရပ်တထုမှာ၊ မလုသာ၊ သူ့သမီးနှင့်၊**
**သူ့ကျေး သူ့ကျွန်၊ သူ့ဝန်ဆန်ကို၊ ကြည်နိုင်စေ။**

ရဟန်းပုဏ္ဏား၊ သက်ကြီးများကို၊ ပူဆောင့်ပူဆာ မပြုရာ။
တတ်သော်ကား၊ နန်းထက်နှစ်ဆယ်၊ အကယ်မချွတ် နေလတ္တံ့။
မတတ်သော်ကား၊ ခြောက်နှစ် ခြောက်လနေလတ္တံ့။

ဟူ၍ သိုက်ကျမ်းပါရှိကြောင်း သံတော်ဦး တင်ပါသည်ဟု လျှောက်၏။ နရပတိ မင်းကြီးလည်း ဟယ်---ပြည်စိုးကြီး၊ ငါ့ကို ခမည်းတော်သတိုးမွေ့ရာဇာ သည် ခုနစ်နှစ်ကပင်ယူလျက် မွေးတော်မူသည်။ ငါ့ကို ဘိုးတော်မင်းဖလောင်းသည် ဂေါရိယဘုရားသို့ ယူတော် မူလျက် ညဥ့်အခါ၌ ငါ့ကိုသိခြင်းသိစေသည်။ ငါ့အသံကို ကြားသဖြင့် ဘိုးတော်မင်းဖလောင်းသည် ငါ့ကိုမွေးစား မည်ဟု တောင်းတော်မူသည်ကို မယ်တော် ဘုန်းမရှင်က မပေးနိုင်ဟု လျှောက်ထားလေသောကြောင့် ယင်းအခါ ငါလွတ်လေသည်။ အလျှုက်ပါရမီ ရှိသောသူကို အဘယ် သိကြားနတ်လျှင် ဖျက်နိုင်လိမ့်နည်း။

ဟယ်---ပြည်စိုးကြီး၊ ငါ့ကို မွေးတော် သီရိသုဓမ္မရာဇာသည် အုန်းစိုက်လယ်လုပ်အမှုကို ပြုစေပြီးလျှင် ထိုအုန်းခင်း လယ်မြေတို့ကိုသင်္ချိုတည်၍ ငါ့ကို အုန်းခွန်၊ မြေခွန်တို့ကို ခံယူစားသောက်စေလျက် လောင်းကြက်မြို့ စားပေးလေသည်။ ယင်းသို့ မင်းမဖြစ်အောင် ကြံဆောင်ပြုပျင်သည်ဖြစ်လျက် ယခု ငါ မင်းဖြစ်လာသည်တကားဟု မိန့်တော်မူ၏။ ပြည်စိုးကြီး လည်း အရှင်မင်းကြီးသည် တတ်သိလိမ္မာတော်မူသည် ဖြစ်၍ မင်းအဖြစ်သို့ရောက်အောင် ကြံဆောင်တော် မူနိုင်သောကြောင့်သာ ဖြစ်ပါသည်ဟုလျှောက်၏။ (လိုရာလိုရာကိုမျှ ရေးပြလိုက်သည်။ အလိုရှိမူ ၎င်းမြို့တည်ခန်း၌ယူလေ)။

ဤမြို့တည်ခန်းတွင် နရပတိမင်းကို ဝရဓမ္မရာဇာ အမည်ရှိသော မင်းခမောင်း ခုနစ်နှစ်ကပင်ယူ၍ မွေးစား ကြောင်း၊ မင်းရာဇာသည် ဘိုးတော်ဖြစ်ကြောင်းနှင့် ဆိုသည်။ ယင်းသို့ဆိုသော်လည်း မင်းခမောင်းသည် ၉၃၉ ခုဖွား၊ နရပတိမင်းသည် ၉၄၄ ခုဖွားဖြစ်၍ မင်းခမောင်း သည် နရပတိမင်းထက် ငါးနှစ်သာကြီးသောကြောင့်၎င်း၊ သီရိသုဓမ္မရာဇာကို မြေးတော်ဟုဆိုသောကြောင့်၎င်း မင်းခမောင်းမွေးစားသည်ဟု မယူသင့်။ မင်းရာဇာ မွေးစား သည်ဟူ၍သာယူရမည်။

နရပတိမင်း၏ အရင်းအမိအဘတို့ကိုမူ ထိုထိုရာဇဝင်မှတ်စုတို့၌ ရေးပြမှာထားခြင်း မရှိလေ။ စေည်ဆရာတို့ ကပြရာ၌ကား သီရိသုဓမ္မရာဇာမင်းသည် ဥယျာဉ်သို့ထွက်တော်မူရာ ကြက်သွန်ခင်းကို ရေလောင်း နိုင်းထားသူ မိကြောင်မနှင့် စပ်ရက်ပေါင်းဖော်၍ မင်းကုသလနရပတိကို မွေးဖွားကြောင်းနှင့်ဆို၍ ကပြကြ လေသည်။ ၎င်းစကားလည်း သီရိသုဓမ္မရာဇာမင်းသည် ၉၆၄ ခုဖွားသာဖြစ်၍ မင်းကုသလ နရပတိသည် အနှစ်နှစ်ဆယ်လုံး ကြီးလေသောကြောင့် ယုတ္တိမတန်သော စကားသာဖြစ်သည်။

ရာဇဝင်ဟောင်း မြို့တည်ခန်း၊ ဆရာမည် ရာဇဝင်၊ အင်းစောက်ရာဇဝင်တို့ကို ထောက်ထားလျှင် မင်းပါကြီးသား၊ မင်းဖလောင်းညီတော်လောင်းကြက်မြို့စား မင်းရဲရန်အောင်နှင့် ကျွန်မဘုန်းမရှင်သင့်မိကြရာတွင် ကုသလနရပတိမင်းကို ဖွားမြင်လေသည်ဟု ယူသင့်ရန် ရှိပေကြောင်း။ ဤသည်ကား ရာဇဝင်ဟောင်း မြို့တည်ခန်းတို့၌လာသော နရပတိအကြောင်းတည်း။

ဓညဝတီအရေးတော်ပုံ၌ကား သီရိသုဓမ္မရာဇာ သားတော်အိမ်ရှေ့မင်းစနေ နန်းတက်တော်မူ၍ သတိုးမင်းလှဟူသော အမည်ကိုခံတော်မူသည်။ နှစ်ဆဲ့ ရှစ်ရက်ရှိလျှင် ကျောက်ပေါက်လေ၍ မယ်တော် နတ်ရှင်မယ်က ကျောက်ဆိပ်တက်စေတတ်သောဆေးကို တိုက်လေရာ လွန်တော်မူပြန်သည်။ ယင်းသောအခါ သားတော်လွန်ကြောင်းကို ပြည်သူမှူးမတ်တို့ မသိစေရ အောင်ထားပြီးမှ ရှေးမင်းညီ မင်းသားမျိုးရိုး မတ်ရိုးတို့ကို အကုန်နန်းတော်သို့ခေါ်၍ရောက်စေပြီးမှ အသီးအသီး ခြေချင်းနှင့် ထားစေသည်။ ယင်းသို့ထားပြီးမှ ငါ့လင်

ငါ့သား နှစ်ပါးလွန် လျက်ရှိသည်။ ပြည်နှင့်တန်သူကို လျှောက်ထားကြရမည်။ မိဘုရားကဆိုလေသော် သိရင်းဖြစ်ကြ၍ အမတ်လောင်းကြက်စားနှင့် သာ ထိုက်တန်ပါသည်။ ယင်းသို့ အသီးသီး လျှောက်ကြလေ သည်။

မိဘုရားနတ်ရှင်မယ်လည်း လောင်းကြက်စားကို ခေါ်၍ ထီးနန်းကိုအပ်လေသည်။ လောင်းကြက်စား ထီးနန်းကိုတက်ရလေသော် ညဥ့်အခါ၌ ရှေးမင်းညီ မင်းသား ဆွေတော်မျိုးတော် မှူးကြီးမတ်ကြီးတို့ကို အကုန်ထုတ်၍ သတ်လေသည်။ ထိုသို့ကုန်စင်စွာ သုတ်သင်ပြီးမှ နံနက်အခါ ရှင်မိဘုရားသည် သားတော် အလောင်းကို ကိုယ်တိုင်ထွက်၍ ကောင်းမွန်စွာသင်္ဂြိုဟ်စေ အမိန့်တော်ရှိလေသော် မိဘုရားနတ်ရှင်မယ်ထွက်သွား၍ သားတော်အလောင်းကို သင်္ဂြိုဟ်ရလေသည်။ လောင်းကြက်စား ငကုသလလည်း နရပတိကြီး အမည် ကို ခံသည်။

ထိုမင်း ကြံပြန်သည်ကား လင်ကိုမတွယ် သားကိုမခင်သော မိန်းမနှင့်ငါ ပေါင်းရချေလျှင် ထိုအကျင့် အကြံ ပျောက်မည်မထင်။ ငါ့အားလည်း ပြစ်မှားသဖြင့် ကြံရာသည်၊ မြို့မြောက်တွင် ကြီးစွာအိမ်ဆောက်၍ ကျောက်အုတ်တံတိုင်းနှင့် ဝင်းကာစေပြီးမှ မြို့မြောက်တွင် မိဘုရားနတ်ရှင်မယ်ကိုထား၍ နန်းတွင်းသို့ မသွင်းဘဲ ထားလေသည်။

သီရိသုဓမ္မရာဇာသားတော်အလတ် ဝတ်ုးခင်ကို အနောက်ကံသာ မြို့စားပေးတော်မူ၍ထားခဲ့သည်။ ကံသာ စားလည်း ခြားနားလေသော် နရပတိကြီးမင်း မဖမ်းမီထွက် ပြေး၍ တောတောင်ခိုမှီသဖြင့် ရှေးမှူးမတ်တို့နှင့် မင်းသား မင်းဆွေတို့ထွက်သွားကြလေ၍ အနောက်ကံသာမြို့သို့ ချည်း ရောက်ကြလေသည်။ ရှေးသူရဲကောင်း ကိုယ်တော်ရံ အသင်း တသိန်းအနက် လက်ဝဲငါးသောင်းတို့လည်း ရှေးပညာရှိသူ တော်ကောင်းအမျိုးလေက်ရုံးကို ရဟန်းပြု သည့်အရပ် ဘုရားပေါ်တိုက်တွင်ရှိရာမှ ခေါ်ယူပြီးလျှင် ကံသာမြို့သို့ အလုံးအရင်းနှင့်ထွက်သွားကြလေသည်။ ကံသာစားကိုကား ကုလားတို့က မြန်မာကြီးမင်းဟု ခေါ်ဝေါ်သမုတ်ကြလေသည်။

အမတ်လောင်းကြက်စား နရပတိကြီးအမည်ခံ၍ သက္ကရာဇ် ၁၀၀၂ ခုတွင် နန်းတက်တော်မူလေသော် မင်းဖြစ်အံ့ဟူသော နောက်အနာဂတ်ကို သိမြင်သည့် အတိုင်း မင်းအဖြစ်သို့ငါရောက်ပြီ၊ နောင်အရှည် ထွန်းအောင်၊ မြင်တော်မူဘုရား၊ ထင်တော်မူဘုရား နှစ်ဆူ တည်တော်မူမည်။ ရှေးဘစောသီရိမင်းပါကြီး တည်ခဲ့ သော ရင်ရိုးတော်ဓာတ်စေတီ၊ နံရိုးတော်ဓာတ်စေတီနှစ်ဆူ နေရာသည် လူတို့နေအိမ်နှင့် အနီးအစပ်အရိပ်မဈ မလွတ်ရှိလေသည်။ ထိုဓာတ်နှစ်ဆူကို ပင့်ယူ၍ လျှောက်ပတ်ရာအရပ်၌ ကောင်းမွန်စွာ တည်လိုကြောင်းနှင့် သာသနာပိုင် ဝိနည်းဓိုရ်ဖြစ်တော်မူသော 'စန္ဒာရာမ ဆရာတော်' 'သကျမဥ္ဇူဆရာတော်' 'ဓိနမာန်အောင် ဆရာတော်' 'လောကမာန်အောင်ဆရာတော်' 'ရတနာစံဦး ဆရာတော်' 'မနိသူရာမ ဆရာတော်' 'ရတနာ စံရွှေဆရာတော်' 'ရတနာမဥ္ဇူ ဆရာတော်' 'မဟာဗောဓိဆရာတော်' 'မဏိသကျ ဆရာတော်' 'ရတနာမှန်ကင်း ဆရာတော်' 'စန္ဒာရာ ရာမဆရာတော်' ပေါင်းတကျိပ်နှစ်ပါးကို နန်းတော်သို့ ပင့်ခေါ်၍ နရပတိ မင်းကြီးကိုယ်တိုင် မေးတော်မူလေရာ ဆရာတော် တကျိပ်နှစ်ပါးတို့ ပြည့်ရှင်မင်းထံဆိုသော ထုံးသော်ကား-

သာသနဒါယကာဖြစ်တော်မူသော ဒါယကာ တော် မင်းမြတ်၊ သစ္စာလေးပါးတရားကို အလင်းမြင်တော် မူသော မြတ်စွာဘုရားသခင်သည် ရှေးဦးစွာ နတ်သား တောင်းပန်အပ်သည်ကိုအကြောင်းပြု၍ သုံးဆဲ့ရှစ်ဖြာ မင်္ဂလာတရားကို ဟောတော်မူရာ၌-

ပတိရူပဒေသဝါသ၊ တင့်အပ်လျှောက်ပတ်သော အရပ်၌နေရခြင်း မင်္ဂလာတပါး။ ပုဗ္ဗေစ ကတပုညတာ၊ ရှေးဘဝ၌ ပြုအပ်ခဲ့ပြီးသောကောင်းမှုရှိသောသူ၏ အဖြစ်ဟု ဆိုအပ်သော မင်္ဂလာတပါး။ အတ္တသမာပဏိဓိ၊ မိမိကိုယ်

ကို ကောင်းစွာစောင့်ရှောက်ဆောက်တည်၍ ကျင့်ခြင်းမင်္ဂလာတပါး။ သပ္ပုရိသုပနိဿယ၊ ပညာရှိ သူတော်ကောင်းတို့ကို ပေါင်းဘော်မှီဝဲဆည်းကပ်ရခြင်း မင်္ဂလာတပါး။

ဤလေးပါးသော မင်္ဂလာတရားနှင့်ပြည့်စုံခြင်းကို သမ္မတ္တိစက်လေးပါးနှင့် ပြည့်စုံခြင်းဟူ၍ ဆိုပါသည်။ ထိုလေးပါးတို့တွင် ရှေးဘဝ၌ ပြုအပ်ခဲ့ပြီးသော ပုဗ္ဗေစကတပုညတာဟူသော သမ္မတ္တိစက်တပါးသည် ပတိရူပဒေသဝါသသမ္မတ္တိစက်၊ သပ္ပုရိသုပနိဿယသမ္မတ္တိစက်၊ သတ္တသမာပဏိဓိသမ္မတ္တိစက်သုံးပါးကိုပြီးစေနိုင်ပါသည်။ ပတိရူပဒေသဝါသ သမ္မတ္တိစက်သည် သပ္ပုရိသုပနိဿယ သမ္မတ္တိစက်တပါးကို ပြီးစေနိုင်ပါသည်။ ယင်းသို့ ပြီးစေနိုင်သောကြောင့် ရှေးဘဝ၌ပြုအပ်ခဲ့ပြီးသော ကောင်းမှုရှိသည်ဖြစ်၍ တင့်အပ်လျောက်ပတ်သော ပတိရူပအရပ်၌ဖြစ်တော်မူကြကုန်သော အရှင်စိုးမင်းမှူးမတ် သေဌေး သူကြွယ်တို့သည် သပ္ပုရိသုပနိဿယဟုဆိုအပ်သော သူတော်ကောင်းတို့ကို ပေါင်းဘော်မှီဝဲဆည်းကပ် မေးမြန်းလျက် ပတိရူပတင့်အပ် လျောက်ပတ်သောအရပ်၌ပြုလုပ်ခြင်းသည် အတ္တဟိတ၊ ပရဟိတ လောကသံသရာနှစ်ဖြာသောအကျိုး၊ စီးပွားတိုးတက်ထွန်းလင်းရန်ရှိပါသည်။

ပညာရှိတို့ကို နီးနှောမေးမြန်းခြင်း မရှိ၊ မိမိအလိုရှိရာ မတင့်အပ်မလျောက်ပတ် လူတို့၏နေရာအရပ်ကိုဖျက်ဆီး၍သော်၎င်း၊ ရွာသူတို့၏ အိမ်အနီးအစပ်အရိပ်မလွတ်ရာ၌သော်၎င်း၊ ဓာတ်တော်၊ မွေတော်၊ ရုပ်ပွားတော်၊ ဆင်းတုတော်၊ ဂူ၊ လိုဏ်၊ တန်ဆောင်း၊ သိမ်၊ ကျောင်း၊ စရပ်၊ မဏ္ဍပ်စသော အဆောက်အဦတို့ကို၎င်း၊ ရဟန်းသံဃာတို့၏ အသုံးအဆောင်၊ သင်္ကန်း၊ သပိတ်၊ ပရိက္ခရာစသည်တို့ကို၎င်း တည်ထားပြုလုပ်ခဲ့သည်ရှိသော် လူတို့၏ နေအိမ်နှင့် နီးစပ်လေသောကြောင့် ရောနှောရောက်ပေါက်၊ အိမ်အောက်အိမ်ပါး၊ အလားမနေမသင့်ရှိလေလျှင် ဆူးတွင် ဖက်ကျပမာ ပတိရူပအရပ်မဟုတ်၊ မတင့်မတယ်သော အရပ်၌ပြုမိလေသောကြောင့် ထိုကုသိုလ်ရှင်တို့သည် အသက်မရှည်၊ စည်းစိမ်မတည်ပျက်စီးခြင်းသို့ ရောက်လေရာသည်။

ပညာရှိတို့ကို ပေါင်းဘော်မှီဝဲ ဆည်းကပ်မေးမြန်းလျက် ပတိရူပတင့်အပ်လျောက်ပတ်သောအရပ်၌ ကုသိုလ်ကောင်းမှုကို ပြုသည်ရှိသော်ကား လောကီလောကုတ္တရာချမ်းသာစီးပွားများပြားတိုးတက် အသက်စန္ဒာ မြင့်ကြာခွန့်ရှည် တည်ပေအံ့သောအကြောင်းဖြစ်ရာသည်။

ရေမြေသနင်း မင်းတို့သည်မူလည်း အနေအသွားအစားအအိပ်မှစ၍ ပတိရူပတင့်အပ်သောအရပ်၌သာ နေရာ စားရာ သွားရာ အိပ်ရာချေသည်။ မတင့်အပ်သောအမှုကိုပြုမိလေသော် ကြက်သရေမင်္ဂလာဆုတ်ယုတ်၍ စည်းစိမ်အသက်တိုလေရာသည်။

ရေမြေသနင်းမင်းတို့သည် ဓာတ်တော်၊ မွေတော်၊ ရုပ်တုတော်များကို ဘေးဥပဒ်အန္တရာယ် ဖြစ်အံ့သည်ကို၎င်း၊ မတင့်အပ်မလျောက်ပတ်သော အရပ်၌ကျရောက်နေတော်မူသည်ကို၎င်း မြင်လျှင် ဘေးအန္တရာယ်လွတ်အောင်၎င်း၊ တင့်အပ် လျောက်ပတ်သောအရပ်သို့ ရွှေ့ပြောင်း၍၎င်း ထားတော်မူကြဖူးသည်မှာ။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသည့်နောက် တနှစ်ကျော်မြောက်ရှိသောအခါ အရှင်မဟာကဿပရဟန္တာအရှင်မြတ်သည် ဓာတ်တော်တို့ကို တိတ္ထိတို့ကြောင့်ဘေးအန္တရာယ်ဖြစ်တော်မူအံ့သည်ကို မြင်တော်မူ၍ ရာမရွာ၌ရှိသော ဓာတ်နှစ်ပြည်မှတပါး ကုသိနာရုံ၊ ကပိလဝတ်၊ ဝေသာလီ၊ ပါဝါ၊ ဝေဠဒီပ၊ အလ္လကပ္ပ၊ ရာဇဂြိုဟ်ပြည်တို့၌ စေတီတော်တို့မှ ဝေစုဓာတ်တော်တဆဲ့လေးပြည်တို့ကို ပင့်ဆောင်ပြီးမှ၊ အဇာတသတ်မင်းထံအပ်၍ ရာဇဂြိုဟ်ပြည်၏ အရှေ့တောင်ထောင့် တင့်အပ်လျောက်ပတ်သောအရပ်၌ အတောင်ရှစ်ဆယ် ဥမင်တူး၍အထူးထူးသော ရွှေငွေရတနာ နံ့သာကရမက်ကြုတ်စေတီတို့၌ သွတ်သွင်း၍ ဌပနာထားခဲ့ကြောင်းကို သုတ်မဟာဝါအဋ္ဌကထာမဟာပရိနိဗ္ဗာနသုတ်အဖွင့်၌ လာရှိတော်မူပါသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် သာသနာသက္ကရာဇ် ၂၂၂ ခုနှစ်တိုင်ရောက်သည့်အခါ သီရိဓမ္မာသောကမင်းကြီးသည် အဓောတသတ်မင်း ဌပနာသွင်းထားတော်မူခဲ့သော ဓာတ်တော်တဆုံလေးပြည် တို့ကို ထုတ်ဖော်ယူဆောင်လျက် ဇမ္ဗူဒီပါကျွန်းတွင် ရှစ်သောင်းလေးထောင်သော မြို့ကြီးတို့၌ တင့်အပ် လျောက်ပတ်သော ပတိရူပအရပ်ဝယ် ဓာတ်တော်များကို ဌပနာ၍ စေတီတည်တော်မူခဲ့ဖူးကြောင်းနှင့် ပါရာဇိကဏ် အဋ္ဌကထာတို့၌ လာပါသည်။

ဒသရာဇာမင်းကြီးသည်လည်း ဘေးလောင်း တော် မဟာစန္ဒသူရိယမင်း တည်ထားတော်မူခဲ့သော သီရိဂုတ်တောင်တွင်ရှိသော မဟာမုနိရုပ်ရှင်တော်ကို လက်ယာမင်းနန်းအား နန်းတင်လာသော ပြူတလိုင်းတို့ သည် ကြောသားနှင့် ပေါင်တော်ကိုယူလေရာ ပလ္လင်တော်မှကျ၍ မလျောက် ပတ်သောချောက်ထဲတွင် မြေမှုန့်ဖုံးလျက် တွေ့ရှိလေသည်ကို ဧည၀တီမြို့၏ မြောက်ဘက်အနီး လျောက်ပတ်သော ကတညုတတောင် သို့ ရွှေပြောင်းပင့်ဖိတ်တော်မူ၍ "ခ,ဆ,ပဥ္စ" ကိန်းကို ဖြို၍ပြီးနောက် သက္ကရာဇ် ၅၀၀ ပြည့်လောက်က သိမ်တော် ဆောက်လျက် ကိုးကွယ်တော်မူဘူးပါသည်။

မြောက်ဦးမြို့တည်စ ဘေးတော်မင်းစောမွန် လည်း သက္ကရာဇ် ၇၉၄ ခုနှစ်တွင် မျက်မှောင်တော်ဓာတ် ကို မလျောက်ပတ်သောအရပ် လူတို့နေအိမ်အနီးအစပ် ဆည်ဝတ်ခါးအတွင်း၌ စေတီတည်ထားခဲ့လေသော် မင်းပါကြီး လက်ထက်ရောက်တော်မူသောကာလမှ မလျောက်ပတ်သောလူတို့နေအိမ်အရိပ် မလွတ်ဖြစ်သည်။ ပြောင်းပြီးမှ ဓာတ်တော်ကို ပင့်ယူတော်မူလေ၍ သက္ကရာဇ် ၈၉၄ ခုတွင် ပတိရူပတင့်အပ်လျောက်ပတ်သောအရပ် ဝသဲတောင်ထိပ်တွင် ထိုဘုရားမျက်မှောက်တော်ဓာတ်ကို ဌပနာသွင်း၍ ကောင်းမွန်စွာစေတီတည်ထားခဲ့ကြောင်းနှင့် သမိုင်းရာဇဝင် ထင်ရှားထွက်ရှိပါသည်။

ယခုလည်း မြို့တောင်ဘက် လက်ဆေးကန် လူတို့နေရပ် အိမ်အနီးအပါး၌ ဘစောသီရိမင်းပါကြီး တည်ထားခဲ့သော ဓာတ်တော်ပါစေတီနှစ်ဆူကို ပြောင်းပင့် ၍ ပတိရူပတင့်အပ်လျောက်ပတ်သောအရပ်၌ ကောင်းမွန်စွာ တည်လုပ် ကိုးကွယ်တော်မူလျှင် ပစ္စုပ္ပန်၊ သံသရာနှစ်ဖြာ စည်ကားထွန်းလင်းလျက် ပညာရှိ သူတော်ကောင်းတို့ အချီးအမွမ်းကို ခံရမည့်အကြောင်းသာ ဖြစ်ပါသည် ဒါယကာတော် မင်းမြတ်။

ဤသို့ ဆရာတော်တို့ မိန့်ဆိုတော်မူလေသော် ပြည့်ရှင်မင်းလည်း အလွန်ကြိုက်တော်မူ၍ လက်ဆေးကန် နား၌ရှိသော ဘစောသီရိမင်းပါကြီးကောင်းမှု၊ ရင်ရိုး ဓာတ်တော်၊ နံရိုးဓာတ်တော် စေတီနှစ်ဆူကို ပြောင်းပြီးမှ ဓာတ်တော်ကို ရတနာပန်းတောင်းဖြင့် ပင့်ဆောင်တော်မူ၍ သက္ကရာဇ် ၁၀၀၃ ခုတွင် ပတိရူပတင့်အပ်လျောက်ပတ် သော တောင်ထိပ်၌ ရင်ရိုးတော်ဓာတ်ကို မြင်တော်မူစေတီ၊ နံရိုးတော်ဓာတ်ကို ထင်တော်မူစေတီဟူ၍ တည်တော် မူပြီးလျှင် ဒုံးကုလားတရာစီ ကျောက်စာထိုးလျက် လှူတော်မူလေသည်။

တရံသောအခါ၌ အထက်သာကိဝင်မင်း သီရိသုဓမ္မရာဇာ ရွှေရေးဆောင် မိဘုရားကို နရပတိမင်း အမတ် သံထောင်စားငတုံးညို သင့်မြတ်နေကြောင်း ပြည့်ရှင်မင်း နရပတိကြီးသိတော်မူလေသော် ဆရာတော် တကျိပ်နှစ်ပါးကို နန်းတော်သို့ပင့်ခေါ်တော်မူ၍ ပြည့်ရှင်မင်းကိုယ်တိုင် မေးတော်မူသည်ကား ထီးဖြူ ဆောင်း၊ ရာဇပလ္လင်ထိုင်၊ ဘိသိက်ခံသော ဧကရာဇ် မင်းမိဘုရားသားသမီးတို့ကို မှူးမတ်ပြည်သူတို့ အိမ်ထောင်ဖက်ပြုကောင်းပါအံ့လော။ ရှေးထုံးဟောင်း ကျမ်းဂန်အလာနှင့် မိန့်တော်မူပါမည့်အကြောင်းနှင့် လျှောက်ထားလေသော် ဆရာတော်တကျိပ်နှစ်ပါးတို့ မိန့်ဆိုတော်မူကြသည့် ထုံးသော်ကား---

သာသနဒါယကာဖြစ်တော်မူသော တရား မင်းမြတ်၊ လူနတ်တို့၏ဆရာ သမ္မာသမ္ဗုဒ္ဓ မြတ်စွာဘုရား

သည် ဟောကြားတော်မူအပ်သော မင်္ဂလာတရားတော်၌ ဂါရဝေါစ၊ ရိုသေထိုက်သော သူတို့အား ရိုသေရခြင်းသည် ၎င်း။ နိဝါတောစ၊ မာန်မာနကို နှိမ်ချထိုက်သော သူတို့၌ နှိမ်ချခြင်းသည်၎င်း။ ကတညုတာစ၊ သူ့ကျေးဇူးကို သိတတ်သော သူ၏အဖြစ်သည်၎င်း။ မင်္ဂလာတရား မည်၏ဟူ၍ ဟောတော်မူသောကြောင့် လောကုတ္တရာမှု ဖြစ်လျှင် သတ္တဝါအပေါင်းတို့အား မဟာကရုဏာတော်ဖြင့် လွန်စွာသနားတော်မူ၍ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်အောင် ထုတ်ဆောင်တော်မူတတ်သော မြတ်စွာဘုရားသည် ကျေးဇူးအထူးကြီးမြတ်တော်မူပါသည်။

လောကီမှုတွင် မိဘဆရာသမားတို့သည် သားသမီးတပည့်တပန်းတို့အား ပစ္စုပ္ပန်သံသရာချမ်းသာ စီးပွား များပြားစေကြောင်း ကောင်းမြတ်သော အလေ့အကျင့်ဖြင့် ဆုံးမပဲ့ပြင်တတ်သောကြောင့် ကျေးဇူး အထူးကြီးပါသည်။

ရေမြေသခင် ဘုရင်ဧကရာဇ်မင်းမြတ်တို့သည်လည်း တိုင်းနိုင်ငံသူ ရှင်လူရဟန်း အပေါင်းတို့အား ရင်တော်၌ဖြစ်သော သားကဲ့သို့ အုပ်ထိန်းစောင့်ရှောက် ထောက်မပြုစုကြည့်ရှုသိမ်းမြန်းနေတော်မူသည်ဖြစ်၍ ကျေးဇူးရှင်ကြီးပင် ဖြစ်ပါသည်။

မင်းကျင့်တရားဆယ်ပါးနှင့် ဖြောင့်သားညီညွတ်သော ဧကရာဇ်မင်းတို့သည် ပူဇနေယျာနံ၊ ပူဇော်ထိုက်သော မင်းမှန်ချေသည်။ ယင်းသို့တရားမပျက် ရှေးအထက်က အဆက်ဆက်သော မင်းကောင်းတို့၏ ထုံးနည်းကို မလွန်၊ အခွန်ဘဏ္ဍာကို ဆယ်ဖို့တဖို့ ခံယူသုံးဆောင်လျက် ဘုန်းကြက်သရေနှင့်ပြည့်စုံ၍ သာဓုနရတရားလေးပါး၊ သင်္ဂဟတရား လေးပါး၊ နာယကဂုဏ်ခြောက်ပါး၊ အပရိဟာနိယတရား ခုနစ်ပါး၊ မင်းတို့၏ ပြကတေ့တရား ခုနစ်ပါး၊ မင်းတို့၏ ကျေးဇူးရှစ်ပါး၊ ရာဇဂုဏ်ကိုးပါးတို့ကို ဖြည့်ကျင့်တော်မူလျက် ဘိသိက်ခံတော်မူသော မင်းဧကရာဇ်တို့၏မိဘုရား သားတော်သမီးတော် မင်းဆွေစိုးမျိုးတို့၌ ပြစ်မှားလွန်ကျူးပြုသောသူသည် ကတညုတ တရားမရှိ၊ သူယုတ်မာ၏အလေ့ဖြစ်ချေသည်။ ထိုသူ့အား ဘုရားစသော သူတော်ကောင်းတို့ချီးမွမ်းတော်မမူ။ ဒါးသွားဖျားခွ်ဲတင်ထားသော ပျားသကာကိုသာမြင်၍ ဒါးသွား၏ဂုဏ်အပြစ် ဥပါဒ်ဖြစ်အံ့သည်ကို မသိ။ အာဟာရတပ်မက်၍ လျက်မှားသော သူမိုက်ကဲ့သို့ အထိုက်အလျောက် အပြစ်ရောက်သင့်ရာသည်။

တကြောင်းမှလည်း အန္တရကပ်ဖျက်ခါနီးဆယ်နှစ်တမ်းကျရောက်သောအခါ၌ သတ္တဝါတို့သည် အမိ၊ မိထွေး စသည်ဖြင့်မသိ၊ လွန်ကျူးဘိသကဲ့သို့ရှိချေသည်။ ထို့ကြောင့်-

ဘိက္ခဝေ၊ ရဟန်းတို့။ ဒသဝဿာယုကေသု၊ ဆယ်နှစ်တမ်းသို့ ကျရောက်ကုန်သော။ မနုဿေသု၊ လူတို့၌။ အယံ၊ ဤမိန်းမသည်။ မေ၊ ငါ၏။ မာတာတိဝါ၊ အမိဖြစ်သည်ဟူသော အမှတ်သည်၎င်း။ မာတုစ္ဆာတိဝါ၊ မိထွေးဖြစ်သည်ဟူသော အမှတ်သည်၎င်း။ မာတုလာနီတိဝါ၊ ဦးရီးမယားဖြစ်သည်ဟူသော အမှတ်သည်၎င်း။ အာစရိယဿ၊ ပညာသင်ကြားသော ဆရာ၏။ ဘရိယာတိဝါ၊ မယားဖြစ်သည်ဟူသော အမှတ်သည်၎င်း။ ဂရူနံ၊ အလေးအမြတ်ပြုထိုက်သော ဘကြီး ဘထွေးတို့၏။ ဒါရောတိဝါ၊ မယားဖြစ်သည်ဟူသော အမှတ်သည်၎င်း။ နဘဝိဿတိ၊ ရှိသည် မဖြစ်လတ္တံ့။ လောကော၊ လူအပေါင်းသည်။ သံဘေဒံ၊ ရောယှက်ခြင်းသည်။ ဘဝိဿတိ၊ ဖြစ်လတ္တံ့။ အဇေဠကာယထာ၊ ဆိတ်တို့ကဲ့သို့၎င်း။ ကုက္ကုဋာယထာ၊ ကြက်တို့ကဲ့သို့၎င်း။ သူကရာယထာ၊ ဝက်တို့ကဲ့သို့၎င်း။ သောဏသိင်္ဂါလာယထာ၊ အိမ်ခွေး မြေခွေးတို့ကဲ့သို့၎င်း။ ဘဝိဿတိ၊ ဖြစ်လတ္တံ့ဟူ၍ သုတ်ပါထေယျပါဠိတော်၌ ဟောတော်မူပါသည်။

တနည်းမှာလည်း စကြာမင်းတို့ သားမယား မိုလ်ပါတို့၌ကျင့်အပ်သော အန္တောဇန ဗလကာယစသော ကျင့်ဝတ်ဆယ်ပါးတွင် အဓမ္မရာဂနှင့် ဝိသမလောဘ

နှစ်ပါးကိုထည့်သွင်းလျက် ကျင့်ဝတ်တရားတဆဲ့ နှစ်ပါး ဖြစ်ကြောင်းနှင့် ပါထေယျအဋ္ဌကထာ၌ လာရှိတော်မူပါသည်။ ထိုတွင် အဓမ္မရာဂဟူသည်မှာ---

အဓမ္မရာဂေါတိ၊ အဓမ္မရာဂဟူသည်ကား။ မာတာ မာတုစ္ဆာပိတုစ္ဆာ မာတုလာနီတိ အာဒိကေ၊ အမိ မိထွေး ဦးရီး၏မယား အရီးအစရှိသော။ အယုတ္တဋ္ဌာနေ၊ မသင့်သော အရာ၌။ ရာဂေါ၊ တပ်နှစ်သက်ခြင်းတည်း။ ဝိသမလောဘောတိ၊ ဝိသမလောဘဟူသည်ကား။ ပရိဘောဂယုတ္တေသု၊ သုံးဆောင်သွားလာခြင်းငှာ ထိုက်ကုန်သော။ ဌာနေသုပိ၊ အရာတို့၌လည်း။ အတိဗလဝလောဘော၊ အလွန်တပ်နှစ်သက်သော လောဘတည်း။ မိစ္ဆာဓမ္မောတိ၊ မိစ္ဆာဓမ္မဟူသည်ကား။ ပုရိသာနံ၊ ယောက်ကျားတို့၏။ ပုရိသေသု၊ ယောက်ျားတို့၌၊ ဣတ္ထီနံ၊ မိန်းမတို့၏။ ဣတ္ထီသု၊ မိန်းမတို့၌။ ဆန္ဒရာဂေါ၊ တပ်နှစ်သက်တတ်သောလောဘတည်း။ ဤသို့ ပါထေယျအဋ္ဌကထာ၌ ဖွင့်ပြတော်မူပါသည်။

ဤသို့ အဓမ္မရာဂ၊ ဝိသမလောဘ၊ မိစ္ဆာဓမ္မတို့ ပြောသောအခါ မိုးတို့သည် ကောင်းမွန်စွာမရွာကုန်၊ ကောက်ပဲအသီးအနှံတို့သည် ကောင်းမွန်စွာ မဖြစ်ပွားကုန်။ ဝေသာ ဝဏ်နတ်မင်းကြီးတို့သည် ကြမ်းတမ်းကုန်သော ဘီလူးတို့ကို လူတို့၏ သွားလာရာလမ်းခရီးတို့၌ လွှတ်ကုန်သည်ဟူ၍ အင်္ဂုတ္တရအဋ္ဌကထာတီကနိပါတ်၌လာပါသည်။

ထို့ကြောင့် တိုင်းပြည်မြို့ရွာ နိဂုံးဇနပုဒ်တို့ကို စောင့်ချုပ်သိမ်းအုပ်တော်မူသော မင်းကောင်းမင်းမြတ်တို့သည် အဓမ္မရာဂ၊ ဝိသမလောဘ မိစ္ဆာဓမ္မတို့ကို မပြုမကျင့် မလွန်ကျူးရအောင် ဆုံးမတားမြစ်အပ်ပါကြောင်း။

ယခင်ဆိုအပ်သော မင်းကျင့်တရားနှင့် မညီမညွတ်၊ တင့်အပ်လျောက်ပတ်သောအရပ်၌ အနေအသွားအစားအသောက်ကိုမပြု။ မိုက်မူအလေ့အလာ သူယုတ်မာတို့နှင့်သာ ရောပြွမ်းပေါင်းသင်းလျက် မင်းတို့ခံအပ်သော ဘိသိက်မင်္ဂလာကိုမခံမပြု။ လုယက်ဆိုးသွမ်းသော မင်းသုညတို့ စိုးအုပ်သောနိုင်ငံ၌ သတ္တဝါတို့ချမ်းသာခြင်းမရှိ။ ဝိပရိဖောက်ပြန်၍ ကျင့်ကြံသောမင်းများကို ဘုရားအစရှိသော သူတော်ကောင်းတို့ကဲ့ရဲ့ဖွယ်အပြစ်သာများစွာရှိလေသည်။ ယင်းသို့သော မင်းယုတ်မာတို့၏ သားမယားဖြစ်ချေမူကား ကတည့တ ကျေးဇူးတင်ရန် အကြောင်းမပေါ်။ မသူတော်သော မင်းယုတ်မာတို့နှင့် ကင်းကွာရခြင်းသည်ပင် ကောင်းမြတ်ရာသောကြောင့် ထိုမင်းတို့မရှိသည့်နောက်အလျောက် သဘာဝ စပ်ရက်ကြသောသူတို့အား လွန်ကျူးသောအပြစ်မရှိသင့်ပါဒါယကာတော်မင်းမြတ်ဟူ၍ ဆရာတော် တကျိပ်နှစ်ပါးတို့ မိန့်တော်မူကြလေသော်---

ပြည့်ရှင်မင်း နရပတိကြီး အမိန့်တော်ရှိသည်ကား---ကျေးဇူးရှင် သီရိသုဓမ္မရာဇမင်းသည် သာကီဝင်မင်းမျိုးစဉ်လာ ဘိသိက်ခံသော မင်းကောင်းမင်းမြတ်။ ပြည်သူတို့အားလည်း တရားသဖြင့် စောင့်ထိန်းတော်မူသော မင်းဖြစ်ချေသည်။ ထိုမင်း၏မိဘုရားမောင်းမအားအခြားသူမနေသင့်။ သံထောင်စား ဝေါ့းညိုလည်း ကျေးဇူးမသိတတ်သော သူယုတ်မျိုးဖြစ်သည်။ စားကျေးကိုနုတ်၍ စီရီရေခပ်အစိုးမှာ ဖြည့်တော်မူလေသည်။

ရွှေရေးဆောင် မိဘုရားလည်း သီက္ခာပျက်သော ရဟန်းနှင့်တူသည်။ ပြည့်တန်ဆာမဖြစ်စေ မိန့်တော်မူ၍ ယောကျ်ား မိန်းမနှစ်ယောက်ကို ယုတ်သောအစို့၌ ဖြည့်တော်မူလေသည်။

တရံရောအခါ၌ နရပတိမင်းကြီးသည် သက်တော် ၆၃ နှစ်ရောက်သောအခါ သည်းထန်စွာ နာတော်မူလတ်၍ အရိုက်အရာထီးနန်းကို သားတော်အကြီး ညိုရောင်ဖြူနှင့် သားတော်အလတ် မြို့သစ်စား အောင်ကျော်စံနှစ်ယောက်ရှိသည်တွင် သားတော်အကြီး ညိုရောင်ဖြူသည် ပညာရှိတို့နှင့်မနီးနှော၊ ပညာရှိတို့စကားကို မနာယူ၊ သွမ်းသွပ်ပြိန်ဖျင်းသော ကျေးကျွန်တို့နှင့် သဘာဝပြုလျက်နေလေသည်။

သားတော်အလတ် မြို့သစ်စားအောင်ကျော်စံ သော်ကား ပညာရှိတို့ကိုရှာ၍ ပေါင်းဖက်ရောနှောပြီးသော် ရေးထုံးဟောင်း ကောင်းသောအကြံနှင့် ဟိရိဩတပ္ပတရား ကိုစောင့်ထိန်းကာ ပညာရှိအင်္ဂါနှင့် ညီလေသည်။

ထိုသားတော်နှစ်ယောက်တို့တွင် ထီးနန်း တိုင်းပြည်ကို မည်သူသို့ အပ်သင့်ကြောင်းနှင့် ဆရာတော် တကျိုပ်နှစ်ပါးကို မေးတော်မူလေရာ ဆရာတော် တကျိုပ်နှစ်ပါးတို့ မိန့်တော်မူသော ထုံးသော်ကား---

သာသနဒါယကာ ဒါယကာတော်မင်းမြတ်၊ မြတ်စွာဘုရားသည် ရှေးဦးစွာဟောပြဆုံးမတော်မူအပ်သော မင်္ဂလာတရားတော်၌---

အသေဝနာ စ ဗာလာနံ၊ ပဏ္ဍိတာနဉ္စ သေဝနာ။
ပူဇာ စ ပူဇနေယျာနံ၊ ဧတံ မင်္ဂလမုတ္တမံ။

ဒေဝပုတ္တ၊ နတ်သား။ ဗာလာနံ၊ သူမိုက်တို့ကို။ ယာအသေဝနာစ၊ အကြင်မမှီဝဲ မဆည်းကပ်ရခြင်းသည် ၎င်း။ ပဏ္ဍိတာနံ၊ ပညာရှိသောသူတို့ကို။ ယာသေဝနာစ၊ အကြင်မှီဝဲ ဆည်းကပ်ရခြင်းသည်၎င်း။ ပူဇနေယျာနံ၊ ပူဇော်ထိုက်သောသူတို့ကို။ ယာပူဇာစ၊ အကြင်ပူဇော်ရခြင်း သည်၎င်း။ အတ္ထိ၊ ရှိ၏။ ဧတံ၊ ဤသုံးပါးသော တရားသည်လျှင်။ ဥတ္တမံ၊ မြတ်စွာသော။ မင်္ဂလံ၊ မင်္ဂလာတရားမည်၏ဟူ၍။ တွံ၊ သင်နတ်သားသည်။ ဂဏှာဟိ၊ မှတ်ယူလော။

ဤသို့ဟောကြား ပြသဆုံးမတော်မူရာ မင်္ဂလာ တရားတော်၌ ပညာမရှိသောသူကို မမှီဝဲမဆည်းကပ် မပေါင်းဖော်သင့်ကြောင်း၊ ပညာရှိ သူတော်ကောင်းကိုသာ လျှင် မှီဝဲဆည်းကပ် ပေါင်းဖော်ရမည့်အကြောင်း၊ ပူဇော်ထိုက်သောသူကိုသာလျှင် ပူဇော်ချီးမြှင့်ရမည့် အကြောင်းနှင့် လာရှိတော်မူပါသည်။

သဗ္ဘိရေဝ၊ သူတော်ကောင်းတို့နှင့်သာလျှင်။ သမာသေထ၊ ပေါင်းဘော်မှီဝဲ ယှဉ်တွဲကုန်ရာ၏။ သဗ္ဘိ၊ သူတော်ကောင်းတို့နှင့်။ သန္ထဝံ၊ မိတ်ဆွေပြု၍ ပေါင်းဘော်ခြင်းကို။ ကုဗ္ဗေထ၊ ပြုကုန်ရာ၏။ သတံ၊ ဘုရားအစရှိသော သူတော်ကောင်းတို့၏။ သဒ္ဓမ္မံ၊ ငါးပါးသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါး သီလ၊ လေးဝသော သတိပဋ္ဌာန်အစရှိသောသူတော်ကောင်းတို့၏ တရားကို။ အညာယ၊ သိ၍။ သေယျော၊ ပွားစီးသဖြင့် မြင့်မြတ် သည်။ ဟောတိ၊ ဖြစ်၏။ ပါပိယော၊ ယုတ်မာသော သူတို့အောက် ယုတ်မာခြင်းသည်။ ကုဒါစနံ၊ တရံ တခါမျှ။ နဟောတိ၊ မဖြစ်။ ဤသို့လည်း ဓမ္မပဒစသော ကျမ်းဂန်တို့၌ လာပါသည်။

ဇာတ်နိပါတ်တော်တို့တွင်လည်း သံဝရမင်းသား သည် တရာ့တယောက်သောသားတော်တို့တွင် အငယ်ဆုံး ဖြစ်ပါလျက် ပညာရှိသောအမတ်ကောင်းနှင့် ပေါင်းဘော်မှီဝဲ ယှဉ်တွဲနှီးနှောခြင်းပြုလေသောကြောင့် ခမည်းတော်မင်း၏ အရိုက်အရာထီးနန်း တိုင်းပြည်ကို အပ်နှင်းခံရတော်မူဘူးကြောင်းနှင့် သံဝရဇာတ်တွင် လာရှိတော်မူပါသည်။

ယင်းသို့ကျမ်းဂန်အလာ ပညာရှိသဖြင့် ပူဇော်ခံ ထိုက်သောသူဖြစ်မှလည်း တိုင်းနိုင်ငံသူတို့ ပူဇော်ခံလျက် ဆယ်ဘို့တဘို့ ပြည်သူတို့လုပ်ခွန်ဘဏ္ဍာကို ခံယူသုံးဆောင် ထိုက်ပါသည်။ ပညာမရှိမိုက်သော အလေ့အလာကို ကြိုက်သော မင်းတို့စိုးအုပ်သောနိုင်ငံ၌ တိုင်းသူပြည်သား အပေါင်းတို့သည် မာနထောင်လွှားရက်စက် ကြမ်းတမ်း လျက် ကိုယ်နှင့် နီးရင်းသောသူမှတပါး သနားခြင်းမရှိ၊ အလေ့အသိအမြင် ပညာဖြင့် သတ္တဝါတို့ညှိုးငယ်ပျက်စီး သေဆုံးများပြား ရှိလေသည်။ ထိုသို့ယုတ်မာသော မင်းတို့ အား ဘုရားအစရှိသော ပညာရှိသူတော်ကောင်းတို့ ချီးမွမ်း ဖွယ်ရာမရှိသောကြောင့် အသက်စည်းစိမ်တိုလေရာသည်။ ထိုပြည်တို့၌လည်း မြတ်စွာဘုရား ဆုံးမတော်မူအပ်သော တရားမတည်လေ၍ ရန်သူမျိုးငါးပါး ရောနှောဆက်ဆံ လျက် နိုင်ငံရှောက်ရှား ပျက်စီးတတ်ကြောင်း ထုံးဟောင်း ကျမ်းဂန်အလာမှာ-

ဝေသာလီမင်းတို့သည် အချင်းချင်းမညီမျှ၊ အပရိဟာနိယ တရားကင်းလွတ်အောင် ဝဿကာရပုဏ္ဏား လှည့်ဖြား ကုန်းတိုက်ပြုလေရာ ပညာအဆင်အခြင်မရှိ မိမိတို့သဘော ထားသည့်အတိုင်း နေမှားကြသည့်အတွက်

ပျက်စီးဆုံးပါးရလေကြောင်းနှင့် ထုံးဟောင်းကျမ်းဂန်လာပါသည် ဒါယကာတော်မင်းမြတ်ဟု ဆရာတော်တို့ မိန့်တော်မူလေသော် ပြည့်ရှင်မင်းကလည်း ကြိုက်တော်မူလေ၍ သားတော်အကြီးကို ထီးနန်းမအပ်။ သားတော်အလတ် မြို့သစ်စားသို့ ထီးနန်းတိုင်းပြည်ကို အပ်တော်မူလေသည်ဟူ၍ ဆိုတော်မူသည်။ ဤသည်ကား ဓညဝတီအရေးတော်ပုံ၌လာသော နရပတိမင်း အကြောင်းတည်း။

(ဤဓညဝတီအရေးတော်ပုံ၌ နရပတိမင်းသည် သက္ကရာဇ် ၁၀၀၂ ခုတွင်နန်းတက်သည်ဟူ၍၎င်း၊ မိဘုရားနတ်ရှင်မယ်ကို နန်းတွင်းသို့ မသွင်းဘဲ မြို့မြောက်တွင်သာ ထားလေသည်ဟူ၍၎င်း၊ သက္ကရာဇ် ၁၀၀၃ ခုတွင် ထင်တော်မူစေတီတို့ကို တည်တော်မူသည်ဟူ၍၎င်း၊ သားအလတ်ကိုသာ ထီးနန်းအပ်သည်ဟူ၍၎င်း ရေးသားပါရှိသောအရာတို့သည် ရာဇဝင်ဟောင်းတို့နှင့် မညီလေ။ အက္ခရာပုဒ်ပုဂ်၊ အသတ်အထား စကားသွားအမှားတို့ကိုမူ ပျင်ဆင်ထည့်သွင်းကာ ရေးလိုက်သည်။

အချို့ရာဇဝင်သစ် ၂၁၉ နံပါတ်၌ မြောက်ဦးမြို့တွင် မိဘုရားနတ်ရှင်မယ်ကို နန်းတွင်းသို့မသွင်းဘဲ ပြင်၌ထားလေသည်ဟူ၍၎င်း၊ လောင်းကြက်စားကေုသလသည် နရပတိကြီးအမည်ကိုခံ၍ သက္ကရာဇ် ၁၀၂၅ ခုနှစ်တွင် နန်းတက်တော်မူလေသည်ဟူ၍၎င်းဆိုပြီးလျှင် ဓညဝတီအရေးတော်ပုံအတိုင်း ရေးလေသည်။ အဆုံးရောက်ခါနီး နန်းအပ်ခန်း၂၂၆ နံပါတ်၌ကား နရပတိမင်းကြီးသည် မိဘုရားနတ်ရှင်မယ်ကို မှာထားပြောဆိုသင့်သော စကားအရပ်ရပ်ကို မှာထားတော်မူပြီး မှလွန်တော်မူကြောင်းနှင့် ဆရာမည်ရာဇဝင်သို့လိုက်၍ ဆိုပြန်သည်။ ရှေ့နောက်စဉ်းစား၍ မှားသည်မှန်သည်ကို သိကြလေ။ ဤကားအမှာ စကားချပ်။)

ထိုနရပတိမင်း လွန်တော်မူလေလျှင် သားတော်အကြီးဖြစ်သော အိမ်ရှေ့မင်းသည် နမတော်ရင်းရတနာကုမ္မာရီနှင့် အဘိသိက်ခံတော်မူ၍ သက္ကရာဇ် ၁၀၀၇ ခု၊ နတ်တော်လပြည့်ကျော် တဆဲ့တရက်၊ ဗုဒ္ဓဟူးနေ့ ညလေးပဟိုရ်ရှပ်တွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ သတိုးမင်းတရားဟူသောအမည်ကို ခံတော်မူ၏။

ထိုမင်း၌ မိဘုရားခေါင်သည်ကား နမတော်ရင်း ရတနာကုမ္မာရီတည်း၊ တောင်မိဘုရားကား ရှင်လတ်တည်း၊ မြောက်မိဘုရားကား စောပို့မယ်တည်း၊ အနောက်မိဘုရားကား မိဘုရားဖြူတည်း။

မိဘုရားခေါင်တွင် စန္ဒာတယောက်၊ မင်းမဲလုလင် တယောက်၊ သမီးတော် မယ်ကြီးတယောက်၊ မယ်လတ် တယောက်အားဖြင့် လေးယောက်ဖွားမြင်တော်မူသည်။ မိဘုရားဖြူတွင် သားတော် မင်းချွတ်တယောက် ဖွားမြင်တော်မူသည်။

မိဘုရားပို့မယ်တွင် စန္ဒပဘာမည်သော သမီးတော်တယောက် ဖွားမြင်တော်မူသည်။

ကိုယ်လုပ်တော်များတွင် ဖွားမြင်တော်မူသော သားတော် သမီးတော်တို့သည်ကား တကျိပ်မက ဖွားမြင်သည်ဖြစ်၍ သားတော်၊ သမီးတော်အပေါင်းသည် သုံးကျိပ်ကျော်ခန့်ရှိတော်မူသတည်း။

ထိုသတိုးမင်းတရားသည် နန်းတက်တော်မူ၍ ရက်ပေါင်း သုံးဆယ်ရှိလျှင် မယ်တော်မိဘုရား နတ်ရှင်မယ်ကို ရွှေဝင်းတော်၏ မြောက်ဘက်ဖြစ်သော ဟရိတောင်အရှေ့ဘက်တွင် နန်းအိမ်ဆောက်၍ထားလေသည်။ ထိုနေ့ကစ၍ မယ်တော်နန်းဟု အစဉ်ထားကြလေ၏။ ထိုမင်းသည်ကား ကနက္ကဒန်ထီးဖြူကိုဖွင့်၍ ပွင့်တော်မူသောကြောင့် ထီးဖြူပွင့်ဟန် ထီးရစ်ထည့်၍ ဒင်္ဂါးခတ်တော်မူသည်။

ထိုဘုရင် သတိုးမင်းတရားသည် မဟာမုနိရုပ်ရှင်တော်ကို ဖူးမြော်အံ့ဟူ၍ ချီတော်မူပြီးလျှင် များစွာသော အလှူတော်နှင့် ပူဇော်တော်မူခဲ့၍ မိဋ္ဌာန်ပြီးသော် ကစ္ဆပနဒီမြစ်ကိုစုန်လေ၍ ဦးရစ်တော်ခတ်ကို ပူဇော်တော်မူပြန်သည်။ ပူဇော်၍မိဋ္ဌာန်တော်မူပြီးလျှင် ဦးရစ်တောင်

ပေါက်မှ အနောက်သို့ချီတော်မူလေ၏။ သမီးလှပြင်သို့ ရောက်လျှင် ထိုညတည စခန်းချတော်မူ၍ချီတော်မူလေသည်။ ပဲလွန်းဆိပ်သို့ရောက်လေလျှင် တညစခန်းချတော်မူ၍ ကြည်းကြောင်း ရေကြောင်းချီတော်မူလေသော် ရမ္မာပူရ၊ ကမ္ဘောဇမည်သော သက်ပြည်သို့ ရောက်တော်မူလျှင် သက်မင်းတို့သည် များစွာသောလက်ဆောင်ပဏ္ဏာတို့ဖြင့် ဆက်သဖူးမြော်လာကုန်သည်။ ထိုမှသည် တက္ကတျာ ကစ၍ ခုနစ်ပြည်ထောင်သောမင်းတို့သည် ဝပ်စင်း ပူဇော်လာကြကုန်သဖြင့် များစွာသော လက်ဆောင်ပဏ္ဏာတို့ကို လက်ခံသိမ်းယူတော်မူ၍ နေပြည်တော်သို့ ပြန်တော်မူခဲ့၍ရောက်တော်မူလျှင် ပြင်ဝင်းတထပ်ကို လုပ်တော်မူ၏။ လုပ်တော်မူလျှင် အရှေ့တောင်ထောင့်က နဂါးဖျက်၍ ကျောက်တို့သည် မမြဲဘဲ နေ့ချင်းပြိုခဲ့လျှင် ချဉ်း၍လုပ်တော်မူပြန်၏။ မပြီးစီးခင် အညာအရပ် ငွေရွာသို့ သွားချေမှား၍ ပြန်ကြွတော်မူလတ်သော် အနာသည်းစွာဖြစ်၍ များစွာသောအလှူကို ပေးတော်မူ၏။ ထိုအခါ အနာသည် လွန်စွာသည်းလတ်ရာတွင် ငါသွားချေသောအခါ မပါသမျှသောသူတို့ကို ပြည်ရွာတို့၌ စိစစ်၍ ထောင်တွင် ဖြည့်လေဟု အမိန့်ချခဲ့သောအဖြစ်သည် မိစ္ဆာမတရား ပြုတတ်သောသူတို့ ခြောက်လှန့်၍ စားကြလေသောကြောင့် သတ္တဝါတို့ ဆင်းရဲရချေသည်ဟု သံဝေဂ ယူတော်မူလေသည်။

ထိုမင်းသည် အနာသည်းလတ်၍ သေအံ့သောအကြောင်းကိုသိ၍ ငါ့သားတော်ကို မိဘုရားခေါင်သည် စောင်မကြည့်ရှုလိုက်ပါဟု မှာထားတော်မူ၍ အမတ်တို့ကို ခေါ်ပြီးလျှင် သားတော်အား တိုင်းပြည်ထီးနန်းကို အပ်နှင်းတော်မူ၍ အိမ်နိမ့်၂၆၊ နှစ်ဆဲ့ခြောက်နှစ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၃၃၊ သုံးဆဲ့သုံးနှစ်။ သက္ကရာဇ် ၁၀၁၄ ခုတွင် လွန်တော်မူလေသည်။ နံတော် စနေသားတည်း။ ၂။

ထိုမင်း လွန်တော်မူလေလျှင် သားတော် စန္ဒာသည် မိဘုရားရတနာပဒီယနှင့်အဘိသိက်ခံ၍ သက္ကရာဇ် ၁၀၁၄ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။ စန္ဒသုဓမ္မရာဇာဟူသော အမည်ကိုခံတော်မူသည်။ ခမည်းတော်လုပ်တော်မူခဲ့သော မြို့၊ တပ်၊ ကျုံးမြောင်းတို့ကိုလည်း ထပ်ဆင့်၍လုပ်တော်မူသည်။

သက္ကရာဇ် ၁၀၁၉ ခု၊ နတ်တော်လတွင် ဝင်မနား ကျီတော်နှင့် မဟာမုနိသိမ်တော်ကို မီးလောင်လေသောကြောင့် စန္ဒသုဓမ္မရာဇာမင်းသည် မျူးတော်မတ်တော်တို့နှင့်တိုင်ပင်၍ ကောင်းမွန်စွာသောသစ်သားတို့ကို ယူဆောင်စေလျက် သက္ကရာဇ် ၁၀၂၀ ပြည့်၊ တပေါင်းလပြည့်ကျော်တရက်၊ တနင်္ဂနွေနေ့တွင် မဟာမုနိသိမ်တော်ကို ဆောက်လုပ်တော်မူသည်။

သက္ကရာဇ် ၁၀၂၁ခု၊ ကဆုန်လဆန်း ၂ရက်၊ တနင်္ဂနွေနေ့တွင် ရတနာစံဦးစေတီနှင့် ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းတော်မူသည်။

သက္ကရာဇ် ၁၀၂၃ ခုနစ်၊ တပို့တွဲလတွင် ဘိုးတော်နရပတိမင်းထံ ကျွန်ခံဝင်ရောက်နေထိုင်လာသူ ပဆာမင်းသား နရောင်စီသည် စန္ဒသုဓမ္မရာဇာမင်းကို ပုန်ကန်လေရာမနိုင်၍ ကစ္ဆပနဒီမြစ်ညာဖျားသို့ပြေးလေ၏။ သားတော်နှစ်ယောက်နှင့် နောက်ပါသူရဲတို့ ကြွင်းကျန်ရစ်သည်ကိုသတ်၍ပစ်လေ၏။ ကြွင်းကျန်သောသူရဲတို့ကိုလည်း သစ္စာရေတိုက်၍ ကမ်လေးမြားကိုကိုင်စေလျက် မင်းထံတွင် အလှည့်နှင့်စောင့်နေရလေ၏။ ထိုသူတို့သည် ကမ်သည်ဟု တွင်လေ၏။

သက္ကရာဇ် ၁၀၂၅ ခုနစ်တွင် နရောင်စီ၏ကျွန် မောင်းကွပ်တို့သည် ပုန်စားပြန်၍ ရွှေနန်းတော်ပြာသဒ်ကို မီးတိုက်လေလျှင် မနောသီဟမြောက်ဦးစား သေလေ၏။

(ဤအရာတွင် ဆရာမည်ရာဇဝင်၌ ပဆာမင်းသားအမည်ကို သက်သူဇာဟူ၍ဆိုပြီးလျှင် ထို စန္ဒသုဓမ္မရာဇာမင်းလက်ထက်မှ လာရောက်ကြောင်းနှင့် ဆိုသည်။ ရာဇဝင်ဟောင်း မြို့တည်ခန်းနှင့် အင်းစောက်

ရာဇဝင်တို့မှာ နရပတိမင်းလက်ထက် သက္ကရာဇ် ၁၀၀၁ ခုနှစ်ကပင် ပဆာမင်းသား နရောင်စီသည် နမတော် သက်သူဇာတို့နှင့် ခိုဝင်လာရောက်နေထိုင်လာကြောင်း နှင့်ဆိုသည်ဖြစ်ရကား ဆရာငမည်ရာဇဝင်စကားကို စဉ်းစားရန်ရှိချေသည်။ ဤကား စကားချပ်)။

သက္ကရာဇ် ၁၀၂၆ ခု၊ ဝါခေါင်လဆန်း တရက်နေ့ဝယ် ရွှေနန်းတော်ကို ဆောက်လုပ်တော်မူ၏။ ထိုသက္ကရာဇ်တပို့တွဲလတွင် စစ်တကောင်းကို မောင်းကွပ်တို့ ဖျက်လေလျှင် ကိုယ်ရံကြီး ရာဇဗလကျော်ထင်နှင့် ကုလားပဋ္ဌင်ကိုဖမ်းယူလေ၏။ ဖုန္တာတ်စစ်သည်အပေါင်း တို့လည်း စစ်တကောင်းမြို့မှဆုတ်၍ပြေးခဲ့ရ၏။ ထိုနှစ်ဝင်း တပေါင်းလတွင် ဖောင်တော်မစီးသင့်ကြောင်းနှင့် လျှောက်ထားတားမြစ်သော်လည်း နာယူတော်မမူ။ ဖောင်တော်စီးလျက် မဟာမုနိရုပ်တုတော်သို့ အဖူးအမြော် သွားလေသော် အလောင်းသမား ကျွန်းမော်ဖျားတွင် ဖောင်တော်တင်လျက် ထုချေ၏။ တဖန် သွားလေသော် သရေချောင်းသို့ရောက်သောအခါ စစ်တကောင်းကို မောင်းကွပ်တို့ ဖျက်ပါကြောင်းနှင့် လျှောက်ထားလာသော် လှေတော်စီး၍ ရွှေမြို့တော်သို့ ပြန်တော်မူခဲ့၏။ ရောက်တော်မူလျှင် စစ်တကောင်းကို ဖျက်ချေဟု စစ်သူကြီးကို စေလွှတ်တော်မူလိုက်၏။ စစ်သည် လှေတက် လက်နက်ကိရိယာတို့သည်ပျက်စီး၍ ပြန်ခဲ့ရကြ ကုန်၏။

သက္ကရာဇ် ၁၀၂၈ ခု၊ နံယုန်လဆန်း ၅ ရက် နေ့မှသည် ဝါဆိုလကုန်နီးတိုင်အောင် ကျွတ်ကြီး လှေကျော်၊ လှေကျင်သံချိတ်တို့တွင် လက်နက်ကိရိယာ တင်၍ ပေါင်းတွတ်က စောင့်နေရ၏။

သက္ကရာဇ် ၁၀၃၂ ခု၊ နတ်တော်လပြည့်ကျော် ၁ ရက်၊ တနင်္ဂနွေနေ့၊ မိဘုရားခေါင်သားတော် ဥဂ္ဂါဗလကို ရဟန်းပြုတော်မူ၏။ ညီတော်ကို စစ်တကောင်းစား ပေးတော်မူ၏။

သက္ကရာဇ် ၁၀၃၂ ခု၊ ပြာသိုလဆုတ် ၁၀ရက်၊ အင်္ဂါနေ့တွင် ညီတော်စစ်တကောင်းစား ပုန်စားလာသော် ဝင်းတော်ထဲကနေ၍ စစ်ခံတော်မူရာ လက်နက်မှန်၍ ညီတော်စစ်တ ကောင်းစားသေခဲ့၏။ နောင်တော်လည်း ငိုယိုမြည်တမ်း ညှိုးနွမ်းလေ၏။

သက္ကရာဇ် ၁၀၃၃ ခု၊ နယုန်လတွင် ရွှေနန်းအရှေ့ ဘက် တံခါးထွက်မှသည် မဟာမုနိသိမ်တော် ရောက်အောင် စကြံဆည်ဖို့တော်မူ၏။ ဝါဆိုလဆုတ် ၁၁ရက်၊ သောကြာနေ့တွင် ရွှေဂူဟာသိမ်တော်နှင့် ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းတော်မူ၏။

သက္ကရာဇ် ၁၀၃၄ ခု၊ ကဆုန်လဆုတ် ၆ရက်၊ တနင်္ဂနွေနေ့ သားတော်အလတ် ရဟန်းလူထွက် ဥဂ္ဂါဗလနှင့် သမီးတော်သုဝဏ္ဏကလျာကို လက်ထပ်တော် မူ၏။ နံယုန်လဆုတ် ၄ ရက်စနေနေ့တွင် သားတော် ဥဂ္ဂါဗလကို အိမ်ရှေ့နှင်းတော်မူ၏။

သက္ကရာဇ် ၁၀၃၅ ခု၊ နတ်တော်လတွင် စန္ဒသုဓမ္မရာဇာမင်းသည် ဒွါရာဝတီ သံတွဲမြို့သို့ အလှူကြီး ပေးတော်မူအံ့သောငှာ ကြွချီတော်မူလေသော် ခုနစ်ခရိုင် တောင်စဉ်သူကြီးတို့သည် မိမိတို့၏အပိုင် မိုးခြားမြေခြား အရပ်ကအစပြု၍ ရွှေလှေ၊ ရွှေပြာသာဒ်တို့ကို တမုတ် ကြိုးတို့ဖြင့်တည်း၍ ဆွဲငင်လှော်ယူကြကုန်၏။ ရေစုန် ရေဆန်တို့ကိုလည်း မိမိတို့ချောင်းဝက တဆဲ့နှစ်တောင် အလျားရှည်သော ဝါးခုနစ်လုံးတို့ကိုစည်း၍ မျှောရလေ၏။ ဝါးတင်ရာအရပ်ကို မိုးခြား မြေခြား သမုတ်တော်မူလျက် ခုနစ်ခရိုင် တောင်စဉ်တို့ကို ထားခဲ့ပြီးမှ ဒွါရာဝတီ သံတွဲမြို့သို့ရောက်တော်မူလေလျှင် အံတော်၊ နံတော်၊ ဆံတော်ဓာတ်သုံးဆူတို့ကို ပူဇော်ကန်တော့ခြင်းကိုပြု၍ အလှူကြီးစွာ ပေးတော်မူသည်။ ဘုရင် စန္ဒသုဓမ္မရာဇာ မင်းသည် ခုနစ်ခရိုင်တောင်စဉ်တို့၌ စေတီပုထိုးတို့ကို လည်းတည်ထားတော်မူ၍ အလှူကြီးပေးတော်မူပြီးလျှင် နေပြည်တော်သို့ ပြန်တော်မူခဲ့၏။

ထိုစန္ဒသုဓမ္မရာဇာမင်းသည် မင်းကျင့်တရား

ဆယ်ပါး၊ သင်္ဂဟတရားလေးပါး စသည်တို့ကို ကြိုးစားဖြည့်ကျင့်တော်မူ၍ အိမ်နိမ့် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ နန်းစံ ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နှစ်စုသက်တော် ၄၇၊ လေးဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၁၀၃၆ ခု၊ ဝါဆိုလဆန်း ၅ ရက်၊ တနင်္လာနေ့တွင် လွန်တော်မူလေသည်။ နံတော်တနင်္လာသားတည်း။၃။

(ဆရာမေည်ရာဇဝင်၌ အိမ်နိမ့်။ နန်းစံ၊ နှစ်ပေါင်း၊ သက္ကရာဇ်၊ နေ့စွဲသည် အင်းဝေက်ရာဇဝင်တို့နှင့် ညီသည်ဖြစ်၍ အင်းစောက်ရာဇဝင်တို့အလိုဖြင့် ရေးသားလိုက်သည်။ ဤသည်ကား အမှာစကားချပ်)

ထိုစန္ဒသုဓမ္မရာဇာမင်း လွန်တော်မူလေလျှင် သားတော် အိမ်ရှေ့မင်း ဥက္ကါဗလသည် မိဘုရားသုဝဏ္ဏကလျာနှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၃၆ ခု၊ ဝါဆိုလဆန်း ၆ ရက်၊ အင်္ဂါနေ့တွင် သီရိသုဓမ္မရာဇာ ဟူသော အမည်ကိုခံတော်မူ၍ ပြည်စည်းစိမ်ကို အုပ်စိုးတော်မူလေ၏။

ဝါခေါင်လဆုတ် တဆဲ့တရက်၊ တနင်္လာနေ့ဝယ် အနောက်မင်းသမီးကို မိဘုရားမြှောက်တော်မူ၏။ တော်သလင်းလဆန်းသုံးရက်၊ အင်္ဂါနေ့တွင် အလှူကြီးကို ပေးတော်မူ၏။ တန်ဆောင်မုန်းလဆန်း ဆယ်ရက်နေ့ ဘထွေးတော် သံတွဲမြို့စား မင်းရဲကျော်စွာကို ကုလားတန်သို့ လျှိုလေ၏။ နတ်တော်လဆုတ် ခြောက်ရက်နေ့တွင် မြို့ဟောင်းမြို့ကိုတည်တော်မူ၏။ တည်တော်မူပြီးလျှင် မင်္ဂလာနန်းတော်ကို ဆောက်လုပ်တော်မူစေ၍ မင်္ဂလာဦးစေတီနှင့် မင်္ဂလာဦးကျောင်းတော်ကို တည်ထားဆောက်လုပ်လှူဒါန်းတော်မူသည်။ နတ်တော်လဆုတ် ၁၀ ရက်နေ့တွင် နန်းတက်တော်မူသည်။ အလှူကြီးကိုလည်း ပေးလှူတော်မူသည်။ ပြာသိုလတွင် မဟာမုနိရုပ်တုတော်ကို ဖူးမြော်ကန်တော့ခြင်းငှာ ကြွချီတော်မူလေ၏။ ပြည်သူပြည်သားတို့ကို ဘုရားရုပ်ထုတော်အထံ၌ သစ္စာရေတိုက်၍ပြန်ခဲ့၏။ တန်းခူးလပြောင်း လပြည့်ကျော် ၁ ရက်၊ ကြာသပတေးနေ့တွင် လောကမာရန်အောင်သိမ်တော်၌ ပဉ္စင်းတထောင်ခံတော်မူစေ၍ အလှူကြီးကို ပေးတော်မူသည်။

သက္ကရာဇ် ၁၀၃၇ ခု၊ တန်းခူးလဆုတ် ၆ ရက်၊ ဗုဒ္ဓဟူးနေ့ဝယ် မဟာမုနိရုပ်တုတော်ကို ပူဇော်ကန်တော့အံ့သောငှာ ချီကြွတော်မူသည်ကို ဟူးရားတတ်ပညာရှိတို့က ကြွတော်မူလျှင် ပြန်အံ့မရှိပါကြောင်းနှင့် လျှောက်တင်လေသည်ကို မနာယူဘဲ ချီသွားလေလျက် ဘုရားရင်ပြင်၌ သုံးရက်ပတ်လုံး အလှူကြီးကိုပေးတော်မူ၍ ပြန်တော်မူခဲ့လျှင် ရမ်းဝစည်းမှာ တရက်ကြာတော်မူခဲ့၏။ မင်းဆိပ်နန်း မြေအရပ်တွင် သုံးရက်နေတော်မူပြီးမှ ရွှေနန်းတော်သို့မတက်ဘဲ ကဆုန်လဆုတ် ၁ ရက်နေ့ ရွှေဖောင်ကို စီးတော်မူလျက် ချောင်းဆည်သို့ ထွက်တော်မူလေ၍ မြို့ဟောင်းမြို့ဝယ် မင်္ဂလာထီးနန်းသို့ တက်တော်မူသည်။ နန်းတက်တော်မူ၍ တဆဲ့တလနေတော်မူပြီးလျှင် အိမ်နိမ့် ၂၇၊ နှစ်ဆဲ့ခုနစ်နှစ်။ နန်းစံ ၁၁၊ တဆဲ့တနှစ်။ နှစ်စုသက်တော် ၃၈၊ သုံးဆဲ့ရှစ်နှစ်။ သက္ကရာဇ် ၁၀၄၇ ခု၊ ကဆုန်လဆန်း တဆဲ့တရက်၊ တနင်္လာနေ့ဝယ် ကိုယ်ရံတော်သား လေးသောင်းနှစ်ထောင်တို့သည် မြို့ဟောင်းမြို့ မင်္ဂလာနန်းထက်တွင် ပုန်စား၍ လွန်တော်မူလေသည်။ နန်းတော်ကိုလည်း မီးတိုက်လေသည်။ မိဘုရားနှင့် ကိုယ်လုပ်မောင်းမတို့သည် များစွာသေကြေပျက်စီးကြလေကုန်၏။ လက်ယာမြန် စစ်ကဲကြီးနှင့် မှူးကြီးမတ်ရာ လူသူတို့လည်း သေကြေပျက်စီးကြကုန်၏။ ဥစ္စာရွှေငွေတို့ကို ဖျက်ဆီးလုယက်၍ ပြည်သူတို့သည် များစွာယူကြလေကုန်၏။ ထိုသီရိသုဓမ္မရာဇာ အမည်ခံသော ဥက္ကါဗလမင်းကား နံတော် သောက်ကြာသားတည်း။၄။

ထိုအခါ ရဲဘော်သီဟတောင်ဘက်စားကို နန်းတင်မည်ဟူ၍ ချောင်းသစ်ကယူခဲ့၍ မင်းဆိပ်သို့ ရောက်လေသော် တချို့လူများတို့သည် သဘောမတူ၊ မညီမညွတ်ဖြစ်ကြသောကြောင့် ညှဉ့်ချင်းသတ်၍ ပစ်ကြလေ၏။

ထိုဥဂ္ဂါဗလမင်း လွန်တော်မူလျှင် ညီတော် သံတွဲစားကို ပြည်သားမှူးမတ်တို့ညီညာ၍ သက္ကရာဇ် ၁၀၄၇ ခု၊ ကဆုန်လဆန်း တဆဲ့နှစ်ရက်၊ အင်္ဂါနေ့တွင် မိဘုရားသုကုမ္မာနှင့် ဘိသိက်ခံတော်မူစေ၍ ပြည်စည်းစိမ်ကို အပ်နှင်းတော်မူကြကုန်၏။ ထိုမင်းကား ဝရဓမ္မရာဇာ ဟူ သောအမည်ကိုခံတော်မူ၏။ လူကြီးသူကြီးတို့ကို ငွေကျပ် သုံးဆယ်၊ ပြည်သူတို့ကို ငွေတဆဲ့ငါးကျပ်စီ မင်းမြှောက် ဘိသိက်သွန်းတော်မူသောအခါ မင်္ဂလာဆု ပေးသနားတော်မူသည်။ ကိုယ်ရံတော်တို့ကိုလည်း ပြည်သူတို့ထံကောက်ခွဲ၍ တလကို ငွေလေးကျပ်စီ ပေးတော်မူသည်။

တပို့တွဲလတွင် ဘထွေးတော်သံတွဲမြို့စား မင်းရဲကျော်စွာကို ကုလားတန်သို့ လျှို့ထားရာမှ ယူစေတော်မူ၏။ ထိုလအတွင်း အလျှုကြီးကိုပေးတော်မူသည်။ တပို့တွဲလပြည့်ကျော် ၉ ရက်၊ တနင်္ဂနွေနေ့ဝယ် ရွှေနန်းတော်ကို မီးလောင်၍ မိဘုရားမောင်းမ မိသံနှင့် ကိုယ်လုပ်တော်တို့သည် များစွာသေကြကုန်၏။ သူငယ်တော်ကြီး စန္ဒဂါမဏိသည် များစွာသော ရဲမက်ဗိုလ်ပါနှင့် ဝရဓမ္မရာဇာမင်းကို သက္ကရာဇ် ၁၀၄၈ ခုသို့အတက် တန်ခူးလဆုတ် ၁ ရက်၊ ဗုဒ္ဓဟူးနေ့တွင် ပုန်စားလေက ပြည်သူတို့တိုက်လေသော် သူငယ်တော်ကြီး စန္ဒဂါမဏိကို အရှင်ဖမ်း၍ရလေ၏။ ယင်းသို့ရသော်လည်း ဒေါသမငြိမ်း၊ သတ်လိုသောစိတ်မရှိ။ တပိုတပါး ရပ်ခြားတိုင်းစွန်ဖြစ်သော ကုလားပြည်သို့ လျှို့ပို့လေဟုမိန့်တော်မူ၍ လျှို့ပို့လိုက်လေရာ အညာအရပ်နေ ကုလားတို့နှင့်ညီ၍ လက်မရွှံ့အာဏာသားတို့ကို ထိုးခုတ်၍ပြေးလေ၏။ ပြေးလေရာ ကိုယ်ရံကြီးစည်သူကျော်ထင်လိုက်၍ ဖမ်းဆီးလေသော်ရခဲ့၍ ဝရဓမ္မရာဇာမင်းကိုဆက်သတော်မူ၏။ ထိုအခါမှ ဝရဓမ္မရာဇာမင်းသည် သူငယ်တော်ကြီး စန္ဒဂါမဏိကို သတ်၍ပစ်လေ၏။

သက္ကရာဇ် ၁၀၄၈ ခု၊ တပို့တွဲလဆုတ် ၄ ရက်၊ သောကြာနေ့ဝယ် ကင်းပြင်ပေါင်းတုပ် ကုလားတို့ညီညာ၍ ခေါင်းတကာကုလားသည် ဝရဓမ္မရာဇာမင်းကို ပုန်စားလေလျှင် ပြည်သူနှင့်သူရဲဗိုလ်ပါတို့ တိုက်ခိုက်လေသော် ခေါင်းတကာကုလားသည် မခံနိုင်၍ အနောက်ပြည်သို့ ပြေးလေ၏။ ထိုနှစ်လူတို့သည် ဝက်သက်ရောဂါပေါက်၍ သေကြကုန်၏။ စပါးအတောင်းတရာကို = ငွေဒင်္ဂါး သုံးဆယ်ပေးရ၏။

ဆင်ကဲကြီး တရဖျားနှင့် လက်ဝဲမြန်၊ လက်ယာမြန်တို့ကို ဒါးလှံချိုခွဲလျက် လွှတ်တော်ထက်ဝယ် သက္ကရာဇ် ၁၀၄၉ ခု၊ ပြာသိုလတွင် ကိုယ်ရံတော်သားတို့သည် သတ်ဖြတ်၍ပစ်လေကုန်၏။ ရှေးမင်းစဉ်မင်းဆက်ထားတော်မူသော ဘဏ္ဍာကျိကြတို့တွင်ရှိသော ရွှေငွေတို့ကိုလည်း အကုန်အစင်ယူငင်လေကုန်၏။ မင်းသမီး မောင်းမတို့ကိုလည်း ကိုယ်ပိုင်မယားအဖြစ်ဖြင့် ယူကြလေကုန်၏။ မင်းလည်း မတည်၊ ပြည်လည်းမရပ် ဖြစ်ကြကုန်၏။ ထိုကိုယ်ရံတော်တို့ကို ကြောက်ရွံ့စိမ့်သောငှာ ရဟန်းပျို၊ ရှင်ပျိုတို့သည် စုဆောင်းလျက် တုတ်လှင်ကန်စွဲကိုင်၍ ဖမ်းဆီးရိုက်နှက် ဆုံးမခြင်းပြုသော်လည်း ကြောက်ရွံ့ထိတ်လန့်ခြင်းမရှိ။ ခုခံသတ်ဖြတ်သောင်းကြမ်းကြသော အဖြစ်ကို ဝရဓမ္မရာဇာမင်းကြားသိလေလျှင် မင်းရဲ ရွှေတောင်၊ သင်းဒေဝအမတ်၊ လောကမာရ်အောင် ဘုန်းတော်ကြီး၊ မဏိဖြူဘုန်းတော်ကြီး၊ ရွှေဂူဘုန်းတော်ကြီးတို့အား အကျွန်ုပ်ကိုယူလျက် ရန်သူလက်မှ လွတ်ငြိမ်းချမ်းသာရာသို့ ပို့ထားတော်မူပါဟု မှာထားတော်မူလေ၏။ ရှင်ပျို၊ ပဥ္စင်းပျိုတို့စုရုံးစေ၍ ညသန်ခေါင်အခါဝယ် ရွှေနန်းတော်သို့တက်၍ မင်းတရားကိုယူချေ စေလွှတ်တော်မူလိုက်ကုန်၏။ အစောင့်သား ကိုယ်ရံတော်တို့သည်သိလေလျှင် ထိုရှင်ပျို၊ ပဥ္စင်းပျိုတို့ကိုဆီး၍ သတ်ဖြတ်လေကုန်၏။ မင်းရဲရွှေတောင်၊ သင်းဒေဝအမတ်၊ လောကမာရ်အောင် ဘုန်းတော်ကြီး၊ မဏိဖြူဘုန်းတော်ကြီး၊ ရွှေဂူဘုန်းတော်ကြီးတို့ကို ကိုယ်ရံတော်တို့သည် ဖမ်းယူ၍ရေတွင်နှစ်၍ သတ်ပစ်ကုန်၏။ ပြည်တွင်းပြည်ပကျောင်း အိမ်တို့ကိုတက်၍ဖမ်းဆီးပြီးလျှင် ရေးရာမရပြုကျင့်ကြကုန်၏။

ဆကရေသူကြီး အမည်ရှိသောကုလားနှင့် သရေသင်္ဂဇာတို့ညီညာ၍လာလတ်ပြီးလျှင် သက္ကရာဇ် ၁၀၅၀ ပြည့်၊ ဝါဆိုလတွင် ဝရမ္မရာဇာမင်းကို ပုန်စားလာပြန်ကုန်၏။ ကိုယ်ရံတော်တို့ ခုခံတိုက်ခိုက်လေသော် ပြန်၍ ပြေးခဲ့ကြကုန်၏။

ဂုင်းလတွင်ပင် တလိုင်းနဲကောမိနှင့် စည်းတင်ဘုန်းကြီးတို့သည် တလိုင်းသူရဲအပေါင်းတို့နှင့် ဝရမ္မရာဇာမင်းကို ပုန်စားလာပြန်ကုန်၏။ ကိုယ်ရံတော်တို့ခုခံ၍ တိုက်ခိုက်ကြလေလျှင် ပြေးပြန်လေကုန်၏။

ယင်းသို့ကိုယ်ရံတော်ရဲမက်တို့နှင့် သူကောင်းသူကြီးတို့ စစ်မက်ခိုက်ရန်ဖြစ်ကြရာဝယ် သက္ကရာဇ် ၁၀၅၀ပြည့်၊ ဝါခေါင်လ၌ မင်းသားကန္နီစားကို ကိုယ်ရံတော်သားတို့ ဖမ်းယူလျက် ရေတွင်နှစ်၍ သတ်ပစ်လေကုန်၏။ ထိုလတွင် တလိုင်းနဲကောမိနှင့် ကုလားတို့သည် ညီညာ၍ ဦးရစ်တော်ဝယ်တပ်တည်၍ သောင်းကြမ်းပြန်လေကုန်၏။ ကိုယ်ရံကြီးထွက်၍ တိုက်ချေသော် မနိုင်၍ပြန်ခဲ့ရလေ၏။

ယင်းလတွင် အညာအရပ်က တလိုင်းနှင့် ကုလားတို့သည် တပ်တည်၍သောင်းကျန်းပြန်လေကုန်၏။ မတ်ရာကျေးစားနှင့် ကိုယ်ရံကြီးတို့ ချီသွားတိုက်ခိုက်ပြန်ရာ မတ်ရာကျေးစားတို့သည်ပျက်စီး၍ ကိုယ်ရံကြီးတို့သည် ပြန်ခဲ့ကုန်၏။

ယင်းဝါခေါင်လဆုတ် တဆဲ့သုံးရက်၊ အင်္ဂါနေ့တွင် ကိုယ်ရံကြီးသည် အညာမှာတပ်ကိုသွား၍ တိုက်လေသော် အောင်မြင်၍ပြန်ခဲ့ပေ၏။ ကိုယ်ရံကြီးသည် များစွာသော ရဲမက်ဗိုလ်ပါနှင့်တကွ ချီသွားလေ၍ သက္ကရာဇ် ၁၀၅၁ ခု၊ ကဆုန်လဆန်း ရှစ်ရက်၊ အင်္ဂါနေ့တွင် ဦးရစ်တောင်တပ် တလိုင်းနဲကောမိကို တိုက်လေသော် နိုင်လေ၏။

ထိုနှစ်ဂုင်း မဟာမုနိစက်တော်ရာမှာ တနေ့တည်းတွင် သုံးကြိမ်တက်ကျဖြားရေပြန်၏။ တပေါင်းလဆုတ် တဆဲ့နှစ်ရက် အင်္ဂါနေ့ မင်္ဂလာစေတီတော်နှင့် ကျောင်းတော်ကို တည်ထားဆောက်လုပ်လှူဒါန်းတော်မူ၏။

သက္ကရာဇ် ၁၀၅၂ ခု၊ ဝါဆိုလဆုတ် တဆဲ့တရက်၊ အင်္ဂါနေ့ မင်္ဂလာစေတီတော်ဝယ် ဓာတ်တော်များကို ဌာပနာသွင်းတော်မူ၏။

သက္ကရာဇ် ၁၀၅၃ ခု၊ ဝါဆိုလတွင် လူလေးရာနှင့် မြင်းကပါကို သျှမ်းတို့ဖျက်လာကုန်၏။

သက္ကရာဇ် ၁၀၅၄ ခု၊ ဝါဆိုလဆန်း ခုနစ်ရက်၊ သောကြာနေ့တွင် ကိုယ်ရံတော်တို့သည်ညီညာ၍ ဝရမ္မရာဇာမင်းကို နန်းကချလေ၏။ ထိုမင်းကား အိမ်မိန့်မှ ၁၈၊ တဆဲ့ရှစ်နှစ်။ နန်းစံ ၇၊ ခုနစ်နှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၁၀၅၄ ခုတွင် နန်းကျတော်မူလေသည်။ နံတော် ဗုဒ္ဓဟူးသားတည်း။ ၅။

ထိုမင်းနန်းကျတော်မူလေလျှင် နောင်တော်အိမ်ရှေ့မင်း မဏိဒတ္တကို မိဘုရား သုဘာရနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၅၄ ခု၊ ဝါဆိုလဆန်း ရှစ်ရက်၊ စနေနေ့တွင် ကိုယ်ရံတော်တို့သည် ညီညွတ်၍ နန်းတင်တော်မူကြလေကုန်၏။ ထိုမင်းကား မဏိသုဓမ္မရာဇာဟူသော အမည်ကို ခံတော်မူ၏။

ကိုယ်ရံတော်တို့သည် တောင်းမြဲသူရဲလစာရိက္ခာကို တောင်းကြလေသော် ငါ့တွင် ဉစ္စာရွှေငွေ မရှိဟုဆိုတော်မူလေလျှင် ထိုလတွင်ပင် မဏိသုဓမ္မရာဇာကို ကိုယ်ရံတော်သားတို့သည် နန်းတော်ကချ၍ ဝရမ္မရာဇာကို နန်းတင်တော်မူကြပြန်ကုန်သော် မိုးမရွာဘဲ နေပူလတ်လျှင် ဝရမ္မရာဇာကို နန်းမှချ၍ မဏိသုဓမ္မရာဇာကို နန်းတင်တော်မူကြပြန်ကုန်၏။

ထိုမဏိသုဓမ္မရာဇာမင်းလက်ထက် လင်္ကာဒီပသီဟိုဠ်ကျွန်း၌ သာသနာတော်သည် ဆုတ်ယုတ်ပျက်စီးခြင်းရှိသည်ဖြစ်၍ သာသနာတော် စည်ပင်ထွန်းလင်းအောင် ပြုပါစေခြင်းအကျိုးငှာ သံဃာတော်တို့အား လျှောက်ထားပင့်ဖိတ်ရန် အဝဆယ်လံရှိသောသင်္ဘောတွင် အထူးထူးသော လက်ဆောင်ပဏ္ဏာတင်၍ မြောက်ဦး

မြို့တော်သို့ သက္ကရာဇ် ၁၀၅၅ ခု၊ တော်သလင်းလတွင် ရောက်လာ၏။ မဏိသုဓမ္မရာဇာမင်းသည် ဝါကျွတ်လဆန်း ၈ ရက်၊ ကြာသပတေးနေ့တွင် ရတနာစံဦးသိမ်တော်အတွင်း၌ ရဟန်းပညာရှိ လူပညာရှိတို့နှင့်တိုင်ပင်တော်မူပြီးသော် မဟာဓေယျအမည်ရှိသောစစ်သူကြီးကို ရွှေထီးနှစ်ဆောင် ဆောင်းစေလျက်မင်းခမ်းမင်းနား မင်းအဟန်ကဲ့သို့ပြုလုပ်စေပြီးလျှင်ရှေ့နောက်ဗိုလ်ပါ ခြံရံလျက် ဝေါတော်စီး၍ထွက်စေတော်မူလျက် တန်းဆောင်မုန်းလဆန်း တဆဲ့တရက်၊ စနေနေ့တွင် ပွဲကြီးသဘင် ဆင်ယင်ကျင်းပစေလျက် သီဟိုဠ်မင်းစေတမန်တို့နှင့်အတွေ့ခံ၍ ဆွေးနွေးနှီးနှောပြောဟောစေတော်မူသည်။ ပြောဟောစေပြီးလျှင် မဏိသုဓမ္မရာဇာမင်း ခွင့်ပြုတော်မမူသောကြောင့် သီဟိုဠ်မင်းစေတမန်တို့သည် ပြန်သွားကြလေကုန်၏။

ပြန်သွားကြပြီးနောက် ကိုယ်ရံတော်တို့သည် မဏိသုဓမ္မရာဇာမင်းကိုနန်းချ၍ ဝရဓမ္မရာဇာမင်းကို နန်းတင်ကြပြန်လေကုန်သည်။ တပို့တွဲလဆန်း ကိုးရက်နေ့တိုင်ရောက်လျှင် ဝရဓမ္မရာဇာမင်းကိုနန်းချ၍ မဏိသုဓမ္မရာဇာမင်းကို နန်းတင်ကြပြန်လေကုန်သည်။

သက္ကရာဇ် ၁၀၅၆ ခု၊ နယုန်လဆန်း ၃ ရက်နေ့၊ မာလက္ကာမည်သောပြည်မှ သင်္ဘောတစင်းရောက်လာ၏။ ထိုလတွင် ဝရဓမ္မရာဇာမင်း တည်တော်မူသော မင်္ဂလာစေတီတော်ကို သင်္ကာထောင်ရွာစားဖျက်ဆီး၍ မြေအောက်ရှိ ဌပနာကိုယူ၍သွားလေသည်။ ထိုမဏိသုဓမ္မရာဇာမင်းကား အိမ်နိမ့် ၃၅၊ သုံးဆဲ့ငါးနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၃၇၊ သုံးဆဲ့ခုနှစ်နှစ်။ သက္ကရာဇ် ၁၀၅၆ ခု၊ ပြာသိုလဆန်းငါးရက်နေ့တွင် နန်းကျတော်မူလေသည်။ နံတော် စနေသားတည်း။ ၆။

ထိုမင်း နန်းကျတော်မူလေလျှင် ညီတော်ဖြစ်သော သံတွဲမြို့စား သတိုးအောင်ကို မိဘုရားသုဘာရနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၅၆ ခု၊ ပြာသိုလဆန်းငါးရက်နေ့ နန်းတင်တော်မူ၍ ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ ထိုမင်းကား စန္ဒသူရိယဓမ္မရာဇာဟူသောအမည်ကိုခံတော်မူသည်။

ထိုအခါ ကစ္ဆပနဒီမြစ်ညာဖျား၌နေသော တလိုင်းနဲခွဲ၊ နဲသုတတို့သည် သောင်းကြမ်းလေကုန်၏။ ထိုအကြောင်းကို ကြားသိတော်မူလေလျှင် လောသောကဦးစီးသတို့သည် များစွာသော ရဲမက်ဗိုလ်ခြေနှင့် ချီသွား၍ တိုက်ကြလေသော် လောသောကဦးစီးသတိုးသည် ကျဆုံးလေ၏။ သက္ကရာဇ် ၁၀၅၇ ခု၊ ဝါဆိုလဆုတ်ကိုးရက်နေ့တွင် ကြွင်းသော ဗိုလ်ခြေတို့ ပြန်ခဲ့ကုန်၏။

ငင်းသက္ကရာဇ် တပေါင်းလဆန်း တရက်၊ ကြာသပတေးနေ့ စန္ဒသူရိယဓမ္မရာဇာကို နန်းကချပြန်လျက် ဝရဓမ္မရာဇာမင်းကို နန်းတင်ကြပြန်ကုန်၏။ ထိုအခါ ကစ္ဆပနဒီမြစ်ညာ၌နေသော ကုလားအပေါင်းတို့နှင့် တလိုင်းနဲခွဲ၊ နဲသုတတို့လာ၍ စန္ဒသူရိယဓမ္မရာဇာမင်းကို နန်းတင်ပြီးလျှင် ဝရဓမ္မရာဇာမင်းကိုနန်းချ၍ ကုလားတန်သို့ လျှိုပို့လေသည်။

သက္ကရာဇ် ၁၀၅၈ ခု၊ ကဆုန်လဆန်း ကိုးရက်၊ ဗုဒ္ဓဟူးနေ့တွင် စန္ဒသူရိယဓမ္မရာဇာမင်းကို နန်းတင်ခဲ့ပြီးလျှင် ကုလားနှင့် တလိုင်းတို့သည် ကျောင်းအိမ်သို့တက်၍ ဥစ္စာရွှေငွေတို့ကို ယူကြလေကုန်၏။ နိုင်နင်းကလူ နှိပ်စက်ညှဉ်းပန်း ရိုက်ပုတ်ပြုကြလေရာ ကြောင်းလမ်းမရပြေးသွားကြသူတို့ မခံမရပ်နိုင်အောင်ရှိလတ်မှ ပြောင်းမီးပေါက် အုပ်ချုပ်သော သူရဲညီသည် ဗိုလ်မှူးပြုပြီးလျှင် ကိုယ်ရံတော်များနှင့် တိုက်ခိုက်လေသော် တလိုင်းနဲခွဲနှင့် နဲသုတကုလားတို့သည် ပြေးလေကုန်၏။ ကိုယ်ရံကြီးလုဝန်းသွယ်သည် လူသူအများနှင့်လာပြီးလျှင် စန္ဒရိယဓမ္မရာဇာမင်းကို သက္ကရာဇ် ၁၀၅၈ ခု၊ ဝါခေါင်လဆန်း ၈ ရက်၊ စနေနေ့တွင် ပုန်စားလျက်လုံ့ဖြင့် ထိုးလေလျှင် အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၄၊ နှစ်ဆဲ့လေးနှစ်တွင် လွန်တော်မူလေသည်။ နံတော် အင်္ဂါသားတည်း။၇။

ထိုမင်းလွန်တော်မူလေလျှင် စန္ဒသူရိယဓမ္မရာဇာ

မင်း၏သားတော် တော့်ကို မိဘုရားသုခုမာနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၅၈ ခု၊ ဝါခေါင်လဆန်းရှစ်ရက်၊ စနေနေ့တွင် ရွှေနန်းတင်တော်မူကြလေသည်။ ထိုမင်းကား နော်ရထာ ဟူသောအမည်ကို ခံတော်မူ၍မင်းပြုတော်မူ၏။ နန်းတက်တော်မူ၍တဆဲ့ငါးရက်ရှိလျှင် ဝါခေါင်လဆုတ်ခြောက်ရက်၊ သောကြာနေ့ ရွှေနန်းတော်ကချ၍ ရှစ်သောင်းဘုန်းကြီးကျောင်းတွင် ရဟန်းပြု၍ထားလေ၏။ ထိုမင်းကား အိမ်နိမ့် ၁၄၊ တဆဲ့လေးနှစ်။ နန်းစံ တဆဲ့ငါးရက်။ နှစ်စုသက်တော် ၁၄၊ တဆဲ့လေးနှစ်နှင့် တဆဲ့ငါးရက်။ သက္ကရာဇ် ၁၀၅၈ ခု၊ ဝါခေါင်လဆုတ် ခြောက်ရက်၊ သောကြာနေ့တွင် နန်းကျတော်မူလေသည်။ နံတော် စနေသားတည်း။၈။

ထိုမင်းနန်းကျတော်မူလေလျှင် အနွယ်အမျိုးခြားသော ရဟန်းလူထွက် ဂူဖြူကို မိဘုရားဣန္ဒမာနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၅၈ ခု၊ ဝါခေါင်လဆုတ် ခုနစ်ရက်၊ သောကြာနေ့တွင် ရွှေနန်းတင်တော်မူကြသည်။ ထိုမင်းကား မာရမွိယဟူသောအမည်ကို ခံတော်မူသည်။ ထိုမင်းနန်းတက်၍ တဆဲ့သုံးရက်ရှိလျှင် နန်းကျမင်း နော်ရထာကို ရှစ်သောင်းဘုန်းကြီးကျောင်းတွင် ရဟန်းပြု၍ထားရာမှ ယူ၍သတ်ပစ်စေ၏။

ထိုမာရမွိယမင်းလက်ထက်တွင် လင်္ကာဒီပ သီဟိုဠ်ကျွန်း၌ ဘုရားသာသနာတော် ညှိုးနွမ်းပျက်စီးသည် ဖြစ်၍ စည်ပင်ပြန့်ပွားထွန်းကားစေခြင်းအကျိုးငှာ သာသနာပြု ရဟန်းသံဃာတော်တို့အား လျှောက်ထား၍ စေလွှတ်ပါမည်အကြောင်းနှင့် အဝဆယ်လံရှိသော သင်္ဘောနှစ်စင်းနှင့် အပင့်အလျှောက်ရောက်လာလေလျှင် မာရမွိယမင်းလည်း မှူးမတ်ပညာရှိတို့နှင့် တိုင်ပင်တော်မူ၍ သက္ကရာဇ် ၁၀၅၈ ခု၊ ပြာသိုလဆန်း ခြောက်ရက်၊ တနင်္ဂနွေနေ့ သတ္တဌာနဆရာတော်ဣန္ဒမဉ္ဇူနှင့် လောင်းကြက်ဆရာတော် နှစ်ဂိုဏ်းကို သံဃာတော် လေးကျိပ်နှင့် သီဟိုဠ်ကျွန်းသို့ သာသနာပြုတော်မူရန် တောင်းပန်စေလွှတ်တော်မူ၍ သီဟိုဠ်ကျွန်းသို့ ရောက်တော်မူလေလျှင် သာသနာတော်၏ အညစ်အကြေးကို သုတ်သင်ရှင်းလင်းတော်မူပြီးမှ သီဟိုဠ်သားတို့အား ဥပသမ္ပဒကံကို စီမံရွက်ဆောင်တော်မူ၍ ရဟန်းများစွာ ပြုစေတော်မူသည်။ သာသနာတော်ကို သုတ်သင်ရှင်းလင်း၍ ပဥ္စင်းရဟန်းခံစေပြီးလျှင် မြတ်စွာဘုရား၏ အောက်လက်ဝဲစွယ်တော်ကို ဖူးမြော်အံ့သောငှာ သံဃာတော် လေးကျိပ်တို့သည် အနုရာဓမြို့သို့ ကြွတော်မူလေလျှင် စွယ်တော်စောင့်တို့သည် ခလုတ်မျောက်လက်ကို မဖွင့်လိုပဲနေကြလေလျှင် သတ္တဌာနဆရာတော်သည် ရဇနတလအာကာသံ၊ နက္ခတ္တာ ရပရိက္ခိတ္တံအစရှိသောတဆဲ့ လေးဂါထာတို့ဖြင့် ရွတ်တော်မူလျက် ဘုရားသခင်ဂုဏ်ကျေးဇူးကို ချီးကျူးထောမနာပြုတော်မူလေလျှင် ခလုတ်မျောက် လက်တို့သည် အလိုလိုပွင့်လေသဖြင့် စွယ်တော်မြတ်ကို ရှိခိုးပူဇော် ဖူးမြော်ကန်တော့ပြုကြလေကုန်သည်။ ထိုရဇနတလ အာကာသံအစရှိသော တဆဲ့လေးဂါထာတို့သည် သတ္တဌာနခလုတ်ဖွင့်ဟူ၍ တွင်လေကုန်၏။

ဤအရာတွင် သီဟိုဠ်ကျွန်း၌ရှိသော စွယ်တော်ဓာတ်တို့ကို အထက်လက်ဝဲ စွယ်တော်မြတ်ဖြစ်ကြောင်းနှင့် မှန်နန်းရာဇဝင် ၅၆ နံပါတ်၊ ဆရာမည် ရာဇဝင် ၂၂၉ နံပါတ်တို့၌ဆိုသည်။

သာသနာလင်္ကာရကျမ်း ၂၇ နံပါတ်၊ စွယ်စုံကျော်ထင် ပဌမ ၁၆၉ နံပါတ်၊ ၎င်းဒုတိယ ၇၇၇ နံပါတ်တို့၌ကား အထက်အောက်ဟူ၍ အထူးမဆို။ သာသနာသက္ကရာဇ် ရှစ်ရာ့သုံးဆယ်တွင် ဇမ္ဗူဒိပ်ကျွန်း ကလိင်္ဂရစ်ပြည်မှ ကုမာသိဝမင်း၏သမီးတော် ဟေမမာလာ၊ သမက်တော် ဒန္တကုမာတို့ သင်္ဘောဖြင့် သီဟိုဠ်သို့ ကူးရာ စွယ်တော်ကိုပင့်ဆောင်လေ၍ သီဟိုဠ်မင်း ခြောက်ဆဲ့နှစ်ဆက်မြောက် ကိတ္တိသိရိ မေဃမင်းနန်းစံ ကိုးနှစ်တွင် ရောက်ကြောင်းနှင့်ဆိုသည်။

သမန္တစက္ခုဒီပနီ ဒုတိယတွဲ ၂၅၆ နံပါတ်၌ကား အထက်လက်ယာစွယ်တော်ကို ဒေါဏပုဏ္ဏားဥဿျောင်

ကြား၍ထားသည်ကို သိကြားမင်းယူပြီးသော် တာဝတိံသာ စူလာမုနိစေတီတော်၌ ဌပနာလေ၏။ အောက်လက်ယာ စွယ်တော်ကို ဒေါဏပုဏ္ဏားမြေကြား၌ထားသည်ကို ဇယသေန နဂါးယူ၍ နဂါးပြည်ဝယ် ရတနာစေတီ၌ ဌပနာလေ၏။ အထက်လက်ဝဲစွယ်တော်ကို ဒေါဏ ပုဏ္ဏား ပုဆိုးကြား၌ထားသည်ကို ဂန္ဓာရတိုင်း တက္ကသိုလ်ပြည် ယခုအခါပန်ဂျပ်ပြည် အနောက်မြောက် ထောင့် ပသျှူဝါမြို့နယ်သား မထေရ်တဦးမြင်၍ တန်ခိုးဖြင့် ဆောင်ယူပြီးသော် ဂန္ဓာရတိုင်းသားနှင့်တကွ စေတီတည်၍ ကိုးကွယ်လေသည်။ အောက်လက်ဝဲစွယ်တော်ကို အရှင်သာရိပုတ္တရာ တပည့် အရှင်ခေမထေရ်သည် ရဲရဲမီးလျှံတောက်သော ထင်းပုံထဲမှ ယူဆောင်တော်မူ၍ ကလိင်္ဂတိုင်း၊ ဒန္တပူရပြည် ဗြဟ္မဒတ်မင်းကြီးအား၊ သင်မင်းကြီးမှစ၍ ကုမာသိဝမင်းတိုင်အောင် ကိုးကွယ် ရလတ္တံ့ဆို၍အပ်ပေ၏။ မင်းအဆက်ဆက် ကိုးကွယ်လျက် သာသနာသက္ကရာဇ် ရှစ်ရာ့သုံးဆယ် ရောက်သောအခါ ကုမာသိဝမင်း လက်ထက် ဟေမမာလာမင်းသမီးနှင့် သမက်တော် ဒန္တကုမာတို့ ပုဏ္ဏားယောင်ဆောင်၍ စွယ်တော်ကိုယူပြီးသော် ကုန်သည်တို့နှင့် သင်္ဘောစီး၍ သီဟိုဠ်ကျွန်းသို့ ရောက်ကြလေလျှင် သံဃမထေရ်ကို လျှောက်၏။ သံဃမထေရ်လည်း ကိတ္တိသိရိ မေဃမင်း အား သိစေ၏။ မင်းလည်းလာလတ်၍ရှိခိုးပူဇော် လေလျှင် တန်ခိုးပြာဋိဟာကို မြင်သောကြောင့် ဝမ်းမြောက်၍ သီဟိုဠ်ကျွန်းအလုံးဖြင့် ပူဇော်လေသည်ဟု ဒါဌာဓာတုဝင်၌ လာကြောင်းနှင့် ဆိုသည်။

(ယခုအခါ အနုရာဓမြို့မှ ကိုးဆဲ့ငါးမိုင်အကွာ အရှေ့တောင် ထောင့်အရပ်၊ သေခန္ဓမြို့ အင်္ဂတံတိုင်း အတွင်း ကျောက်တိုင်ဖြင့် ဆောက်လုပ်သော နှစ်ဆင့် ကျောင်းတွင် ပလ္လင်ခုံထက် ရွှေကြုတ်ခုနစ်ထပ်အတွင်း သိတင်းသုံး နေတော်မူသည်ဟု မှတ်သားလေ။ ဤသည် ကား အမှာစကားချပ်။)

သတ္တဌာနဆရာတော် ဣန္ဒမဉ္ဇူနှင့်လောင်းကြက် ဆရာတော်သံဃာတော်လေး ကျိုပ်တို့သည် ထက်ဝန်းကျင် အထွဋ်ရှိသော သုမနကူဋအမည်ရှိသော သိရိပါဒတောင်သို့ ကြွရောက်တော်မူလေလျှင် ဘုရားသခင်ခြေတော်ရာကို ဖူးမြော်ကန်တော့ပြီး၍ ထိုတောင်၏ထက်ဝန်းကျင်ကို ကြည့်ရှုတော်မူ၍ လင်္ကာနှစ်ပိုဒ် စီကုံးရွတ်ဆိုတော်မူသည်။ လင်္ကာနှစ်ပိုဒ်ကား--

(၁) မကြားဖူးအောင်၊ လူ့ဘောင်လွန်ပြီး၊ အံ့ဖွယ်ရှီး သား၊ လျှံညီးရောင်ဝင်း၊ သုံးလူ့မင်းလျှင်၊ ကြွနင်းအမှတ်၊ ထိုတောင်ထွဋ်၌၊ အတတ်ဝိဇ္ဇာ၊ အောင်ရာဇော်ဂီ၊ တပဿီ တို့၊ အမှီတံကဲ၊ အနေမြဲသား၊ ရဲရဲရောင်ဝါ၊ သူရိယာစန္ဒ၊ နေလထွက်ဝင်၊ ကြည့်မမြင်တည့်၊ သစ်ပင်သစ်ရွက်၊ ရွှန်းရွှန်းတက်မျှ၊ ခက်လက်သံညှောင်း၊ အယောင်းမရှိ၊ ဒိဋ္ဌိမိစ္ဆာ၊ လူတကာတို့၊ ထက်မှာမရောက်၊ သံကောက် သံလွင်၊ ထက်ဝန်းကျင်လည်း၊ မစင်အပုပ်၊ စက်ဆုပ် အကောင်၊ လေမရောင်တည်း၊ အခေါင်မိုးထိ၊ သိရိပါဒင်၊ လွဲ့ဝှမ်းထင်သည်၊ မဂ္ဂင်ရှစ်တန် နိဗ္ဗာန်အလယ်ချက်မ သော၀်။

(၂) အထူးအထူး၊ ကြားသော်မူးမျှ၊ ကျေးဖူးငါးပါး၊ ထိုတောင်ဖျားဝယ်၊ လေကားပြင်းထွေ၊ မသေဆီမီး၊ မိုးကြိုးထန်ပြင်း၊ ရန့်ရှင်းသား၊ သလင်းအသွင်၊ တလင်းပြင်လည်း၊ ကျယ်တွင်မဟုတ်၊ ငါးတောင်မုဋ္ဌိတာ၊ မြေမျက်နှာထက်၊ အရာသောင်းထောင်၊ များမြောင်ကုဋေ၊ သန်းတက်လေလည်း၊ များထွေရောင်ယှက်၊ မြကျောက် ခွက်ကား၊ ဖက်သော်နိုင်လောက်၊ အစောက်မနက်၊ လက်ရှစ်သစ်ရှည်၊ တည်သည်ရေလည်း၊ သောက်သည် မခန်း၊ အံ့ဘနန်းတည့်၊ စောင်းတန်းမီးတား၊ သံတံခါး အောက်၊ နတ်သို့မှောက်သား၊ ရောင်တောက်မညိုး၊ မိုးလည်းမထောင်း၊ ချမ်းရိပ်ကောင်းတွင်၊ ကျိန်းလှည့် ဝင်သည်၊ ဥမင်လိုင်နန်းမဝယ်သော၀်။

ဤလင်္ကာနှစ်ပိုဒ်ဖြင့် သိရိပါဒတောင်ကို ချီးမွမ်းတော်မူပြီးမှ သိရိပါဒတောင်မှ ဆင်းကြွတော်မူခဲ့၍ သီဟိုဠ်ကျွန်းတွင် သာသနာတော်ကို သုစ်သင်ပြုစုချီးမြှင့်

တော်မူပြီး၍ မိမိတို့ရနိုင်ပြည်သို့ ပြန်ကြွတော်မူလာကြကုန်သည်။

မာရုမ္ပိယမင်းကို တလိုင်းနှင့်ကုလားတို့ ကစ္ဆပနဒီမြစ်ညာဖျားသို့တပ်တည်လျက် သောင်းကြမ်းပြန်လေ၏။ မာရုမ္ပိယမင်းလည်း မဟာဓေယျအမတ်ကို လှေတက် လက်နက်ကိရိယာတို့ဖြင့် စေလွှတ်တော်မူလေလျှင် သက္ကရာဇ် ၁၀၅၈ ခု၊ တပို့တွဲလဆန်း ငါးရက်၊ တနင်္လာနေ့ချီ၍ထွက်လေသော် သရေချောင်းဖျားစပ်ကြားတွင် တွေ့ကြုံ၍တိုက်ကြလေရာ မဟာဓေယျအမတ်သည် သားမြေးတို့နှင့်တကွ သေဆုံးလေကုန်၏။ ရဲမက်ဗိုလ်ပါတို့သည် များစွာသေလေကုန်၏။ လှေတက်လက်နက် ဒါးလှံ ပြောင်းမီးပေါက်စသော ကိရိယာတို့ကို တလိုင်းတို့ များစွာရလေကုန်၏။ မဟာမုနိသိမ်ကိုလည်း မီးတိုက်ကြလေကုန်၏။ ဘုရားရုပ်တုတော်ဝယ် ဆင်ယင်လှူထားအပ်သော ရွှေ ငွေ ဥစ္စာရတနာတို့ကိုလည်း များစွာယူကြလေကုန်၏။

ယင်းသို့ လက်နက်ကိရိယာ ဥစ္စာရွှေငွေတို့ကို ရလေလျှင် တလိုင်းနဲ့သုတနှင့် ကုလားတို့သည် ရုံးစု၍ သက္ကရာဇ် ၁၀၅၈ ခု၊ တပေါင်းလပြည့်ကျော် နှစ်ရက်နေ့ဝယ် မြောက်ဦးမြို့တော်ကို တိုက်ခိုက်ဖျက်ဆီးလာကုန်၏။ မာရုမ္ပိမင်းလည်း မြို့တွင်း၌ရှိသော လူသူ မင်းမိဘုရား ကိုယ်လုပ်မောင်းမ မိဿံအလုံးစုံတို့ကိုယူခဲ့၍ ပေါင်းတွတ်ရွာတွင် စစ်ကဲကြီး နန္ဒဗလသည် စောင့်ထိန်း၍ နေလေ၏။ တလိုင်းဗိုလ်နဲ့သုတနှင့် ကုလားတို့သည် မြို့ကိုရ၍နေလေရာ ကိုယ်ရံတော် အပေါင်းတို့သည်စုဝေး၍ သက္ကရာဇ် ၁၀၅၉ ခု၊ ကဆုန်လဆုတ်ခုနစ်ရက်၊ တနင်္လာနေ့ဝယ် တိုက်ကြလေသော် တလိုင်းဗိုလ်နဲ့သုတနှင့် ကုလားတို့သည်ပျက်စီး၍ ပြေးခဲ့လေလျှင် ကိုယ်ရံတော်တို့သည် မြို့တော်ကို အုပ်စိုးရလေကုန်၏။ မာရုမ္ပိယမင်းကား အိမ်နိမ့် ၆၀၊ ခြောက်ဆယ်။ နန်းစံ ၁၊ တနှစ်။ နှစ်စုသက်တော် ၆၁၊ ခြောက်ဆဲ့တနှစ်။ သက္ကရာဇ် ၁၀၅၉ ခုတွင် နန်းကျတော်မူလေသည်။ နံတော် ဗုဒ္ဓဟူးသားတည်း။၉။

ထိုမင်းနန်းကျတော်မူလေလျှင် မျိုးခြားရတနာစံဦး ဘုန်းတော်ကြီးကို ဝတ်ဖြူလဲစေ၍ မိဘုရားဖွားမယ်နှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၅၉ ခု၊ ကဆုန်လဆုတ် တဆဲ့တရက်၊ ကြာသပတေးနေ့တွင် ကိုယ်ရံတော်တို့သည် ညီညွတ်၍ နန်းတင်ကြလေကုန်၏။ ထိုမင်းသည် ကာလဂန္ဓာတ်ဟူသော အမည်ကိုခံတော်မူ၏။

တန်ဆောင်မုန်းလတွင် ဖလောင်းဘရင်ဂျီသည် သင်္ဘောစီး၍ ကစ္ဆပနဒီမြစ်ကြီးကိုဆန်၍ တလိုင်းနှင့် ကုလားတို့ကိုတိုက်လေသော် ရမ်းဝတွင်ပျက်ချေ၏။

ထိုနှစ်တလိုင်းနှင့် ကုလားတို့သည် ရမ်းဝကို ထွက်၍ မီးတိုက်လျက်ဖျက်လာသော် မီးစားမောင်ကြီးသည် ထွက်၍တိုက်လေသော် တလိုင်းနှင့် ကုလားတို့သည် ပျက်စီး၍ပြေးခဲ့လေကုန်၏။ ထိုလဝယ် အညာအရပ်ကသည် အနောက်အရပ်သို့ကုလားတို့ ပြေးလေကုန်၏။

သက္ကရာဇ် ၁၀၆၀ ပြည့်၊ ကဆုန်လတွင် ပြည်သူလူအပေါင်းတို့သည် အချင်းချင်း မထွက်မသွားနိုင်အောင်တိုက်ခိုက်၍ လုစားကြကုန်၏။ ကာလဂန္ဓာတ်မင်းကား အိမ်နိမ့် ၆၀၊ ခြောက်ဆယ်။ နန်းစံ ၁၊ တနှစ်။ နှစ်စုသက်တော် ၆၁၊ ခြောက်ဆဲ့တနှစ်။ သက္ကရာဇ် ၁၀၆၀ပြည့်တွင် တန္တဗိုလ်ပုန်စား၍လွန်တော်မူလေသည်။ နံတော်အင်္ဂါသားတည်း။၁၀။

ထိုမင်းလွန်တော်မူလေလျှင် မင်းသား ရွှေစာ၊ ယေမည် မောင်ဖြူကို နန်းတက်မိဘုရားနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၆၀ ပြည့်၊ နယုန်လပြည့်ကျော် တဆဲ့တရက်၊ ကြာသပတေးနေ့တွင် နန်းတင်တော်မူကြလေ၏။ ထိုမင်းကား နရာဓိပတိဟူသောအမည်ကို ခံတော်မူ၏။

နန်းတက်တော်မူ၍ ရက်ပေါင်းသုံးဆဲ့ခုနစ် ရက်ရှိလျှင် တောင်ဘက်တလွှားတွင် အုပ်ချုပ်၍နေသောအမတ် နန္ဒစည်သူသည် များစွာသော ရဲမက်ဗိုလ်ပါနှင့်လာလတ်၍ သက္ကရာဇ် ၁၀၆၀ ပြည့်၊ ဝါခေါင်လဆန်း ၄ ရက်၊

တနင်္လာနေ့တွင် နရာဓိပတိမင်းကို နန်းတော်ကချပြီးလျှင် စန္ဒသုဓမ္မရာဇာဟူသော ဘွဲ့တော်အမည်ကိုခံ၍ နန်းတက်တော်မူ၏။

နန်းတက်၍ တဆဲ့လေးရက်ရှိလျှင် ပြည်သူတို့သည် မကြိုက်၍ နန်းတော်ကချပြီးလျှင် နရာဓိပတိမင်းကို နန်းတင်တော်မူကြပြန်လေ၏။

ပြည်အလုံးလည်း ငတ်မွတ်၍ချောက်မြောင်း တောင်ကြားမြေပြင်ကြောင်းလမ်းတို့၌ သူကောင်ထပ်မျှ သေကြလေကုန်၏။ ရေတွင်လည်း ကွမ်းထင်းကဲ့သို့ သူကောင်တို့သည် မျောလေကုန်၏။ တောင်သူ တောင်သား ချင်းလင်းတို့သည် ဖမ်းဆီးယူငင်၍ ရောင်းစားလေသည်လည်း များလှကုန်၏။ ပြည်တပါးသို့ ပြေးသွားတိုးဝင်လေသော သူတို့သည်လည်း များပြားကုန်၏။ ရွှေ ငွေဥစ္စာရှိကုန်သော်လည်း ဝယ်ရန်ရှာ၍မရ ဖြစ်ကြကုန်၏။ တန္တိုးသူအချင်းချင်း နှိပ်စက်ညှဉ်းဆဲပြုကြကုန်၏။

ထိုနရာဓိပတိမင်းကို သက္ကရာဇ်၁၀၆၁ခု၊ နတ်တော်လတွင် စစ်ကဲကြီး နန္ဒစည်သူသည် များစွာသော ရဲမက်မိုလ်ပါတို့နှင့်လာ၍ ပုန်စားလေသော် ထိုမင်းသည် ကြောက်လန့်၍ လောင်းကြက်ကျွန်း သမန်းချောင်းဝယ် ပုန်းအောင်း၍ နေလေပြီးလျှင် နန္ဒဗလစစ်သူကြီးကို များစွာသော ရဲမက်မိုလ်ပါတို့နှင့် တိုက်ချေပာစေလိုက်သော် ရေကောင်းချောင်းဝယ် သောင်းကြမ်း၍နေသော နန္ဒစည်သူအမတ်ကို ထိုနှစ်တပို့တွဲလတွင်တိုက်လေလျှင် ပျက်စီး၍ပြေးခဲ့လေ၏။ ဥစ္စာရွှေငွေ သားမယားအားလုံးတို့ကိုရ၍ နရာဓိပတိမင်းကို ဆက်သလာပေ၏။ နရာဓိပတိမင်းလည်း ရွှေမြို့တော်သို့ဝင်၍ နေတော်မူလာ၏။

စစ်ကဲကြီးနန္ဒစည်သူလည်း သားမယားကြောင့် အငြိုးထား၍များစွာသော ရဲမက်မိုလ်ပါတို့နှင့် သက္ကရာဇ် ၁၀၆၂ ခု၊ ဝါဆိုလဆန်းတရက်၊ ကြာသပတေးနေ့တွင် ရွှေနန်းတော် အနောက်ဘက်ကတက်၍ ပုန်စားလေသော် နရာဓိပတိမင်းသည် အိမ်နိမ့် ၂၁၊ နှစ်ဆဲ့တနှစ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၁၀၆၂ ခုတွင် လွန်တော်မူလေသည်။ နံတော် ကြာသပတေးသားတည်း။ ၁၁။

ထိုမင်းလွန်တော်မူလေလျှင် မင်းရဲကျော်စွာမည်သော သားတော်ကျော်သိင်္ဂသည် မိဘုရားဖွားစောနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၆၂ခု၊ ဝါဆိုလဆန်းနှစ်ရက်၊ သောကြာနေ့တွင် ရွှေနန်းတက်တော်မူလေ၏။ ထိုမင်းသည် စန္ဒဝိမလဓမ္မရာဇာဟူသောအမည်ကို ခံတော်မူ၏။

ထိုအခါ မြောက်အရပ်ယိုးဖျားတည်ချောင်း၌ နတ်မင်းရောက်သည်ဟု ယုံလောက်အောင် ပြောကြကုန်၏။ သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ၊ ဟိရီ၊ ဩတ္တပ္ပဟုဆိုအပ်သော သူတော်ကောင်းဥစ္စာ ရတနာခုနစ်ပါး၌တည်၍ သားငါးကြဉ်ရှောင်လျက် ကောင်းစွာကျင့်ကြကုန်လော။ မကျင့်သောသူတို့သည် သေကြေပျက်စီး၍ငရဲသို့ ရောက်ပေလတ္တံ့ဟု ကြီးစွာသော တိတ်တဘောင်တို့သည် ပေါ်ကုန်၏။ လူတို့၌ မွေးစားသောကြက်တို့သည် ပျံ၍ပျောက်လေကုန်၏။ ရွာတိုင်း၌ လူများသည် စရပ်၊ မဏ္ဍပ်ဆောက်၍ သီတင်း သီလ ကျင့်သုံးဆောက်တည်ကြကုန်၏။

နန္ဒစည်သူနှင့် သက်စံရွှေတို့သည် မဲကျွန်းက များစွာ သောရဲမက်မိုလ်ပါတို့နှင့် ချီလာပြီးသော် သက္ကရာဇ် ၁၀၆၂ခု၊ တပေါင်းလဝယ် စန္ဒဝိမလဓမ္မရာဇာမင်းကို ပုန်စားလာကုန်၏။ ထိုမင်းလည်း ကံဖြူကျွန်းတွင် နေလာ၏။

သက္ကရာဇ် ၁၀၆၃ ခု၊ နတ်တော်လဆုတ် တရက်၊ သောက်ကြာနေ့တွင် နန်းဆောက်တော်မူ၏။

သက္ကရာဇ် ၁၀၆၄ ခု၊ ဝါဆိုလဆန်းတရက်၊ အင်္ဂါနေ့ဝယ် ကောလိယမင်း၏နန်းရာ၊ မြို့ရာ၊ မြို့သာယာတွင် နေတော်မူလာသော် ရန်ဖက်ဖြစ်သော သူငယ်တော်ကြီး နန္ဒစည်သူ၊ သီရိဖေယျ၊ ဒါးပိုင်ကြီး ဖေယျဖြူ၊ သင်းမပုံးရွှေ၊ တောင်ဘက်စား ရအိမ်ဖြူတို့

ပေါင်းဖက်၍ များစွာသော ရဲမက်ဗိုလ်ပါတို့နှင့် အညာပေကျွန်းအရပ်ကချီလာ၍ သက္ကရာဇ် ၁၀၆၄ ခု၊ နတ်တော်လတွင် စန္ဒဝိမလ ဓမ္မရာဇာမင်းကို ပုန်စားကြလေပြန်၏။ မင်းလည်း တောတန်းကျွန်းသို့ ပြေးလေ၏။ နန္ဒဗလစစ်သူကြီးကို များစွာသောရဲမက် ဗိုလ်ပါတို့နှင့် တိုက်ချေဟု စေတော်မူလိုက်၍ တိုက်လေသော် သူငယ်တော်ကြီး နန္ဒစည်သူ အစရှိသော ဗိုလ်ပါ သူရဲအပေါင်းတို့သည် အညာပေကျွန်းသို့ ပြေးကြလေကုန်၏။ စန္ဒဝိမလဓမ္မရာဇာမင်းလည်း တောတန်းကျွန်းမှ သည်ပေါင်းတွတ်သို့ ပြောင်းတော်မူပြီးလျှင် နန်းတော်ဆောက်၍နေလေ၏။

ထိုအခါ၌ ပညာမရှိသောလူတိတ္ထိတို့သည် ဘုရားဆင်းတုစေတီပုထိုးတို့ကို တူးဖြိုဖျက်ဆီး၍ ဌပနာသွင်း ရွှေငွေတို့ကိုယူကြလေကုန်၏။ သာသနာတော်ကို ပုတ်ခတ် ဖျက်ဆီးလျက်နေသူ သရေသင်္ဂဇာနှင့် ဘုရားဖောက်ခေါင်းဆောင် အစရှိသော သူခိုးတန္တတို့ကို ဖျောက်ဖျက်အံ့သောငှာ စန္ဒဝိမလဓမ္မရာဇာမင်းသည် ဆရာတော်စသော သံဃာတော်အပေါင်း၊ မှူးမတ် အစရှိသော ပညာရှိအပေါင်းတို့နှင့် နှီးနှောတိုင်ပင်တော်မူလေရာ လူတို့သည် တြင်းနိဒါန်းအလိုဆိုသည်ကား-

**သူခိုးတို့ကို၊ တန္တဗိုလ်၊ ခေါင်းကိုရိတ်ဖြတ်သတ်လတ္တံ့။**

**ယောကျာ်းတယောက်၊ တိုင်တားဆောက်၍၊ ရပ်စောက်ပြည်ကို ဖျင်လတ္တံ့။**

ဟူ၍ တြင်းနိဒါန်း ထွက်ရှိပါသည်။ ဓာတ်လေးပါးတွင် အန္တောဓာတ်မ စနေဂြိုဟ် အားရှိပါသည်။ သို့ဖြစ်၍ စနေသားတယောက်ကို တန္တဗိုလ်မင်းဟု အမည်မှည့်၍ တိုက်သတ်စေမှ ဘုရားဖောက်သာသနာဖျက်တို့ကိုနိုင်နင်းပါမည်ဟု လျှောက်ကြလေလျှင် နန္ဒဗလစစ်သူကြီးက လျှောက်ထားသည်မှာ--

အနောက်ခေတ်တာကောင်းကို စိုးပိုင်သောရွှေတုံးညိုသည် ပညာအဆင်အခြင်နှင့်လည်း ပြည့်စုံပါသည်။ အမြော်အမြင်လည်း ရှိပါသည်။ အားအင်ဗလရဲစွမ်းသတ္တိလည်း ရှိပါသည်။ မှူးရာမတ်ရာအရေး၌လည်း လုံချုံညီညွတ်ပြည့်စုံပါသည်ဟု လျှောက်ပေ၏။

စန္ဒဝိမလဓမ္မရာဇာမင်းလည်း နှစ်သက်တော်မူ၍ သက္ကရာဇ် ၁၀၆၄ ခု၊ တပို့တွဲလဆန်း လေးရက်၊ စနေနေ့တွင် ရွှေတုံးညိုကို တန္တဗိုလ်မင်းအမည်ကို မှည့်တော်မူသည်။

သင်းမပိုးရွှေသည် ဝပြန်ရွာတွင် သောင်းကြမ်း၍ နေလေရာ၌ တန္တဗိုလ်မင်းတိုက်လေသော်နိုင်လေ၏။ သင်းမပိုးရွှေကား သင်းပေါင်းချောင်းသို့ ပြေးလေ၍ တောင်ဘက်စား ရအိမ်ဖြူနှင့်ပေါင်းဖက်ပြီးလျှင် မြေပေါင်တပ်ကြီးစွဲ၍ သောင်းကြမ်းပြန်လေ၏။ တန္တဗိုလ်မင်း ချီ၍တိုက်ပြန်လေသော် အောင်မြင်လေ၏။ သင်းမပိုးရွှေသည် ရမ်းပြည့်ကျွန်းသို့ ပြေးလေ၏။ တမိသားချင်း ညီတော်ဖြစ်သူ ရမ်းပြည့်စားအောင်ရွှေက များစွာသောလှေတက်နှင့် လက်နက်ကိရိယာတို့ကို ပေးလိုက်သဖြင့် ပြန်လာပြီးလျှင် အညာရပ်အုန်း တပင်ဝယ် သီရိဇေယျစစ်သူကြီးနှင့် သူငယ်တော်ကြီး နန္ဒစည်သူ တို့သို့ပေါင်းဖက်ပြီးလျှင် အုန်းတပင်အရပ်၌ တပ်တာတည်၍ သောင်းကြမ်းပြန်လေ၏။ စန္ဒဝိမလဓမ္မရာဇာမင်းလည်း တန္တဗိုလ်အား သင်းမကျေးကိုပေးတော်မူ၏။

သင်းမပိုးရွှေ၊ သူငယ်တော် နန္ဒစည်သူ၊ သီရိဇေယျ၊ လက်ဝဲဝင်းမှူး သတိုးညို၊ လက်ယာဝင်းမှူး သတိုးဖြူ၊ နဲစွဲ၊ နဲသုတ၊ နဲသုခ၊ တောင်ဘက်စား ရအိမ်ဖြူ၊ အရှေ့ဒါးတော်စိုး တုံးညိုဆိုအပ်ပြီးသော လူတို့သည် စုပေါင်း၍လာပြီးလျှင် သက္ကရာဇ် ၁၀၆၅ ခု၊ တော်သလင်းလဆုတ်ခြောက်ရက်၊ သောက်ကြာနေ့တွင် ကျိုန်းကျွန်း ကြက်သရေရွာကို ဖျက်ဆီးလေရာ အမတ် တန္တဗိုလ်ချီလာ၍တိုက်လေသော်နိုင်လေ၏။ လူများတို့ သေလေသည်ကား ဒါးမကျမြစ်တွင် သူသေကောင်ပြည့်မျှ သေကြလေသတည်း။ ကြွင်းသောသူတို့သည်ကား ဒါးလက်နက် လှေတက်မကြွင်းကိုပစ်ခဲ့၍ ပြေးကြလေ

ကုန်၏။ သင်းမပိုးရွှေနှင့် စစ်ကဲကြီး သီရိဖေချော့ကို ဖမ်း၍ရလေလျှင် သတ်လျက်ပစ်လေ၏။

ကြပ်စင်ကျွန်း၌ စစ်ကဲရဲဘော်လည်း အမတ်တော် သင်းမတန္တပိုလ်မင်းနှင့် နှစ်ကိုယ့်တကိုယ် သစ္စာပြု၍ နေကြရာတွင် နန္ဒဖလစစ်သူကြီးစကားကို နာခံ၍ သစ္စာဖောက်ပြန်လျက် ဒါးပိုင်ကြီး ဦးဒီ၊ လက်ယာမြန် ထွန်းဖြူတို့ ကုလားတလိုင်းတို့နှင့် ပေါင်းဖက်၍ အနောက်ကုလားပြည်မှ ကုလားခေါင်း တကာကိုခေါ်ကြချေ၏။ သမက်တော်သင်းမ တန္တပိုလ် မင်းကို တိုက်အံ့ဟု ကြံကြလေသော် ခေါင်းတကာ အကြံပေါက်၍ မင်းမှူးမတ်စသည် မကြွင်းသိမ်းရုံး၍ ယူပြီးလျှင် အနောက်ပြည်သို့တင်မည်ဟု အကြံအစည် ပြုသည်ကို မင်းမှူးမတ်စသည်တို့ သိလေကုန်၍ စန္ဒဝိမလရာဇာမင်းကို ပေါင်းထွတ်ရွာမှသည် မင်းနေ မြို့တော် မြောက်ဦးသို့ပြောင်း၍ ထားကြလေ၏။ ခေါင်းတကာ ကုလားသည် ဗိုလ်ပါအလုံးအရင်းနှင့် ပေါင်းတွတ်ရွာကို ဖျက်ဆီး၍ယူလေ၏။ သင်းမအမတ် တန္တပိုလ်မင်းကြားလေသော် များစွာသောရဲမက် ဗိုလ်ပါနှင့် ချီ၍ တိုက်လေလျှင် ကဋ္ဌပနဒီမြစ်ကို ကူးသန်းစဉ်တွင် ပြောင်းမီးပေါက်တို့ကို မိုးကြီးရွာသကဲ့သို့ ပစ်ချလေသော် ကြွမ်းထင်းပမာကဲ့သို့ များစွာသော အကောင်အလောင်း တို့သည် မျောကုန်၏။ နန်းရှင်မယ်တော် မိဘုရားနှင့် ရတနာ ရွှေငွေ လက်နက် ကိရိယာတို့ကို ရလိုက်၏။

ခေါင်းတကာကုလားကား အနောက်ပြည်သို့ပြေး လေ၏။ စစ်သူကြီး နန္ဒဖလ၊ ကုလားတန်စား ဗားဆွေ၊ ပြည်စိုးကြီး ဝတုံး၊ ဆင်ကဲကြီး သက်တော်ရှည်၊ ဒါးပိုင်ကြီး ဦးဒီတို့သည် ပေါင်းဖက်၍ သက္ကရာဇ် ၁၀၆၆ ခု၊ ကဆုန်လတွင် ထိမ်တိုင်က တပ်တည်၍ သောင်းကြမ်း ပြန်လေ၏။

သင်းမအမတ်တန္တပိုလ်မင်းချီ၍ တိုက်လေလျှင် ပျက်စီး၍ မြို့ချောင်းသို့ဝင်လျက်ပြေးလေ၏။ လက်ယာမြန် ထွန်းဖြူနှင့် သက်စံရွှေတို့နှင့် ကြက်သရေရွာသား အများ တို့သည် သင်းမတန္တပိုလ်မင်းကို တော်သလင်းလတွင် သွား၍ တိုက်ကြလေသော် အုဋ္ဌခဲနှင့် တောင်ကိုပစ်သကဲ့ သို့ ဆုတ်အံ့သောဌာ မတတ်နိုင်သည်ဖြစ်၍ ကြပ်စင်ကျွန်း သို့ ပြေးကြလေ၍ ပုန်းလျှိုးကာနေကြလေကုန်၏။

တကြိမ်တုံလည်း သက်စံရွှေနှင့် စစ်ကဲရဲဘော် တို့ထံ ဝင်ကပ်ညီညာလျက် လောင်းကြက်၊ စမ္ပလယ်၊ တောတန်း၊ စည်ရွာ၊ ငါးဖင်ရိုင်းချောင်း၊ ကြပ်စင်၊ ရွှေပန်းတင်၊ မင်းကန်၊ ဒါးမကျ၊ မင်းမ၊ သိင်္ဂပါ၊ သင်းပေါင်းချောင်း၊ အကြည်တရိုး လူမျိုးတို့နှင့် ပေါင်းဖက်၍ စစ်လှေစီးပြီးလျှင် ဇီးငုတ်တိုရွာတွင် တပ်ချ၍နေလာ၏။ သင်းမအမတ် တန္တပိုလ်မင်းထွက်၍ တိုက်လေသော် သက်စံရွှေနှင့် စစ်ကဲရဲဘော်တို့သည် ပျက်စီး၍ ပြေးကြပြန်လေ၏။

သံတွဲစား ဖေချော့ဖြူနှင့် လောင်းကြက်စား ငစံ၊ အနောက်ဝင်းမှူးယက်သည်တို့သည် ညီညွတ်၍ ကြက်သရေသား လူအများနှင့် အမှားခံ၍ သင်းမအမတ် တန္တပိုလ် မင်းထံဝယ် သစ္စာပြုလျက် ကျွန်ခံလာကုန်၏။

တကြိမ်တုံလည်း ကြပ်စင်ကျွန်း၌ စစ်ကဲရဲဘော် သည် သောင်းကြမ်းပြန်လေ၏။ သက္ကရာဇ် ၁၀၆၇ ခု၊ ကဆုန်လဆုတ်လေးရက်၊ တနင်္လာနေ့တွင် သေနာပတိ အမည်ရှိသော သင်းမတန္တပိုလ်မင်း တိုက်လေသော် စစ်ကဲ ရဲဘော်သည် ပျက်စီး၍ပြေးလေလျှင် ကျောက်ခုပ်စ အင်းကခံ၍ သောင်းကြမ်းပြန်လေ၏။ တန္တပိုလ်မင်း လိုက်၍တိုက်ပြန်လေသော် စစ်ကဲရဲဘော်ကား ပျက်စီး၍ ဝိန္ဒုချောင်းသို့ပြေးလေ၏။ လေးမြို့ချောင်းတွင်နေသော စစ်သူကြီးနန္ဒဖလသည်ထွက်လာ၍ အပါးတော်က ရပ်လျက်တပ်တည်၍ ဗိုလ်မင်းကြင်ဘော်နှင့် ကျွန်းလုံးသား တို့သည် သောင်းကြမ်းပြန်လေကုန်၏။ သင်းမအမတ် တန္တပိုလ်မင်းလိုက်၍ တိုက်ပြန်လေလျှင် စစ်သူကြီး နန္ဒဖလသည် အကုန်ပျက်စီး၍ လေးမြို့ချောင်းသို့ဝင်၍ ပြေးပြန်လေ၏။

ဦးရစ်တောင်စားငမဲသည် လူသူပေါင်းစည်း၍

ပြည်တောင်ညိုက တပ်တာဆောက်လုပ်၍ သောင်းကြမ်း ပြန်လာ၏။ သင်းမအမတ်တန္တဗိုလ်မင်းသည် သက္ကရာဇ် ၁၀၆၇ ခု၊ တန်ဆောင်မုန်းလဆုတ်ခုနစ်ရက်၊ ကြာသပတေးနေ့တွင်လိုက်၍ တိုက်လေသော် ပျက်စီး လျက် ဦးရစ်တောင်စား ငမဲကိုဖမ်း၍ရလေ၏။

ထိုအခါ ရတနာပူရပြည်အင်းဝကို အစိုးရတော်မူ သော မဟာသီဟသူရအိမ်ရှေ့မင်းက ရခိုင်ပြည်ဝယ် ကိုယ်ရံတော်ပေါင်း လေးသောင်းနှစ်ထောင်တို့သည် ပြည့်ရှင်မင်းကို မရှိမသေပြုကျင့်လေသောကြောင့် မင်းမတည်၊ ပြည်မရပ် ဖြစ်နေကြောင်းကို ကြားသိတော် မူ၍ ရခိုင်ပြည်ကို စစ်တိုက်သိမ်းယူမည်အကြံနှင့် ဗိုလ်မင်းညိုရစ်ကို အစုံအစမ်းစေလွှတ်လိုက်ရာ တောင်စဉ် လမှူးချောင်းသို့ရောက်လာလျှင် လမှူးသူကြီး အောင်ကျော်၊ ဘေးနောင်းတို့နှင့် ပြည်ထည်းအရေးကို နီးနှောပြောဆို၍ အကြောင်းကိုသိလေလျှင် အလွယ်တကူသိမ်းယူအံ့ဟု မြန်မာဗိုလ်မင်းညိုရစ်သည် တပ်တာတည်၍နေလေ၏။ ထိုအရပ်ကို ညိုရစ်တပ်ရာဟုခေါ်လေ၏။ တပ်တာ တည်ပြီးနောက် လမှူးသူကြီး အောင်ကျော်၊ ဘေးနောင်းတို့ နှင့်တိုက်ကြလေသော် မြန်မာဗိုလ် မင်းညိုရစ်နိုင်လေလျှင် လူသူတို့ကိုများစွာ ဖမ်းဆီး၍ယူပြီးသော် အရှေ့ပြည် ရွှေကြက်ယက်၌ ရွာတည်၍ထားလေ၏။

အင်းဝဘုရင် မဟာသီဟသူရ အိမ်ရှေ့မင်းလည်း အလွန်အားရတော်မူ၍ ပြည်မြို့ဝန် သာဂရသို့ ရခိုင်ပြည် တွင် ပိဋကတ်ဗေဒင်တတ်သူပညာရှိမရှိကို စုံစမ်းထောက် လှမ်းရမည်ဟု ဆင့်ဆိုတော်မူအပ်သည်ဖြစ်၍ ပြည်မြို့ဝန် သာဂရက စာနှင့်လူစေလွှတ်၍ လမှူးချောင်းသူကြီး ထံရောက်လာလျှင် စာတွင်ပါသည်ကို ကြည့်ရှုပြီးလျှင် ပြည်ထည်းအရေးကြေး ပြီးငြိမ်းကြောင်းနှင့် သက္ကရာဇ် ၁၀၆၇ ခု၊ တပေါင်းလတွင် ပြည်မြို့ဝန်သာဂရသို့ စာသဝဏ်ပြန်၍ ပေးလိုက်လေသည်။ ကျွန်းခေါင်း အောင်ဆွေလည်း ဘောက်ချောင်းဦးစွန်းတော်အရပ်၌ သက္ကရာဇ် ၁၀၆၈ ခု၊ တော်သလင်းလတွင် တပ်တာ တည်၍ သောင်းကြမ်းပြီးလျှင် ရွာပေါင်းတွတ်ကိုတိုက်ဖျက် ၍ ယူမည်ဟုပြုလတ်သော် သင်းမအမတ် တန္တဗိုလ်မင်း လည်း ပေါင်းတွတ်ရွာကို ကျိုန်းသို့ယူ၍တည်ပြီးလျှင် ဈေးဆိုင်၊ ဒုက္ကန်ချလေ၏။ စန္ဒဝိမလဓမ္မရာဇာမင်းကို လည်း ရွှေမြို့တော်က ပြောင်းယူချေ၍ စလင်္ကာ သူတောင်မော်တွင် ဝါးနန်းတော်ဆောက်၍ထားလေရာ နန္ဒဗလခိုးယူပြီးလျှင် တောတန်းကျွန်း၌ ထားလေ၏။ သင်းမအမတ် တန္တဗိုလ်မင်း တိုက်လေလျှင်ပျက်စီး၍ နန္ဒဗလသည် ဘောက်ချောင်းသို့ ပြေးလေ၏။ ထိုစန္ဒ ဝိမလဓမ္မရာဇာမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၆၊ ခြောက်နှစ်။ နှစ်စုသက်တော် ၂၆၊ နှစ်ဆဲ့ ခြောက်နှစ်။ သက္ကရာဇ် ၁၀၆၈ ခု၊ တပေါင်းလပြည့်ကျော် တဆဲ့ ငါးရက်၊ ဗုဒ္ဓဟူးနေ့တွင် နန်းကျတော်မူလေသည်။ နံတော် တနင်္လာသားတည်း။ ၁၂။

ထိုမင်း နန်းကျလေလျှင် တောင်ဖက်စား ရဲဘော် သီဟသား သတိုးလှကို မိဘုရားဖွားသွေးနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၆၈ခု၊ တန်ခူးလဆန်းတရက်၊ ကြာသပတေးနေ့တွင် နန်းတင်တော်မူလေ၏။ ထိုမင်းကား စန္ဒသူရိယရာဇာဟူသောအမည်ကိုခံတော်မူ၏။ သက္ကရာဇ် ၁၀၆၉ ခု၊ နတ်တော်လတွင် အင်းဝပြည့်ရှင် သီရိမဟာ သီဟသူရဓမ္မရာဇာအမည်ရှိသောမင်းက သံတွဲမြို့သို့ စစ်သည်သူရဲ တို့ကိုချီတက်၍ ဖျက်စေလာသော် သံတွဲစား ဓေယျဖြူသည် ခုခံ၍တိုက်လေသောကြောင့် မြန်မာ စစ်သည် သူရဲတို့သည် သေကြေပျက်စီး၍ ပြေးလေ ကုန်၏။ ရလိုက်သော လူသူသုံ့ ပန်းလက်နက်ကိရိယာ တို့ကို စန္ဒသူရိယရာဇာမင်းတရားအား ဆက်သလာပေ၏။

သက္ကရာဇ် ၁၀၇၀ ပြည့်၊ တပို့တွဲလဆန်း ဆယ်ရက်၊ ဗုဒ္ဓဟူးနေ့တွင် သင်းမအမတ် တန္တဗိုလ်မင်း သည် ကစ္ဆပနဒီမြစ်ညာသို့ဆန်တက်၍ များစွာသော ရဲမက်ဗိုလ်ပါနှင့် ဦးစွန်တော်အရပ် ဘောက်ချောင်းတပ်ကို တိုက်လေသော် နိုင်လေ၏။

နန်းကျစန္ဒဝိမလဓမ္မရာဇာမင်းကား အနောက်

ပြည်သို့ပြေးလေ၏။ ဘင်္ဂလီကုလားတို့နှင့် ပေါင်းဖက်၍ နေလေရာတွင် ခန္တာရွေ့တော်မူလေ၏။ ရွှေ ငွေ ဥစ္စာ လက်နက်ကိရိယာ လှေတက်မိဘုရား သမီးတော်တို့ကို ဘင်္ဂလီကုလားတို့ရလေ၏။

စစ်ကဲရဲဘော်လည်း ပိန္နဲချောင်းက သောင်းကြမ်းပြန်လေ၏။ သက္ကရာဇ် ၁၀၇၀ ပြည့်၊ တပေါင်းလဆုတ် နှစ်ရက်၊ အင်္ဂါနေ့တွင် သင်းမအမတ် တန္တပိုလ်မင်းသည် ဝလက် တောင်ပေါ်ကလမ်းပြစေ၍ တိုက်လေလျှင် အလုံးစုံသော လက်နက်ကိရိယာတို့ကို ရလိုက်ပေ၏။ စစ်ကဲရဲဘော်ကား တောင်စဉ်ကမ်း အမ်းဒါးလက်သို့ ပြေးလေ၏။

ငင်းသက္ကရာဇ်တွင် ရမ်းပြည့်စား အောင်ရွှေသားရာဇူနှင့် သင်းမအမတ် တန္တပိုလ်မင်းသမီးကို ထိမ်းမြား၍ နေထိုင်ကြလေရာ ရာဇူသည်ထွက်ပြေး၍ ရမ်းပြည့်ကျွန်း၊ အာထံသို့ရောက်လေလျှင် အာနှင့်တိုင်ပင်၍ တပ်ကြီး တည်ပြီး၍ တန့်ချောင်းကို ရေခံ့ထိုးလျက်သောင်းကြမ်း လေ၏။ ထိုအကြောင်းကို သင်းမအမတ် တန္တပိုလ် ကြားလေသော်ချီသွား၍ သက္ကရာဇ် ၁၀၇၁ ခု၊ တပေါင်းလဆန်းသုံးရက်၊ ကြာသပတေးနေ့တွင် တိုက်လေလျှင် ရမ်းပြည့်တပ်ကိုအောင်မြင်၍ ရမ်းပြည့်စား အောင်ရွှေနှင့် သမက်ရာဇူ၊ လှုသူကျွဲနွား၊ စပါးဆန်ရေ၊ ကျေးကျွန်လက်နက်ကိရိယာတို့ကိုရလေလျှင် ရမ်းပြည့်စား အောင်ရွှေသားအာတို့ကို အမျက်စောင်မာန်မထား ရှေ့ကအတိုင်းကဲ့သို့ပင် ချစ်ခင်လေးမြတ်နေကြလေ၏။

စန္ဒသူရိယရာဇာမင်းကား အိမ်နိမ့်၄၆၊ လေးဆဲ့ခြောက်နှစ်။ နန်းစံ ၄၊ လေးနှစ်။ နှစ်စုသက်တော် ၅၀၊ ငါးဆယ်။ သက္ကရာဇ် ၁၀၇၂ ခု၊ တော်သလင်းလတွင် လူဆိုးတန္တတို့ ပုန်ကန်၍လွှန်တော်မူလေသည်။ နံတော် တနင်္လာသားတည်း။၁၃။

နောက်၌ပြဆိုအပ်သော ဝရဓမ္မရာဇာမင်းမှစ၍ စန္ဒသူရိယရာဇာမင်းတိုင်အောင် ကိုးဆက်သောမင်းတို့သည် အာဏာစက် မတည်မရပ်၊ နန်းတော်ကိုမျှ မပိုင်လေ။ ကိုယ်တော်ရံ လေးသောင်းနှစ်ထောင်တို့သည် ပြည်သခင်အရှင်မင်းကို နန်းတင်နန်းချပြုလုပ်ကြလေကုန်၏။ ထို့ကြောင့် ဖျက်သည်လည်း ကိုယ်တော်ရံ၊ ပျင်သည်လည်း ကိုယ်တော်ရံဟု အစဉ်အတိုင်းဆိုကြကုန်၏။

ထိုအခါတွင် ရတနာပူရ အင်းဝပြည့်ရှင် သီရိမဟာသူရဓမ္မရာဇာအမည်ရှိသောမင်းက သက္ကရာဇ် ၁၀၇၂ ခု၊ ဝါကျွတ်လတွင် ဝေလုသာရ၊ စန္ဒာဘရာဇာ တို့ကို တမန်စေလွှတ် စုံစမ်းလာသည်မှာ ရခိုင်ပြည်ဝယ် မင်းမရှိ ကြားသိရသည်ဖြစ်၍ မဟာမုနိဘုရားကြီးသိမ်ကို ငါဆောက်တော်မူလာမည်။ ရခိုင်ပြည်သားတို့ ကြိုက်ကြမည်လောဟု စုံစမ်းမေးမြန်းလာစေသည်။ ထိုအခါ ကျိုန်းတိုင်းမြို့တွင် သင်းမအမတ် တန္တပိုလ်မင်း စိုးအုပ်၍နေရာမှ ကြားလေလျှင် ငါရှိသည်၊ စစ်တိုက်လိုလျှင် အမြန်ချီလာခဲ့ဟု ရဲတင်းစွာမှာထားလိုက်ပြီးလျှင် သင်းမအမတ် တန္တပိုလ်မင်းသည် နန်းတက်မိဘုရား ရွှေကူနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၇၂ ခု၊ တန်ဆောင်မုန်းလတွင် ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးစံတော်မူလေ၏။ ထိုမင်းကား စန္ဒဝိဇယရာဇာဟူသောအမည်ကို ခံတော်မူ၏။

ထိုစန္ဒဝိဇယရာဇာမင်းသည် သူရဲမျက်ရှင်၊ ဘုရင်မြို့ ယက်သည်၊ ကြင်ဘော်၊ ထွန်းရွှေ၊ စံကျော်ရွှေ၊ ငနောက်၊ နော်ရထာ၊ ဟင်းသာ၊ စစ်ဆော် ဉ္စသူရဲကြီး တကျိပ်တို့နှင့် ကိုယ်ရံတော်အပေါင်းတို့ကို တိုက်ခိုက်ဖျက်ဆီးသတ်ဖြတ် နှိပ်နင်း၏။ အကြွင်းသုံးထောင်သော ကိုယ်တော်ရံတို့ကို နန်းတော်အတွင်း ကိုယ်ရံတော် အစောင့်ထားတော်မူ၏။ ထိုကိုယ်ရံတော်တို့သည် နှောင့်ရှက်ဖျက်ဆီးလေသောကြောင့် အတွင်းထောင်၊ ပြင်ထောင်၊ အတွင်းကိုယ်တော်ရံ၊ ပြင်ကိုယ်တော်ရံ၊ မင်းဆောင် မင်းခမ်းဆောင်ရွက်သောလူ၊ ဆင်သည်၊ မြင်းသည်၊ ကုလား၊ မြန်မာ၊ တလိုင်း၊ ဟိန္ဒူတ်၊ ချင်း လင်း၊ သက်၊ မြို၊ တိုး၊ ဟရီ၊ သံချိ၊ စဏ္ဍာလ၊ ဟယား၊

လမိုင်းအစရှိသော လူအပေါင်းတို့သည် ရောနှောရက်တင် လျက် သားမြင်မွေးဖွား၍ ရှိလေသည်ကို စစ်ကြောမေးမြန်း တော်မူ၍ သင်းထုတ်ပြီးလျှင် ဇာတ်ဘာသာအလိုက် မြို့ရွာ တည်ထောင်၍ ပေးတော်မူသည်။ တရွာတပြည်သား အမျိုးအမည်အစဉ်အဆက်ကို မသိကုန်သောသူတို့အား ရွေးမကုန်၊ ပြင်ထောင်ဟု အစုဖွဲ့တော်မူသည်။

ထိုစန္ဒဝိဇယရာဇာမင်းကား ရွှေဝင်းတော် မြို့ပြ ကျုံး၊ မြောင်း၊ ပဓွင်၊ ရင်တားတို့ကို အသစ်ပျင်ဆင်လုပ်စေ တော်မူသည်။

သက္ကရာဇ် ၁၀၈၀ပြည့်တွင် ရတနာဗိမာန် ရွှေနန်း တော်ကို ဆောက်လုပ်တော်မူသည်။ ရပ်ရှင်တော်မဟာမုနိ သိမ်တော်အစရှိသော သိမ်ပေါင်းရှစ်ရာ၊ ကျောင်းပေါင်းရှစ် ရာ၊ ကန်ပေါင်းရှစ်ရာတို့ကို အရေအတွက် အမှတ်အသား ထားတော်မူ၍ ကုသိုလ်တော် ပြန့်ပွားအောင် ဆောက်လုပ် လှူဒါန်းတော်မူသည်။ ထိုသိမ်တော် ကျောင်းတော်တို့၏ အနီးအပါး၌ ပေပင်ပေါင်း ရှစ်ရာတို့ကို စိုက်ပျိုး၍လှူတော် မူသည်။ ရှစ်ရာသောကျောင်းတို့၌ သီလဝန်၊ ဂုဏဝန် မထေရ်တို့ကိုပင့်တင်၍ လှူဒါန်းတော်မူသည်။ ထိုမထေရ် မြတ်တို့ သုံးဆောင်ရန် ဂရုဘဏ်၊ လဟုဘဏ်ပစ္စည်းဝတ္ထု တို့ကိုလည်း လှူဒါန်းတော်မူသည်။

ထိုရှစ်ရာသော ကျောင်းတို့တွင် တကျောင်းတ ကျောင်း၌ လူပေါင်းငါးယောက်ကျစီ လူပေါင်း လေးထောင်ကို စာရင်းမှတ်သား၍ လှူတော်မူသည်။ ထိုသူတို့ကို သံဃိကကျောင်းကျွန်ဟုဆိုကြကုန်၏။ ထိုသူတို့ကို ဟီနဝံသ သူယုတ်မျိုးဟူ၍ မဆိုအပ်ကုန်။ မင်းကနှိပ်စက်၍ လှူချေသောကြောင့်သာ ခံရလေသည်။ ထိုသူတို့လွတ်လိုမူကား ကိုယ်ဘိုးငွေကြေးပေး၍ မလွတ်ကုန်ရာ။ အဘယ်ကြောင့်နည်းဟူမူကား အလှူခံ သောဆရာတော် သံဃာတော်တို့သည် သုံးဆဲတဘုံ သူတို့ကိုသနားခြင်းသာရှိသည်၊ မုန်းထားခြင်းမရှိ။ ကိုယ့်ဘိုး ငွေကြေးလို၍ခံသည် မဟုတ်။ မင်းကလှူ၍ သာခံတော်မူရသည်။ ထို့ကြောင့် ကိုယ်ဘိုး ငွေကြေး ပေး၍မလွတ်ရာ၊ ဘုန်းကြီးသောမင်းတို့ လွတ်မှသာလျှင် လွတ်နိုင်ရာသည်ဟု ဒိဋ္ဌနုဂတိကျမ်းတွင်ဆိုသည်။

ထိုစန္ဒဝိဇယမင်းသည် သူရဲကြီးတကျိပ်တို့တွင် မျက်ရှင်ကို စစ်ကဲကြီးအရာကို ပေးတော်မူသည်။ ဘုရင်မြို့ ကို မှိုင်းစစ်ကဲအရာကိုပေးတော်မူသည်။ ထွန်းရွှေကို အရှေ့ဝင်းမှူးအရာကို ပေးတော်မူသည်။ စံကျော်ရွှေကို အနောက်ဝင်းမှူးအရာကို ပေးတော်မူသည်။ ငနောက်ကို လေးမြို့ချောင်းစားအရာကိုပေးတော်မူသည်။ နော်ရထာကို ဆင်ကဲကြီးအရာကို ပေးတော်မူသည်။ သမက်ဟင်းသာကို သာမအရာကိုပေးတော်မူသည်။ ယောက်ဖတော် စစ်ဆော် ကို ရမ်းပြည့်ကျွန်းကိုပေးတော်မူလေလျှင် ရမ်းပြည့်စား တံတောင်သုံးခွဟူ၍တွင်လေ၏။ ကြွင်းသောဗိုလ်မှူးသူရဲ တို့ကိုလည်း အသီးအသီး မြို့ရွာခရိုင် ပေးသနားတော် မူသည်။

ဤသို့စီရင်အုပ်ချုပ် စိုးစံတော်မူသောအခါ၌ မြိုမင်းကသည်၊ များစွာသော လက်ဆောင်ပဏ္ဏာရာဇသံနှင့် တမန်စေလွှတ်ရောက်လာလျှင် ထိုပါလာသော စာခွေ သဝဏ်သည် မြို့ဘာသာစာဖြစ်၍ မည်သူတယောက်မျှ ဖတ်မရနိုင်ရှိလျှင် ပြည်နိုင်ငံအလုံးကို ရှာဖွေလေက သီဟိုဠ်ကျွန်းသို့ သာသနာပြုကြွတော်မူသော သတ္တဋ္ဌာန ဆရာတော်ဣန္ဒမဥ္ဇူထံ ဥပနိဿယခံဖူးသော တောင်စဉ် လမ္ဗုဝယ် သီတင်းသုံးနေသော ကျမ်းတတ်အကျော် ရင်ငှဘုန်းတော်ကြီးကို ပင့်ဖိတ်တော်မူချေ၍ မြိုမင်း စာခွေကိုပြလေလျှင် မြိုဘာသာကို မြဟ္မာဘာသာဖြင့် ပြန်လေသော် လေးလုံးတပါဒစီ သုံးပုဒ်ဖြစ်၏။ (ထိုစာ သုံးပုဒ်သည် တိမ်မြုပ်လေသောကြောင့် မတွေ့မမြင်ရ ရှိလေသည်။ နောက်ပညာရှိတို့ရလျှင် သွင်းထည့်ပါလေ)

ထိုမြိုမင်းစာတွင် ပါသည့်စကားရပ် အဓိပ္ပာယ် မှာ---အကျွန်ုပ်ဥတ္တရစ်မြို့ပြည်ကို သက်ကုလားတုန်းချေ သည် ထိပါးလာရောက် နှောင့်ရှက်သည်ဖြစ်ပါသော ကြောင့်ရခိုင် ပြည်ကြီးရှင် ဘုရင်မင်းတရားက သနား ထောက်ပင့် ကူညီစေချင်ပါကြောင်းကို လျှောက်ကြား

အသနားခံပါသည်ဟု ပါလေသည်။

ယင်းသို့ ပြန်ဆိုအပ်သော ရာဇသံကိုကြားတော်မူလေလျှင် ရခိုင်ဘုရင်စန္ဒဝိဇယရာဇာလည်း ဆင်ကဲကြီးနော်ရထာကို ရဲမက်ဗိုလ်ပါလက်နက်ကိရိယာများစွာနှင့် သက္ကရာဇ်၁၀၈၀ပြည့်တွင် ဥက္ကာရစ်မြို့ပြည်သို့ ချီတက်စေတော်မူ၍ သက်ကုလားတို့ကိုတိုက်လေလျှင်ပျက်စီး၍ ပြေးလေကုန်၏။ ဥက္ကာရစ်မြို့မင်းလည်း များစွာသော လက်ဆောင်တော်ဖြင့် ဆက်သလိုက်သည်ကို ဆင်ကဲကြီးနော်ရထာယူဆောင်လျက် ရွှေမြို့တော်သို့ပြန်လာခဲ့ပေ၏။

တရံရောအခါ၌ စန္ဒဝိဇယရာဇာမင်းတရားသည် အရှေ့ပြည်ကို တိုက်လိုသောကြောင့် ဟူးရားသူကြီးဇေယျကျော်ထင်၊ ဟူးရားတိုင် ဆင်ကဲဆရာတော် ပြစ်ဝခုန်တို့နှင့် တိုင်ပင်တော်မူပြီးလျှင် ဆင် မြင်း ခြေသည် သူရဲဗိုလ်ပါ လက်နက်ကိုင် ငါးသောင်းတို့နှင့်သက္ကရာဇ် ၁၀၈၁ ခု၊ တန်ဆောင်မုန်းလတွင် ချီတက်တော်မူ၍ မအီသို့ ရောက်တော်မူလေလျှင် တပ်မတော်ချ၍ ခုနစ်ခရိုင် တောင်စဉ်၊ တောင်ကုတ်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်မြို့များတို့က စစ်သည်သူရဲတို့ကို ဆင့်ခေါ်ယူဆောင်တော်မူလျက် ချီတက်တော်မူ၍ အရှေ့ပြည်နိုင်ငံဖြစ်သော မင်းတုန်းမြို့သို့ ရောက်တော်မူလေလျှင် မင်းတုန်းမြို့စားသည် ထွက်၍ပြေးလေ၏။ ကျန်ရစ်သောသူတို့ကို သိမ်းရုံး၍ယူပြီးသော် တပ်မတော်ချလျက်နေပြီးလျှင် စစ်ကဲသိန္ဓသူနှင့် မှိုင်းစစ်ကဲကြင်ဘော်တို့ကို သူရဲတသောင်းနှင့် သရေခေတ္တရာမည်သော ပြည်မြို့ကို တိုက်ချေဟု စေတော်မူလိုက်၏။

ဆင်ကဲနော်ရထာကို နောက်ပါသူရဲတသောင်းနှင့် စကု၊ စလင်း၊ ဆင်ဖြူကျွန်းတို့ကို တိုက်ချေဟုစေတော်မူလိုက်၏။

သရေခေတ္တရာမည်သော ပြည်မြို့၊ စကု၊ စလင်း၊ ဆင်ဖြူကျွန်းမြို့တို့က ဆီးကြိုခံလင့်သော တလိုင်း၊ မြန်မာတို့သည် မခံနိုင်ကုန်သည်ဖြစ်၍ ရောဝတီမြစ်ကို ဆင်း၍ပြေးကြလေရာ များစွာသောသူတို့သည် သေကြေပျက်စီးကြကုန်၏။

စန္ဒဝိဇယမင်းတရားကား မင်းတုန်းမြို့တွင် အောင်စေတီနှင့် သိမ်တော်ကိုဆောက်လုပ်၍ နေတော်မူစဉ်တွင် မိဘုရားခေါင်လွန်တော်မူပါကြောင်းနှင့် လျှောက်ထားလာလျှင် ဗန္ဓုလတ်စစ်သူကြီးတို့ကိုပြန်၍ ခေါ်တော်မူပြီးမှ စန္ဒဝိဇယရာဇာမင်းတရားသည် ရသောလူသူတို့ကို သိမ်းယူတော်မူ၍ နေပြည်တော်သို့ ပြန်တော်မူခဲ့ပေသည်။ ရခဲ့သော တလိုင်းမြန်မာတို့ကို ငါးဇင်ရိုင်းချောင်း ကြပ်စင်ကျွန်း၌ရွာတည်၍ သင်းတို့ကို အထိန်းထည့်၍ ထားလေ၏။

တကြိမ်တုံလည်း ကုလားတန်မြစ်ဖျား၌နေသော စစ်ကွပ်ကျော်သွေး၊ ငပုလဲ၊ ငချစ်ရာတို့သည် အမှုတော်ကို မထမ်းလိုသောကြောင့် စုက္ကရာကနေ၍ လူများတို့ကို ဖျက်ဆီးလာသည့်အကြောင်းနှင့် စန္ဒဝိဇယရာဇာမင်းတရားကို လျှောက်ကြားလာလျှင် စစ်သည်သူရဲလက်နက်ကိရိယာတို့ကိုပြုပြင်စီရင်တော်မူ၍ သက္ကရာဇ် ၁၀၈၃ ခု၊ တပို့တွဲ လဆုတ်ခြောက်ရက်၊ သောက်ကြာနေ့၊ နေသုံးပဟိုရ်ငါးနာရီအချိန်တွင် ရွှေဖောင်ပြာသာဒ်ထက် စီးတော်မူလျက် ကစ္ဆပနဒီမြစ်ကိုဆန်လေ၍ စုက္ကရာသို့ ရောက်တော်မူလေသော် စစ်ကွပ်ကျော်သွေး၊ ငပုလဲ၊ ငချစ်ရာတို့ကို ဆုံးမကွပ်ညှပ် ငြိမ်ဝပ်စွာနေစေ၍ ဥဒေပုတ်၊ ဥက္ကာရစ်၊ မသုန္ဒရေ၊ သက်၊ မောင်းကွပ်တို့ကို နှိပ်ကွပ်ခြင်းကို ပြုတော်မူလျက် နိုင်ငံတော်ဖြစ်စေပြီးလျှင် ရွှေမြို့တော်သို့ ပြန်တော်မူခဲ့၏။ ကျော်သွေး၊ ငပုလဲ၊ငချစ်ရာတို့လည်း ဘဝရှင်မင်းတရား၏ ခြေတော်ရင်းဝယ် နေလာကြကုန်၏။

တကြိမ်တုံလည်း ပင်းဝါ၊ စစ်တကောင်းတို့သည် သောင်းကြမ်းပြန်လေသောကြောင့် စစ်အင်္ဂါလေးပါးတို့ကိုစီရင်၍ များစွာသောသူရဲအပေါင်းတို့နှင့် သက္ကရာဇ် ၁၀၈၅ ခု၊ နတ်တော်လတွင် ရေနန်းကြက်သရေဖောင်တော်သို့ တက်စီးတော်မူ၍ ရေကြောင်းသဘင်ကျင်းပတော်မူလျက် ချီကြွတော်မူလေသော် ပင်းဝါ၊ စစ်တကောင်း၊ သောင်းတိ၊ ခြေနင်း၊ ဟတျာ၊

ပုဏ္ဏားကျွန်းများကိုဖျက်ဆီး၍ လူသူသုံ့ပန်း ဥစ္စာ ရွှေငွေတို့ကို များစွာယူဆောင်တော်မူလျက် ရွှေမြို့တော်သို့ ပြန်တော်မူခဲ့ရာ ကျောက်ပန်းတူသို့ရောက်တော်မူလေလျှင် လေပြင်းမုန်တိုင်းထလတ်၍ လှေတို့သည် များစွာပျက်စီးကုန်၏။ လူလည်း သုံးထောင့်ခုနစ်ရာ သေလေကုန်၏။ သားတော်တောင်ဘက်မြို့သစ်စားလည်း ရေတွင်မတ်ရပ်ကျ၍သေလေ၏။ သားတော်သေလေလျှင် ဝိနည်းမိုရ်ရှိ ဆရာတော်လည်း ငါနေဖွယ်မရှိပြီဟုဆိုလျက် ရေတွင်ဆင်း၍ သေလေ၏။

ထိုဝိနည်းမိုရ်ရှိဆရာတော် ရေတွင်ဆင်း၍သေခြင်းအကြောင်းမှာ သားတော်ကို ဝိနည်းမိုရ်ရှိ ဆရာတော်အား အပ်နှင်းတော်မူလိုက်သောကြောင့် အပြစ်ကိုကြောက်၍ သေလေသတည်း။

စန္ဒဝိဇယရာဇာမင်းတရားလည်း လှေတော်ရှိ ခုနစ်စင်းနှင့် မယူကမ်းဘက်တွင် ရောက်တော်မူလာ၏။ တန်းလွဲစားလည်း ရေတွင်နစ်လေသောသူတို့ကို ဆယ်တင်၍ ထမင်းရေစာတို့ကို ဝစ္စာကျွေးမွေးပေ၏။ ထိုအရပ်မှသည် အစဉ်အတိုင်းချီလာတော်မူ၍ ရွှေမြို့တော်သို့ ရောက်တော်မူလာ၏။ ရခဲ့သောကုလားတိမ်တို့ကိုလည်း ရပ်ရှင်တော် မဟာမုနိအစရှိသောသိမ်၊ ကျောင်းတို့တွင် အလုပ်အကျွေး လှူဒါန်းတော်မူလေ၏။

ထိုနှစ်ဝယ် တန်းလွဲစားကိုလည်း လက်ဝဲမြန်အရာကို ပေးတော်မူ၏။ ကျိန်းသူကြီး သေရည်ပြန်၍ သောက်သည်ကိုလည်း ယဉ်ကျေးအောင် ဆုံးမတော်မူ၏။

**တောင်လမူးကို ဆင်ထူး မစတ်ရာ။**

**တောင်လက်ပံကို ဆင်မထိုးစေရာ။**

ဟူ၍ သူငယ်တို့ မုခနိမိတ်ပေါ်လတ်လျှင် မင်းကိုယ်တိုင် ဗိုလ်ပါနှင့်ချီလျက် လမူးရွာကို သိမ်းယူတော်မူ၍ မင်းပြကင်းတွင် အရွေးခံစေတော်မူ၏။ လမူးစားသည် ထိုသူတို့ကိုရွေးယူ၍ ရွာတည်မြဲ တည်ပြန်လေ၏။

ဒွါရာဝတီမည်သော သံတွဲမြို့တွင်လည်း ရှေးမင်းတို့ တည်ထားတော်မူခဲ့သော အိတော်၊ နံတော်၊ ဆံတော်ဓာတ်သုံးဆူတို့ကို ပြုစုသုခ်သင်စေရန် လှူထားသော ကုလားတို့သည် အမှုတော်ကို မထမ်းရွက်လို၍ သက္ကရာဇ် ၁၀၈၅ ခု၊ တပို့တွဲလတွင် လူပေါင်း သုံးထောင်ခုနစ်ရာ အိမ်ခြေသားတို့သည် အရှေ့အင်းဝမြို့သို့ ပြေးဝင်ပြီးလျှင် မြေတူးမြို့၌ ရွာတည်၍နေကြလေ၏။ ထိုအခါတွင် လက်ဝဲမြန်အမတ်ဗိုလ်ပါ အလုံးအရင်းနှင့်ပြည့်စုံသည်ကို မြင်လေလျှင် ဆွေတော်၊ မျိုးတော်၊ မှူးတော်၊ မတ်တော်တို့သည် မနာလိုသောကြောင့် စန္ဒဝိဇယရာဇာမင်းတရားကို လျှောက်ထားကြလေလျှင် မင်းတရားလည်း ဤသို့ မိန့်တော်မူ၏။ အမတ်လက်ဝဲမြန်သည် နန်းတော်ကို မီးလောင်သောအခါ၌ ဝင်းတော်ကိုကျော်၍ လိုက်လာသည်။ ထိုအခါ ငါတယောက်တည်း နေတော်မူသည် ဖြစ်လျက် ငါ့ကိုမသတ်လေ။ စစ်တကောင်းက အပြန်တွင် ဗိုလ်စုသင်းစုတို့နှင့်ကွဲ၍ မယူကမ်းဆိပ်တွင် နေသောအခါ၌လည်း ငါ့ကို မပုန်ကန်လေ။ သို့ဖြစ်၍ ဆွေတော်၊ မျိုးတော်၊ မှူးတော်၊ မတ်တော်တို့စကားကိုနာခံ၍ ငါသည် လက်ဝဲမြန်ကို မသတ်သင့်ဟုမိန့်တော်မူလေသည်။

ယင်းသို့မိန့်တော်မူ၍ မသတ်မဖျက်နေတော်မူလေလျှင် မိဘုရား၊ သားတော်၊ သမီးတော်၊ မောက်တော်ကြီးမတို့သည် မယုံလျှင် ယုံကြောင်းလှည့်ပတ် လျှောက်ထားပြောဆိုသောစကားကို ကြားတော်မူလေလျှင် အကယ်ထင်မှတ်၍ စန္ဒဝိဇယရာဇာမင်းတရားသည် လက်ဝဲမြန်အမတ်ကို သတ်မှတော်မည်ဟု သားတော်၊ သမီးတော်၊ ဆွေတော်၊ မျိုးတော်၊ မှူးတော်၊ မတ်တော်တို့နှင့်တိုင်ပင်တော်မူ၍ သတ်အံ့သောငှာအပြစ်ကို ရှာလေသော်လည်း မရခဲ့ရကားဟု စဉ်းစားကြံဖန်၍နေရာတွင် ရွှေနန်းတော်အနောက်ဖြစ်သော ဒိုင်းကျီအရပ်၌ တောကျားတခုသည် နေ့ခင်းထင်ထင်ဝင်၍ နေပါကြောင်းနှင့် လျှောက်လာ၏။ ထိုအခါ စန္ဒဝိဇယရာဇာမင်းတရားသည် အခွင့်တော်ပြီ သဘောရတော်မူ၍ လက်ဝဲမြန်အမတ်ကို ခေါ်တော်မူပြီးလျှင် ဒိုင်းကျီအရပ်တွင် ဝင်၍နေသော တောကျားကိုသတ်ချေဟု စေတော်မူလိုက်၏။ လက်ဝဲမြန်

အမတ်လည်း သွားလေပြီးလျှင် ထိုကျားကိုသတ်၍ မင်းကြီးအား ဆက်တော်မူလာ၏။

ထို့နောက် ပုဏ္ဏားတောင်တွင် ကျားတခု၊ ဝသဲဘက်တွင် ကျားတခု ထိုနှစ်ခုသောကျားတို့ ပေါ်ပေါက်သဖြင့် သတ်စေတော်မူရာ၌လည်း လက်ဝဲမြန် အမတ်တွင် တစုံတခုအနာမရဖြစ်လေသည်။ ဘုရားလှ အရပ်၌ တောကျားတခုသည် အလွန်ရဲပြန်လတ်သော် ထိုကျားကိုသတ်အံ့သောငှာ မင်းကိုယ်တိုင်ချီ၍ သွားလေသော် ဘုရားလှသို့ရောက်တော်မူလေလျှင် လူများတို့အား ကျားကိုဝန်းရံဆီးစေပြီးမှ လက်ဝဲမြန်အမတ်ကိုခေါ်တော်မူ၍ တိုက်တော်က ဒါးကိုထုတ်၍ပေးတော်မူပြီးလျှင် တောကျားကိုခုတ်ချေဟုစေတော်မူ၏။ လက်ဝဲမြန်အမတ် လည်း ရှေ့ကကျားကိုခုတ်သော ဒါးနှင့်ခုတ်ပါရစေဟု နားတော်လျှောက်သော်လည်း စန္ဒဝိဇယရာဇာမင်းတရား သည် ငါ့ဒါးကဲ့သို့ ထက်မြက်သည့်ဒါးသည် အဘယ်မှာ ရှိအံ့နည်းဟု မိန့်တော်မူလေလျှင် လက်ဝဲမြန်အမတ်လည်း ညှိုးနွမ်းသောမျက်နှာနှင့် သေရအံ့လည်း ဤအခါ ရှင်ရအံ့လည်း ဤအခါ ဆိုပြီးလျှင် မြို့တောင်စား ကျွန်ရင်း၊ ဝရောင်းချောင်းစား ကျွန်ရင်းတို့နှင့် ကျားရှိရာသွားလေ၍ ကျွန်တယောက်ကို အစာချလျက် ကျားကိုခုတ်လေသော် ဒါးမထက်လေသောကြောင့် ကျားကိုယ်တဝက်သာ ပြတ်လေလျှင် မသေ၍ လက်ဖန်အများကို ကိုက်လာသော် ကျွန်ရင်းဝရောင်းချောင်းစားကူညီ၍ ခုတ်လေမှ ကျား သေလေသည်။ လက်ဝဲမြန်အမတ် လက်ဖျံကို ကျားထိ၍ အနာရာကိုဆေးတင်၍ ကုသလေရာ သက်သာမည့် အရေးကို မြင်တော်မူသောကြောင့် စန္ဒဝိဇယရာဇာ မင်းတရားသည် ကျားဆိပ်နှင့် မသင့်သောဆေးကို တင်လေလျှင် ကျားဆိပ်တက်၍ လက်ဝဲမြန်အမတ်သည် သေခြင်းမလှ သေရလေ၏။

စန္ဒဝိဇယရာဇာမင်းတရားသည် လက်ဝဲမြန် အမတ် သေလေကြောင်းကို ကြားတော်မူလေလျှင် ငါ့သားတော် လက်ဝဲမြန်အမတ်ကဲ့သို့ တပြည်တနိုင်ငံမှ စစ်မက်ကျလတ်လျှင် အဘယ်သူကိုတိုက်အံ့နည်းဟု ငိုယိုလျက် မျက်ရည်ကျဟန်ပြုတော်မူသည်။ အားကျဟန် လည်း ပြုတော်မူသည်။ စိတ်ထဲမှာမူကား ဤအခါမှ ငါ့မှာ ရှင်းရှင်းရန်မျိုးကင်း၏ဟု အလွန်အားရတော်မူသည်။

စန္ဒဝိဇယရာဇာမင်းအား သားတော်သမီးတော်တို့ သည် များစွာရှိကုန်၏။ ရဟန်းပညာရှိ၊ လူပညာရှိတို့သည် လည်း များစွာရှိကုန်၏။ မှူးကောင်း၊ မတ်ကောင်း၊ သူရဲ ကောင်း၊ ဆင်ကောင်း၊ မြင်းကောင်းတို့သည်လည်း များစွာရှိ ကုန်၏။ လက်နက်ကိရိယာ၊ ရွှေလှေ၊ ရွှေလောင်း၊ ရွှေကျေး၊ ငွေကျေး၊ ရွှေစာမရီအစရှိသော လှေတက်တို့ သည်လည်း အလွန်များပြားများစွာ ရှိကုန်၏။

ထိုမင်းသည် လူတို့လှည့်ပတ်ပြောဆိုအပ်သော စကားကိုလိုက်နာ၍ လက်ဝဲမြန်အမတ်ကို ကျားနှင့်တိုက် သတ်၍သေလေလျှင် အားလျော့လေသောကြောင့် သမက်တော် သာမညသည် တလိုင်းကုလားတို့နှင့် ညီညာ၍ နန်းတော်ထက်တွင် ပုန်ကန်လေလျှင် အိမ်နိမ့် ၄၅၊ လေးဆဲ့ငါးနှစ်။ နန်းစံ ၂၁၊ နှစ်ဆဲ့တနှစ်။ နှစ်စုသက်တော် ၆၆၊ ခြောက်ဆဲ့ ခြောက်နှစ်။ သက္ကရာဇ် ၁၀၃၃ ခု၊ ကဆုန်လတွင် လွန်တော်မူလေသည်။ နံတော် သောကြာသားတည်း။ ၁၄။ ဤသည်ကား ဆရာငမည် ရာဇဝင်အလိုတည်း။

(ဓညဝတီအရေးတော်ပုံ၌ကား နရပတိဘွဲ့ခံ မင်းကုသလအနွယ် တဆဲ့နှစ်ဆက်အဆုံး သတိုးလှမင်း သော်ကား အပျော်အရွှင်မှုကိုသာလေ့လာ၍ တောတောင် လှည့်ပတ်နေလေရာ ရန်တင်အရပ်၌ ဆင်ကျော့ဖမ်းရာ ကျွဲရိုင်းခတ်၍ သေလွန်လေသည်။ ထိုမင်းအလောင်း ကောင်ကို မြို့သို့ရောက်မှ ရှစ်သောင်းဘုရား ရှေးမင်းတို့ သဂြိုဟ်သောအရပ်၌ သဂြိုလ်လေသည်။ သတိုးလှမင်း ကျွဲရိုင်းခတ်၍ ကောဇာသက္ကရာဇ် ၁၀၇၀ ပြည့်တွင် လွန်လေရာ အသီးအသီး နရပတိအမျိုးမှုမတ်အနွယ် ပြတ်လေသည်။ ယင်းသို့သောအခါ ကျေးရွာခေါင်းသူကြီး တို့သည် အလိုလိုသောင်း ကျန်းမင်းမူကြလေသည်။ ထိုသို့

မင်းမူကြလေသော် ခရိုခေါင်းတုံးညိုဆိုသူ အင်အားစုရုံး၍ များလတ်လျှင် အသီးအသီး သောင်းကြမ်း မင်းမူနေသူတို့ ကို တိုက်ခိုက်လေသော် သက္ကရာဇ် ၁၀၇၂ခုတွင် မြောက်ဦးမြို့၌ ထီးသစ်နန်းသစ် ဆောက်လုပ်၍ ဝိဇယရာဇာအမည်ကိုခံပြီးလျှင် မင်းပြုလေသည်။ ယင်းသို့ အကြောင်းအားဖြင့် ထင်ရှားသိစေလို၍ ရှေးပညာရှိတို့ ဆိုခဲ့သော ဝိဇယမင်းစစ်အောင်ခြင်း၌---

ဘဒ္ဒကပ်ကမ္ဘာ၊ တည်လာအစ၊ နရသာမိ၊ ဘူပတိလျှင်၊ မုနိလောင်းလျာ၊ မဟာသမ္မတ၊ ထိုကနွယ် လာ၊ ဆက်ကာ စိုးဘိ၊ ဣန္ဒြိယ၊ ဒေသတတိုင်း၊ ယှဉ်နှိုင်းတဝ၊ အယုဇ္ဈနှင့်၊ ရက္ခမဏ္ဍိုင်၊ စိုးပိုင်ကြွင်းနန်း၊ နန်းနှင့်ထီးစည်၊ ပြည်နှင့် မင်းဆက်၊ မပျက်မကွဲ၊ နန်းပွဲမြင့်ကြား၊ ယင်းသို့ရာတွင်၊ နတ်ရှင်ဘုန်းရှိ၊ သီရိသုဓမ္မ ရာဇာ၊ ညာပျော်စံမြဲ၊ နန်းပွဲမနော၊ အမစ္စာသွေး၊ ဆင်းငြိမ့်လေးကို၊ ချစ်ကြွေးရှေးဝတ်၊ တောင်ညာနတ်မူ၊ မပြတ်ဇာတိ၊ မသိတရား၊ လောင်းကြက်စားနှင့်၊ ယဉ်ပါး မိတ်ဝင်၊ ရွှေစင်ရတနာ၊ သည်းချာလည်းဆုံး၊ ကိုယ်လည်း ရှုံး၍၊ ရှေးထုံးတိမ်းပါး၊ လောင်းကြက်စားလျှင်၊ ထွတ်ဖျား ရောက်လေ၊ ကြယ်များကြွေသို့၊ အမြုတေဆီ၊ သာကီ မြတ်မျိုး၊ မှူးရိုးမတ်မွန်၊ သေလွန်ပျက်ပြုန်း၊ ညှိုးသုံးမြို့ရွာ၊ နောက်မျက်နှာ၌၊ ဘင်္ဂါကုလား၊ သက်များလည်းရှိုင်း၊ လူတိုင်းထွက်ဝင်၊ သဘင်အလွဲ၊ နန်းပွဲမလျော်၊ ထောင်ပေါ် နှစ်စု၊ ကြိုဟ်စုကိန်းရောက်၊ မင်းရိုးပျောက်၍၊ စည်ပေါက်ထီး ကျိုး၊ မတ်မျိုးဖွင့်လှစ်၊ တဆဲ့နှစ်တွင်၊ တက်သစ်နေလ၊ ဝိဇယလျှင်၊ ထောင်မှစွန်းကယ်၊ ခုနစ်ဆယ်နှစ်၊ သက္ကရာဇ် တွင်၊ ရာခေတ်စိုးအုပ်၊ နိုင်ငံချုပ်သည်၊ မရှုပ်တည့် ပြည်ရေး ရေနှယ်ဧဟူ၍ ရှေးကဆိုခဲ့သော ဝိဇယ စစ်အောင် ချေင်း၌ဆိုသည်။

ထိုမင်းလက်ထက် သက္ကရာဇ် ၁၀၇၃ ခုနှစ်တွင် ဝိဇယမင်းသည် ပဲလွန်းကြောင်း လမ်းချိုသွားတိုက်သိမ်း လေသော် ဂေါ်တော်ပလ္လင်နှင့် စစ်တကောင်းမြို့သက်မင်း ကောင်းလှဖြူကိုသာ ရတော်မူသည်။ ထို့ပြင် ကုလား ဆယ်မြို့တို့ကိုတိုက်၍ မနိုင်လေလျှင် ပင်းဝါတွင် တပ်ချ လျက် ဝိဇယမင်းနေပြီးမှ ကံသာမြို့သို့ အမတ်ရိုးစား မြအောင်ကို စေတော်မူ၍ ရှေးမင်းဆွေမင်းမျိုးအမတ်ကြီးတို့ သားမြေးတို့ကိုခေါ်စေ၍ သာကီဝင်မင်း သီရိသုဓမ္မရာဇာ မင်း၏မြေး လှအောင်နှင့် ပညာရှိအမတ်လေးမြို့စား ငလက်ရုံးသား ခင်ညို ထိုနှစ်ယောက်သာ ရလာတော်မူ သည်။ ဝိဇယမင်းလည်း ပြန်တော်မူခဲ့၍ မြို့တော်သို့ ရောက်သောအခါ ခင်ညိုကို ကိုယ်ရံကြီးအမတ် ခန့်တော် မူလေသည်။ မင်း၏မြေးတော် လှအောင်ကို သမီးတော် ဘုန်းကြွယ်နှင့် ပေးမြားတော်မူ၍ သာမဟူသော မင်းသား စားသောကျေးကို ပေးတော်မူသည်။

ထိုမင်းလက်ထက် သူငယ်တို့ဆိုသောစကား တဘောင်မှာ ကျွန်နှင့်သူကောင်း အတူပေါင်း၊ သူကောင်း ကျွန်စော်နံလိမ့်မည်ဟူ၍ ဆိုကြလေသည်။ ယင်းသို့ ဆိုကြ သော တဘောင်စကားကို သာကီဝင်မင်းမြေးလှအောင် ကြားလေသော် ငါတို့သာကီဝင်မင်းမျိုးအရိုးအစဉ်သားမြေး တို့ စောင့်အပ်သော ဇာတိဝံသကိုမပျက်စေရ။ စာမရိုင်ငှက် ပမာ အမျိုးစောင့်ထိန်းရာသည်ဟုဆိုပြီးလျှင် ယုံကျွန်တရာ ကိုခေါ်၍ ကံသာမြို့သို့ထွက်သွားလေသည်။ ဝိဇယမင်း လည်း သမီးတော် ဘုန်းကြွယ်ကို ထိုမင်းအစ်ကိုသား ချင်းဖိုနှင့် ပေးမြားလေ၍ သာမအရာကို ပေးပြန်သည်။ ကံသာမြို့တွင်ရှိနေသည့် သာကီဝင်မင်းအမျိုး မြန်မာကြီး တို့သော်ကား ယောကျ်ားမိန်းမတို့သည် မိမိအမျိုးချင်း ကိုသာ ပေးမြားကြသည်။ ထောင်ရှိသပြာ ဥစ္စာပေးနိုင်ခြင်း ကြောင့် ၎င်း၊ စည်းစိမ်ကြီးစွာရှိခြင်းကြောင့် ၎င်း ပေါင်းဖက်စပ်ရှက်၍ အခြားအမျိုးတို့ကို မပြုလေ။

ယင်းသို့ အမျိုးစောင့်သောတရား မြဲသည်ဖြစ်၍ ၎င်းဝိဇယစစ်အောင် ဧခြင်းတွင်---သာကီဝင်ပေ၊ မှန်စေအမျိုး၊ ကျင့်ရိုးမဖောက်၊ မီးတောက်ပျားစွဲ၊ စွန်ရဲပမာ၊ ဟသာ်ာပုံညီ၊ စာမရီသို့၊ မဗီတပါး၊ ယောကျ်ားမိန်းမ၊ စာဂအစုံ၊ ပိုက်ချုံမဗိတ်၊ သူ့စိတ်တချောင်း၊ အမျိုးကောင်း သား၊ မှောက်မှားတီမှာ၊ ရှိနိုင်ရာလိမ့်ဟူ၍ ဆိုလေသည်။

ဤသည်ကား ဓညဝတီအရေးတော်ပုံ၌လာသော ဝိဇယမင်း အကြောင်းတည်း။

(အချို့ရာဇဝင်သစ်၌ကား သတိုးလှမင်းသည် သက္ကရာဇ် ၁၁၃၂ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော်မူကြောင်း၊ ထိုမင်းနောက် ဝိဇယမင်းကိုကား သက္ကရာဇ် ၁၀၇၀ပြည့်တွင် ရတနာရွှေနန်းကို အသစ်စီရင်ပြုပြင်ဆောက်လုပ်တော်မူကြောင်းနှင့် ၂၂၆ တို့၌ ဆိုသည်။ အင်းစောက်ရာဇဝင်၊ ဆရာငမည်ရာဇဝင်တို့နှင့်ရင်း၊ ဓညဝတီအရေးတော်ပုံနှင့်ရင်း မညီလေသောကြောင့် အင်းစောက်ရာဇဝင်တို့၌လာသည့် အတိုင်းကိုသာ မှတ်မှာခြင်းပြုသင့်သည်။ ဤသည်ကား အမှာစကားချပ်)

ထိုစန္ဒဝိဇယမင်း လွန်တော်မူလေလျှင် သမက်တော် သာမမင်းသားသည် မိဘုရားမှောက်တော်နှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၉၃ ခု၊ ကဆုန်ကတွင် မင်းပြုတော်မူလေသည်။ ထိုမင်းသည် စန္ဒသူရိယရာဇာ ဟူသော အမည်ကိုခံတော်မူသည်။

ထိုစန္ဒသူရိယရာဇာမင်းသည် ယောက္ခမတော်ဖြစ်သော စန္ဒဝိဇယရာဇာမင်းအား သားတော်များစွာရှိသောကြောင့် နောင်ပုန်ကန်လတ္တံ့ဟု အမှတ်ရှိလျက် အိမ်ရှေ့မင်း၊ ဒါးပိုင်ကြီး၊ စည်းတင်စား၊ ကုလားတန်စား၊ ဘဖြူ ဤမင်းသား ငါးယောက်တို့ကို ဖမ်းဆီးချုပ်နှောင်ပြီးလျှင် ကျွန်းသားဖြစ်သောကြောင့် ကျွန်းသို့ပို့လေဟုသူသတ်တို့ကို အပ်တော်မူလိုက်၏။ သူသတ်လည်း မင်းသားငါးယောက်တို့ကို ယူဆောင်၍သွားလေသော် ငါရကောက်သို့ရောက်လေလျှင် ရုပ်တုတော်မဟာထီးကို ပူဇော်ကန်တော့ရမည့်အကြောင်းကို သူသတ်တို့အား ပြောဆိုတောင်းပန်ကြလေသော် သူသတ်တို့လည်း ထိုမင်းသားငါးယောက်တို့ကို ပူဇော်ကန်တော့စေ၏။ မင်းသားတို့လည်း ငါတို့ကိုသတ်သောသူကို တလှည့် တပြန်သတ်ရပါလို၏ဟု ဆုတောင်းပတ္ထနာပြုပြီးလျှင် သူသတ်တို့သည် ယူဆောင်လေ၍ ကျိန်းအရပ်ဗူးပင်တဖက် ရန်ကျွန်းတွင် သတ်အံ့ဟုကြလေသော် မင်းသားကြီး ကုလားတန်စားက ညီတော်လေးယောက်တို့ကို ဤသို့ဆို၏။ ငါတို့ညီနောင် ငါးယောက်တို့သည် သေရမည်မချွတ်ဖြစ်သောကြောင့် ကြောက်လန့်ခြင်း ကိုမပြုကြလင့်။ ဟီရိဩတပ္ပတရားကို မြဲကြစေဟုဆိုပေ၏။ သူသတ်ပရဝါတို့လည်း မင်းသားတို့ကို သတ်ကြလေကုန်၏။ အငယ်ဆုံးဖြစ်သော မင်းသား ဘဖြူသည် ကြောက်လန့်၍ထွက်ပြေးလေ၏။ သူသတ်တို့သည် ဖမ်းဆီးချည်နှောင်ပြီးလျှင် ခါးတွင် ကျောက်ထုပ်ဆွဲလျက် ရေ၌ချ၍သတ်ပစ်လေကုန်၏။ ချရာအရပ်တွင် ကျွန်းတခုပေါ်လေ၍ ထိုကျွန်းကို မင်းသားကျွန်းဟု ခေါ်ကြလေကုန်၏။ ကြွင်းသောမင်းသားများကိုကား ရဟန်းပြု၍အသီးအသီး ထားလေကုန်၏။

စန္ဒသူရိယရာဇာ မင်းတရားသည် ကျားခုတ်သော လက်ဝဲမြန်အမတ်သားတို့ကိုလည်း ပုန်ကန်လတ်မည် အမှတ်ရှိ၍ သတ်ပစ်အံ့သောငှာ သူရဲတို့ကိုခေါ်၍ ရဲဆုပေးပြီးလျှင် နန်းတော်အတွင်းကစုရုံးလျက် အစောင့်ထား၍ ကျားခုတ်သော လက်ဝဲမြန်အမတ်၏သား သံထောင်စား ညီအစ်ကိုနှစ်ယောက်တို့ကို ခေါ်တော်မူသောကြောင့် လိုက်သွားလေရာ နန်းတော်အတွင်း ဘဏ္ဍာစိုးနှင့်တွေ့လေသော် ဘဏ္ဍာစိုးက အစ်ကိုတို့ကို ခေါ်သည်မှာ အကြောင်းတခုခုကိုပြုလို၍ ခေါ်သည်ဖြစ်လတ္တံ့။ သို့ကြောင့် လက်နက်ကိရိယာကိုယူ၍သွားမှ သင့်မည်ထင်သည်ဟုဆိုလေ၏။ သံထောင်စား ညီအစ်ကို နှစ်ယောက်လည်းသွားလေ၍ မင်းအထံသို့ရောက်လေလျှင် မိုလ်ရှခံ၍နေပြီးမှ ပြန်လာကြရာတွင် ဆုစားသော သူရဲတို့သည် ထိုးခုတ်ကြမည်ကြံစည်သော်လည်း လူတို့၏ အကြားတွင်ဖြစ်၍ မထိုးမခုတ်လိုက်ရသည်ကို စန္ဒသူရိယမင်းမြင်လေရာ သံထောင်စား ညီအစ်ကိုတို့ကို ထပ်မံ၍ခေါ်ပြီးလျှင် ချိုသာသောစကားကို ပြောဆိုဟန်ပြုပြီးမှ ပြန်၍အထွက်တွင် သူရဲတို့သည် ထိုးခုတ်လိုက်လျှင် လုံ့ရာဒါးရာတို့နှင့် ထွက်ပြေးကြလေကုန်၏။

သံထောင်စားကို ဆင်တင်းကုပ်တွင် ဖမ်း၍ရလေ၏။ တယောက်ကိုကား ဝသဲဘက်သိမ်တွင်

ရလေ၏။ ထိုသူနှစ်ယောက်ကို သုသာန်တစပြင်သို့ ဆောင်ယူ၍ သတ်လေသော် ညီအငယ်ထွန်းပေါ်ရွှေသည် သတ်ရာမှလွတ်၍ ပြေးလေလျှင် ပုန်းလျှိုး၍ လုံရာ ဒါးရာ အနာတို့ကို ဆေးဝါးကုသ၍နေလေ၏။ ကွင်းသော သားတို့သည်လည်း ချမ်းသာစွာနေရလေကုန်၏။

တယောက်သော အဘယမဟာရာဇာမင်း ဖြစ်မည့်သူကိုကား စန္ဒသူရိယမင်း၏ သမီးတော်နှင့် ထိမ်းမြား၍ ပိုက်သည်စုပိုင် အရာကိုပေးတော်မူလေ၏။

ထိုစန္ဒသူရိယမင်းတရားကား သေရည်သေရက် တို့ကို နေ့တိုင်းသောက်တော်မူ၏။ နွား၏ဝမ်းတွင်းသားကို လည်း နေ့တိုင်းသုံးစားတော်မူ၏။ မင်းကျင့်တရားတို့နှင့် မညီမညွတ်၊ ကြမ်းတမ်းခက်ထန် စောင်မာန်ကြီးသည် ဖြစ်၍ မတရားသော အမူအကျင့်တို့ကိုကျင့်၍ မှူးမတ် သူကြီးတို့ကိုလည်း များစွာသတ်ဖြတ်၍ပစ်လေ၏။ ထိုမင်း၏ ကိုယ်လုပ်တော်တို့သည် ညီးငွေ့ရှုံရှာကြသည် ဖြစ်၍ အဆိပ်ဆေးခတ်လျက် သတ်ကြလေလျှင် အိမ်နိမ့် ၃၆၊ သုံးဆဲ့ခြောက်နှစ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၃၉၊ သုံးဆဲ့ကိုးနှစ်။ သက္ကရာဇ် ၁၀၉၆ ခုတွင် လွန်တော် မူလေသည်။ နံတော် ဗုဒ္ဓဟူးသားတည်း။ ၁၅။

ထိုမင်းလွန်တော်မူလေလျှင် သားတော်အိမ်ရှေ့ တက်ချေသည်။ နန်းထက်မိဘုရားနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၉၆ ခုတွင် ပြည်စည်းစိမ်ကို အုပ်စိုးတော် မူလေ၏။ နရာဓိပတိ ဟူသောအမည်ကိုခံတော်မူ၏။

ထိုမင်းလည်း ခမည်းတော်စန္ဒသူရိယမင်းကဲ့သို့ ကုသိုလ်ကောင်းမှုတရားတို့၌ မေ့လျော့၏။ တရားကို လည်း မစောင့်၊ ကြမ်းတမ်းခက်ထန်၏။ အမျက်စောင်မာန် ကြီး၏။ ဘုရားပေါ်ဘုန်းတော်ကြီးသည် နန်းတော်သို့ ကြွလာတော်မူ၍ ပရိတ်နာဆဲတွင် နန်းရှင်မယ်တော်ကို ခေါ်တော်မူ၍ ဤနေ့သည် ထီးပိုင်နန်းပိုင် သင့်သောနေ့ ဖြစ်၍ သားတော်မင်းတရားကို ကြည့်ရှုစောင့်ရှောက်ရမည် ဟု မိန့်တော်မူလျက် ကြွသွားတော်မူသည်။ မယ်တော် မိဘုရားလည်း စနဲတတ် ဘုန်းတော်ကြီးဆိုခဲ့သည့်အတိုင်း သားတော်မင်းတရားကို ကြည့်ရှုစောင်မ၍ နေလေ၏။

ထိုအခါ လက်ယာဝင်းမှူး စစ်ချီသည် မင်းအဖြစ်ကိုအလိုရှိသည်ဖြစ်သောကြောင့် မိမိအိမ်တွင် မွေးစားထားသော မြို့ကျွန်စုပ်ဖွယ်နှင့် ပန်းဖွယ်တို့ကို နရာဓိပတိမင်းအား လုပ်ကြံချေဟုစေလိုက်၏။ စုပ်ဖွယ်၊ ပန်းဖွယ်တို့လည်းသွားလေ၍ ရွှေဝင်းတော်အနားသို့ ရောက်ကြလေလျှင် ကိုယ်လုပ်တော်ဗိုလ်ပါနှင့် မိန်းမတို့ သည် လှေကားထောင်၍ ပေးလာကုန်၏။ စုပ်ဖွယ်၊ ပန်းဖွယ်တို့လည်း ထိုလှေကား ဖြင့်တက်၍လိုက်လံရှာဖွေ လေလျှင် နန်းတော်တောင်တံပြင်းဝယ် စကြံသွားနေစဉ် တွင် စုပ်ဖွယ်နှင့်ပန်းဖွယ်တို့သည် လှံနှင့်ထိုးလိုက်လေလျှင် နရာဓိပတိမင်း လဲတော်မူလေ၏။

မယ်တော်မိဘုရားလည်း သားတော်မင်းတရား သည် သွားလာသော ခြေသံကိုမကြားသောကြောင့် သွား၍ကြည့်ရှုလေသော် သားတော်အလောင်းကို လှံရာနှင့်အူထွက်၍နေသည်ကို မြင်လေလျှင် ဘုရားပေါ် စနဲတတ် ဘုန်းတော်ကြီးဆိုသော စကားသည်မှန်ချေပြီဟု မှူးတော်မတ်တော်တို့ကိုခေါ်တော်မူ၍ စစ်တန်ဆာအစုံနှင့် ပရိဝုဏ်တံခါးဝင်းသုံးထပ်တွင် အပြည့်စောင့်နေတော်မူ စေ၏။ မိုးသောက်လတ်လျှင် လက်ယာဝင်းမှူးစစ်ချီသည် သူရဲသုံးရာနှင့် မင်းပြုမည်ဟု ကြံလေသော် မမြောက်ဘဲ ရှိလေ၏။

မယ်တော်မိဘုရားလည်း သားတော်နရာဓိပတိ မင်းကို ညှဉ်းဉ်ပုန်ကန်လာသော သူတို့ကို ရှာဖွေလေသော် ဝင်းမှူး စစ်ချီနှင့် စုပ်ဖွယ်၊ ပန်းဖွယ်တို့ကို ရလေလျှင် သတ်၍ပစ်လေ၏။ ကိုယ်လုပ်တော် ဗိုလ်ပါနှင့်မိန်းမတို့ကို လည်း သချီတည်လေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁၊ နှစ်ဆယ့် တနှစ်။ နန်းစံ ၁၊ တနှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့နှစ်။ သက္ကရာဇ် ၁၀၉၇ ခုတွင်လွန်တော်မူ သည်။ နံတော် တနင်္လာသားတည်း။ ၁၆။

ထိုမင်းလွန်တော်မူလေလျှင် မယ်တော်မိဘုရား သည် မှူးတော်မတ်တော်တို့နှင့်တိုင်ပင်၍ သားတော်

လောင်းကြက်စားခွေးချေကို နန်းတော်မိဘုရားနှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၉၇ ခုတွင် မင်းပြုစေတော်မူလေ၏။ ပြည်သူပြည်သားတို့သည်လည်း လောင်းကြက်စား ခွေးချေမင်းဖြစ်လေသည်ကို နားဝပါးဝမျှ မသိလေဟု ဆိုသောကြောင့် နဝပဝရာဇာဟုဆိုကြကုန်၏။ တံဆိပ် အမည်တော်ကား နဝပဝရရာဇာဟူသောတံဆိပ် နာမံခံတော်မူ၏။

ထိုအခါ သူငယ်တို့တဘောင်ဆိုလတ်သည်ကား အသူရောက်မည်၊ ငှက်ထောက်ကျော်သည်၊ ဒေါ်တံခါးမှာ လူးလာခတ်၍၊ မြည်လတ်သည်ဟု ဆိုကြ လေသည်။ ယင်းသို့ဆိုသည့်အကြောင်းကို ပြည်သူတို့ လျှောက်ထားလေလျှင် နဝပဝရရာဇာမင်းသည် လက်ယာမြန်ထောက်ကျော်ကို ခေါ်တော်မူပြီးလျှင် သတ်၍ ပစ်တော်မူလေ၏။

ရမ္မာဝတီမည်သော ရမ်းပြည့်ကျွန်းတွင် ကန်ထိုင်းရွာ၌ သူကြီးငမဲသည် ရွာသူတို့ထံ ကြေးငွေ ကောက်ခံ၍စားသည်ဟု နဝပဝရရာဇာမင်း၏ ဦးရီးတော် ဆင်ကဲကို တဆဲ့နှစ်ရွာသားသူကြီးတို့သည် လျှောက်လာသော် အသက်ကိုမသေစေနှင့်၊ အိမ်ထောင်ကြေအောင် ပြုလေဟု အမိန့်တော်စာတံဆိပ်ခတ်နှိပ်လျက် ပေးလိုက်သည်။ ထိုတဆဲ့နှစ်ရွာ သားလူကြီးတို့သည်လာခဲ့ပြီးလျှင် ကန်ထိုင်းရွာသူကြီးငမဲကို အိမ်ထောင်ကိုဖျက်၍ အသက်သေအောင်သတ်ကြလေကုန်၏။ သူကြီး ငမဲသားမြေးတို့သည် ရွှေမြို့တော်သို့လာရောက်၍ နဝပဝရရာဇာမင်းကို လျှောက်ထားလာပြန်သော် နဝပဝရရာဇာမင်းသည် ရမ်းပြည့်တဆဲ့နှစ်ရွာသား လူကြီးတဆဲ့နှစ်ယောက်တို့ကို ခေါ်ချေတော်မူစေ၍ စစ်ဆေးမေးမြန်းတော်မူလေသော် ဦးရီးတော်ဆင်ကဲကြီး တံဆိပ်ခတ် စာပေးသောကြောင့် သတ်၍ပစ်သည်ဟု လျှောက်ကြလေလျှင် ဦးရီးတော်ဆင်ကဲကြီးကို ခေါ်တော်မူ၍ မေးတော်မူရာ ဦးရီးတော်ဆင်ကဲကြီးက ဟုတ်မှန်ပါကြောင်းနှင့် လျှောက်ထားလေလျှင် နဝပဝရရာဇာမင်းက စစ်မေးပြင်၍ သူရဲကောင်းကို အလိုရှိအပ်၏။ အမှုကြီးငယ်ပြဖွယ်ကိစ္စရှိရာ၌ ခင်ပွန်းကောင်းကို အလိုရှိအပ်၏။ ရန်သူကိုအောင်လိုလျှင် ဥပါယ်မာယာ၌ လူလိမ္မာတို့နှင့်တိုင်ပင်၍ ဆီးတားကာကွယ်ပြုလေဟု မိန့်တော်မူ၏။ ဦးရီးတော်ဆင်ကဲကြီးလည်း ရမ်းပြည့်ကျွန်း တဆဲ့နှစ်ရွာသား လူကြီးတဆဲ့နှစ်ယောက်တို့ကိုခေါ်၍ ချိုသာစွာပြောဆိုလျှင် ငါပေးလိုက်သောစာတွင် ဆင်ခြင်စကား အဘယ်သို့ပါလေသနည်း၊ ကြည့်ပါရစေဟု တောင်းလေလျှင် ရမ်းပြည့်ကျွန်းတဆဲ့နှစ်ရွာသား လူကြီးတဆဲ့နှစ်ယောက်တို့လည်း စာကိုထုတ်ပြလေ၏။ ဆင်ကဲကြီးလည်း စာကိုရခဲ့လျှင် ဆုတ်ဖျက်၍ပစ်လေ၏။ ထိုအကြောင်းကို နဝပဝရရာဇာမင်းသိလေလျှင် သူကြီး ငမဲကိုသတ်၍ပစ်ရန် ပေးသောတံဆိပ်စာကို အပ်ရမည်ဟု တောင်းတော်မူလေလျှင် ရမ်းပြည့်ကျွန်း တဆဲ့နှစ်ရွာသား လူကြီးတို့က မပေးမအပ်နိုင်သောကြောင့် နင်တို့ပင် ငါကထားသည့်သူကြီးကို ပုန်ကန်ကြသည် မဟုတ် တုံလောဟု မိန့်တော်မူ၍ ထိုတဆဲ့နှစ်ရွာသား လူကြီး များကို သတ်၍ပစ်လေ၏။ ထိုနဝပဝရရာဇာမင်းကား အိမ်နိမ့်မှ ၂၀၊ နှစ်ဆယ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စုသက်တော် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ သက္ကရာဇ် ၁၀၉၉ ခု၊ တော်သလင်းလ တွင်လွန်တော်မူလေ၏။ နံတော် ကြာသပတေးသား တည်း။၁၇။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်းကြီး၏ ဘကြီးတော်သားဖြစ်သော ညီတော်သည် နန်းတက် မိဘုရားနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၉၉ ခု၊ တော်သလင်းလတွင် ရွှေနန်းတက်တော်မူလေ၏။ ထိုမင်းကား စန္ဒဝိဇယရာဇာဟူသောအမည်ကို ခံတော် မူ၏။

ထိုအခါ၌ စေတုတ္တရာ လောင်းရှည်အရပ်က ချင်းတို့သည် ဆင်းရောက်လာ၍ လေးမြို့ချောင်းကို ဖျက်ဆီးလေသောကြောင့် တပ်စောင့်ထားသော ကုလား ကတ္တျာသည် လေးမြို့ချောင်းမှပြေးလာ၍ ရွှေဝင်းတော်

တောင်ဘက် အပေါက်တံခါးဝကဝင်ပြီးလျှင် ရှမ်းတောင်သို့တက်၍ ပင်းဝါသား ကုလားခြောက်သောင်းတို့နှင့် ပြောင်းတပ်တည်ပြီးလျှင် သက္ကရာဇ် ၁၀၉၉ ခု၊ တန်ခူးလဆန်းနှစ်ရက်၊ တနင်္လာနေ့၊ ညဥ့်သန်းခေါင်အချိန်တွင် ရွှေနန်းတော်ကို ပြောင်းလက်နက်ဖြင့်ပစ်လေ၏။ စန္ဒဝိဇယရာဇာမင်းလည်း ညဥ့်သန်းခေါင်ဖြစ်သောကြောင့် ကြံစည်အံ့သောငှာ မတတ်နိုင်သည်ဖြစ်၍ မိဘုရားမောင်းမမိဿံတို့ကိုယူဆောင်လျက် ရွှေမြို့တော်မြောက်တံခါးမှ ထွက်သွားတော်မူ၍ ရှစ်သောင်းဆရာတော်ကျောင်းတွင် ပုန်းအောင်း၍နေတော်မူလေ၏။ ကုလားကတျာလည်း ရွှေနန်းတော်ကိုရလေ၏။ မိုးသောက်လတ်လျှင် စန္ဒဝိဇယရာဇာမင်းလည်း အမတ်တော် စစ်ကဲကြီး၊ သူငယ်တော်ကြီး၊ ပိုက်သည်ပိုင်စသော အမတ်တို့နှင့် ခြံရံ၍ ဝေါပြာသဒ်တော်စီးလျက်ချီလာပြီးလျှင် ရက္ခတောင်အရပ်က စစ်ခံတော်မူလာ၏။

ကုလားကတျာနှင့် တိုက်ကြလေသော် ကုလားကတျာလည်း ရေပေါက်ဝတံခါးကနေ၍ သေနတ်လက်နက်တို့နှင့်ပစ်လေသော် သေနတ်လက်နက်ထိမှန်၍ စန္ဒဝိဇယရာဇာမင်းသည် လွန်တော်မူလေလျှင် စစ်သည်ဗိုလ်ပါတို့သည်ပျက်၍ ပြေးကြလေကုန်၏။ ထိုမင်းကား အိမ်နိမ့် ၂၂၊ နှစ်ဆဲ့နှစ်နှစ်။ နန်းစံ ၈ လ၊ ရှစ်လ။ နှစ်စုသက်တော် ၂၂၊ ၈ လ၊ နှစ်ဆဲ့နှစ်နှစ်၊ ရှစ်လ။ သက္ကရာဇ် ၁၀၉၉ ခု၊ တန်ခူးလဆန်း သုံးရက်၊ အင်္ဂါနေ့တွင် လွန်တော်မူလေသည်။ နံတော် သောက်ကြာသားတည်း။၁၈။

ထိုမင်း လွန်တော်မူလေလျှင် ကုလားကတျာသည် သက္ကရာဇ် ၁၀၉၉ ခု၊ တန်ခူးလဆန်းသုံးရက်၊ အင်္ဂါနေ့တွင် ကုလားသူရတန်ရာဇာဟူသောအမည်ကို ခံလျက် မင်းပြုတော်မူလေ၏။ မင်းပြုတော်မူပြီးလျှင် ကုလားအပေါင်းတို့နှင့် စုဆောင်းတိုင်ပင်၍ ပြည်တွင်းပြည်ပတို့၌ တိုက်ခိုက်လုယက်ဖျက်ဆီးကုန်၏။ သိမ်ကျောင်းတို့၌ရှိသော ရွှေဆင်းတု၊ ငွေဆင်းတုတို့ကို ယူကုန်၏။ ကုလားဆရာဖြစ်သော ခေါင်းတကာ၊ မောလာ၊ ဖောက်ကျီ၊ တသီဘိနာတို့သည်ရုံးစု၍ သိမ်ကျောင်းတို့ကို ပိုင်ရှင်ခံယူ၍နေကြကုန်၏။

ကတျာသူရတန်မင်းထံလည်း သွားလာတက်သက်၍ ဒူးထောင်ပေါင်ကြားပြုလုပ်ကုန်လျက် အားရှိအားမဲ့ပြုကြလေသော် ဆင်ကဲကြီး၊ သူငယ်တော်ကြီး၊ ပိုက်သည်ပိုင်စသော အမတ်ဗိုလ်ပါတို့သည်ပေါင်းစု၍ ကုလားကတျာ သူရတန်မင်းကို ဝန်းရံ၍တိုက်ကြလေ၏။ ထိုအခါ ကဋ္ဌပနဒီ မြစ်ညာဖျားသို့နေသော ကုလားတို့သည်များစွာပေါင်းစု၍ တိုက်စည်တိုက်မောင်းတီး၍ တိုက်အံ့ဟုချီလာလျှင် ဆင်ကဲကြီး၊ သူငယ်တော်ကြီး၊ ပိုက်သည်ပိုင်စသော အမတ်ဗိုလ်ပါတို့ ဆီး၍တိုက်လေလျှင် ကုလားတို့သည် ထွားထွားညက်ညက်ပျက်စီး၍ ပြေးလေကုန်၏။

ကုလားကတျာသူရတန်မင်းလည်း အကြောင်းကိုကြားလေလျှင် ကဋ္ဌပနဒီအညာဖျားသို့ ပြေးလေ၏။ ဤကုလား သူရတန်ရာဇာမင်းကား ရွှေနန်းတော်ထက်တွင် သုံးရက်စိုးအုပ်ခဲ့၍နန်းကျလေသည်။ ထိုမင်းကား အိမ်နိမ့် ၂၄၊ နှစ်ဆဲ့လေးနှစ်။ နန်းစံ ၃ ရက်၊ သုံးရက်။ နှစ်စုသက်တော် ၂၄၊ နှစ်ဆဲ့လေးနှစ်။ သက္ကရာဇ် ၁၀၉၉ ခု၊ တန်ခူးလဆန်းခြောက်ရက်၊ သောကြာနေ့တွင် နန်းကျတော်မူလေသည်။ နံတော်အင်္ဂါသားတည်း။ ၁၉။

ထိုကုလားသူရတန်မင်း နန်းကျလေလျှင် စန္ဒဝိဇယမင်း၏ ညီတော်အိမ်ရှေ့မင်းသည် မိဘုရားရွှေရည်နှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၁၀၉၉ ခု၊ တန်ခူးလတွင် ရွှေနန်းတက်တော်မူလေ၏။ ထိုမင်းကား မှူးမတ်ပြည်သူတို့သည် ချစ်ခင်မြတ်နိုးလေသောကြောင့် မေတ္တာရစ်ရာဇာဟူသောအမည်ကို မှည့်ခေါ်ကြ၏။ သူငယ်တော်သူကြီးကိုလည်း လက်ယာမြန်အရာကို ပေးတော်မူသည်။ ပိုက်သည်ပိုင်အမတ်ကိုလည်း သံထောင်စားအရာကို ပေးတော်မူ၏။

ကုလားသူရတန်မင်းကတျာသည် ကစ္ဆပနဒီမြစ်ညာ၌ နေရာဝယ် ရွာသားတို့ဖမ်း၍ ပေးဆက်လာလျှင် သတ်၍ပစ်လေ၏။ ထိုမေဃ္ဃရစ်မင်းကား ပဥ္စသီ၊ အဋ္ဌသီ၊ ဒသသီ သီတင်းသုံးခြင်းတို့၌ မွေ့လျော်၏။ ဒါနစသော ကုသိုလ်ကောင်းမှုကိုပြုခြင်း၌ လွန်စွာအားထုတ်ပြုလုပ်ကြိုးပမ်းတော်မူ၏။ သာသနာတော်ကိုလည်း စည်ပင်ထွန်းလင်းသာယာအောင် ချီးမြှင့်ထောက်ပင့် ပြုစုတော်မူ၏။ ထိုမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၅၊ ငါးနှစ်။ နှစ်စုသက်တော် ၂၅၊ နှစ်ဆဲ့ငါးနှစ်။ သက္ကရာဇ် ၁၁၀၄ ခု၊ တပို့တွဲလဆန်း ဆယ်ရက်၊ တနင်္ဂနွေနေ့တွင် အနာဆိုးဖြစ်၍ လွန်တော်မူလေသည်။ နံတော် တနင်္လာသားတည်း။၂၀။

ထိုမေဃ္ဃရစ်မင်း လွန်တော်မူလေလျှင် ဘထွေးတော် အိမ်ရှေ့မင်း၏ ခမည်းတော်သည် မိဘုရားစောသန္တာဝေနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၀၄ ခု၊ တပို့တွဲလဆန်းဆယ်ရက်၊ တနင်္ဂနွေနေ့တွင် ပြည်၏စည်းစိမ်ကို အုပ်စိုးတော်မူ၏။ အမျိုးလေးပါးတို့အား ဘေးရန်မရှိစေသည်ကိုအကြောင်းပြု၍ နရအဘယရာဇာဟူသော အမည်ခံတော်မူသည်။

ထိုမင်းနန်းတက်၍ နှစ်နှစ်၊ သက္ကရာဇ် ၁၁၀၆ခု၊ တပို့တွဲလဆန်း ဆယ်ရက်၊ ဗုဒ္ဓဟူးနေ့တွင် နရအဘယရာဇာမင်းက အရှေ့ဟံသာဝတီပြည်ကိုအစိုးရသော ဆင်ကျားသခင်ဘွဲ့ခံ သမိန်ထောမင်းတိုင်းပြည်ကို တိုက်ချေပာ့ ခမက်တော် လက်ယာမြန်ဂူတာကို စေလွှတ်တော်မူလိုက်၏။ လက်ယာမြန်ဂူတာလည်း သူရဲလက်နက်ကိရိယာ ပြောင်းမြတမျိုးတင်သော လှေအစင်းသုံးရာနှင့် ချီထွက်လေလျှင် တောင်ခွင်ကြိမ်သလီသို့ရောက်လေသော် လူသူအပြည့် သမ္ဗာန်တစင်းကိုသိမ်းယူ၍ ထိုအရပ်က ချီလေလျှင် ဒလမြို့သို့ရောက်လေ၏။ ဟံသာဝတီ တလိုင်းမင်း သမိန်ထော၏ အမတ်စစ်တောင်းစားသည် များစွာသောရဲမက်ဗိုလ်ပါနှင့် ညောင်ပင်ကြီး တပင်အောက်တွင် ကာပျဉ်နှင့်တပ်တည်၍နေလာ၏။ အဘယမဟာရာဇာမင်းဖြစ်မည့်သူ သံထောင်စားသည် ညောင်ပင်ကြီးကို ဖောက်ထွင်း၍ကျိုးလေလျှင် ညောင်ပင်ကြီးပိ၍ တလိုင်းငါးရာတို့သည် သေကြေပျက်စီးကြလေကုန်၏။ စစ်တောင်းစားနှင့် ကြွင်းသော တလိုင်းများသည် ထွက်ပြေးလေလျှင် ငါတို့ရခိုင်စစ်သည်တို့သည် ပုသိန်၊ ရန်ကုန်၊ ခနေဖြူ၊ ဟံသာတ၊ ရေဝတီလက်ဝဲ လက်ယာ၌နေသော တလိုင်းအောက်သား မြန်မာတို့ကို တိုက်ခိုက်ဖျက်ဆီး၍ များစွာယူဆောင်ခဲ့ကုန်၏။ တလိုင်းအမတ် ဝေန်စားကိုလည်း မယားငါးယောက်နှင့်တကွ ရခဲ့ပေ၏။ ယင်းသို့ ဟံသာဝတီပြည်မှ ကိုယ့်ပြည်သို့ ပြန်လို၍ ရေးသားစပ်ဆိုအပ်သောလင်္ကာမှာ---

လွှန်းဟုန်ခြင်းကောက်၊ တဘောက်ဘောက်နှင့်၊ ချီးမြှောက်မီးပွဲ၊ တပို့တွဲဟု၊ ကြွင်းမြဲငါးရက်၊ စန်းယှဉ်ဖက်တွင်၊ ချမ်းလျက်နှင့်တုန်၊ တပေါင်းကုန်၍၊ ကြိုက်ကြုံပွင့်လန်း၊ တန်ခူးဆန်းသော်၊ ရေသွန်းသဘင်၊ လဟောင်းတွင်ကား၊ ချစ်ရှင်ထွတ်ထား၊ ဘုရားမိန့်မှာ၊ ချိန်ခါပန်းမန်၊ ဆင် ချိန်တန်၍၊ အမှန်လသစ်၊ အတာဖြစ်မူ၊ ရှင်ချစ်ဘုရား၊ သူတော်များတို့၊ တရားစောင့်ကာ၊ အရိယာပေါင်း၊ သူတော်ကောင်းအား၊ ဆွမ်းလောင်း ကျွေးကာ၊ ဆီနံ့သာနှင့်၊ အိပ်ရာချိုးရေ၊ စုံစေမကြွင်း၊ ချိုချဉ်ခင်း၍၊ ရေသွင်းနှင့်ဖျော်၊ လျှပြီးသော်မှ၊ နှစ်ဖော်တူပင်၊ သိမ်တွင်ပတ်ကုံး၊ သီတင်းသုံး၍၊ နိဂုံးဖနှပိဒ်၊ သိုက်မြိုက်သေချာ၊ နှစ်ရာပြည့်လုပ်၊ နှစ်မြို့ရုပ်တွင်၊ ရံချုပ်ပြောင်ပြောင်၊ ခြင့်ဆောင်ယူနော၊ သောင်းမျက်နှာတွင်၊ မပြင်ပြိုင်တူ၊ မဥ္ဇူနောတတ်၊ တောင်မြတ်မြင်းမိုရ်၊ နှုန်းဆိုမမြင်၊ ထုံးပုံထင်သို့၊ မျက်ရှင်ပတ္တမြား၊ တံခွန်လွှားလျက်၊ သိကြားမြို့တူ၊ ရန္တာသူမခ၊ အယုဇ္ဈဟု၊ ညောဝတီ၊ မြို့သီဂီသို့၊ ပြန်ချီကာလ၊ တန်ကောင်းစွဟု၊ ဖြစ်ကြစိတ်တူ၊ တောင့်တမူ၍၊ ရှင်လူရဟန်း၊ မျိုးကိုလွှမ်းလျက်၊ တခွန်းစကား၊ ဆက်မပြားတည့်၊ သည်းကြားလွန်ကြင်၊ မွေးဖခင်တို့၊ ရွှေရင်မခွဲ၊ ကြာမြင့်မြဲ၍၊ ဝမ်းထဲပူလောင်၊ မျက်တောင်မရက်၊ ပိုက်ဖက်သားကို၊ ရင့်ကျူးငိုသည်၊ လွှမ်းဆို

ရက်ရှည်ကြာလတ်သည်ဟူ၍ ရဲဖွဲ့၍ဆိုလေသည်။

သက္ကရာဇ် ၁၁၀၇ ခု၊ ဝါကျွတ်လတွင် အနောက် ကုလားပြည်သို့ ဟာရမားတိုက် လက်ယာမြန် ဂူတာကို စေလွှတ်တော်မူလိုက်၏။

သက္ကရာဇ် ၁၁၀၉ ခု၊ တပို့တွဲလတွင် နောင်တော် လက်ဝဲမြန်ကို ကျောက်ပန်းတောင်းမြို့သို့ ရုပ်တုတော် မဟာဂျီကိုအပင့်စေလွှတ်တော်မူ၏။ လက်ဝဲမြန်လည်းသွားလေ၍ မိချောင်းသို့ရောက်လေသော် မြို့သူကြီး ပေင်ကို ခရီးလမ်းညွှန်စေ၍ သွားပြန်လေသော် ကျောက်ပန်း တောင်းမြို့ဟောင်းသို့ရောက်လေလျှင် မဟာဂျီရုပ်တုတော်ကို ဖူးမြော်ရလေ၏။ ယင်းသို့ ဖူးမြော်၍နေစဉ် ရတနာ စံဦးဆရာတော်လည်း မဟာဂျီ ရုပ်တုကိုပင့်တော်မူရန် ကြွလာတော်မူလျက် ရုပ်တုတော် မဟာဂျီတပါးကိုပင့်ယူတော်မူလေသည်။ ကျန်ရုပ်တုတော် မဟာဂျီတပါးကို လက်ဝဲမြန်အမတ် ပင့်ဆောင်တော် မူလျက် နရအာဘယရာဇာမင်းအား ဆက်သတော်မူလေလျှင် နရအာဘယရာဇာမင်းနေတော်မူသော တောင်နန်း ဆောင်၌ရတနာစီခြယ်သော ပြာသာဒ်ဆောင်တွင် ကိန်းဝပ်တော်မူစေလျက် ကိုးကွယ်တော်မူသည်။ ဤရုပ်တုတော် မဟာဂျီကို ရှေးမင်းအဆက်ဆက်တို့သည် ပင့်ဆောင်၍ မရလေ။ နရအာဘယရာဇာ မင်းလက်ထက်မှ ပင့်ဆောင် ရယူတော်မူ၍ကိုးကွယ်ရလေသတည်း။

တရံရောအခါ စန္ဒဝိဇယရာဇာမင်း၏ သားတော်ဖြစ်သော ပြလုနှင့်ကြောင်ချေးတို့သည် ကျိန်းအရပ်က လှေနှစ်စင်းနှင့်လာ၍ တောင်ဘက်အရပ်ပေါက်ပင် တံခါး က ဝါးလှေကားထောင်၍တက်ပြီးလျှင် ကိုယ်လုပ်များ နေရာ တဲအိမ်ကိုမီးတိုက်လျက် သက္ကရာဇ် ၁၁၀၉ ခု၊ တပေါင်းလဆုတ်တဆဲ့တရက်၊ တနင်္လာနေ့တွင် ညဉ့်အခါ ဝယ် နရအာဘယရာဇာမင်းကို ပုန်ကန်လာ၏။ သားတော် အမ်းစားနှင့် ကိုယ်ရံတော် အစောင့်အရှောက်တို့ဆီးခံ၍ တိုက်လေသော် မင်းသားပြလုသည် နာရီစင်နန်းရှေ့တွင် သေလေ၏။ မင်းသားကြောင်ချေးကား ပေါက်ပင် တံခါးဝတွင် သေလေ၏။ မိုးသောက်လျှင် ပြလုတို့နှင့် တဖတည်း ညီအစ်ကို ရဟန်းပြု၍နေသောလေးတောင်စား မင်းသားစံရွှေတို့ကို နရအာဘယရာဇာမင်းက ပင့်ခေါ်၍ ပြလု၊ ကြောင်ချေးတို့ ပုန်ကန်ရာသို့ ပါသည်မပါသည်ကို မေးမြန်းစိစစ်ရာမပါကြောင်းနှင့် ပြောဆိုသော်လည်း နရအာဘယရာဇာမင်းက မယုံလေသောကြောင့် သုသာန် ခုနစ်ရက်စောင့်မှ လွှတ်လေသည်။

တကြိမ်တုံလည်း မိချောင်းဖျား၌နေသော မြို့သင်းကြီးသည် ရိုင်းပျလေသောကြောင့် နရအာဘယ ရာဇာမင်းလည်း မြို့သင်းကြီးကို ဆုံးမစိမ့်သောငှာ အမတ်တော်ဆင်ကဲကြီးကို စေလွှတ်တော်မူလိုက်၏။ ဆင်ကဲကြီးလည်း များစွာသော ရဲမက်ဗိုလ်ပါနှင့် သက္ကရာဇ် ၁၁၁၀ ပြည့်၊ တပို့တွဲလတွင် ချီသွား၍ တိုက်လေလျှင် ပျက်စီး၍ပြန်လာရကုန်၏။ ယင်းသို့ ပြန်လာပြီးနောက် နရအာဘယရာဇာမင်းသည် လင်္ကာ တပုဒ်ရေးသားစေ၍ ခမက်တော် လက်ယာ မြန်ဂူတာနှင့် အမတ်သုံးထောင်တို့ကို ကုလားတန်၊ မိချောင်းသို့ စေတော်မူလိုက်ပြန်သည်။ လင်္ကာမှာ----

ရှစ်သောင်းလေးထောင်၊ မြင့်ခေါင်စိုးခြင်း၊ သိကြားမင်းနှင့်၊ ပုံခင်းနှိုင်းဆို၊ လူဗိုလ်ငြိမ်းချမ်း၊ လမင်း ထွန်းသို့၊ ရွှေနန်းမဏ္ဍိုင်၊ ရခိုင်တောင်စွန်း၊ ဘုံကြငှန်းထက်၊ ဖုံးလွှမ်းအာဏာ၊ မင်းရေးရာနှင့်၊ မဟာပွင့်လောင်း၊ တည်တုံချောင်း၍၊ မတ်ပေါင်းဝန်းရံ၊ ဗိုလ်ရှုခံလျက်၊ တောင်စွန်ညာက၊ မိန့်တော်ချသည်၊ ပိုင်သခွန်ပို့၊ ညာမြို့ရပ်ခွန်၊ ကုလားတန်ဝယ်၊ နိုက်ရုန်မပြု၊ နိုးသူမုဒိမ်း၊ ရန်စစ်ငြိမ်းစေ၊ တပ်တည်ချေဟု၊ သပြေတံခွန်၊ ဘုန်းသန်လူ့ဘ၊ ဝါကျွတ်လဝယ်၊ ကေရက်ကြွင်း၊ ဆောင်းတလင်း၌၊ လမင်းတန်ဆောင်၊ တပြောင်ပြောင် လျှင်၊ တောင်သို့လှည့်သွား၊ ငွေရထားဖြင့်၊ လျှင်လျား သို့သို့၊ နှင်းစိုစိုဝယ်၊ လေချိုပျံ့သင်း၊ အချမ်းပြင်း၍၊ မိမင်းတူပင်၊ မျိုးတွင်ထိပ်ပန်၊ မတ်ကောင်းကျွန်ကို၊ အလွန် ရက်ရှည်၊ ကြာမတည်အောင်၊ လေးမည်ငါးဖြာ၊

ငါးရာမြစ်မ၊ ကစ္ဆပဟု၊ စီးကျဖွန်တက်၊ နှစ်ဖက်သို့နှော၊ တောင်နှင့်တောဝယ်၊ မြကြောရှည်နိုင်၊ ခက်ချင်းဆိုင်၍၊ သံပြိုင်ရင့်ရှ၊ ခြိုးကြူကျေးငှက်၊ ဆက်ရက်ဥဒေါင်း၊ တသောင်းသောင်းသည်၊ လမ်းကြောင်းလမ်းစဉ် မြည်လိမ်သော်။ ဤလင်္ကာကို ရေးသားပေးအပ်လျက် စေလွှတ်တော်မူလိုက်သည်။

ခမက်တော်လက်ယာမြန်ဂူတာနှင့် အမတ်သုံးထောင်တို့ဆန်သွား၍ မိချောင်းသို့ ရောက်ကြလေလျှင် မြို့သင်းကြီးကိုတိုက်လေသော် သက္ကရာဇ် ၁၁၁၂ ခု၊ တပို့တွဲလတွင် ဟရမားတိုက်၍ ပျက်စီးလေ၏။ တပေါင်းလတွင်ကား နရအာဘယရာဇာမင်းသည် ရွာတော်ပျားတဲတွင် ကောင်းမှုတော်သိမ်ကို ပူဇော်ကန်တော့ပြုတော်မူ၏။

တကြိမ်တုံလည်း နရအာဘယရာဇာမင်းသည် ခမက်တော်လက်ယာမြန်ဂူတာကို ဗိုလ်မှူးပြု၍ ဗိုလ်မင်းသန်လျက်စွဲ၊ မင်းကန်ကျင်သန်တို့နှင့် သူရဲဗိုလ်ပါတို့ကို အနောက်ပြည်သို့ ချီစေတော်မူ၏။ လက်ယာမြန်ဂူတာလည်း များစွာသော ရဲမက်ဗိုလ်ပါနှင့် သက္ကရာဇ် ၁၁၁၃ ခု၊ တော်သလင်းလတွင် ချီသွားကြလေသော် ဒါဂါစားအာကာပေါက်ကဆီးခံ၍ တိုက်လေသောကြောင့် စစ်သည်တော်တို့သည် ပျက်စီး၍ပြန်ခဲ့ရကုန်၏။

သက္ကရာဇ် ၁၁၁၄ ခု၊ နယုန်လတွင် အနောက်ပြည်က မင်းစေတမန်လွှတ်၍ ရောက်လာ၏။

သက္ကရာဇ် ၁၁၁၅ ခု၊ ဝါခေါင်လမှသည် တန်ဆောင်မုန်းလတိုင်အောင် သင်္ဘောများရောက်လာ၏။ ထိုသင်္ဘောတို့၌ ရွှေတုံး၊ ငွေတုံးများပါ၏။ ကုလားအုတ်ခုနှစ်စီးပါ၏။ ခွေးကြီးတကောင်ပါ၏။

ထိုသက္ကရာဇ်တွင် စန္ဒဝိဇယရာဇာမင်း၏ သားတော် သာမသည် အနောက်ပြည်ကုလားမင်းထံ စစ်ပန်၍ နရအာဘယရာဇာမင်းကိုတိုက်အံ့ဟု သူရဲများစွာနှင့် ချီလာရာခရီးအကြား ဒါဂါမြို့သို့ရောက်လျှင် မင်းသားသာမသည် သေဆုံးလေ၏။ သေဆုံးလျှင် ကုလားစစ်သည်တို့လည်း ပြန်သွားကြလေ၏။

တကြိမ်တုံလည်း နရအာဘယရာဇာမင်းသည် ခမက်တော်လက်ယာမြန်ဂူတာကို အနောက်ကုလားပြည်သို့ စေတော်မူလိုက်၍ သက္ကရာဇ် ၁၁၁၆ ခု၊ တပေါင်းလတွင် ချီသွားလေသော် ပင်းဝါ၊ စစ်တကောင်းအရပ်ဝယ် မြစ်နားကမ်းခြေ၌နေသော ကုလားတို့ကိုတိုက်ခိုက်၍ များစွာသိမ်းယူခဲ့၏။ ကျွဲနွားတို့ကဲ့သို့ ဈေးမှာတင်၍ရောင်းချ၏။ ကျောင်းအိမ်စသည်တို့၌ ကျွန်သပေါက်ဖြစ်စေ၏။

ထိုသက္ကရာဇ် တန်းခူးလတွင် အနောက်ကုလားပြည်ကိုစေလွှတ်တော်မူ၍ ချီသွားတိုက်ခိုက်လေသော် တောင်ဘက်မြို့သစ်စားကို ဖမ်း၍ရလေ၏။

ထိုနရအာဘယရာဇာမင်းလက်ထက် အင်းဝပြည်ကို အစိုးရသော ဆင်ဖြူရှင် မဟာဓမ္မရာဇာဓိပတိ အမည်ရှိသော ဟံသာဝတီရောက်မင်းနှင့် ဟံသာဝတီပြည့်ရှင်ဆင်ကျားသခင် တလိုင်းမင်းသမိန်ထောတို့ အကြိမ်ကြိမ်စစ်ပွဲဆင်၍တိုက်ကြလေသော် အင်းဝဆင်ဖြူရှင်မင်းရှုံးသောကြောင့် မင်းမိဘုရားပြည်သူတို့ကို ယူသင့်ရာယူလျက် ဟံသာဝတီသို့ဆောင်ယူလေသော် အင်းဝပြည်သည် ပျက်စီးလေ၍ မြန်မာလူသူတို့သည် ပြေးထွက်လာရောက်ကြကုန်၏။ ထိုသို့ရောက်လာကုန်သော မြန်မာတို့ကို နရအာဘယရာဇာမင်းသည် စားနပ်ရိက္ခာပေးတော်မူ၍ ပြိုင်းချောင်းတို့၌ရွာတည်၍ ချထားတော်မူလေသည်။ ထိုမြန်မာတို့သည် သက္ကရာဇ် ၁၁၁၆ ခုတွင် ပြန်၍ သွားကြလေကုန်၏။ အချို့တို့လည်း ကျန်ရစ်ကြကုန်၏။

တရံရောအခါ သာသနဓဇအမည်ရှိသော ဝိနည်းမိုရ်သည် မင်းဖြစ်မည်အမှတ်ရှိ၍ နရအာဘယရာဇာမင်းကို ပုန်ကန်အံ့ဟု သူရဲတို့ကို ရဲဆုပေးပြီးလျှင် ညဥ့်နက်သန်းခေါင်အခါ၌ ဝတ်ဖြူဝတ်၍ ထမ်းစင်တက်စီးလေသော် ကြက်သီးမွေးညင်းထ၍ ယစ်ယစ်တုန်လျက် သုံးကြိမ်တိုင်အောင် ဖြစ်လေ၏။ သူရဲတို့လည်း ဤဝိနည်းမိုရ်သည် မင်းဖြစ်အံ့သောသူမဟုတ်၍ ထားမြဲထားခဲ့လျှင်၊ ဝိနည်းမိုရ်သည် အနီဝတ်၍နေမြဲနေလေ၏။ မိုးသောက်လျှင် သူရဲတို့

သည် နရအဘာယရာဇာမင်းအား ဆရာတော်ဝိနည်းမိုရ်သည် ပုန်ကန်မည်ကြံပါကြောင်းနှင့် လျှောက်တင်လေသော် အခေါင်စစ်ကဲဥက္ကါရွှေနှင့် အသည်ထောင်စား စံရွှေပေါ်တို့ကိုစေ လွှတ်တော်မူ၍ ဝိနည်းမိုရ်ကျောင်းသို့ သွားရောက်ကြည့်ရှုလေသော် သေအရက်အိုးတို့နှင့် စစ်ဝတ်တန်ဆာအစုံတို့ကိုရလေ၍ နရအဘာယရာဇာမင်းအား ဆက်သလေသော် ဆရာတော်ဝိနည်းမိုရ်ကိုပင့်ခေါ်စေ၍ မေးတော်မူလေလျှင် ဝိနည်းမိုရ်လည်း စိတ်၌ရောက်မိပေသည်ဟု ဟုတ်သောအတိုင်းပြန်ပေသည်။ နရအဘာယရာဇာမင်းလည်း ငါ့ဆရာ ဝိနည်းမိုရ်ကို မာန်အောင်ကျွန်းသို့ လှို့လေ၊ ဆွေမျိုးတို့ကိုသတ်လေဟု မိန့်တော်မူသောကြောင့် သတ်လေလျှင် ဝိနည်းမိုရ်ဆွေမျိုးဖြစ်သော ကိုးယောက်သော သူတို့သည် ပုန်ကန်ရာ၌မပါဘဲနှင့် သေဆုံးရလေကုန်သည်။ ဝိနည်းမိုရ်နှင့် အခေါင်စစ်ကဲ ဥက္ကါရွှေ၊ အသည်ထောင်စား စံရွှေပေါ်တို့သည် တညီတညွတ်ကြံရင်းသူဖြစ်ကြ၍ နောင်အရေးကိုကြောက်သဖြင့် ဥက္ကါရွှေနှင့် စံရွှေပေါ်တို့သည် ဝိနည်းမိုရ်ကို မာန်အောင်ကျွန်းသို့ မပို့ဘဲ အသက်သေအောင်သတ်၍ ဝိနည်းမိုရ်ဆုံးလေသည်။ သတ်၍သေလေသည်ကား သက္ကရာဇ် ၁၁၁၇ ခု၊ ဝါဆိုလပြည့်ကျော်တရက်၊ ဗုဒ္ဓဟူးနေ့ဝယ် သတ်လေသတည်း။ ညဥ့်အခါ၌ ဝိနည်းမိုရ် အလောင်းနားဝယ် သာစု သာစုဟူ၍ ၃ ရက်တိုင်အောင် ခေါ်သံကြားလေ၏။ ထိုနှစ်မိုးအလွန်ခေါင်၏။ ဝါဆိုလကွယ်နေ့ဝယ် ခမက်တော်လက်ယာမြန်ဂွတာလည်း သေလေ၏။

သက္ကရာဇ် ၁၁၁၈ ခု၊ တော်သလင်းလတွင် အဋ္ဌနနဒီ လေးမြို့ချောင်း၌ အိုးအောင်ခြမ်းတို့သည်ပေါ်၍ မျှောကြလေကုန်၏။ နရအဘာယရာဇာမင်းလည်း ဟူးရားဆွေပြည်စိုးကြီး အမတ်အပေါင်းတို့နှင့် တိုင်ပင်တော်မူလျက် အိုးအောင်ခြမ်းတို့ပေါ်သည့် အလိုကိုထောက်၍ လျှောက်ကြသည်မှာ ကျွန်သပေါက်တို့သည်တော်လှန်၍ မင်းဖြစ်လတ္တံ့ဟု လျှောက်ကြကုန်၏။ ပြည်ရှင်မင်းလည်း ထပ်၍ အဘိသိက်ခံတော်မူ၍ နရအဘာယရာဇာဟူသောအမည်ကို ထပ်မံလျက် ခံတော်မူလေသည်။ ထိုနှစ်ပြည်သူတို့သည် ကာလရောဂါရောက်၍ များစွာသေကြကုန်၏။

သက္ကရာဇ် ၁၁၂၀ ပြည့်၊ ဝါကျွတ်လဆန်း သုံးရက်နေ့တွင် တောင်ခွင်ကြိမ်သလီအရပ်တွင် သောင်းကြမ်း၍နေသော ဗိုလ်အညိုကို တိုက်ခိုက်ရန် သံထောင်စားနှင့် သူ့ရဲအပေါင်းတို့ကိုစေလွှတ်၍ တိုက်ကြလေသော် သံထောင်စားလှေသည်ပျက်၍ လူများစွာသေသဖြင့် ဗိုလ်အညိုကိုမရဘဲ ပြန်ခဲ့ရလေ၏။ ဆင်ခေါင်းတွင်လည်း တပ်စောင့်ထားခဲ့ပေ၏။ ထိုနှစ် ဆင်တော်ဆောက်ပုတတ်သေ၏။

သက္ကရာဇ် ၁၁၂၁ခု၊ တပို့တွဲလဆန်း တရက်၊ ဗုဒ္ဓဟူးနေ့၊ သံတွဲဆင်ခေါင်းတပ်ကို ဗိုလ်အညိုတိုက်လာလျှင် ဟင်းမစားဖော်ရွှေသည် လက်နက်ထိ၍ သေလေ၏။ ဆင်ခေါင်းတပ်လည်းပျက်လေ၏။ ထိုနေ့ကစ၍ တောင်ခွင် ကြိမ်သလီကြီးသည် လက်လွှတ်လေ၏။

သက္ကရာဇ်၁၁၂၂ ခု၊ ဝါကျွတ်လဆန်းဆယ်ရက်၊ ကြာသပတေးနေ့ကစ၍ ခုနစ်ရက်တိုင်အောင် လျှင်လျှပ်၏။ တန်းခူးလဆန်းရှစ်ရက်၊ တနင်္ဂနွေနေ့ လျှင်ကြီးလျှပ်၏။ နရအဘာယရာဇာမင်းသည် အမျိုးလေးပါးတို့အား ဘေးရန် ကင်းစိမ့်သောငှာ အမတ်အပေါင်း ခြံရံလျက် ဘိသိက်ခံပြီးလျက် နရအဘာယရာဇာဟူသောအမည်ကို ခံတော်မူသည်။

ထိုမင်းပြုတော်မူသော ကောင်းမှုတော်ကား ရွာတော်ပျားတဲ၌ သိမ်တော်။

ရွှေမြို့တော်အနောက်ဖြစ်သော လက်ကြွယ်တောင်၌ စေတီတော်ကို ဂရုဘာဏ်သချိုလယ်မြေတို့နှင့်တကွ တည်တော်မူသည်။

မင်းအဖြစ်သို့ ရောက်သည့်နေ့ကကို တနေ့မပြတ် တနေ့တွင် ပဉ္စင်းတပါးလျှင် ရှင်တပါးစီချည်း သဘင်ကြီးစွာခံ၍ ရက်စဉ်မပျက်ပြုတော်မူသည်။

အလျှုကြီးကိုလည်း အကြိမ်များစွာပြုတော်မူသည်။ မင်းကျင့်တရားကိုလည်း မမှားမယိမ်း စောင့်ထိန်းဖြည့်ကျင့်တော်မူ၏။ သားသမီး အခြွေအရံ မှူးကောင်း မတ်ကောင်း သူရဲကောင်း ဆင်ကောင်း မြင်းကောင်းတို့လည်း အလွန်များပြားကုန်၏။ ထိုမင်းကား အိမ်နိမ့် ၄၈၊ လေးဆဲ့ရှစ်နှစ်၊ နန်းစံ ၁၉၊ တဆဲ့ကိုးနှစ်။ နှစ်စုသက်တော် ၆၇၊ ခြောက်ဆဲ့ခုနစ်နှစ်။ သက္ကရာဇ် ၁၁၂၃ ခု၊ တန်ဆောင်မုန်းလဆန်းတရက်၊ တနင်္ဂနွေနေ့တွင် လွန်တော်မူလေသည်။ နံတော်အင်္ဂါသားတည်း။ ၂၁။

ထိုမင်းလွန်တော်မူလေလျှင် သားတော် အိမ်ရှေ့မင်း ရွှေယောက်သည် တန်ဆောင်းမိဘုရားနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၂၃ ခု၊ တန်ဆောင်မုန်းလဆန်းတရက်၊ တနင်္ဂနွေနေ့တွင် နန်းတက်တော်မူ၍ သီရိသုရာဇာဟူသော အမည်ကိုခံတော်မူသည်။ ထိုမင်းကား အိမ်နိမ့် ၃၃၊ သုံးဆဲ့သုံးနှစ်။ နန်းစံ ၃ လ။ နှစ်စုသက်တော် ၃၃၊ သုံးဆဲ့သုံးနှစ်နှင့် သုံးလ။ သက္ကရာဇ် ၁၁၂၃ ခု၊ တပို့တွဲလဆန်း တဆဲ့တရက်၊ ဗုဒ္ဓဟူးနေ့တွင် ကျောက်ပေါက်၍ လွန်တော်မူလေသည်။ နံတော် တနင်္လာသားတည်း။ ၂၂။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏ညီတော် ဒါးပိုင်ကြီးသည် မိဘုရား အောင်ကြော့စံနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၂၃ ခု၊ တပို့တွဲလဆန်း တဆဲ့တရက်၊ ဗုဒ္ဓဟူးနေ့တွင် ရွှေနန်းတက်တော်မူ၍ စန္ဒပရမရာဇာ ဟူသော အမည်ကိုခံတော်မူသည်။

ထိုမင်းလက်ထက် အင်းဝပြည်ကို အစိုးရတော်မူသော နောင်တော်ကြီးမင်းက ရခိုင်ပြည်၌ စိုးအုပ်သောမင်းသည် တောင်ခွင်ကြိမ်သလီ၌ သောင်းကြန်း၍နေသော ဗိုလ်အညိုကို အကြိမ်ကြိမ်တိုက်သော်လည်း မရနိုင်သော အကြောင်းကိုကြားသိလေလျှင် မြန်အောင်ဗိုလ်ငနိုးကို တိုက်ဖျက်ချေဟု စေတော်မူလိုက်၏။ မြန်အောင်ဗိုလ်ငနိုးလည်း လက်နက်ကိုင် လူပေါင်းသုံးရာနှင့်ချီလာပြီးလျှင် ကြိမ်သလီတွင် ဗိုလ်အညိုကို သက္ကရာဇ် ၁၁၂၃ ခု၊ တန်ခူးလဆန်း ငါးရက်၊ သောကြာနေ့တွင်တိုက်လေသော် ဗိုလ်အညိုကို အရှင်ဖမ်း၍ယူလေ၏။ ဗိုလ်အညိုကိုဖမ်း၍ ရသည့် နာရီထက်တွင်ပင် ငလျှင်ကြီးစွာလှုပ်၏။ ရခိုင်ပြည်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်အရပ်တို့၌ မြစ်ရေတို့သည် သံ-သုံးတောင်ဆုတ်၏။ ခုနစ်ခရိုင်တောင်စဉ်တွင် အမ်းမြစ်လက်ယာကမ်း လက်ဝဲကမ်းမြစ်ရေတို့သည် သံ-သုံးတောင်တိုး၏။ တန်းချူး၊ ကဆုန်၊ နံယုန်တိုင်အောင် မြေကြီး ထိန့်ထိန့်လှုပ်၏။ သဲဖြူတောင်းကြမ်းပေါ်၏။ စေတီပုထိုးဘုရားတို့သည် ပြိုပျက်ကုန်၏။ လူများစွာ သေပျောက်ကုန်၏။ လူတကာတို့လုပ်ဆောင်သော လယ်တို့တွင် မိုးရေမတင် ဖြစ်ကုန်၏။

ရခိုင်ပြည် လောင်းကြက်မြို့ဟောင်းတွင်နေသော မြဝါ၊ ရမ်းပြည့်ကျွန်းတွင်နေသော အောင်ဇေယျ၊ မုရခည်းစား မောင်ဦး၊ မာန်အောင်ကျွန်းတွင်နေသော ဗိုလ်မင်းလာဦး။ ဤလူလေးယောက်တို့ ပေါင်းဖက်၍ အင်းဝမြို့သို့ သွားပြီးသော် နောင်တော်ကြီးမင်းထံ စစ်ပန်လေ၏။ နောင်တော်ကြီးမင်းလည်း မဆင်မခြင်မတွေးမဆဘဲ ရွှေပြည်ဝန်ကိုခေါ်တော်မူ၍ လက်နက်ကိုင် လူငါးသောင်းနှင့် ရခိုင်ပြည်ကို တိုက်ဖျက်လေဟု စေတော်မူလိုက်၏။ ရွှေပြည်ဝန်လည်းချီလာ၍ စေတုဂ္ဂရာမှ လေးမြို့ချောင်းသို့ ချီတက်လာသည်ကို စန္ဒပရမရာဇာမင်းကြီး ကြားတော်မူလေလျှင် အမတ်တော် ရမ်းပြည့်စားနှင့် ရာဇပြိုဟ်စား တို့ကို များစွာသော ရဲမက်ဗိုလ်ပါတို့နှင့် စေလွှတ်တော်မူလိုက်၏။ ချီသွား၍ ဖိုးခေါင်တောင်က ဆီးလျက်တိုက်လေသော် လမ်းမသာသောကြောင့် ချင်းတောင်မင်းကြီးတို့ကို ဆုလပ်ပေး၍ ထပ်မံတိုက်ခိုက်လေလျှင် မြန်မာစစ်သည်တို့သည်ပျက်စီး၍ ပြန်လေကုန်၏။ စစ်ပန်ခေါ်သူ မြဝါ၊ အောင်ဇေယျ၊ မောင်ဦး၊ လာဦးတို့နှင့်မြန်အောင်ဗိုလ်ငနိုးတို့ကား ဒွါရာဝတီ သံတွဲကြောင်းချီလာ၍ သက္ကရာဇ် ၁၁၂၄ ခု၊ နတ်တော်လဆန်း ရှစ်ရက်၊ ဗုဒ္ဓဟူး

နေ့တွင် တောင်လမူးရွာကိုဖျက်လေ၍ လူသူတို့သည် များစွာသေကုန်၏။ လက်ရဖမ်း၍ များစွာယူလေကုန်၏။ ထိုမှသည် မဤ်ဟူသောရွာကိုဖျက်ပြန်လေ၏။ မိုလ်ငနိုး လည်း ရသောသုံ့ပန်းလူတို့နှင့် ကမာချင်းယင်ပြင်တွင် တပ်တည်၍နေလာ၏။

ထို အခါ၌ နရအဘယရာဇာမင်းသည် ပြိုင်းချောင်း မိချောင်းတို့၌ ရွာတည်ပေးထားခဲ့သော မြန်မာနမ်းခြည်တောင်စား ထွန်းအောင်သည် ရခိုင်အမတ်တွင်ရှိသော အပြောင်မိန်းမတို့ကိုယူ၍ မြန်မာတို့ပိုင်ထင်မှတ်လျက် တောင်စဉ်သို့ပြေးခဲ့၍ မိုလ်ငနိုးထံဝင်လာ၏။ မိုလ်ငနိုးလည်း အားရ၍နေစဉ်ဝယ် အပြောင်အိမ့်ရှင် ရမ်းပြည့်ငယ်စား၊ နန်းလှဲစား၊ အမြင့်စား၊ ကင်းစား၊ ခွေးမဲစား။ ဤအမတ်ငါးယောက်တို့သည် စန္ဒပရမမင်းကိုလျှောက်၍ နမ်းခြည်တောင်စား ထွန်းအောင်ကို နောက်ထပ်လိုက်ကြလေသော် ကမာချင်းယင်ပြင်တွင် မိုလ်ငနိုးနှင့်တွေ့လေ၍ တိုက်ကြလေသော် ရခိုင်အမတ်တို့သည် ပျက်စီးလေလျှင် ရမ်းပြည့်ငယ်စားကိုဝန်းရံ၍ ဖမ်းပြီးသော် ဦးခေါင်းကိုဖြတ်ယူလေ၏။ မိုလ်ငနိုးလည်း ရခိုင်တယောက်ရလိုက်သည်ဟု အားရဝမ်းသာ၍ ရသောလူသူယောကျ်ားမိန်းမ သုံ့ပန်းလက်ရတို့ကို အင်းဝပြည်သို့ပို့လိုက်လေ၏။

မိုလ်ငနိုးကား လက်နက်ကိုင် သူရဲသုံးထောင်နှင့် ချီသွားလေ၍ တန်းလွဲကိုတိုက်လေ၏။ လမူးရွာ၌ ကြွင်းကျန်ရစ်သော လူသူတို့နှင့်လမူးသူကြီးသည် မိန်းမ လူသူတို့ကို လမ်းစဉ်ဖြတ်၍တိုက်လေလျှင် သုံးစုတစု ရလိုက်၏။ မိုလ်ငနိုးလည်း တန်းလွဲကသည် တောင်ကုတ်၊ ပန်းထော်၊ သတင်း၊ ရမ်းပြည့်ငယ်တိုင် အောင် အပြန်ပြန်ဖျက်ဆီး၍နေလေ၏။

စန္ဒပရမရာဇာမင်းလည်း လေးမြို့ကြောင်းချီလာသော မြန်မာစစ်သည်တို့ကိုနိုင်လေလျှင် တောင်စဉ်တွင် ရှိသော မြန်မာစစ်သည်တို့ကိုတိုက်အံ့ဟူ၍ ယောက်ဖတော် ရမ်းပြည့်သံထောင်စားနှင့် ရာဇဂြိုဟ်စားတို့ကို တပ်ပေါင်း တဆဲ့နှစ်တပ်နှင့် စေလွှတ်တော်မူလိုက်၏။

မိုလ်ငနိုးလည်း လေးမြို့ကြောင်းချီလာသော ရွှေပြည်ဝန်သည် မပေါက်နိုင်သောကြောင့် ရခိုင်စစ်သည်တို့ ရောက်လာသည်ဟုကြားလေလျှင် တောင်ကုပ်က ပြေးလေ၏။

ရမ်းပြည့်ပြည်စိုးတို့က မြန်မာတို့သည် တခါ ရလျှင် နောက်ရမည်ထင်၍ လာပြန်တတ်သည်ဖြစ်သော ကြောင့် နောက်ထပ်လိုက်၍ မြန်မာနိုင်ငံကို ဖျက်ဆီး တိုက်သတ်ရလျှင် တော်မည်ထင်ပါကြောင်းနှင့် လျှောက်ထားကြရာ ရမ်းပြည့်သံထောင်စားက ငါတို့နိုင်ငံတွင် ရန်စစ်ကို ငြိမ်းစေလျှင်တော်ပြီ။ သူ့နိုင်ငံသို့လိုက်၍ တိုက်ခိုက်ချေက ရန်စရှည်တော့မည်ဟုဆိုပြီးလျှင် ရွှေမြို့တော်သို့ ပြန်တော်မူလာခဲ့၏။ မိုလ်ငနိုးတောင်စဉ်ကို တိုက်ဖျက်၍နေသည့် ရက်ပေါင်းကိုးဆယ် ကြာလေသည်။ သက္ကရာဇ် ၁၁၂၅ ခု၊ တော်သလင်းလတွင် ပြည်သူတို့ ထမင်းငတ်၍သေကြကုန်၏။ ဆန်တတောင်းကို = ဒင်္ဂါးတပြားပေးရ၏။

စန္ဒပရမရာဇာမင်း၏ ဆွေတော်မျိုးတော်တို့သည် ယောက်ဖတော် ရမ်းပြည့်သံထောင်စား ပုန်ကန်မည်ကြံပါသည်ဟု လျှောက်ထားကြသည်ကို ယုံကြည်တော်မူ၍ လက်ယာမြန် နန္ဒသီရိဟန့်တားလျှောက်တင်သော်လည်း မနိုင်။ ရမ်းပြည့်စားကိုဖမ်းလျက် ညဥ့်အခါ၌သတ်၍ ပစ်အံ့ဟု ကြံတော်မူ၏။ ယင်းသို့ကြံတော်မူသည်ကို ရမ်းပြည့်သံထောင်စားသိလေလျှင် ဤမင်းသည် တောင်ဘက်လေးခက်မတို့၏စကားကို နားဝင်၍ ငါ့ကို သတ်မည်ကြံ၏။ ငါမခံဟု အတင်းအမာပြုလျက် သိင်္ဂပါမင်းထံသို့ရောက်လေလျှင် စန္ဒပရမရာဇာမင်းက အောင်တမန်စေလွှတ်၍ သာယာစွာ ခေါ်တော်မူသော်လည်း မရလေ။ လူသူတို့ကိုသာ များစွာစုရုံး၍ ချီလာပြီးလျှင် သက္ကရာဇ် ၁၁၂၆ ခု၊ ကဆုန်လဆန်း တရက်၊

အင်္ဂါနေ့တွင်တိုက်လေသော် စန္ဒပရမရာဇာမင်းကိုရသဖြင့် ရဟန်းပြု၍ထားလေ၏။ စန္ဒပရမရာဇာမင်းကား အိမ်နိမ့် ၂၀၊ နှစ်ဆယ်။ နန်းစံ ၃၊ သုံးနှစ်။ နှစ်စုသက်တော် ၂၃၊ နှစ်ဆဲ့သုံးနှစ်။ သက္ကရာဇ် ၁၁၂၆ ခု၊ ကဆုန်လဆန်း တရက်၊ အင်္ဂါနေ့တွင် နန်းကျတော်မူလေသည်။ နံတော် ဗုဒ္ဓဟူးသားတည်း။ ၂၃။

ထိုမင်းနန်းကျတော်မူလေလျှင် ယောက်ဖတော် ရမ်းပြည့် သံထောင်စားသည် မိဘုရားစောရွှေကြာနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၂၆ ခု၊ ကဆုန်လဆန်း တရက်၊ အင်္ဂါနေ့တွင် ရွှေနန်းတက်တော်မူ၏။ အဘယမဟာရာဇာ ဟူသောအမည်ကို ခံတော်မူ၏။

စန္ဒပရမရာဇာမင်းကို ရဟန်းပြု၍ထားရာမှ ယူစေ ပြီးသော် မြေငူကျွန်းသို့ပို့လေဟု စေတော်မူလိုက်၏။ အပို့ စေလွှတ်သူ စက်ကန်ကျင့်တို့သည် ဆောင်ယူ၍သွားလေ သော် ငဆင်တုံးပေါ်သို့ရောက်လေလျှင် နယုန်လဆန်း တရက်နေ့တွင် ဝမ်းကျ၍သေလေ၏။

ထိုသက္ကရာဇ် ပြာသိုလဝယ် ရုပ်တုတော် မဟာမုနိ၏ ကိန်းဝပ်တော်မူရာ သိမ်တော်ကို မီးလောင် လေ၍ ရဓောသားတိုင်တွင် မိကျောင်းစီးပြီးလျှင် အခိုက် အတန့် သိမ်တော်ကိုဆောက်လုပ်တော်မူ၏။ အခိုင်အခံ့ သိမ်တော်ကိုဆောက်လုပ်တော်မူရန် ညီတော် ရမ်းပြည့်စား ချစ်သူကို တာဝန်ပြုတော်မူ၏။ ညီတော်ရမ်းပြည့်စား ချစ်သူလည်း တောင်စဉ်ကမ်းလမ္ဘူအရပ်သို့သွားရောက်၍ ပျဉ်းသစ်များကို စုရုံး၍ထားပြီးလျှင် လက်ဝဲမြန်မြဖော်ရွှေကို ရွှေမြို့တော်အရောက်တင်ယူစေ၍ မဟာမုနိသိမ်တော်ကို ဆောက်လုပ်ခြင်း၄၁ အမတ်တော်သားဝရံဖြေသည် မီးလောင်ရာတိုင်ငုတ်ကိုဖော်နုတ်၍ တွင်းခုနစ်တောင်နက် အောင်တူး၍ သက္ကရာဇ်၁၁၂၇ခု၊ ပြာသိုလဆန်း သုံးရက်၊ သောကြာနေ့၊ နံနက်တက်နေ ငါးနာရီ၊ ဓနုလဂ်၊ မကာရစန်းစီး၍ မဟာမုနိသိမ်တော်ကို ဆောက်လုပ်တော် မူပြန်သည်။ သိမ်တော် ပရိစ္ဆေဒကား အလျား သံတောင် ခုနစ်ဆယ်၊ အနံ သံတောင်ငါးဆယ်၊ အစောက် အမြင့် သံတောင်ရှစ်ဆယ်မြင့်၏။ ဓေတဝန်ဘုံငါးဆင့်၊ နီပန်း အခြင်စွန်း အတောင်သုံးဆယ်မြင့်၏။ အသည်တိုင် တရာတဆဲ့ငါးလုံးရှိ၏။ ထုပ်တဆဲ့သုံးတောင်နှင့်အခွဲရှိ၏။ ညီတော်ရမ်းပြည့်စားချစ်သူလည်း နောင်တော်အဘယ မဟာရာဇာမင်းကြီးအား သိမ်တော်ပြီးကြောင်းကို ကြားလျှောက်လာ၏။

အဘယမဟာရာဇာမင်းကြီးလည်း မျောက်သား တော် မိဘုရားအစရှိသော သားတော်အိမ်ရှေ့မင်း ပြည်သူ အပေါင်းခြံရံလျက် ဓညဝတီမြို့ဟောင်းသို့ ရွှေဖောင်တော် စီး၍ကြွတော်မူ၏။ ရောက်တော်မူလေလျှင် မင်္ဂလာနန်း တော်သို့ တက်တော်မူ၏။ ရုပ်တုတော်မဟာမုနိကို ပူဇော် ကန်တော့ပြီးမှ ကြီးစွာသောသဘင်ကို စီရင်တော်မူ၍ အလှူကြီးကိုပေးတော်မူပြီးမှ ရွှေနန်းတော်သို့ ပြန်တော် မူခဲ့၏။

သက္ကရာဇ် ၁၁၂၉ ခု၊ နံယုန်လဆန်း တရက် သောကြာနေ့ညဦးအချိန်တွင် လနှစ်ဆူ ကောင်းကင်ပြင်ဝယ် ထွက်ပေါ်လာပေ၏။ အဘယမဟာရာဇာမင်းလည်း များစွာသော မှူးမတ်အပေါင်းတို့နှင့် တိုင်ပင်တော်မူလေလျှင် ယောက္ခမတော် ဟူးရားသွေး ပြည်စိုးကြီးက ခုနစ်ရက် ပရိတ်တော်ကို နာတော်မူလျက် ငွေကိုလရုပ်လုပ်၍ ပုဏ္ဏား တို့ကို ပူဇော်ရပါမည်ဟု လျှောက်လေလျှင် ထိုအတိုင်းပြု၍ လှူတော်မူလေသည်။

သက္ကရာဇ် ၁၁၃၀ ပြည့် တပေါင်းလတွင် အနောက်ပြည်က မောင်းကွပ်ကုလားတို့ စစ်ချီလာသည်ဟု ကြားတော်မူလေလျှင် ကုလားပုန်း၊ ဆားလင်းကန်အရပ်က တပ်ကြီးတည်၍ ကိုယ်ရံတော်တို့ကို စောင့်ရှောက်တော် မူစေ၏။

အခါတပါး၌ ဒိုင်းဝေဆိုသောသူသည် ပိဋကတ် ဗေဒင် အင္ဂါရသအတတ်ပညာတို့ကို တတ်သိလိမ္မာသော ကြောင့် စာဖတ်တတ်အရာကို ပေးတော်မူပြီးလျှင်

လွှမ်းခြင်းစာတစောင်ဖွဲ့ဆိုစေ၍ နန်းတော်၌ ဘတ်ပြ လျှောက်ထားစေ၏။ ဘတ်ပြလျှောက်ထားလေသော် မိဘုရားနှင့် အတွင်းယဉ်ပါးလေသဖြင့်အကြောင်းကို အာဘယမဟာရာဇာမင်းကြီး ကြားတော်မူလေလျှင် စာဖတ်တတ် ဒိုဝ်းဝေသည် ကြောက်လန့်လှသောကြောင့် အရှေ့ပြည်သို့ ပြေးလေ၏။ လယ်ကိုင်းမြို့သို့ ရောက်လေသော် လယ်ကိုင်းမြို့စားစာရေးက ရခိုင်စာဖတ်သည် အဘယ်အကြောင်းနှင့် ရောက်လာသနည်းဟုမေး၏။ ရခိုင်စာဖတ်ဒိုဝ်းဝေက သေဘေးကိုကြောက်၍ ပြေးလာသည်ဟုဆို၏။ လယ်ကိုင်းမြို့စာရေးက ပြေး၍လွတ်သည်ဟု ဘုရားဟောတော်မူသည်လောဟု မေးပြန်၏။ စာဖတ်ဒိုဝ်းဝေက အာယုက္ခယ၊ ဥပစ္ဆေဒက နှစ်ပါးရှိရာတွင် အာယုက္ခယကိုပြေး၍မလွတ်၊ ဥပစ္ဆေဒကကိုပြေးလျှင် လွတ်နိုင်ရာသောအကြောင်းရှိသည်။ ဗုဒ္ဓပညတ်၊ ရာဇပညတ် နှစ်ပါးရှိရာတွင် ဗုဒ္ဓပညတ်ကို ပြေး၍မလွတ်၊ ရာဇပညတ်ကိုပြေးလျှင် လွတ်နိုင်လေသည်။ လွတ်ဖူးသည်မှာ အလောင်းတော် မဟောသဓာသည် ရာဇပညတ်ကိုပြေး၍လွတ်ဖူးလေသည်။ အကျွန်ုပ်သည်လည်း ရာဇပညတ်ကြောင့် ပြေးလာသည်ဟုဆို၏။

(ဤအရာတွင် ဥဘယက္ခယကို ပြေး၍ လွတ်သည်ဟု ပါ၏။ ဥပစ္ဆေဒကဟူ၍သာ ယူသင့်သည်)

လယ်ကိုင်းမြို့စာရေးက ရခိုင်စာဘတ်တတ် ဆိုသောစကားသည် မှန်လှသည်ဟုဆိုပေ၏။ ရခိုင်က လူတတ်ပညာရှိရောက်သည်ဟု အင်းဝမင်းကြီးကြားတော်မူလေလျှင် သိမ်းပိုက်ယူတော်မူမည့်အကြောင်းကို စာဘတ်ဒိုဝ်းဝေသိလေလျှင် မိမိရခိုင်ပြည်သို့ ပြန်လာခဲ့ပေ၏။

အခါတပါး ဒွါရာဝတီသံတွဲမြို့ကို မြန်မာပြည်သား တိမ်ကြားဗိုလ်တိုက်လာလျှင် သံတွဲစားဘတော်သည် ဆီးခံ၍ မတိုက်လိုသောကြောင့် ရခိုင်ပြည်သို့ ပြေးလာ၏။ ထိုအကြောင်းကို အာဘယမဟာရာဇာမင်း သိတော်မူလေလျှင် ညီတော်ရမ်းပြည်စားချစ်သူ၊ ကုလားတန်စား ချင်းသွယ်တို့ကို သက္ကရာဇ် ၁၁၃၅ ခု၊ ဝါကျွတ်လဆုတ်ကိုးရက်၊ စနေနေ့တွင် စေတော်မူလိုက်၏။ မြန်မာတို့ကို သံတွဲသားတို့ တိုက်၍ပြေးလေသောကြောင့် စစ်သည်မတွေ့ဘဲ ပြန်လာခဲ့ကုန်၏။ သံတွဲစားဘတော် ပြန်သွားလေလျှင် သံတွဲသားတို့က ကောင်းသော် ချဉ်း၏။ မကောင်းသော် ကြဉ်၏ဟုဆိုပြီးလျှင် အုဋ္ဌခဲလှင်ကန်တို့ဖြင့် ပစ်နှင်လိုက်ကြလေ၏။ ထိုနေ့ကစ၍ သံတွဲမြို့သည် လက်လွတ်လေ၏။

တကြိမ်တုံလည်း လောင်းကြက်သားတို့သည် ဝသဲဖက်ရှိ ကျီရှည်ကို မီးတိုက်ပြီးလျှင် သက္ကရာဇ် ၁၁၃၅ ခု၊ နတ်တော်လဆုတ် ခုနစ်ရက်၊ တနင်္လာနေ့တွင် အာဘယမဟာရာဇာမင်းကို ပုန်ကန်လာသော်မနိုင်၍ ပြေးလေကုန်၏။ အာဘယမဟာရာဇာမင်းလည်း မှူးမတ်တို့ကို သစ္စာရေ တိုက်တော်မူလေသည်။

ထိုမင်းကား ကုသိုလ်ကောင်းမှုကို များစွာပြုစုတော်မူ၏။ သီလသီတင်းနှင့်လည်း ပြည့်စုံ၏။ အမျိုးလေးပါးကိုလည်း သနားကြင်နာတော်မူ၏။ ပေးကမ်းစွန့်ကြဲခြင်းရှိ၏။ သားတော် အိမ်ရှေ့မင်းရဲဘော်သည်ကား မကောင်းမှု ဒုစရိုက်ကို ကျင့်၏။ ရဟန်း သံဃာတို့အား ပုတ်ခတ်ဟိန္နပြု၏။ ပြည်သူတို့ကိုလည်း အလွန်နှိပ်စက်၏။ ထိုအိမ်ရှေ့ မင်းရဲဘော်အား မကောင်းသောအကြံရှိလေသည်ဖြစ်သောကြောင့် အမတ်လက်ယာမြန်ကို ခေါ်တော်မူ၍ သက္ကရာဇ် ၁၁၃၅ ခု၊ ပြာသိုလဆုတ် ခြောက်ရက်၊ တနင်္လာနေ့တွင် သတ်၍ပစ်လေ၏။

ဒါးပိုင်ကြီး သောက်ကြာသည် မြို့တော်မှ ထွက်သွား၍ စစ်တွေကုလားတို့ကိုဆုပေးပြီးလျှင် များစွာသော ရဲမက်အပေါင်းတို့ကိုစု၍ ဦးရစ်တောင်တွင်တပ်ချပြီးလျှင် တိုက်စည်တီး၍သောင်းကြမ်းလေ၏။ ထိုအကြောင်းကို အာဘယမဟာရာဇာမင်း ကြားတော်မူလေလျှင် တမန်စေလွှတ်တော်မူ၍ ဒါးပိုင်ကြီးသောက်ကြာထံသို့ ရောက်လေလျှင် အဝင်ချည်းခံ၍နေလေ၏။ ညီတော်

ရမ်းပြည့်စားချစ်သူကို ထပ်မံ၍စေလွှတ်တော်မူလိုက်ပြန်သော် ဒါးပိုင်ကြီး သောက်ကြာက ရွှေနန်းရှင် မင်းတရားကို မလုပ်မကြံပါ။ သားတော် အိမ်ရှေ့မင်းရဲဘော်ကိုသာ လုပ်ကြံအံ့ဟုဆိုပြီးမှ သစ္စာရေတိုက်၍ ရမ်းပြည့်စားချစ်သူကို အဝင်ခံလေ၏။ ဒါးပိုင်ကြီးသောက်ကြာသည် များစွာသောရဲမက်နှင့်ချီလာပြီးလျှင် သက္ကရာဇ် ၁၁၃၅ ခု၊ တပို့တွဲလဆန်း ခြောက်ရက်၊ တနင်္လာနေ့တွင် ရွှေမြို့တော်သို့ဝင်၍တိုက်လေသော်ရလေ၏။ အဘယမဟာရာဇာမင်းကား အိမ်နိမ့် ၅၅၊ ငါးဆဲ့ ငါးနှစ်။ နန်းစံ ၉၊ ကိုးနှစ်။ နှစ်စုသက်တော် ၆၄၊ ခြောက် ဆဲ့လေးနှစ်။ သက္ကရာဇ်၁၁၃၅ ခု၊ တပို့တွဲလဆန်း ခြောက်ရက်၊ တနင်္လာနေ့၊ ညဥ့်တပဟိုရ်ကျော်အချိန်တွင် ဒါးပိုင်ကြီး သောက်ကြာ ပုန်ကန်၍လွန်တော်မူလေသည်။ နံတော် ကြာသပတေးသားတည်း။ ၂၄။

ထိုမင်းလွန်တော်မူလေလျှင် ဒါးပိုင်ကြီး သောက်ကြာသည် မိဘုရားပန်းသူဇာနှင့် သက္ကရာဇ် ၁၁၃၅ ခု၊ တပို့တွဲ လဆန်းခုနစ်ရက်၊ အင်္ဂါနေ့တွင် ဘိသိက်ခံ၍ ရွှေနန်းတက်တော်မူလေ၏။ စန္ဒသုမနရာဇာဟူသော အမည်ကို ခံတော်မူ၏။

ကုလားတန်စားချင်းသွယ်ကို သူရဲကုလားတို့ ခုတ် လေ သည်ဖြစ်၍ ရွှေနန်းတော်သို့ တက်ပြေးလေသော် စန္ဒသုမနရာဇာမင်းသည် ကုလားတန်စားချင်းသွယ်ကို ခေါ်ပြီးလျှင် လက်ဆေးကန်ကျောင်း၌ ရဟန်းပြု၍ ထားတော်မူလေ၏။

ရမ္မာဝတီမည်သောရမ်းပြည့်ကျွန်းကို ငပေါင်တို့အား စားစေတော်မူ၍ သွားလေသဖြင့် ရောက်လေသော် အခွန်ဘဏ္ဍာတို့ကိုလည်း ရှေးကျွန်းစားမင်းတို့ထက် ဆတက်ထမ်းပိုး တိုး၍ကောက်ယူလျက် အမှုအခင်းအပြစ်အနာလည်း များစွာရှာခြင်းကိုပြု၏။ ကျွန်းသူတို့သည် မခံနိုင်ဘဲရှိလတ်လျှင် တဆဲ့နှစ်ရွာသား လူကြီးတို့သည် ညီညွတ်၍ ကျောက်ချောင်းရမ်းပြည့်ကြီးရွာတွင် စနေဖြူဟူသောသူကို ဗိုလ်မှူးပြုစေ၍ လာဖြူ၊ မောင်ထွေးတို့ကို အကြီးပြု၍ ရမ်းပြည့်စားငပေါင်တိုကို ထန်းပြင်ရွာတွင် ဝန်းရံ၍ ဒုတ်ဆောက်ပုတ်တို့ဖြင့် ရိုက်နှက်ကြလေသော် ရမ်းပြည့်စား ငပေါင်တိုသည် ပြေးလေ၏။

ထိုအကြောင်းကို မြောက်ဘက်ကြောင်ကြီး အောင်စုန် ကြားလေသော် အဆောတလျင်လာလတ်၍ ဗိုလ်စနေဖြူထံ ပေါင်းဖက်လာ၏။ ဗိုလ်မင်းစနေဖြူ၊ လာဖြူ၊ မောင်ထွေး၊ မြောက်ဘက်ကြောင်ကြီး အောင်စုန်ဤ လေးယောက်သောသူတို့ရုံးစု၍ တိုက်စည်တီးလျက် သောင်းကြမ်းလေ၏။ ကုလားတန်စားချင်းသွယ်လည်း ရဟန်းအဖြစ်မှ ဝတ်ဖြူလဲပြီးလျှင် ကျွဲခြံတောင်သို့ပြေးလေ၍ အမ်းစားအပေါင်းတို့နှင့် ပေါင်းဖက်ပြီးလျှင် သောင်းကြမ်းပြန်လေ၏။

စန္ဒသုမနရာဇာမင်းလည်း အမတ်တော်လက်ယာမြန် ကြေ့ကိုစေတော်မူလိုက်၏။ လက်ယာမြန်ကြေ့လည်း များစွာသော ရဲမက်နှင့်ချီလေ၍တိုက်လေသော် ကုလားတန်စားချင်းသွယ်နှင့် အမ်းစားအပေါင်းတို့ ပျက်စီး၍ ပြေးလေ၏။ နောက်မှ ပြည်သူပြည်သားတို့သည်ဖမ်းဆီး၍ ကုလားတန်စားချင်းသွယ်နှင့် အမ်းစားအပေါင်းတို့ကို ရွှေမြို့တော် ရောက်ပို့ဆက်လာလျှင် သက္ကရာဇ် ၁၁၃၆ ခု၊ ကဆုန်လဆန်း သုံးရက်၊ အင်္ဂါနေ့တွင် သတ်၍ ပစ်လေ၏။

ရမ်းပြည့်ငယ်စား လက်မတော်၊ အသည်ထောင်စား စံရွှေပေါ်၊ ကုလားနာယာကြီး သမ္ဗာန်စား ဤလူသုံးယောက်တို့သည် စန္ဒသုမနရာဇာမင်းကို လက်သမားရုံသို့ ထွက်တော်မူလျှင် ဖမ်းဆီးအံ့ဟုတိုင်ပင်ကြောင်းနှင့် လက်ယာမြန် ကြေ့က စန္ဒသုမနမင်းအား လျှောက်ထား၍ သိတော်မူလျက် ပေါက်ပင်တံခါးဝ လက်သမားရုံသို့ ထွက်တော်မူရာတွင် ရမ်းပြည့်ငယ်စားသည် ပုဆိုးကိုအပေါ်ကဝတ်၍ အတွင်းကဒါးနှင့်လွှားကိုယူ၍ မင်းပွဲရင်ပြင်သို့ရောက်လာလျှင် စန္ဒသုမန

မင်းက အစောင့်ကိုယ်ရံတော်တို့ကို ဖမ်းချေဟုစေတော်မူလိုက်၏။ ရမ်းပြည့်ငယ်စားလည်း ဒါးနှင့်လှံားကို ထုတ်၍လာပြီးလျှင် စစ်ရေးခံ၍ သွားလေသော် လိုက်ဖမ်းသောသူတို့နှင့် လှံားချင်းထိ၍ သတ်ကြရာ ဒါးအဆောက်ကျွတ်၍ ကျလေသဖြင့်ဖမ်း၍ရလေလျှင် ရမ်းပြည့်ငယ်စားကို သတ်၍ပစ်လေ၏။

ထိုမင်းလက်ထက်တော်အခါ အရှေ့ပြည် အင်းဝမြို့ ကိုအစိုးရတော်မူသော ဆင်ဖြူရှင်မင်းက ရခိုင်ပြည်၏ အတ္ထုပ္ပတ္တိကိုသိလိုသောကြောင့် သူရိန္ဒစက္ကကို ရာဇတမန် ရွှေပေလွှာနှင့်စေလိုက်တော်မူသည်ဖြစ်၍ သက္ကရာဇ် ၁၁၃၆ ခု၊ တော်သလင်းလဆန်းရှစ်ရက်၊ စနေနေ့တွင်ရောက်လာ၏။ ယင်းသို့ရောက်လာသော သူရိန္ဒစက္ကတွင်ပါသော ရာဇသံကား ဤသို့တည်း။

တိုင်းကြီးပြည်ကြီး ထီးဆောင်းနန်းနေ မင်းတကာတို့ကို အစိုးရတော်မူသော အလွန်ဘုန်းတော်ကြီးမြတ်တော်မူလှသော ဆင်ဖြူသခင် ဘဝရှင်မင်းတရားကြီးဘုရား၊ ရွှေစက်တော်အစုံကို ဦးထိပ်ထက်အမြဲရွက်၍ အတွင်းသေနာပတိမင်းမဟာ အသင်္ခယာစည်သူ ကြားသိလိုက်သည်။ ရခိုင်ဓညဝတီမင်းတွင် စီရင်နေရှိသော အမှုးအမတ် မြို့စားပြစား ကြည်းစား ရွာစားတစုတို့။ ။ ဓညဝတီမြို့သည် ရှေးဘေားလောင်းတော် မင်းကြီးစွာစောကဲ၊ မင်းခေါင်ကြီး၊ မင်းတရား ရွှေထီးတို့လက်ထက် လက်နက်နိုင်ငံတော်ဖြစ်သောကြောင့် မင်းညီမင်းသားတို့ကို မြို့စားမြို့ဝန်ခန့်ထားတော်မူတန်သည့်အရာ၌ မှူးမတ်တို့ကို မြို့စားမြို့ဝန်ခန့်ထားတော်မူသည့်အရာ၊ ဓညဝတီရခိုင်မင်းတို့ကိုပင် အစဉ်မပျက် ထီးနန်းမြို့ပြနှင့် သာသနာပြုစုတော်မူလျှင် သဗ္ဗညုတဘုရား၊ သာသနာတော်တောက်ထွန်းပွင့်လင်းစေအံ့သောအကြောင်း၊ သားတော်အစဉ် မြေးတော်အဆက် စည်ပင်နိုင်ဖြိုး ပြန့်ပွားစေအံ့သောအကြောင်း၊ ပြည်သူတကာ သတ္တဝါအပေါင်းတို့ ငြိမ်းချမ်းသာယာစေအံ့သောအကြောင်းများကို ထောက်ထားတော်မူ၍ ပြတ်လတ်ရှိလေသည်နှင့် ယခု ဘုန်းတော်လက်ရုံးတော် အာဏာတော် ထွန်းတောက်ပတော်မူ၍ ရတနာပူရ အင်းဝမဟာရာဇဓာနီ မင်းနေပြည်တော်ကြီးသည် အယုဇ္ဈပူရသုဒဿနသိ ကြားမင်း၏စံရာ ဝတီသာနတ်ပြည်ကဲ့သို့ အလွန်စည်ပင် သာယာသည်။ သဗ္ဗညုတဘုရားသခင် သာသနာတော် အတိုင်းထက်အလွန်ထွန်းပပွင့်လင်းတော်မူသည်။ မင်းညီ မင်းသား မှူးတော်မတ်တော်မှစ၍ ရဟန်းပုဏ္ဏား၊ ပြည်သူ ပြည်သား စည်ပင်လှသောကြောင့် ဇမ္ဗူဒိပ်မြေအပြင်ဝယ် ထီးဆောင်းနန်းနေ ကြည်းရေခွန်သွင်းရှိနေသည်။ မင်းအပေါင်းတို့သည် ရွှေဖဝါးတော်မြတ်အောက် ခညွတ်ကျိုးနွံစွာ ဆင်ကြီး မြင်းကြီး သမီးကညာအထူးထူးသော လက်ဆောင်လက်နက် ဆက်သလာရောက်ကြသည်။ ဂန္ဓာလရစ်တိုင်းကို အစိုးရတော်မူသော တရုပ်ဥဒည်ပွားမင်းသည် နိုင်ငံတော် ရပ်စွန်ပြည်နားသို့ ထိပါးလာရောက်နှောင့်ရှက်လာသောကြောင့် ကျွန်တော်မျိုးရဲစွမ်းသတ္တိရှိသော နတ်စစ်သည်နှင့်တူသော ဗိုလ်မှူးတို့နှင့် သူရဲသူခက်တို့ကို ခန့်ထားတော်မူ၍ ဆုံးမနှိပ်ကွပ်ရှင်းလင်းစေရာတွင် ဥဒည်ပွားသား တူသမက်၊ ရဲမက် လက်နက်ကိုင်လူလေးသောင်းကျော် သေကြေပျက်စီးခြင်းသို့ရောက်ကြလေသည်။ ဥဒည်ပွားလည်း ခညွတ်ကျိုးနွံလာသည်။ ဂျွမ်းတိုင်း၊ ဒွါရာဝတီ ယိုးဒယားပြည်၊ လဝရဋ္ဌတိုင်း စန္ဒပူရ၊ လင်းဇင်းပြည်၊ ဓမ္မပါလ၊ သက်ကျော် လမိုင်းမျက်နှာမည်း၊ ဣန္ဒပတ္တနဂိုရ်၊ ရှမ်း၊ မဏိပူရပြည်များနှင့် တိုင်းကြီးပြည်ကြီး ထီးဆောင်းနန်းနေ မင်းအပေါင်းတို့သည် ဆင်ကြီးမြင်းကြီးသမီးကညာ အထူးထူးသော လက်ဆောင်လက်နက်ဆက်သ၍ ရွှေဖဝါးတော်အောက် အမှုတော်ကို ထမ်းရွက်ရပါမည့်အကြောင်းနှင့် ရှိခိုးသံတော် ဦးတင်ရောက်ကြသည်။ စည်းစိမ်ခမ်းနား မလျော့မယုတ်စေရ။ ထပ်ပွားပြုစုတော်မူ၍ တိုင်းနိုင်ငံတော် ထီးဆောင်းနန်းနေ မင်းအပေါင်းတို့

နည်း စားမြဲတိုင်း ခရိုင်မြို့ပြနှင့်အမှုတော်ကို ထမ်းရွက်စေရသည်။ ဓညဝတီ ရခိုင်မင်းလည်း အကြောင်းခပ်သိမ်းမျိုးကို ကြားသိတန်လေရာသည်။ ဓညဝတီရခိုင်မင်းက ရွှေဖဝါးတော်အောက် မလာမရောက် မကျိုးမနွံ မဆက်မသ နေသာမည်မဟုတ်။ အရပ်ရပ်ထီးဆောင်းနန်းနေမင်းအပေါင်းတို့နည်း ရွှေဖဝါးတော်အောက် လာရောက်စေရမည့်ကြောင်းကို ပြန်ဆိုမှာထား၍ခေါ်စေ။ ဘုရားဖျာဒိတ်တော်မြတ်ကို ဦးထိပ်ထက်ဆင်ရွက်ရသည့်အတိုင်း သူရိန္ဒစက္ကကို ခန့်ထား၍ ခေါ်လာစေသည်။ ရွှေပြည်တော်ဝယ် အကြောင်းခပ်သိမ်းမျိုးကို ရခိုင်ဓညဝတီမင်းအမှုးအမတ် မြို့စား ပြစား ကြည်းစားရွာစားတို့ ကြားသိရလေပြီ။ ရခိုင် ဓညဝတီမြို့အကြောင်းအရာအလုံးစုံမျိုးကိုလည်း ကြားသိရပြီဖြစ်သည်။ စေပါခန့်တော်မူသူတို့ရောက်လျှင် နာနာဘာဝ ဝိနာဘာဝ တရားသဘောနှင့် မကင်းသာသည်ကိုထောက်၍ ရခိုင်ဓညဝတီမင်းကို အမြဲနှလုံးသွင်းအောင် လှဲ့ဆော်ပြီးလျှင် ခန့်ထားတော်မူသူတို့နှင့် အရပ်ရပ် ထီးဆောင်းနန်းနေ မင်းတို့နည်း လာရောက်စေရမည်။ မဟာမုနိကမ္ဗည်းနာမံတော်ရှိသော သဗ္ဗညုဘုရားသခင် ရုပ်တုတော်ကိုပူဇော်တော်မူရန် ရွှေထီးနှစ်၊ ငွေထီးသုံး၊ ရွှေတံခွန်နှစ်၊ ရွှေတံခွန်သုံး၊ ရွှေပန်းခိုင်၊ ငွေပန်း ခိုင်၊ ရွှေတန်ဆောင်၊ ငွေတန်ဆောင်၊ ရွှေပေါက်ပေါက်၊ ငွေ ပေါက်ပေါက်၊ ရုပ်တုတော်ကို ရွှေသင်္ကန်းကပ်လှူရန် ရွှေဆိုင်းသုံးဆယ်တို့ကို ပေးအပ်လိုက်သည်။ အလှူတော်ကို ကောင်းမွန်စွာတင်လှူ ပူဇော်စေရမည်။

သက္ကရာဇ် ၁၁၃၆ ခုနှစ်၊ တော်သလင်းလဆန်း ရှစ်ရက်၊ စနေနေ့တွင် သူရိန္ဒစက္ကတို့ရောက်လာသည်။ ယင်းသို့ရောက်လာသည်ကို ငါတို့ရခိုင်ဘုရင် စန္ဒသုမနရာဇာမင်း၏ ပြင်အမတ် ဇေယျာဘဒြစည်သူကျော်ထင် စီရင်ရေးသား ပြန်ပေးအပ်သောရာဇသံကား ဤသို့တည်း။

အနောက်နေဝင်တရိုး တိုင်းကြီးပြည်ကြီး ထီးဆောင်းနန်းနေ မင်းတကာတို့ကို အစိုးရတော်မူသော မြဟ္မာ၊ နတ်၊ လူ၊ အသူရာ၊ ဂန္ဓဗ္ဗအစရှိသောသူတို့၏ မကိုဋ်တန်ဆာ ရတနာတည်းဟူသောပန်းတို့ဖြင့် သီကုံးအပ်သော တဆဲ့ခြောက်ကွက်အလွန်ရှိသော နှစ်ရာသောစက်တို့ဖြင့် မွေးရှက်အပ်သော၊ နူးညံ့ပြေပြစ်ဆန်းကြယ်သော၊ ဘေးမြူတို့ကို ဖျောက်လွှင့်ပယ်ရှားအပ်သော၊ ဝိတာန်တည်းဟူသော မြတ်သောခြေတော်အပြင်ရှိတော်မူသော မဟာမုနိရှင်တော် ဘုရား၏ဒါယကာတော်ရင်းဖြစ်တော်မူသော မီးခိုးမြူမှောင်၊ တိမ်တောင်မွေးရှက်၊ ရန်ကိုဖျက်၍၊ ထွန်းတက်ပြောင်ပြောင်၊ မိုးခေါင်လှည့်သန်း၊ နေစက်ဝန်းကဲ့သို့၊ ဘုန်းတန်းတေဇော်၊ အာနုဘော်ဖြင့်၊ ရှိန်စော်ပေါက်ပြတော်မူသော ရခိုင်ဘဝရှင်မင်းထက်မင်းတရား၏ ခြေတော်စုံကို ဦးထိပ်ထက်ဆောင်ရွက်လျက်၊ ကြီးမြင့်ခြင်းသို့ရောက်သော ရခိုင်ရွှေပြည်တော်၏ ပြင်ပအရပ်၌စီရင်နေသော သေဋ္ဌဇေဋ္ဌ ဥတ္တမကုလဖြစ်သော ဗိုလ်မင်းကိုယ်ရံကြီး ဇေယျာဘဒြ စည်သူကျော်ထင် အမိန့်ပြန်ကြားလိုက်သည်။ ရတနာပူရကိုအစိုးရသော အင်းဝရွှေနန်းသခင် မင်းတရား၏ အတွင်းသေနာပတိမင်းမဟာ သခ်ယာစည်သူ၊ သူရိန္ဒစက္ကတို့ကို ခန့်ထားလိုက်၍ ပါလာသော ရာဇသံစာတွင် ရခိုင်ရွှေပြည်ကြီးသည် မင်းကြီးစွာစောကဲ၊ မင်းခေါင်ကြီး၊ မင်းတရားရွှေထီး စေရာဇ်မင်း အဆက်ဆက် လက်နက်နိုင်ငံတော်ဖြစ်သောကြောင့် မင်းညီမင်းသားမှူးတော်မတ်တော်တို့ကို မြို့စားမြို့ဝန် ခန့်ထားတော်မူသည်။ ရခိုင်ရွှေပြည့်ရှင်ကို မင်း၏ထီးနန်း မြို့ပြနှင့်ပြုစုတော်မူသည် ဟူရာ၌ကား။ ရှေးဘေးလောင်းတော် မဟာစန္ဒသူရိယမင်း လက်ထက်တော်၌ ငါတို့ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်မှ ဓညဝတီရခိုင်ပြည်သို့ ဝါတော်နှစ်ဆယ်မြောက်တွင် တပည့်သံဃာတော်ငါးရာနှင့် ကြွလာတော်မူပြီးလျှင် သေလာဂီရိကျောက်တော်

တောင်၌ သီတင်းသုံးတော်မူလာ၍ မဟာစန္ဒသူရိယမင်း ပင့်ဘိတ်တောင်းပန်အပ်သည်ဖြစ်၍ ရုပ်ရှင်တော် မဟာမုနိကို သိကြားပြဟ္မာ၊ ဝိသကြုံနတ်သား၊ နဂါးဂဠုန်၊ ကုမ္ဘဏ်အပေါင်းနှင့် စုဆောင်းဝန်းရံ၍ သွန်းလုပ်တော်မူသောအခါသည် ဇမ္ဗူဒီပါကျွန်းအပြင်၌ တရာ့တယောက်သော မင်းအပေါင်းတို့သည် ခညွတ်ကျိုးနွံလာကုန်သည်သာ။ ရခိုင်ရွှေမြို့တော်ကြီးလည်း သဗ္ဗညုဘုရားသခင် ထင်ရှားရှိတော်မူစဉ်ကပင် သာသနာတော် တည်ထွန်းရာလည်း ဖြစ်ပေသည်။ ဘေးလောင်းတော် စန္ဒကောလိယမင်း ဒသရာဇာမင်းတို့ ပွင့်လင်းဖြစ်ထွန်းတော်မူသောအခါ၌လည်း အတိုင်းတိုင်းအပြည်ပြည်၌ တည်နေစိုးစံတော်မူကြသော မင်းများအပေါင်းတို့သည် ညွတ်ပေါင်းခယ ကျိုးနွံကုန်လာသည်သာ။ ဘေးလောင်းတော်မင်းရာဇာလက်ထက် ဟံသာဝတီ ပဲခိုး၊ ယိုးဒယားပြည်တို့သည် လက်နက်နိုင်ငံတော်ဖြစ်သောကြောင့် အလျားအတောင် နှစ်ဆယ်၊ လုံးပတ်သံခြောက်တောင်ရှိ နားမဖောက်သေးသော ပြောင်းကြီးနှင့် အလျား တဆဲ့ငါးတောင်၊ ဆယ်တောင်အစရှိသော အထောင်မကသော ပြောင်း၊ အရေမရသောလက်နက်ကိရိယာ၊ ယိုးဒယားပြည့်ရှင် မင်း၏အရုပ်၊ မျောက်ရုပ်၊ အလမ္ပာယ်စသော အရုပ်တော်များ၊ ဆင်ဖြူရတနာ၊ ပဲခိုးမင်းကြီး သမီးတော် ခင်နှောင်းတို့ကို ဆက်သတော်မူလျက် ခယကျိုးနွံလာကုန်သည်သာ။ ဆင်ဖြူရတနာ၊ ပဲခိုးမင်းကြီးသမီးတော်တို့သာ အနိစ္စသဘောနှင့် ယှဉ်ကုန်သည်။ အထောင်မကသော ပြောင်း၊ ယိုးဒယားပြည့်ရှင် မင်းရုပ်များသည် မပျက်မစီး ထင်ရှားရှိသေးသည်။ ရှေးဘေးလောင်းတော်တို့နှင့် အင်းဝ ရွှေနန်းသခင် မင်းတရားသည် မဟာမုနိ ရုပ်ရှင်တော်၏ ပေါင်တော်ကိုလက်စွဲ၍ တညီတညွတ် နှစ်ပြည့်တပြည်၊ နှစ်မင်းတမင်းပေါင်းသင်းဆက်ဆံ၍ ပစ္စုပ္ပန်သံသရာအကျိုး တိုးပွားစေခြင်းငှာ သစ္စာရေသွန်းလျက် မဟာမုနိ ရုပ်ရှင်တော်၏ ပေါင်တော်ရေကို သောက်တော်မူကြလေသည်။ ထိုအခါမှစ၍ ယခုတိုင်အောင်လည်း နေနှင့်လကဲ့သို့ ရွှေနှင့်မြကဲ့သို့ ဇမ္ဗူဒီပါ ယူဇနာသောင်းပြင်ဝယ် တည်ထောင်ဖက်ပြုကြကုန်သည်သာ။ ဖိုးခေါင်နဂါးရစ်တို့၌လည်း သစ်ကြီးဝါးရုံ၊ ခြုံ၊ ပုတ်ပေါင်းတို့သည် မိုးခြား မြေခြားကို သိစိမ့်သောငှာ အဝိညာဏကဖြစ်ကြကုန်လျက် ကိုင်းညွတ်လာကုန်သည်သာ။ ဘုန်းတော်လက်ရုံးတော် တောက်ထွန်းတော်မူ၍ များသောလယ်ယာ၊ တဖက်ဆည်ကန်၊ လေးထောင့်ကန်၊ ရောင်းမူဝယ်မူနှင့်ယှဉ်သော မြတ်သောဝတ္ထု၊ ခဲဖွယ်စားဖွယ်အာဟာရတို့ဖြင့် ပြွမ်းပြွမ်း ပြည့်ပြည့်။ ကျွမ်းနိုင်သောပစ္စင်၊ ရင်တား၊ ပြအိုး၊ တန်ဆောင်း၊ ကျယ်ဝန်းစေ့စပ်သော မြင့်သောတံတိုင်း၊ နက်သော ကျုံးမြောင်းတို့ဖြင့် ဆန်းကြယ်သော၊ အထူးထူး အပြားပြားများစွာသော ဘာသာနှင့်ယှဉ်သော၊ အမျိုးလေးပါးတို့၏ မှီခိုရာဖြစ်သော၊ သီရိအယုဇ္ဈပူရဟု သမုတ်အပ်သော မြတ်သော ရွှေပြည်တော်ကြီးသည် အလောင်းတော်တကာတို့ ကိန်းအောင်းတော်မူရာ ဖြစ်သော တာဝတိံသာနတ်ပြည်ကဲ့သို့ သာယာစည်ပင်လေသည်။ ရတနာသုံးပါးတို့၌ မိုင်းဝါဠမ်းသည် ခိုင်းနှိုင်းခြင်းငှာ မတတ်ကောင်းသော၊ နူးညံ့ကြည်ညို ဖြူစင်သန့်ရှင်းသော နှလုံးတော်ရှိသော ရခိုင်ဘဝရှင် မင်းတရားကြီးသည် သဗ္ဗညုဘုရားရှင် သာသနာတော် အစဉ်ပွင့်လင်းစည်ပင်စေကြောင်း တိုင်းနေပြည်သူ ရှင်လူရဟန်းတို့ ငြိမ်းချမ်းသာယာစည်ပင် ပြန့်ပွားခြင်းကို အမြဲတောင့်တစီရင်လေသည် ဖြစ်သောကြောင့်၎င်း၊ မေတ္တာပုဗ္ဗင်္ဂမအစရှိသော လေးဆဲ့ကိုးဌာန၊ စရိယ၊ ဒသရာဇဓမ္မတို့ကို လုံ့လကြီးကုတ် ဖြည့်ကျင့်လေ့ရှိသောကြောင့်၎င်း၊ မဇ္ဈိမဒေသတရိုး တိုင်းကြီးပြည်ကြီး ထီးဆောင်းနန်းနေ မင်းတကာအပေါင်းတို့သည် ဆင်ကြီး၊ မြင်းကြီး၊ သမီးကညာ အထူးထူးသော လက်ဆောင်ပဏ္ဏာတို့ကိုဆက်သ၍ ခညွတ်ကျိုးနွံလာကုန်သည်သာ။ နာနာဘာဝ ဝိနာဘာဝသဘောနှင့် မကင်းသည်ကို

ထောက်၍ အရပ်ရပ်သော မင်းတကာတို့ နည်းလာရောက်စေရမည်ဟူသည်မှာ ရခိုင်ဘဝရှင် မင်းထက်မင်းတရားမှာသာ နာနာဘာဝ ဝိနာဘာဝ သဘောနှင့် မကင်းသည်မဟုတ်။ ရတနာပူရကို အစိုးရတော်မူသော အင်းဝရွှေနန်းရှင် မင်းတရားကြီးမှာလည်း မကင်းလေသည်သာ။ လူသုံးပါးတို့၏ ခရီးလမ်းညွှန်ဖြစ်တော်မူသော မြတ်စွာဘုရားသာသနာတော် ငါးထောင်ပတ်လုံး ခပ်သိမ်းသောသတ္တဝါတို့အား အမြိုက်နိဗ္ဗာန်ကို ပေးစိမ့်သောငှာ ထားတော်မူခဲ့သော ကိုယ်စားတော် မဟာမုနိ မဟာဇိန်၊ အဇ္ဈဝိသ၊ ဆံတော်၊ ဦးရစ်တော်၊ ညှပ်ရိုးတော်၊ သင်းကျပ်တော်၊ မွေတော်၊ ဓာတ်တော်အစရှိသော ဆယ်ပါးသော သရီရဓာတ်တော်တို့၏ ဒါယကာတော်ရင်းဖြစ်တော်မူသော တိုင်းကြီး ပြည်ကြီးများသခင် ရခိုင်ဘဝရှင်မင်းထက် မင်းတရားကြီးကိုပင် အရပ်ရပ်သော ထီးဆောင်းနန်းနေ မင်းတကာတို့နည်း လာရောက်စေရမည်ဟူသော စကားကိုဆိုသာမည် မထင်။

ဟူ၍ ရေးသားပြန်ပေးလိုက်သည်။ (ဤရာဇသံနှစ်ပုဒ်တို့ကား ရာဇဝင်ပေါင်းချုပ်၌ ရေးပြအပ်သော ရာဇသံတို့တည်း။)

စန္ဒသုမနရာဇာမင်းတရားလည်း သက္ကရာဇ် ၁၁၃၅ ခု၊ တန်ခူးလကစ၍ ရမ်းပြည့်ကျွန်း တဆဲ့နှစ်ရွာသားတို့သည် ရိုင်းပျလေသည်ကို နှိမ်နင်းအံ့သောငှာ အမတ်တော် လက်ဝဲမြန် အနန္တသီရိကျော်ထင်ကို စေလွှတ်တော်မူ၏။ လက်ဝဲမြန်လည်း များစွာသော ဗိုလ်ပါအပေါင်းတို့နှင့် သက္ကရာဇ် ၁၁၃၆ ခု၊ တပို့တွဲလဆန်း တဆဲ့တရက်၊ စနေနေ့တွင်ချီလေ၍ မင်းရပ်သို့ ရောက်လေလျှင် မင်းရပ်ဗိုလ်မင်းအောင်စုန်က အကျွန်ုပ် ပုန်စားသည်မဟုတ်ပါ။ သောင်းကြမ်းနေသော ဗိုလ်မင်း စနေဖြူ၊ လာဖြူ၊ မောင်ထွေးတို့ကို တိုက်လှန်ဖျက်ဆီး၍ ငြိမ်ဝပ်ပါပြီ။ မေဃဝတီ၊ မာန်အောင်ကျွန်း၌ ဆယ်ရွာ သူကြီး အောင်ကျော်စံသည် သောင်းကြမ်း၍နေသည် ဖြစ်သောကြောင့် မီးအငယ်သည် လောင်စာများလျှင် အားကြီးဘိသကဲ့သို့ရှိမည်ဖြစ်၍ အဆောတလျင် ချီကြွ၍ တိုက်တော်မူပါလေ။ အောင်တော်မူ၍ပြန်လာလျှင် အကျွန်ုပ်လည်း လက်ဆောင်တော်ဆက်ပါမည်ဟု လျှောက်လေ၏။

လက်ယာမြန် အနန္တသီရိကျော်ထင်လည်း မာန်အောင်ကျွန်းသို့ချီသွား၍ တိုက်လေသော် ဆယ်ရွာ သူကြီး အောင်ကျော်စံသည် ဆီး၍တိုက်လေသောကြောင့် ရခိုင်စစ်သည်တို့ မနိုင်သည်ဖြစ်၍ ပြန်လာခဲ့၏။ ထိုအကြောင်းကို ဗိုလ်မင်းအောင်စုန်ကြားလေလျှင် ငါလည်းလက်ဆောင် ပဏ္ဏာမဆက်သွင်းပြီ။ သောင်းကြမ်း၏ဟုဆို၏။

လက်ဝဲမြန် အနန္တသီရိကျော်ထင်လည်း မင်းရပ်ချောင်းသို့ဝင်၍ သစ်ပုတ်တောင်ခံတပ်ကို တိုက်လေသော် ရမ်းပြည့်ဗိုလ် မင်းအောင်စုန်သူရဲတို့သည် ဆီးခံ၍တိုက်သောကြောင့် ရခိုင်စစ်သည်တို့ ပျက်စီး၍ပြန်လေကုန်၏။

ရမ်းပြည့်ငယ်စားလက်မတော်တို့ ပုန်စားရာဝယ် အပေါင်းအဖက်ဖြစ်သည်ဟု အသည်တောင်စား စံရွှေပေါ် အစရှိသောလူတို့ကို ခြေချင်းခတ်၍ ထားရာကလွတ်လေ၏။ ထိုလွတ်သောလူတို့တွင် အသည်တောင်စား စံရွှေပေါ် အကြီးပြုလျက် သက္ကရာဇ် ၁၁၃၇ ခု၊ ကဆုန်လဆန်း ခုနစ်ရက်၊ စနေနေ့၊ တပဟိုရ် ငါးနာရီတွင် ရွှေနန်းတော်ကိုမီးတိုက်၍ လောင်လေ၏။ စန္ဒသုမနရာဇာမင်းလည်း ရွှေနန်းတော်ကို မီးတိုက်သောသူတို့အား ဖမ်း၍ရလေသော် ကဆုန်လဆန်းဆယ်ရက်၊ အင်္ဂါနေ့ ရွှေနန်းတော်ကို ဆောက်လုပ်တော်မူ၏။

ဝရီးတော်သမီး မမယ်ကြီးနှင့် ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၃၇ ခု၊ တော်သလင်းလဆန်း တရက်၊ တနင်္ဂနွေနေ့တွင် မြို့ချာတိုင်ဆောက်တော်မူ၏။ လေးရက်တိုင်အောင် ရေထွက်၍တွင်းမရဘဲရှိ၏။ ပြည်သူတို့က မြို့အဆူထွက်ခဲ့ပြီဟုဆိုကြကုန်၏။ လေးရက်မြောက်သော

နေ့မှ မြို့ချာတိုင်ကိုဆောက်ရ၏။ တွင်းချောင်သောကြောင့် မြို့ချာတိုင်သည် တောင်ဖက်သို့ယိမ်းလေ၏။

စစ်တွေကုလားတို့သည် သားမယားတို့ကို အနောက် ပင်းဝါမြို့သို့ပို့ထား၍ပြီးမှ ကုလားအပေါင်းတို့ ရုံးစုလျက် ချီလာပြီးလျှင် တောင်တံခါးဝတွင်ဆိုက်လာ၏။ စစ်တန်ဆာ အစုံဆင်ဝတ်လျက် ဝင်းတော်ကိုဝင်လေသော် အလယ်ဝင်းသို့ပြောင်းရုံတွင် ဆရာတော်ဆေးတိုင်း ဘုန်းကြီးနှင့် ယောက်ဖတော် လောင်းကြက်စားဥဂ္ဂါစိတို့ကို ကုလားတို့တွေ့လေလျှင် သတ်၍ပစ်လေကုန်၏။

စန္ဒသုမနရာဇာ မင်းတရားလည်း သက်တော် စောင့် သူရဲတို့မရှိလေသောကြောင့် နန်းတွင်းသူမောင်းမ တို့ကို အာဏာပေးတော်မူ၏။ နန်းတွင်းရှိ ကိုယ်လုပ်တော် မောင်းမတို့သည်လည်း ခံလင့်ကြကုန်၏။ ဆရာတော် ဝိနည်းမိုရ်လည်း ဘာသာမတူသောကုလား သူပုန်တို့ကို တိုက်လေဟု ဗဟုစရရဟာန်းတို့ကိုစေလိုက်တော်မူ၍ တိုက်ကြလေသော် ကုလားတို့သည် ပျက်စီး၍ သက္ကရာဇ် ၁၁၃၇ ခု၊ တော်သလင်းလဆုတ် တဆဲ့သုံးရက်၊ ကြာသပတေးနေ့ ညနေလေးပဟိုရ်ရှပ် အချိန့်တွင်လှေစီး၍ ကုလားတို့သည် အနောက်သို့ပြေးဝင်ကြလေ၏။ အမတ်တော်အနန္တသီရိ ကျော်ထင်အစရှိသော မှူးမတ် အပေါင်းတို့သည် နောက်ထပ်၍ လှေစီးလျက် ကုလားတို့ နေရာ စစ်တွေသို့လိုက်၍ရောက်ကြလေသော် ကုလား တယောက်ကိုမျှမမြင်၍ ပြန်လာခဲ့ကြကုန်၏။ ကုလားတို့ အား စစ်တိုက်လေသော ဗဟုစရရဟာန်းတို့ကို လူထွက် စေ၍ အပြောင်ကိုယ်လုပ်တော် တယောက်စီးပေး၍ ကျေးရွာခရိုင်နှင့် ထားတော်မူ၏။

တကြိမ်တုံလည်း ကျောက်ခုပ်စအင်းရွာဝယ် လက်ဝဲရန္တသူသည် ရွာသူတို့နှင့်ညီ၍ သောင်းကြမ်းပြန် လေ၏။ စန္ဒသုမနရာဇာ မင်းတရားလည်း သမက်တော် အနန္တသီရိကျော်ထင်ကို စေတော်မူလိုက်၏။ ချီလျက်သွား လေလျှင် သက္ကရာဇ် ၁၁၃၈ ခု၊ တပို့တွဲလတွင် ကျောက်ခုပ် စအင်းရွာကို တိုက်လေသော် လက်ဝဲရန္တသူကို ဖမ်း၍ရလေလျှင် သတ်၍ပစ်လေ၏။ ရွာသူတို့ကို သစ္စာတော်ရေတိုက်၍ ပြန်ခဲ့၏။

တကြိမ်တုံ စာဘတ်တတ် ဒိုးဝေနှင့် ကိုယ်ရံ တော် ပိုးရွှေတို့သည် စန္ဒသုမနရာဇာ မင်းတရားကို မခစားလိုသောကြောင့် ရမ်းပြည့်ဗိုလ်မင်းအောင်စုန်အထံသို့ စန္ဒသုမန ရခိုင်မင်းကိုတိုက်ရလေအောင် စစ်ယန်လေကုန်၏။ ဗိုလ်မင်းအောင်စုန်လည်း စစ်အင်္ဂါလက်နက်ကိရိယာ မစုံမလင်သေး၊ ပြည့်စုံလျှင်ချီလာအံ့၊ ဆိုင်းငံ့ပါဟုဆိုလေ သော် မနာမယူလို၍ စာဘတ်တတ်ဒိုးဝေတို့သည် တောင်စဉ်ကမာသို့ သွားကြလေ၏။ လူသူအပေါင်းစု၍ ရသမျှတို့နှင့် လှေငါးစင်းစီး၍ ချီသွားလေလျှင် ကျောက်ခုပ် စအင်းတိုင်ရောက်လာ၏။ ထိုအခါ ကျောက်ခုပ်စအင်းသားတို့သည် လောင်းထပ်၍ သောင်းကြမ်းပြန်လေ၏။

စန္ဒသုမနရာဇာမင်းတရားလည်း သမက်တော် လက်ဝဲမြန် အနန္တသီရိကျော်ထင်ကို စေမြဲစေတော်မူလေ လျှင် သက္ကရာဇ် ၁၁၃၉ ခု၊ ကဆုန်လဆန်းရှစ်ရက် အင်္ဂါနေ့ချီသွားလေ၍ ကံသာရေကျော်ဝယ်နေလာ၏။ ထိုအကြောင်းကို စာဖတ်တတ်ဒိုးဝေတို့ ကြားလေ၍ ချီလာပြီးလျှင် တိုက်ကြလေသော် လက်ဝဲမြန် အနန္တသီရိ ကျော်ထင်ကို ဝါးချွန်ထိပါး၍ အနာရလေလျှင် မြို့တော်သို့ ပြန်၍ပြေးလေ၏။ ရောက်၍လေးရက်ရှိလျှင် ဝါးချွန်ထိုး သော ဒဏ်ရာနှင့်သေလေ၏။ ထိုသို့သေလေသည်ကို အကြောင်းပြု၍ 'လက်ဝဲမြန်၊ ကံသာကျ'ဟု ခေါ်ကြ ကုန်၏။

စန္ဒသုမနရာဇာမင်းတရားလည်း သမက်တော် လက်ဝဲမြန်သေဆုံးခဲ့လျှင် တဖက်ရန်စစ်ကိုတိုက်အံ့ သောသူ မရှိသည့်အကြောင်းကို သိတော်မူလေလျှင် အလွန် ကြောက်လန့်လှသောကြောင့် စန္ဒသုမနရာဇာမင်းတရား သည် အိမ်နိမ့် ၅၀၊ ငါးဆယ်။ နန်းစံ ၄၊ လေးနှစ်။

နှစ်စုသက်တော် ၅၄၊ ငါးဆဲ့လေးနှစ်။ သက္ကရာဇ် ၁၁၃၉ ခု၊ ကဆုန်လဆုတ်နှစ်ရက်၊ တနင်္လာနေ့တွင် ရွှေနန်းတော်မှ ဆင်းပြေးလေ၏။ နံတော်သောကြာသားတည်း။

ထိုစန္ဒသုမနမင်း နန်းမှဆင်း၍ပြေးလေလျှင် ကိုယ်ရံတော် ပိုးရွှေကို မိဘုရားဒါဖြူနှင့် သက္ကရာဇ် ၁၁၃၉ ခု၊ ကဆုန်လဆန်းသုံးရက်၊ အင်္ဂါနေ့ဝယ် စာဘတ်တတ် ဒိုးဝေ၊ ကွမ်းပုံတောင်စားသာမ၊ တုံးကျော်ဝေတို့သည် ညီညွတ်၍ ရွှေနန်းတင်တော်မူကြလေ၏။ စန္ဒဝိမလရာဇာ ဟူသော အမည်ကိုခံတော်မူ၏။ စန္ဒသုမနရာဇာမင်းကို ပြည်သူတို့ဖမ်းဆီး၍ ပို့လာလျှင် ရဟန်းပြု၍ ရှစ်သောင်းကျောင်းတိုက်တွင်ထားလေ၏။

ကုလားတန်စားစဖိုဝေသည် စန္ဒဝိမလရာဇာမင်း တရားကိုမခစားလို၍ များစွာသောရဲမက်ဗိုလ်ပါနှင့် သိင်္ဂပါ အရပ်က သောင်းကြမ်းလေ၏။ စန္ဒဝိမလရာဇာမင်းတရား လည်း ကွမ်းပုံတောင်စားသာမ၊ တုံးကျော်ဝေတို့ကို စေတော်မူလိုက်၏။ ကွမ်းပုံတောင်စားသာမ၊ တုံးကျော်ဝေ တို့လည်း ရမ်းပြည့်စား ကျော်အောင်၊ ဟယားပိုင် ခွေးချေးတို့နှင့် ချီလေ၍ သက္ကရာဇ် ၁၁၃၉ ခု၊ နယုန်လဆန်း ဆယ်ရက်၊ တနင်္ဂနွေ နေ့၊ ကုလားတန်စား စဖိုဝေကိုတိုက်လေသော် ကွမ်းပုံတောင်စားသာမ၊ တုံးကျော်ဝေတို့သည် စစ်အားမတန်သောကြောင့် ဆုတ်ခွဲ ရလေလျှင် မင်းစီးလှေအစင်း နှစ်ဆယ်နှင့် လှေအများကို ကုလားတန်စား စဖိုဝေရလိုက်လေ၏။ ကွမ်းပုံတောင်စား သာမ၊ တုံးကျော်ဝေတို့လည်း သူရဲတို့ကိုဆုပေးလျက် ဒါးပွေ့၍တိုက်ကြလေသော် ကုလားတန်စား စဖိုဝေကို ဖမ်း၍ရလေလျှင် သူရဲတို့သည် များစွာခုတ်ထစ်လေ သော်လည်း မပြတ်မရှသောကြောင့် ဒါးပြန်စီးဟု တွင်လေ၏။ ဒါးပြန်စီးစဖိုဝေကို ရွှေမြို့တော်သို့ ယူဆောင်လေ၍ ရဟန်းပြုလျက်ထားလေသည်။

ထိုစန္ဒသုမနရာဇာမင်းတရားလည်း သေမည့် ဘေးကိုကြောက်သောကြောင့် ဒါးပိုင်ကြီး စာဘတ်ဒိုးဝေ အား သမီးတော် ယက်သဲ့မယ်ကိုပေးလေ၏။ ကွမ်းပုံ တောင်စား သာမ၊ တုံးကျော်ဝေတို့လည်း ငါသို့သော သူတို့အား သမီးကိုမပေး၊ ဒါးပိုင်ကြီး စာဘတ်ဒိုးဝေကို ပေးရာသလောဟုဆိုပြီးလျှင် စန္ဒသုမနရာဇာမင်းတရား လည်း ရဟန်းပြု၍ တဆယ့်ငါးရက်နေ့တွင် ကျောင်းက ယူချေ၍ မင်းထွက်ဆည်ဝတွင် သတ်၍ပစ်လေ၏။ အလောင်းကောင်သည် ဖြားတက်ဖြားကျမျော၍ သုံးရက် ရှိလေမှ ဘုရားပေါ်ဘုန်းတော်ကြီးသည် စန္ဒဝိမလ ရာဇာမင်းတရားအား မေတ္တာရပ်၍ ပတိန်းကျွန်းတွင် သင်္ဂြိုဟ်လေ၏။

သံတွဲစားဘထော်သည် ရမ်းပြည့်သို့သွား၍ ဗိုလ်မင်းအောင်စုန်ကို ရခိုင်ပြည်သို့သွား၍ မင်းပြုပါဟု ခေါ်ပင့်လေ၏။ ဗိုလ်မင်းအောင်စုန်လည်း တူတော်ကျော်ပုံ၊ ဥက္ကါရွှေ၊ ထွန်းပေါ်၊ ထွန်းခိုင်၊ ခြေဝန်း၊ ဤသူရဲအပေါင်း တို့နှင့် သက္ကရာဇ် ၁၁၃၉ခု၊ နယုန်လပြည့်ကျော် ငါးရက်၊ ကြာသပတေးနေ့တွင် တိုက်လှေစီး၍ချီလေရာ ပေါင်းတုပ်ပြင်တွင် ရောက်လာ၏။

စန္ဒဝိမလရာဇာမင်းတရားလည်း ကွမ်းပုံတောင် စား သာမ၊ တုံးကျော်ဝေ၊ သူငယ်တော်သူကြီး ဝေတုံးကြာ၊ ကုလားတန်စား ဥက္ကါစံ၊ စာဘတ်တတ်ဒိုးဝေတို့ကို စေတော်မူလိုက်၏။ ချီ၍သွားကြလေလျှင် ပေါင်းတုပ်ပြင် တွင် တိုက်ကြလေ၏။ သူငယ်တော်သူကြီး ဝေတုံးကြာ၊ ကုလားတန်စား ဥက္ကါစံတို့ လှံလက်နက်ထိပါး၍ သေလေ ကုန်၏။ ကွမ်းပုံတောင်စား သာမ၊ တုံးကျော်ဝေ၊ စာဖတ်တတ် ဒါးပိုင်ကြီးဒိုးဝေတို့သည် ပြေးလေကုန်၏။

ရမ်းပြည့်ဗိုလ်မင်းအောင်စုန်လည်း နောက်ထပ် လိုက်လာကြောင်းကိုကြားလေသော် စန္ဒဝိမလရာဇာ မင်းတရားသည် အိမ်နိမ့် ၄၆၊ လေးဆဲ့ခြောက်နှစ်။ နန်းစံရက်ပေါင်း အရက် ၄၀၊ အရက်လေးဆယ်။ နှစ်စု သက်တော် ၄၆၊ လေးဆဲ့ခြောက်နှစ်နှင့် အရက်လေးဆယ်။ သက္ကရာဇ် ၁၁၃၉ ခု၊ နယုန်လပြည့်ကျော် တဆဲ့သုံးရက်၊

ကြာသပတေးနေ့တွင် ရွှေနန်းတော်မှဆင်း၍ ရှစ်သောင်းသိမ်တွင်ဝင်၍နေတော်မူလေ၏။ နံတော် ကြာသပတေးသားတည်း။ ၂၆။

ထိုစန္ဒဝိမလမင်း နန်းမှဆင်း၍ ရှစ်သောင်းသိမ်တွင်နေလေလျှင် ရမ်းပြည့်ဗိုလ်မင်းအောင်စုန်သည် နန်းထက် မိဘုရားစိန်ခိုင်နှင့် သက္ကရာဇ် ၁၁၃၉ ခု၊ နယုန်လပြည့်ကျော် တဆဲ့သုံးရက်၊ ကြာသပတေးနေ့တွင် ဘိသိက်ခံ၍ ပြည်စည်းစိမ်ကို စိုးအုပ်တော်မူလေ၏။ သတိဝီရိယမြဲစွဲသည်ကိုအကြောင်းပြု၍ စန္ဒသတိဿရာဇာ ဟူသောအမည်ကို ခံတော်မူသည်။

လက်ဝဲမြန်ဘထော်၊ လက်ယာမြန်ခေါင်းမဲသွယ်၊ မှူးမတ်အစုံတို့ကို ရွှေကျေး ငွေကျေးပေးတော်မူ၏။ ဝါဆိုလဆန်းရှစ်ရက်၊ သောကြာနေ့ဝယ် တောင်မိဘုရားအောင်မယ်မှ သားတော်သုဒ္ဓေါဦးကို ဖွားမြင်တော်မူသည်။

စန္ဒဝိမလရာဇာမင်းကို ဖမ်း၍ရလေလျှင် ရဟန်းပြု၍ထားတော်မူလေ၏။ စာဖတ်တတ်ဒိုးဝေ၊ ကွမ်းပုံတောင်စား တုံးကျော်ဝေတို့ ကျောက်ခုပ်အရပ်က နေ၍ သောင်းကြမ်းလေကုန်၏။

စန္ဒသတိဿရာဇာမင်းတရား ချီသွားတော်မူ၍ သက္ကရာဇ် ၁၁၃၉ ခု၊ ဝါခေါင်လဆန်းတရက်၊ တနင်္လာနေ့ တိုက်လေသော် ပျက်စီး၍ပြေးလေကုန်၏။

အဘယမဟာရာဇာမင်း၏ညီတော်ဖြစ်သော ရမ်းပြည့်စားချစ်သူသည် စန္ဒသတိဿရာဇာမင်းကို ဖြားခန်း၍ သစ်ငုတ်ပေါ်သည်ဟု မလေးမခန့်သော စကားကိုဆိုသည်ဟု စန္ဒသတိဿရာဇာမင်းကို လျှောက်လေလျှင် ရမ်းပြည့်စားချစ်သူသည် ရှေးကလည်း နှိပ်စက်ဖူးလေသည်။ ယခုလည်း နှိပ်စက်သောစကားကို ဆိုရာသလောဟု မိန့်တော်မူ၍ ကုလားပုန်းတောင်ကောင်းငကတ်တင်ကို သတ်ရန်စေ ခိုင်းတော်မူလိုက်၏။ ငကတ်တင်လည်းသွားလေ၍ ရမ်းပြည့်စားချစ်သူကို ဖမ်းယူ၍သတ်ပစ်လေ၏။

သက္ကရာဇ် ၁၁၃၉ ခု၊ တော်သလင်းလဆန်း သုံးရက်၊ ဗုဒ္ဓဟူးနေ့၊ ငါးဖင်ရိုင်း ချောင်းဝယ် ငသံတွေ သောင်းကြမ်းပြန်လေ၏။ စန္ဒသတိဿရာဇာ မင်းတရား လည်း ချီသွား၍တိုက်လေသော် ငသံတွေ ပျက်စီး၍ ပြေးလေ၏။

သက္ကရာဇ် ၁၁၃၉ ခု၊ ဝါကျွတ်လပြည့်ကျော် လေးရက်၊ တနင်္လာနေ့တွင် ယိုးသံပြင်ဝယ် သံတောင်စား တုံးခင်ရွှေသည် သောင်းကြမ်းပြန်လေ၏။ စန္ဒသတိဿ ရာဇာမင်းလည်း ချီသွား၍တိုက်လေသော် တုံးခင်ရွှေ ပျက်စီး၍ပြေးလေ၏။

သက္ကရာဇ် ၁၁၃၉ ခု၊ နတ်တော်လဆန်း ခုနစ်ရက်၊ စနေနေ့တွင် ပြိုင်းချောင်း၊ ပေချောင်းတွင် ရှာတည်၍ထားလေသော် သက်မြန်မာလူမျိုး စံရွှေကျော်တို့ သည် လေ့စီးလျက်ထွက်ပြေးလေ၍ တောင်စဉ်ဆားပြင် ကမာအရပ်က ဖိုးခေါင်တောင်ကိုကျော်၍ အင်းဝပြည်သို့ ပြေးလေ၏။

သက္ကရာဇ် ၁၁၃၉ ခု၊ နတ်တော်လဆန်း တဆဲ့ တရက်၊ ကြာသပတေးနေ့တွင် သံတောင်စား တုံးခင်ရွှေနှင့် ကွမ်းပုံတောင်စား တုံးကျော်ဝေတို့ အလောင်းသမား ကျွန်းကိုမီးတိုက်လေ၍ ဒါးပိုင်ကြီးကျော်ပုံလိုက်လေသော် ပြေးခဲ့၏။

သက္ကရာဇ် ၁၁၃၉ ခု၊ တပို့တွဲလဆုတ် ခြောက်ရက်၊ အင်္ဂါနေ့၊ စန္ဒသတိဿရာဇာမင်း၏ သားတော်အိမ်ရှေ့မင်း သက်စံရွှေနှင့် မိဘုရားခေါင်းပုံမယ် တို့ ရောက်လာ၏။ စန္ဒသတိဿရာဇာမင်းလည်း ရွှေပြည်တော်ကို အုပ်ချုပ်၍နေစိမ့်သောငှာ ပြည်စိုးကြီး ညီ့ရွှေကိုအပ်ထားခဲ့ပြီးလျှင် သက္ကရာဇ် ၁၁၃၉ ခု၊ တန်ခူးလဆန်းနှစ်ရက်၊ တနင်္လာနေ့တွင် မှူးမတ်အပေါင်း ခြံရံ၍ ရမ်းပြည့်ကျွန်းသို့ ချီတော်မူလေ၏။ ရမောင်မြစ်သို့ ရောက်လျှင် လက်ဝဲမြန်ဘထော်နှင့် ရခိုင်မှူးမတ်တို့ပြန်၍ ပြေးလာခဲ့ပြီးလျှင် မြို့တော်သို့ရောက်လာကြသော်

လူအပေါင်းတို့ကိုတိုင်ပင်ရုံးစု၍ ကုလားတန်စား ဒါးပြန်စီးကို ဒါးလှံ၊ သေနတ်၊ ချွန်းတောင်းတို့နှင့် ထိုး၍ မဝင်၊ ခုတ်၍မပြတ်ဖြစ်သောကြောင့် မင်းပြုပါ၊ အကျွန်ုပ်တို့သည် အမှုတော်ကို ထမ်းရွက်ပါမည် ဝန်ခံတောင်းပန်ကြကုန်၏။ ဒါးပြန်စီးလည်း မင်းမြောက်တန်ဆာငါးပါးကို ဆင်ယင်၍ သံရှင် သုံးဆဲ့ငါးလုံးကို တီးခတ်စေပြီးမှ နာရီတော်နန်းကို လက်ယာရစ်ခုနစ်ပတ်လှည့်ရာတွင် ငါးပတ်မြောက်တွင် ဒါးပြန်စီးသည် ခြေထိပ်ခတ်ဘိသကဲ့သို့ ဖဝါးမကြွ မချီနိုင်ရှိလေသော် လူအပေါင်းတို့သည် ဒါးပြန်စီးကို ကြဥ်းဆောင်၍ သက္ကရာဇ် ၁၁၃၉ ခု၊ တန်ခူးလဆန်း တဆဲ့တရက်၊ ဗုဒ္ဓဟူးနေ့တွင် ရွှေနန်းတော်ထက်သို့တင်ပြီးသော် သင့်တင့်ရာအရပ်၌ထားကြလေ၏။ ဒါးပြန်စီးလည်း များစွာသောလူအပေါင်းတို့ကိုခေါ်၍ ကျိန်းအရပ်၌ ကုံကော်သစ်ကို တပ်ကြီးတည်စေ၏။ ဖျာပျိုးအရပ်တွင် မဟာခေ ကြီးစွာသောလေးလက်နက်ကို လုပ်စေ၏။ ထိုလေးထု၌ မြားစူးကြောင်း တဆဲ့နှစ်ကြောင်း စီရင်ပြီးလျှင် လူသန်လေးကျိပ်တို့တင်မှ လေးညို့သည် လေးချက်သို့ရောက်၏။ ထိုလေးထု၌ ဝရမိန်စက်နှင့်တူသော မြားတဆဲ့နှစ်ချောင်းကိုတင်၍ထားပြီးမှ ကြီးစွာသော ခံတပ်ကိုတည်၏။ သောင်းခေါင်မော်တွင်လည်း တပ်ကြီးတည်၏။ ထိုတပ်တို့တွင် လက်ဝဲမြန် ဘထော်ကို သူရဲလက်နက်ကိုင်များစွာနှင့် ဗိုလ်ချုပ်ပြု၍ စောင့်နေစေ၏။

စန္ဒသတိသုရာဇာမင်းတရားလည်း ရမ်းပြည့်ကျွန်းသို့ ရောက်တော်မူလေလျှင် ရွာတော်သံချောင်း၊ ရွာတော်မင်းရပ်၊ အလယ်သံချောင်းဝယ် တည်းနန်းတော်၌ နေတော်မူလျက် ပြည်ရွာ၏အညစ်အကြေးဖြစ်သော ရန်ဆူးရန်ငြောင့် သူပုန်သူကန်တို့ကို ကွပ်ညှပ်ဆုံးမတော်မူပြီးမှ ဆွေတော်မျိုးတော်တို့အား ထိုက်လျော်လျောက်ပတ်သော ဆုလပ်တို့ကိုပေးတော်မူ၏။ သင်္ကြန်စားတော်ခေါ်ပြီးလျှင် ပွဲကြီးသဘင်စီရင်ခင်းကျင်း၍ အလှူကြီးကို ပေးတော်မူ၏။

ဒါးပြန်စီးနှင့် လက်ဝဲမြန်ဘထော်တို့ ပုန်ကန်သောင်းကြမ်းကြောင်းကို စန္ဒသတိသုရာဇာမင်းတရား ကြားသိတော်မူလေလျှင် လက်ယာမြန်ခေါင်းမဲ၊ တူတော်ဒါးပိုင်ကြီးကျော်ပုံ၊ ဆင်ကဲကြီးထွန်းပေါ်၊ ရမ်းပြည့်စားခြေဝန်းတို့ကိုခေါ်၍ မိန့်တော်မူသည်မှာ ခြင်္သေ့မင်းကို ယုန် သူငယ်ပုန်စားပြုဘိသကဲ့သို့ ကျောက္ကွင်းငြိ၍နေသော ငှက်လင်းတသည် သားတစ်ကိုမြင်လျှင် စားချင်ဘိသကဲ့သို့ လမူး၊ မြှုး၊ ပိုက်၊ ကွန်ထဲတွင်နေသောငါးတို့သည် မြူးစားကုန်ဘိသကဲ့သို့ လက်ဝဲမြန်ဘထော်နှင့် ဒါးပြန်စီးတို့သည် မင်းဖြစ်မည်ထင်မှတ်၍ ပုန်ကန်သောင်းကြမ်းကြလေသည်မှာ သေကြေပျက်စီးလို၍ ပုန်ကန်သောင်းကြမ်းကြလေသည်ဟု မိန့်တော်မူပြီးလျှင် မာန်အောင်မြို့နေ ဆယ်ရွာသူကြီး အောင်ကျော်စံကို ခေါ်တော်မူ၍ ဒါးပြန်စီးသည် မင်းပြုပြီးလျှင် လက်ဝဲမြန်ဘထော်သည် များစွာသောသူရဲတို့နှင့်တပ်ကြီး တည်လျက်ဆီးခံ၍နေသည်။ ထိုသူကို တိုက်လှန်ဖျက်ဆီးနိုင်မည်လောဟု မေးတော်မူလေလျှင် ဆယ်ရွာသူကြီး အောင်ကျော်စံက ဘုန်းတော်ကြီးလှသော အရှင်ဘုရား၊ အကျွန်ုပ်သည် အမိအဘာကျွေးမွေး၍ ကြီးမြင့်လျက် လူအပေါ်ရောက်သည့်နေ့ကကို ဤမြေပြင်ထက်ဝယ် သွားလာနေထိုင်ကြကုန်သော တိရစ္ဆာန် သစ်၊ ကျား၊ ဆင်၊ မြင်း လူသူတို့တွင် မည်သူအားကိုမျှ ကြောက်လန့်ခြင်းမရှိပါ။ အရှင်မင်းမြတ်တို့က အမှုတော်အရေးတော်တို့ကို မစေခိုင်းသောကြောင့်သာ အမှုတော်မထမ်း မရွက်ရ၍နေပါသည်ဟု လျှောက်ပေ၏။

စန္ဒသတိသုရာဇာ မင်းတရားလည်း အားရတော်မူ၍ ယခုအရေးကို လုပ်ကြံရွက်ဆောင်၍ အောင်မြင်လျှင် လက်ဝဲမြန်အရာကို ငါပေးမည်ဟုမိန့်တော်မူ၍ လက်ယာမြန် ခေါင်းမဲ၊ ဒါးပိုင်ကြီးကျော်ပုံ၊ လက်တော်ရေးထောင်စား သတိုးအောင် စသောမှူးမတ်အပေါင်းခြံရံ၍ လှေတော်စီးလျက်သာလျှင် သက္ကရာဇ် ၁၁၃၉ ခု အလွန်

လေးဆယ်ပြည့် အထက်တန်ခူးလပြည့်ကျော်ဆယ်ရက်၊ ဗုဒ္ဓဟူးနေ့တွင် ဖာပျိုးအရပ်၌ တည်ထားသော လေးခံတပ်ကြီးကို တိုက်ခိုက်လေသော် ပျက်စီး၍ ပြေးကြလေကုန်၏။ ကျိန်းအရပ်၌ ကံ့ကော်သစ်တပ်သား၊ သောင်းခေါင်မော်တပ်သားတို့သည်လည်း ကျားခြေသံကိုကြားလျှင် သမင်အပေါင်းတို့ ပြေးကြလေကုန်သကဲ့သို့ ပြေးလွှားတိမ်းရှောင်ကြလေကုန်၏။ ဒါးပြန်စီးလည်း ရွှေနန်းတော်ထက်ဝယ် တဆဲ့ခြောက်ရက်နေပြီးလျှင် သက္ကရာဇ် ၁၁၃၉ ခုအလွန် လေးဆယ်ပြည့် အထက်တန်ခူးလပြည့် ကျော်တဆဲ့တရက်၊ ကြာသပတေးနေ့ဝယ် ရွှေနန်းတော်မှဆင်းသက်၍ပြေးလေ၏။ လပြည့်ကျော်တဆဲ့နှစ်ရက်၊ သောကြာနေ့ဝယ် ဒါးလက်စား တုံးစံရွှေသည် ပါစွမ်းသရွှေသောလူတို့နှင့်လာပြီးလျှင် ငါမင်းပြုအံ့ဟု ရှစ်သောင်းဘုန်းတော်ကြီးထံဝယ် အမည်ဘွဲ့နာမတောင်းလေသော် ဆင်းရဲသားအမျိုးဖြစ်သောကြောင့် ဒုက္ခိတသဠ္ဌိ ယရာဇာဟူသော အမည်ကိုပေးတော်မူလိုက်၏။ ထိုအမည်ကိုခံ၍ တရက်မင်းပြုပြီးမှ ညလေးပဟိုရ်ရပ်တွင် ရှေးမင်းစဉ်မင်းဆက်ထားခဲ့သော ဒင်္ဂါးသုံးအိုးသုံးခွက်တို့ကိုယူ၍ပြေးခဲ့၏။ စနေနေ့တွင်ကား စန္ဒသတိဿရာဇာမင်းတရားသည် ရွှေနန်းတော်သို့ ရောက်တော်မူလာ၏။ ရမ်းပြည့်ကျွန်းသို့ ချီတော်မူလေသည်နှင့် ပြန်၍လာတော်မူသော ရက်သည်နှစ်ဆဲ့ခုနစ်ရက် ကြာတော်မူ၏။ မောလိပ်ဟဟားပိုင်၊ ရမ်းပြည့်စားတို့ကို ဒါးပြန်စီးအပေါင်းအဖက်ဟု သတ်၍ပစ်ကြလေကုန်၏။ လက်ဝဲမြန်ဘထော်ကိုလည်း ပြည်သူတို့သည် ဖမ်းဆီး၍ပို့လာလျှင် ဦးခေါင်းကိုဖြတ်၍ ကျိန်းအရပ်ကံ့ ကော်သစ်တပ်ပေါင်တွင်ဆွဲ၍ထားလေသည်ကိုအကြောင်းပြု၍ လက်ဝဲမြန်တပ်ဆွဲဟု ခေါ်တွင်လေ၏။

စန္ဒသတိဿရာဇာမင်းတရားလည်း ဤရခိုင်ပြည်သူတို့သည် ငါ့ကို ပုန်ကန်သောင်းကြမ်းပြုသမျှကို ငါ့စိတ်နှလုံးသည် ကြောက်လန့်ခြင်းမထင်သောကြောင့် ထိမထင်ရာဇာအမည်ကိုခံအံ့ဟု တံဆိပ်ခတ်နှိပ်မည်ရှိလေရာ မှူးမတ်အပေါင်းတို့က ဤအမည်ကိုခံတော်မမူပါလင့်ဟု လျှောက်ထားတောင်းပန်ကြလေသော် စန္ဒသတိဿရာဇာမင်းတရားလည်း ငါသည် မေတ္တာတရားနှင့် ပြည့်စုံသောကြောင့် ဤရခိုင်ပြည်တွင် မင်းဖြစ်တော်မူလာသည်ဟု ဆိုသောစကားကိုအကြောင်းပြု၍ မေတ္တရာဇ်ရာဇာအမည်ကို ခံတော်မူလျက် သက္ကရာဇ် ၁၁၄၀ ပြည့်၊ နယုန်လဆုတ်တရက်၊ ကြာသပတေးနေ့တွင် မိဘုရားချိုးမယ်နှင့် မင်းပြုတော်မူပြန်၏။ လက်ဝဲမြန်အောင်ကျော်စံ၊ လက်ယာမြန် ခေါင်းမဲနှင့် မှူးမတ်အစုံတို့ကို ထိုက်လျော်လျောက်ပတ်စွာသောဆုကို ပေးတော်မူလေ၏။

သက္ကရာဇ် ၁၁၄၀ ပြည့်၊ ဝါဆိုလပြည့်၊ ကြာသပတေးနေ့တွင် ဒါးလက်စား တုံးစံဝေသည် မိမိအရပ်မှနေ၍ ပုန်ကန်လေ၏။ မေတ္တရာဇ်ရာဇာမင်းတရားချီသွားတိုက်လေသော် တုံးစံဝေသည်ပြေးခဲ့၏။ ယင်းနေ့က ပင်ငှင်း ဒါးပြန်စီးသည် ချောင်းသစ်က ပုန်ကန် လာ၏။ မေတ္တရာဇ်ရာဇာမင်းတရားချီသွားတိုက်လေသော် ဒါးပြန်စီးဒါးမနိုင်သည် ပြေးခဲ့လေ၏။ နန်းလျာထားသောသားသည် လက်နက်ထိမှန်၍ သေလေ၏။

သက္ကရာဇ် ၁၁၄၀ ပြည့်၊ ဝါခေါင်လဆန်းခုနစ်ရက်၊ သောကြာနေ့၊ ဒါးလက်စား တုံးစံဝေသည် ကျောက်ခုပ်ကို မီးတိုက်ပြန်လေ၏။ လဆုတ် ရှစ်ရက်၊ စနေနေ့တွင် ကုလားရွှေစာနှင့် ရလာကျွန်းအုပ်တို့ ရန်းဝတွင် လူစု၏။

သက္ကရာဇ် ၁၁၄၀ ပြည့်၊ တော်သလင်းလဆန်းတရက်၊ တနင်္ဂနွေနေ့တွင် ဒါးပြန်စီးသည် အနောက်ပြည်ပင်းဝါးမြို့၌နေသော ကုလားဖောက်ကျိသူရဲလက်နက်ကိုင်တို့ကိုခေါ်စေ၍ ဆုလပ်ပေးပြီးလျှင် ပေါင်းသီခွင်အရပ်၌ မြေပေါင်တပ်ကြီးတည်၍ ပုန်ကန်သောင်းကြမ်းလာပြန်၏။ ဖောက်ကျိလည်း ပြောင်းကိုရထားတွင်တင်၍ ယန္တရားကြီးဖြင့် အရပ်များနှာကိုလှည့်ပတ်လျက် ပစ်နိုင်အောင်စီရင်၍

ပြောင်းကိုအသံခြိမ်း၏။ ရခိုင်ပြည်သူတို့လည်း ဒါးပြန်စီးထံ အဝင်အထွက် ပြုကြကုန်၏။

ဓမ္မရာဇ်ရာဇာမင်းတရားလည်း သားတော် ဥပရာဇာ အိမ်ရှေ့မင်းသက်စံရွှေ၊ လက်ဝဲမြန်အောင်ကျော်စံ၊ လက်ယာမြန် ခေါင်းမဲသွယ်၊ တူတော်ဒါးပိုင်ကြီး ကျော်ပုံ၊ ဆင်ကဲကြီးထွန်းပေါ်၊ တောင်ဘက်စား ဥဂ္ဂါရွှေ၊ မှူးမတ်အပေါင်းတို့နှင့် ဆွေးနွေးတိုင်ပင်တော်မူပြီးလျှင် သက္ကရာဇ် ၁၁၄၀ ပြည့်၊ တော်သလင်းလဆုတ် တရက်၊ တနင်္လာနေ့ဝယ် ဓမ္မရာဇ်ရာဇာမင်းတရား ချီသွား၍တိုက်လေသော် ဒါးပြန်စီးက ပစ်လွှတ်လိုက်သောပြောင်းသီးသည် ဓမ္မရာဇ်ရာဇာ စီးတော်လှေဦးကတက်သွား၍ လူသူသေကြေပျက်စီးလျက် ဓမ္မရာဇ်ရာဇာမင်းတရား၏အနီး ရှေ့တော်သို့ရောက်လာပြီးမှ ပြောင်းသီးသည်ဖယ်၍သွားလေ၏။ ဓမ္မရာဇ်ရာဇာမင်းတရားလည်း လှေကိုပစ်ခဲ့လျက် ကြည်းသို့တက်တော်မူလေ၏။ ကုလားဖောက် ကျီသူရဲတို့လည်း အပြင်းလိုက်လာလျှင် စီးတော်လှေနှင့် ပြောင်းကိုရလေ၏။ ဓမ္မရာဇ်ရာဇာမင်းတရားလည်း ရွှေမြို့တော်သို့ဝင်တော်မူလေ၏။ ဒါးပြန်စီးလည်း လှေနှင့်ပြောင်းကိုရလေလျှင် အလွန်ဝမ်းသာသည်ဖြစ်၍ *အောင်သေအောင်သား စားသောက်ကြလေ၏။

ဓမ္မရာဇ်ရာဇာမင်းတရားသည် သူရဲအပေါင်းတို့ကို ရဲဆုပေးပြီးလျှင် သက္ကရာဇ် ၁၁၄၀ ပြည့်၊ ဝါကျွတ်လဆန်း ငါးရက်၊ သောကြာနေ့တွင်ချီ၍ ဒါးပုံးတိုက်လေသော် ကုလားဖောက်ကျီသေလေ၏။ သူရဲလက်နက်ကိုင်ကုလားတို့လည်း များစွာသေလေကုန်၏။ ပြောင်းသီးခင်းမြစ်ရေသည့် နီနီတွေးတွေးဖြစ်၍ညီနံကုန်၏။ ဒါးပြန်စီးလည်း ပြေးလေ၏။

တကြိမ်တုံလည်း ဒါးပြန်စီးသည် ဒွါရာဝတီသံတွဲစား သတိုးဖြူအထံသို့ တမန်စေလွှတ်၍ စစ်ပန်လေ၏။ သံတွဲနှင့်ရမ်းပြည့်သည် လူရည်ချင်းတူကြသည်။ ယခုမင်းပြု၍နေသောလူတို့သည် ရမ်းပြည့်သားဖြစ်သောကြောင့် ဆူးကိုဆူးချင်းထွင်ဘိသကဲ့သို့ သံတွဲစားသတိုးဖြူသည် တိုက်လှန်၍မင်းပြုတော်မူပြီးလျှင် အကျွန်ုပ်တို့အားထိုက်ရာကိုပေးပါဟု တမန်စေလွှတ်လိုက်ပေ၏။ သတိုးဖြူလည်း အလောင်းမင်းများကို ဖုသျှရထားဆိုက်ရောက်လာဘိသကဲ့သို့ဟူ၍ဆိုလျက် အားရဝမ်းသာ မိမိသားဖြစ်သော စစ်ကဲရွှေပေါ်ကို ဗိုလ်ချုပ်ခန့်၍ စစ်ကဲဗိုလ်မင်းကျားရေဝတ် ငကျော်ထွေးကို တပ်ဦးဗိုလ်ခန့်ပြီးမှ ခုနစ်ခုရိုင် တောင်စဉ်အရပ်၌ လူသူလက်နက်ကိုင်တောင်းခန့်၍ သုံးသောင်းသော လူသူနှင့် ချီလာပြီးလျှင် ရခိုင်ပြည်သို့ ရောက်လာသော် ဒါးပြန်စီးနှင့် သတိုးဖြူတို့ စုရုံးပေါင်းဖက်၍ ပရိန်အရပ်က စစ်ကပ်လာကုန်၏။

ဓမ္မရာဇ်ရာဇာမင်းတရားလည်း များစွာသောမှူးမတ်စစ်သည်အပေါင်းတို့နှင့် ချီသွားလေ၍ သက္ကရာဇ် ၁၁၄၀ ပြည့်၊ တန်ဆောင်မုန်းလဆန်း ငါးရက်နေ့တိုက်လေသော် သတိုးဖြူနှင့် ဒါးပြန်စီးစစ်သည်တို့သည် ပျက်စီးလေကုန်၏။ သတိုးဖြူလည်း လက်နက်ထိ၍သေလေ၏။ ဒါးပြန်စီးမူကား ကြေည်းတောင်သို့ ပြေးလေ၏။

သက္ကရာဇ် ၁၁၄၀ ပြည့်၊ တန်ဆောင်မုန်းလဆန်း ခြောက်ရက်၊ တနင်္လာနေ့တွင် ကုလားငရွှေစာ၊ ခေါင်းမဲသွယ်နှင့် ဒါးလက်စား တုံးကြာဝေတို့ ကြက်ရိုးတောင်က ပုန်စားမည်ဟု ကပ်လာ၏။ ဓမ္မရာဇ်ရာဇာမင်းတရား တိုက်မည်ကြံသော် ပြေးကြလေကုန်၏။

သက္ကရာဇ် ၁၁၄၀ ပြည့်၊ နတ်တော်လဆုတ် တဆဲ့တရက်၊ သောကြာနေ့တွင် ကုလားရွှေစာသည် ရန်းဝမှာ တပ်တည်လာပြန်၏။ ပြာသိုလတွင်ကား ဒါးလက်စား တုံးစံဝေကို ငရွှေစာသတ်၍ပစ်လေ၏။ ပြာသိုလဆုတ်ဆယ်ရက်၊ တနင်္လာနေ့တွင် ဓမ္မရာဇ်ရာဇာမင်းတရားသည်ချီသွား၍ ကုလားငရွှေစာကို တိုက်လေသော် ငရွှေစာသည် ပြေးလေ၏။ တပ်ကိုမီးတိုက်ပြီးလျှင်

* ယစ်မျိုး အသားမျိုး သောက်စား၍ အောင်ပွဲခံကြသည်။

ဓမ္မရာဇ်ရာဇာမင်းတရားသည် နေ့ချင်းဝင်တော်မူလာ၏။

ထိုနှစ် တပို့တွဲလဆန်းလေးရက်၊ ကြာသပတေး နေ့တွင် အညာကိုမီးတိုက်၍ အညာသားတို့သည် သစ္စာရေကိုသောက်၍ ဝင်လာကုန်၏။

ပိန်နဲချောင်း၌ ကောင်းညွန့်ရန့်တိုင်၊ ထွန်းပေါ်ဝေ၊ ပြင်ဒါးပိုင်ကြီးတုံးမောင်သည် ဒါးပိုင်ကြီး ကြက်ချည်းစား၊ ငချွန်းတို့ပေါင်းဖက်၍ သောင်းကြမ်းလေကုန်၏။ ကြက်ချည်းစားတွင်သည်မှာ ဤနေ့သည် အမဲဟင်းလျာစားစရာမရှိ၍ ကြက်တကောင်ချည်းပါ၊ နက်ဖြန်ခါ ဆပ်ပါမည်ဟု ချည်း၍စားလေသောကြောင့် ကြက်ချည်းစားဟု တွင်လေသည်။

ထိုသူပုန်ရန်ကို တွန်းလှန်တိုက်ဖျက်ခြင်းငှာ ဓမ္မရာဇ်ရာဇာမင်းတရားသည် မှူးမတ်အပေါင်းတို့နှင့် သက္ကရာဇ် ၁၁၄၁ ခု၊ ကဆုန်လဆန်း ခြောက်ရက်၊ ဗုဒ္ဓဟူးနေ့တွင်ချီသွားလေ၍ ခမောင်းချောင်းဝယ် လေ့တပ်တည်၍နေတော်မူလာ၏။ ကောင်းညွန့်ရန့်တိုင်၊ ထွန်းပေါ်ဝေ၊ ကြက်ချည်း စားငချွန်း အစရှိသော သူပုန်ဒါးမြတို့သည် တောထဲ၌ ပုန်းအောင်း၍နေပြီးမှ လူသန်လူမြန်ခုနစ်ယောက်တို့ကို ညဥ့်စစ်တိုက်ချေဟု စေလွှတ်လိုက်ကုန်၏။ ထိုလူသန်လူမြန် ခုနစ်ယောက်တို့သည် လုံချည်သောအရပ်၌ ပုန်းကွယ်၍နေကြကုန်၏။ ဓမ္မရာဇ်ရာဇာမင်းတရားလည်း တူတော်ဒါးပိုင်ကြီး ကျော်ပုန့်တို့နှင့် လေ့တော်ဝယ်စံပျော်၍ နေတော်မူရာတွင် ထိုသူခုနစ်ယောက်တို့ ခြေသံမကြားရအောင် လာကြကုန်၍ ကုန်းပေါ်ထက်ကနေလျက် လှံနှင့်ထိုးမည်ဟု ကြံကြကုန်၏။ ခုနစ်ယောက်သောလူတို့တွင် တယောက်လူသည် တန်းသစ်ကို နင်းမိ၍ကျိုးကြိုးမြည်သော အသံကို မှူးမတ်အပေါင်းတို့သည် တစုံတယောက်မျှ မကြားကြကုန်။ ဓမ္မရာဇ် ရာဇာမင်းတရားသည်သာလျှင် ဒိဗ္ဗသောတနှင့်တူသော နားတော်ဖြင့်ကြားတော်မူ၍ ငါသည်ကောင်းညွန့်ရန့်တိုင်၊ ထွန်းပေါ်ဝေ၊ ကြက်ချည်းစား ငချွန်းအစရှိသော သူပုန်ရန်တို့ကို ညဥ့်စစ်တိုက်မည် လာတော်မူသည်။ ဤမည်သောအရပ်သို့ပြောင်း လက်နက်ကိုလွှတ်ကုန်လော ဟု မိန့်တော်မူ၏။ ထိုသို့ မိန့်တော်မူသံကို သူပုန် ခုနစ်ယောက်တို့ကြားလေလျှင် အလွန်ကြောက်လန့်ကုန်သည်ဖြစ်၍ ချောင်းတခုတွင် သက်ဆင်းလျက် မှောက်ခုံမှောက်၍ ဝပ်နေကြကုန်၏။ ပြောင်းလက်နက်တို့ကို ထိုအရပ်သို့ပစ်လွှတ်တော်မူစေပြီးမှ ဓမ္မရာဇ်ရာဇာမင်းတရားနှင့် မှူးမတ်အပေါင်းတို့သည် မြစ်ကျယ်သို့ ဆုတ်ထွက်တော်မူကုန်၍ လှေကျောက်ချ လျက်နေကြလေကုန်၏။ မြောက်စည်သုံးလုံးလည်း ရေတွင်ကျ၍ ကျန်ရစ်ခဲ့ပေ၏။

မိုးသောက်လတ်လျှင် ဒါးပိုင်ကြီးကျော်ပုံက ကောင်းညွန့်ရန့်တိုင်၊ ထွန်းပေါ်ဝေတို့ ရွှေမြို့တော်သို့လာ၍ တိုက်လိုလျှင်တိုက်ပါစေ။ ယခုအရေးမသာသည်ဖြစ်၍ မတိုက်သင့်ပါဟုလျှောက်ကြားလေလျှင် ပြန်ချီတော်မူခဲ့၍ တောင်ဘက် မြို့သစ်ရွာ၌ မြို့တော်ရွာ၊ အလယ်ရွာတို့ကို ဖျက်ဆီးတော်မူပြီးလျှင် စည်းတင်ချောင်း၌ သောင်းကြမ်း၍နေသော ကွမ်းပုံတောင်စား တုံးကျော်ဝေကို တိုက်လေသော် ပျက်စီး၍ပြေးလေလျှင် စာဘတ်တတ် ဦးဒိုးဝေ မယား၊ မိဘုရားခေါင် စောရွှေကြာဝယ်ကို ရတော်မူခဲ့ပြီးမှ ပြန်လာတော်မူခဲ့၍ ရွှေနန်းတော်သို့ တဆဲ့ငါးရက်ကြာမှ ရောက်တော်မူလာ၏။

သက္ကရာဇ် ၁၁၄၁ ခု၊ ကဆုန်လပြည့်ကျော် ငါးရက်၊ ဗုဒ္ဓဟူးနေ့တွင် ဓမ္မရာဇ်ရာဇာမင်းတရားသည် ဦးရစ်တောင်သို့ချီတော်မူ၍ သူပုန်ပေပုကိုတိုက်လေသော် ပေပုသည် ပျက်စီး၍ပြေးလေ၏။

သက္ကရာဇ် ၁၁၄၁ ခု၊ နံယုန်လဆန်းခြောက်ရက်၊ ကြာသပတေးနေ့တွင် ညလေးပဟိုရ်ရုပ်ဝယ် ကြက်ရိုးတောင်နန်းကို ဆောက်လုပ်တော်မူ၏။ လဆုတ်တရက်နေ့တွင် နေထွက်ငါးနာရီဝယ် ဓမ္မရာဇ်ရာဇာမင်းတရားသည် နန်းတော်သို့ တက်တော်မူ၏။ ကွမ်းပုံတောင်စား တုံးကျော်

ဝေသည် ဓမ္မရာဇ်ရာဇာမင်းတရားခြေတော်ရင်းသို့ရောက်၍ သစ္စာတော်ခံလျက် မှီခိုလာလေလျှင် တပ်အုပ်ခေါင်း စစ်ကဲအရာကို ပေးတော်မူ၏။

ကုလားငရွှေစာလည်း သူ့ရဲလက်နက်ကိုင်တို့နှင့်လာ၍ ချောင်းသစ်ဝက ပုန်ကန်လာပေ၏။ ဓမ္မရာဇ်ရာဇာမင်းတရားလည်းချီသွား၍ သက္ကရာဇ် ၁၁၄၁ ခု၊ တပို့တွဲလဆန်း တရက်၊ စနေနေ့တွင် တိုက်လေသော် ဓမ္မရာဇ်ရာဇာ ဗိုလ်မှူးကွမ်းပုံတောင်စား တုံးကျော်ဝေသည် သေနတ်လက်နက်ထိ၍သေလေ၏။ ကုလားငရွှေစာလည်း ပြေးလေ၏။ လဆုတ်တဆဲ့တရက်၊ အင်္ဂါနေ့တွင် ကုလားငရွှေစာ ခေါင်းမဲသွယ်သည် ပေချောင်းဝ၌ တပ်တည်၍ နေလေ၏။

တပေါင်းလဆန်းတဆဲ့နှစ်ရက်၊ ကြာသပတေးနေ့တွင် ဓမ္မရာဇ်ရာဇာမင်းတရားသည် အညာသို့ ချီသွားတော်မူ၍ ငရွှေစာတပ်ကို မီးတိုက်တော်မူလေ၏။ အနောက်ယိုးကျွန်းက ဘဏ္ဍာအုပ် ရဲဘော်သူနှင့် ဝဝမ်းပေါက်တို့သည် သောင်းကြမ်းပြန်လေ၏။

သက္ကရာဇ် ၁၁၄၂ ခု၊ ကဆုန်လတွင် ဓမ္မရာဇ်ရာဇာ မင်းတရားချီသွား၍တိုက်လေသော် ဘဏ္ဍာအုပ်ရဲဘော်သူနှင့် ဝဝမ်းပေါက်တို့သည် ပျက်စီး၍ ပြေးလေကုန်၏။

သက္ကရာဇ် ၁၁၄၂ ခု၊ တန်ဆောင်မုန်းလဆုတ်ကိုးရက်၊ တနင်္လာနေ့တွင် လေးမြို့ချောင်းနေချင်းတို့သည် သောင်းကြမ်းပြန်လေ၏။ ဓမ္မရာဇ်ရာဇာမင်းတရားချီသွား၍ တိုက်လေသော် စစ်လမ်းမသာသောကြောင့် ချင်းတို့ကို မနိုင်၍ ပြန်လာတော်မူခဲ့၏။

တကြိမ်တုံလည်း ငရွှေစာသည် ရွှေခွန်ဝန်သူရဲတို့ကိုဆုပေး၍ ကုလားသူ့ရဲများနှင့်စစ်တွေအရပ်က သောင်းကြမ်းပြန်လေ၏။ သက္ကရာဇ် ၁၁၄၂ ခု၊ တပို့တွဲလဆန်းတွင် ဓမ္မရာဇ်ရာဇာမင်းတရားချီသွား၍ တိုက်လေသော် ငရွှေစာနှင့် ရွှေခွန်ဝန်တို့သေလေကုန်၏။ ဒါးပြန်စီးသား တောင်ဘက်စား သက်ရွှေကိုဖမ်း၍ရလေလျှင် ဓမ္မရာဇ်ရာဇာမင်းတရားအား ဆက်သတော်မူလာသော် အဘဒါးပြန်စီးလည်း ဒါးလှံခံသည်။ သားလည်း ဒါးလှံခံကောင်း၏ဟု ဓမ္မရာဇ် ရာဇာမင်းတရား လက်စွဲတော်ဒါးနှင့် ဘေးစောင်းကိုဒါးချ၍ ငင်တော်မူလေလျှင် အရွှထွက်၍ ချက်ချင်းသေလေ၏။

စစ်ကဲဗိုလ်မင်း ကျားရေဝတ်ကျော်ထွေးလည်း တောင်စဉ်တန်းလွဲချောင်းက သောင်းကြမ်းပြန်လေ၏။ ဓမ္မရာဇ်ရာဇာမင်းတရားလည်း တူတော်ဒါးပိုင်ကြီးကျော်ပုံနှင့် ရမ်းပြည်စားခြေဝန်းတို့ကို စေတော်မူလိုက်၏။ ချီသွား၍ သက္ကရာဇ်၁၁၄၂ခု၊ တပို့တွဲလတွင် ရမ်းပြည်သို့ရောက်လေသော် စစ်ကဲဗိုလ်မင်း ကျားရေဝတ်ကျော်ထွေး၏ အပေါင်းအဖက်ဟု ကျောက်ချောင်းရွာသူတို့ကို များစွာ ခုတ်ထစ်သတ်ဖြတ်၍ပစ်ပြီးမှ တောင်စဉ်တန်းလွဲသို့ လိုက်လေသော် ငကျော်ထွေးသည် ကြောက်လန့်၍ ဖိုးခေါင်တောင်ကိုမှီခိုလျက် ပုန်းအောင်း၍နေလေ၏။

ငါးဖင်ရိုင်းချောင်းဝယ်နေသော သဲတွေက အဘယမဟာရာဇာမင်း၏ သားတော်ဟရီ၊ အမ်းစား ခြေသလုံးကြီး ဖောင်သာရွှေ၊ လေးခက်တောင်စား ငထွန်းစံတို့အား လေ့တော်တရာတန်၊ မောင်းတလုံး၊ မင်းဝတ်တန်ဆာအစုံကိုပေးအပ်၍ သက္ကရာဇ် ၁၁၄၃ ခု၊ ကဆုန်လဆန်း ရှစ်ရက်၊ တနင်္ဂနွေနေ့တွင် အရှေ့အင်းဝပြည်ကိုအစိုးရသော စဥ့်ကူးမင်းထံ စစ်ပန်စေလွှတ်လိုက်သည်ဖြစ်၍ လေးမြို့ ချောင်းဖျားမှ တက်သွားကြလေလျှင် အရှေ့ပြည်စေတုတ္တရာသို့ရောက်ကြလေသော် ချင်းတောင်မင်း ငှက်ပျောကြေထိုင်တို့သည် စစ်ပန်ခေါ်သူလူတို့ကို သိမ်းယူ၍ အသီးအသီး ဥစ္စာရွှေငွေနှင့် ရောင်းစားကြလေ၏။ ထိုသို့ ရောင်းစားရာတွင် တယောက်သောလူသည် စဥ့်ကူးမင်းထံသို့ ရောက်လေ၍အကြောင်းကို မေးမြန်းသော် စစ်ပန်ခေါ် သူလူက ရမ်းပြည်ကျွန်းနေ မီးပေါက်တောင်စား အောင်စုန်သည် အားရှိအားမဲ့ ဖိစီးနှိပ်စက်၍ ရခိုင်ပြည်တွင်

မင်းပြု၍နေပါသည်။ ထိုမင်းကို တိုက်လှန်ဖျက်ဆီး၍ ရခိုင်ပြည်ကို သိမ်းယူတော်မူရန် စစ်ပန်လာပါကြောင်းနှင့် လျှောက်ထားလေသော် စဥ္စကူးမင်းလည်း သတိုးမဟာ၊ သတိုးရဲလှ၊ သတိုးရွှေ၊ သတိုးမင်းခေါင် ဤအမတ်လေးပါးတို့နှင့် တိုင်ပင်တော်မူ၍ ရခိုင်ပြည်ကို စစ်ချီမည်ဟု ကြံစည်ရာဝယ် နန်းရှင်မယ်တော်သည် ညဥ့်အိပ်သောအခါ၌ နှုတ်သီးလုံးပတ် သုံးထွာခန့်ရှိသော ဂဠုန်ငှက်တခုသည် အနောက်အရပ်ကပျံလာ၍ အင်းဝမြို့နန်းတော် မှန်ကင်းဖူးတွင်နားလာလျှင် နန်းတော်မှန်ကင်းဖူးသည် ကျိုးပြတ်၍ မြေ၌ကျသည်ကို အိပ်မက်တွင် မြင်တော်မူလေ၏။ မိုးသောက်လျှင်လည်း ပုပ္ပားတောင်ကြီးသည် ထိန့်ထိန့်ရိုက်၍ အသံမြည်ဟည်း၏။

ထိုတိတ်နိမိတ်အကြောင်းကို စဥ္စကူးမင်းကြားသိတော်မူလေလျှင် စစ်ပန်လာသူတို့ကိုခေါ်တော်မူ၍ ရခိုင်မင်း၏ အကြောင်းခြင်းရာကို မေးတော်မူ၏။ စစ်ပန်ခေါ်လာသူတို့လည်း ရခိုင်မင်းစစ်ချီသည်ကာလ၌ ကောင်းကင်ထက်က တဆဲ့နှစ်ခုသော လင်းတငှက်ပါးနီတို့သည် ဝဲပျံ၍လိုက်ကြကုန်၏။ လေရှင်တို့သည်လည်း နောက်လိုက်ထကုန်၏။ တိုက်စည်တိုက်မောင်းကို တီးခတ်လိုက်သောအသံသည် လူတို့ချက်တိုင်က ဖောက်ထွင်း၍ နောက်ကထွက်ဘိသကဲ့သို့ဖြစ်လေလျှင် မြေတွင်မှောက်ခုံလဲကြကုန်၏။ ထိုးပစ်အပ်သောလက်နက်တို့သည်လည်း လူတို့ကိုယ်တွင်ချည်း ထိရိုက်မှန်ပါကုန်သည်ဟု အကြောင်းမျိုးကိုလျှောက်ထားလေလျှင် စဥ္စကူမင်းလည်း အလွန်ထိတ်လန့်သဖြင့် စစ်အကူအရုံ မထည့်ဝံ့သည်ဖြစ်၍ ထိုမင်းလွန်မှ စစ်အကူအရုံ ထည့်မည်ဟုဆိုတော်မူပြီးလျှင် ငသံတွေသို့ စာပေး မှာတော်မူလိုက်၏။

စစ်ပန်ခေါ်လာသောသူတို့ကိုလည်း ဆင်ဖြူကျွန်းမြို့အုပ်သူကြီးသည် စည်းကြပ်၍ဝါဆိုလတွင် ဒါးလက်သို့ ပို့လာ၏။ ထိုအကြောင်းကို ဓမ္မရာဇ်ရာဇာမင်းတရားကြားသိတော်မူလေလျှင် ငသံတွေသည် ကြောက်လန့်သဖြင့် ဖိုးခေါင်တောင်ကိုမှီ၍နေလေ၏။

တရံရောအခါ အိမ်ရှေ့မင်းသက်စံရွှေနှင့် ဒါးပိုင်ကြီး ကျော်ပုံတို့ခိုက်ရန် ပုဋ္ဌာဖြစ်ပွားကြ၍ တိုက်သတ်ကြမည် ကြံသောအကြောင်းကို ဓမ္မရာဇ်ရာဇာမင်းတရားကြားသိတော်မူလေလျှင်ခေါ်တော်မူ၍ ဆုံးမဖြေဆိုလေသော် ဒါးပိုင်ကြီးကျော်ပုံသည် ငြိမ်ဝပ်လေ၏။ အိမ်ရှေ့မင်းသက်စံရွှေသည်ကား မငြိမ်မဝပ်မနှစ်သက်သောကြောင့် သက္ကရာဇ် ၁၁၄၃ ခု၊ တပေါင်းလတွင် ရမ်းပြည်ကျွန်းသို့ သွားလေ၍ စင်ချောင်းရွာဝယ်နန်းဆောက်လျက် သောင်းကြမ်း၍နေလေ၏။

ဒါးပိုင်ကြီးကျော်ပုံလည်း အမှုုးအမတ်တို့ကိုခေါ်၍ အကျွန်ုပ်သည် အရေးတော်ပုံပေါ်ထွက်သမျှကို ထမ်းပိုးရွက်ဆောင်သော်လည်း ကျေးဇူးတင်စကားကို ပြောဆိုတော်မမူ။ ကျေးဇူးမဲ့စကားကိုသာ ပြောဆိုတော်မူသည်။ သားတော် အိမ်ရှေ့မင်း သက်စံရွှေလည်း နှိပ်စက်ညှဥ်းဆဲခြင်းပြုသည်ဖြစ်သောကြောင့် ရွှေနန်းရှင်မင်းတရားကို ပုန်ကန်လုပ်ကြံအံ့ဟုတိုင်ပင်၏။ မှူးမတ်တို့ကား တစုံတယောက်မျှ ဒါးပိုင်ကြီး ကျော်ပုံစကားကို လိုက်နာခြင်းမပြုဘဲ မတော်မလျောက်ပတ်ကြောင်းကိုသာ ပြောဆိုကြကုန်၏။ လေးတောင်စား ခေါင်းမဲသွယ်ကမူကား ဤစကားအတိုင်းမှန်လျှင် အကျွန်ုပ်သည် တံခါးလေးဝတွင် တဝတံခါးကိုပေးပါမည်ဟု အာမခံလေ၏။ ဒါးပိုင်ကြီးကျော်ပုံလည်း ဓမ္မရာဇ်ရာဇာမင်းတရားထံ ပုန်ကန်ရန်သွားလေသော် လေးတောင်စား ခေါင်းမဲသွယ်က ဒါးပိုင်ကြီးကျော်ပုံသည် ဘဝရှင်မင်းတရားအား ပုန်ကန်သတ်ဖြတ်မည် ကြံပါကြောင်းနှင့် ဓမ္မရာဇ်ရာဇာမင်းတရားအား လျှောက်ထားလေသော် ဓမ္မရာဇ်ရာဇာမင်းတရားလည်း အတွင်းစကားပြောကြားတော်မူလျက် သတိထား၍ နေတော်မူလေသည်။

ဒါးပိုင်ကြီးကျော်ပုံလည်း လေးတောင်စား လျှောက်ထားသည်ကိုသိလေလျှင် လျှောက်ထားရာ

သလောဟု အမျက်ဝင်၍ လက်ဇွေ့ကျေးယင်ပွဲဆင်၌ သဘင်ပြုကြရာဝယ် အကျူးအလွန်ပြုသည်ဟု လေးတောင်စားခေါင်းမဲ့သွယ်တို့ ညီအစ်ကိုသုံးယောက်ကို ဖမ်းယူလျက် ဒါးပိုင်ကြီးကျော်ပုံသည် သတ်၍ပစ်လေ၏။

ရခိုင်ပြည်နိုင်ငံအတွင်း၌ ကြည်းကြောင်း ရေကြောင်း သွားလာကုန်လူတို့သည် အချင်းချင်း နိုင်ထက်စီးကဲပြု၍ ရွှေငွေဥစ္စာတို့ကို လုယက်ကြကုန်၏။ တရွာနှင့် တရွာတို့လည်း ဒါးမြတိုက်ကြကုန်၏။ ဥစ္စာရွှေငွေ ဆွေမျိုးမရှိသော သူတို့ကိုလည်း ဥစ္စာရွှေငွေ ဆွေမျိုးရှိသောသူတို့က အလွန်နှိပ်စက်ညှဉ်းဆဲ ပြုကြကုန်၏။ ကျား၊ မိကျောင်းလည်း ရဲကုန်၏။ ကျောက်ဝက်သက်လည်း ထွက်ကုန်၏။ သက္ကရာဇ် ၁၁၄၄ ခု၊ နယုန်လကစ၍ ဝါဆိုလတိုင်အောင် *ကာလရိုနာရောက်၍ လူသူ သတ္တဝါများစွာ သေပျောက်ကြကုန်၏။

ဓမ္မရာဇ်ရာဇာမင်းတရားလည်း ရွှေဝင်းတော် ဆည်ဝ၌ ပြောင်းကြီးလက်နက်ကြီးကိုတင်၍ထားလေမှ လူသူသတ္တဝါတို့ အသေအပျောက်နည်းကုန်၏။

ထိုဓမ္မရာဇ်ရာဇာမင်းတရား၏ သူရဲတော်တို့ ထိုးပစ်အပ်သောလှံတို့သည် ရန်သူကိုယ်၌ ရည်မှတ်တိုင်း မှန်နိုင်ခြင်းလည်း အကြောင်းတပါး။ ၂။

စစ်ချီ၍သွားသောကာလ၌ တဆဲ့နှစ်ခုသော လင်းတငှက်ပါးနီတို့သည် ကောင်းကင်မှပျံ၍ လိုက်သည်လည်း အကြောင်းတပါး။ ၃။

လေတို့သည် နောက်လိုက်ထခြင်းလည်း အကြောင်းတပါး။ ၄။

တီးခတ်ရိုက်ပုတ်သော မြောက်စည်တိုက်စည်တို့၏ အသံသည် လူတို့၏ချက်ကို ဖောက်ထွင်း၍ နောက်ပြင်ကျောမှ ထွက်သွားသည် ထင်မှတ်ရခြင်းလည်း အကြောင်း တပါး။

ဤသို့အကြောင်းခြင်းရာလေးပါးတို့နှင့် ပြည့်စုံလေသောကြောင့် ဓမ္မရာဇ်ရာဇာမင်းတရားကို လက်နက်ပိုင်မင်းဟူ၍ လူတို့ဆိုကြကုန်၏။

ထိုဓမ္မရာဇ်ရာဇာမင်းကား အိမ်နိမ့် ၅၀၊ ငါးဆယ်။ နန်းစံ ၅၊ ငါးနှစ်။ နှစ်စုသက်တော် ၅၅၊ ငါးဆဲ့ငါးနှစ်။ သက္ကရာဇ် ၁၁၄၄ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် တဆဲ့သုံးရက်၊ တနင်္ဂနွေနေ့တွင် လွန်တော်မူလေ၏။ နံတော် တနင်္လာသားတည်း။ ၂၇။

ထိုမင်းလွန်တော်မူလေလျှင် ထိုမင်း၏တူမတော်လင်ဖြစ်သော လက်ဝဲမြန်သတိုးအောင်သည် မိဘုရားစောမယ်ပုံနှင့်ဘိသိက်ခံ၍ သက္ကရာဇ် ၁၁၄၄ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် တဆဲ့လေးရက်၊ တနင်္လာနေ့တွင် ရွှေနန်းတက်တော်မူ၏။ တိုင်းနေပြည်သူလူအပေါင်းတို့ ညီညွတ်၍ မင်းပြုတော်မူပါဟု တင်မြှောက်အပ်သည်ကို အကြောင်းပြု၍ မဟာသမ္မတမင်းဟူသောအမည်ကို ခံတော်မူ၏။ တံဆိပ်ခပ်နှိပ်အပ်သောအခါကား မဟာသမ္မတမင်းတရားဟူသောအမည်ဖြင့် ခပ်နှိပ်တော်မူ၏။

လက်ဝဲမြန် ကုလားဖြူ၊ လက်ယာမြန်မောင်ထွေးမှူးမတ်တို့ကို အဆောင်အရွက် ထီးစလွယ် သင်းကျပ်တို့ကို ပေးသနားတော်မူ၏။

ငါးခင်ရိုင်းချောင်းတွင် သေံတွေသည် သောင်းကြမ်း၍ နေပြန်လာသောကြောင့် သက္ကရာဇ် ၁၁၄၄ ခု၊ တပေါင်းလတွင် သမ္မတရာဇာမင်းတရားသည် ချီသွား၍တိုက်လေသော် သေံတွေသည် ပျက်စီး၍ပြေးလေ၏။ နောက်မှ သစ္စာတော်ခံရ၍ ဝင်ရောက်လာလျှင် သမ္မတရာဇာမင်း တရားလည်း ကုလားတန်စားအရာကို ပေးသနားတော်မူလေ၏။ ကုလားတန်စား သေံတွေလည်း ကုလားတန်မှ ထွက်သောဘဏ္ဍာကိုသိမ်းယူပြီးလျှင် သောင်းကြမ်း၍နေလေ၏။ ဒါးပိုင်ကြီး သေံတွေဟူ၍လည်း တွင်လေ၏။

* ကာလဝမ်းရောဂါနာ

ဓမ္မရာဇ်ရာဇာမင်း၏ သားတော်လက်ဝဲမြန်ကုလားဖြူသည် သမ္မတရာဇာမင်းတရားကို မခစားလိုသောကြောင့် ရွှေမြို့တော်ကထွက်၍ သွားလေပြီးလျှင် ပိန္နဲချောင်းတွင် သောင်းကြမ်း၍နေသော ကောင်းညွန့်ရန်တိုင်နှင့် ထွန်းပေါ်ဝေတို့ထံသွားလေ၍ ပေါင်းသင်းပြီးမှ များစွာသော ရဲမက်မိုလ်ပါနှင့်ချီလာ၍ သက္ကရာဇ် ၁၁၄၄ ခု၊ တပေါင်းလတွင်ပင် တပ်မော်အရပ်တွင် လှေတပ်တည်၍နေလာ၏။ သမ္မတရာဇာမင်းတရား ချီသွား၍တိုက်လေသော် ပျက်စီး၍ပြေးကြလေကုန်၏။ လက်ဝဲမြန်ကုလားဖြူကား ပြောင်းသီးမှန်၍ သေလေ၏။ ယင်းသို့ ပြောင်းသီးမှန်၍သေလေသည် ကိုအကြောင်းပြု၍ပြောင်းသီးကျလက်ဝဲမြန်ဟုတွင်လေ၏။

ရမ်းပြည့်ကျောက်ချောင်းသား စစ်ကဲမိုလ်မင်းကျားရေဝတ်ကျော်ထွေးသည် တန္တစစ်အောင်အမည်ကိုခံ၍ တန်းလွဲ မြို့တောင်တွင် မင်းပြု၍နေ၏။ ထိုကျော်ထွေးသည် ဓမ္မရာဇ်ရာဇာမင်းတရား၏ ယောက်ဖတော်ဖြစ်သော ဆင်ကဲကြီး ချေးစု၊ ရမ်းပြည့်အုပ်အောင်လှတို့ *ရမထင်ဝယ် တပ်စောင့်၍နေသည်ကို ခုနစ်ခရိုင်တောင်စဉ်၊ ရမ်းပြည့် အရှေ့ဘက် လေးရွာသားတို့နှင့်ချီသွား၍ သက္ကရာဇ် ၁၁၄၅ ခု၊ ကဆုန်လတွင်တိုက်ကြလေသော် ဆင်ကဲကြီး ချေးစု၊ ရမ်းပြည့်အုပ်အောင်လှတို့သည် လက်နက်မှန်၍ သေလေကုန်၏။ သူရဲတို့လည်း များစွာသေကုန်၏။ တန်းလွဲမင်း ကျော်ထွေးလည်း စစ်ချောင်းတိုင်အောင် လိုက်လေလျှင် ဓမ္မရာဇ်မင်း၏ သားတော်အိမ်ရှေ့မင်း သက်စံရွှေသည်ပြေးလေ၏။ တန်းလွဲမင်းကျော်ထွေးလည်း အိမ်ရှေ့မင်းသက်စံရွှေနေသောနန်းကို မီးတိုက်ပြီးလျှင် တန်းလွဲချောင်းမြို့ တောင်သို့ပြန်လာခဲ့၏။ ပိန္နဲချောင်းတွင် သောင်းကြမ်း၍နေသော ကောင်းညွန့်ရန်တိုင်၊ ထွန်းပေါ်ဝေ၊ ပြင်ဒါးပိုင်ကြီး တုံးဖောင်သည် ဒါးပိုင်ကြီး ကြက်ချည်းစား ချွန်းတို့ကိုတိုက်အံ့သောငှာ သမ္မတရာဇာမင်းတရားသည် များစွာသောမှူး မတ်အပေါင်းတို့နှင့် ချီသွားလေလျှင် သက္ကရာဇ် ၁၁၄၅ ခု၊ တော်သလင်းလတွင်တိုက်လေသော် ကောင်းညွန့်ရန်တိုင်တို့ပျက်စီး၍ ပြေးလေကုန်၏။

တကြိမ်တုံလည်း ပြာသိုလတွင် တိုက်ပြန်လေသော် ယောက္ခမတော်ကြောင်ဖို လက်နက်ထိပါး၍ သေသေလျှင် သမ္မတရာဇာမင်းတရားလည်း သူရဲတို့အား ရဲဆုပေးပြီးလျှင် တဖန်တိုက်ပြန်လေသော် ကောင်းညွန့်ရန်တိုင်တို့သူရဲများ ပျက်စီးသေဆုံးကြလေကုန်၏။ ပျက်စီးသေဆုံးပြီးမှ ကောင်းညွန့်ရန်တိုင်အစရှိသော သူပုန်တို့သည် ကြောက်ထိတ်လန့်ကြကုန်သည်ဖြစ်၍ အဝေးသစ္စာတော်ကို ခံလာကုန်၏။ တန်းလွဲမြို့တောင်တွင် မင်းပြုသောင်းကြမ်း၍နေသော စစ်ကဲမိုလ်မင်းကျားရေဝတ်ကျော်ထွေးသည် တန္တစစ်အောင်အမည်ကို ခံလျက်မင်းပြုလေလျှင် တောင်မင်းဟုတွင်လေ၏။ ထိုတောင်မင်းကျော်ထွေးကား ဝါးထမ်းစင်လည်း မစီး၊ နာရီစည်မောင်းလည်း မတီး၊ ဒင်္ဂါးလည်းမခတ်၊ ထိုမှကြွင်းသော အခြင်းအရာများကိုမူကား ရခိုင်သမ္မတရာဇာမင်းတရားနှင့် အတူအမျှပြုပေ၏။

ထိုအကြောင်းခြင်းရာများကို ကြားလေသော် မဟာသမ္မတရာဇာမင်းတရားလည်း ယောက်ဖတော် ဒါးပိုင်ကြီးကျော်ပုံကို စေလွှတ်တော်မူလိုက်၍ သက္ကရာဇ် ၁၁၄၅ ခု၊ တပို့တွဲလတွင် တောင်မင်းကျော်ထွေးကို တိုက်လေသော် တောင်မင်းကျော်ထွေးသည် အဝေးသစ္စာတော်ခံ၍ လက်ဆောင်ပဏ္ဏာဆက်သလိုက်ပေ၏။

ထိုသက္ကရာဇ်အခါတွင် အမရပူရမြို့ကို တည်ထောင်ဘန်ဆင်းအစိုးရတော်မူသော သီရိပဝရဝိဇယာနန္တယသတြိ ဘဝနာဒိတျာဓိပတိပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ ဘွဲ့ထူးနာမံ ခံတော်မူသော ဘိုးတော်မင်းတရားက မြောက်ဦးမြို့၏ အင္ဂုပ္ပတ္တိကို သိလိုသောကြောင့် မိုလ်ငခိုင်လှနှင့် ချင်းခိုင်တို့ကို စေလွှတ်တော်မူလိုက်၏။

* ယခုအခါ ထိုအရပ်ကို ရပတင်-ဟုခေါ်သည်။

ငခိုင်လှနှင့် ချေင်းခိုင်တို့လည်း ယုတ်နွမ်းသောပယောဂတို့ဖြင့် မင်းဆေးထိုးသောမြင်းကိုယူခဲ့ပြီးသော် ပုရွှင်းရောင်းသည့်ကုန်သည်အဟန်ကဲ့သို့ပြု၍ရောက်လာလျှင် တောင်မင်းကျော်ထွေးကို အချစ်ခင်ပွန်းဖွဲ့၍ ယူခဲ့သော မြင်းကို ဆက်သလေ၏။ တောင်မင်းကျော်ထွေးလည်း ထိုမြင်းကိုစီးလေ၏။ ငခိုင်လှနှင့် ချေင်းခိုင်တို့လည်း ရမ်းပြည့်ကျွန်းသို့လာလတ်၍ ပြည်ရွာ၏အကြောင်းခြင်းရာကို စုံစမ်းကြလေ၏။

တကြိမ်တုံလည်း အမရပူရပြည့်ရှင် ဘိုးတော်မင်းက ရှင်ယောင်နှစ်ယောက်တို့ကို ထပ်လောင်း၍ စေတော်မူလိုက်ပြန်၏။ ရှင်ယောင်တယောက်သည် တောင်မင်းကျော်ထွေးကို လှည့်ပတ်ပြောဆိုပြီးလျှင် ရမ်းပြည့်ကျွန်းသို့သွားလေ၍ ရွာကြီးရွာငယ်တို့၌ စုံစမ်းလေ၏။ ရှင်ယောင်တယောက်မှုကား ရခိုင်ပြည်မြောက်ဦးမြို့ မဟာသမ္မတမင်းအထံတော်သို့သွား၍ လျှောက်ထားလှည့်ပတ် သံတော်ဦးတင်ပြီးမှ မဟာမုနိသိမ်တော်သို့သွားလေ၍ ဘုရားရှေ့တော်၌ပြုလုပ်၍ထားသော ဝသုန္ဓရေတွင်းဝယ် ရေစက် သွန်းချသော်ရေမဝင်ဘဲရှိအောင်ပြု၏။ ထိုအကြောင်းကို မြောက်ဦးရွှေနန်းရှင် မဟာသမ္မတရာဇာမင်းတရား ကြားသိတော်မူလေသော် များစွာသောမှူးမတ်အပေါင်းတို့နှင့် တိုင်ပင်တော်မူ၍ နေတော်မူစဉ်ဝယ် သက္ကရာဇ် ၁၁၄၆ ခု၊ နယုန်လပြည့်ကျော် ခုနစ်ရက်၊ သောကြာနေ့ကစ၍ နောက်ခုနစ်ရက်မြောက် ကြာသပတေးနေ့တိုင်အောင် ကစ္ဆပနဒီမြစ်ညာက ရေလှိုင်းကြီးလာ၍တင်းကြမ်းပြည့်ဖြစ်လာသော် ပြည်သူ ပြည်သားများစွာသောသူတို့သည် နေရန်မရှိသောကြောင့် ရုပ်တုတော်ရှင် မဟာမုနိသိမ်တော်အတွင်း၌ နေထိုင်ရကြကုန်၏။ နေထိုင်ကြကုန်သည်အခိုက် ကိုယ်ဝန်ဆောင်မိန်းမ သုံးယောက်တို့သည် တပြိုင်နက်တည်း သားဖွားကြကုန်၏။ ရုပ်ရှင်တော်မဟာမုနိလည်း ရောင်ခြည်တော် မေးသမ်းတော်မူ၏။

အလျား သုံးဆဲ့သုံးလံရှိသော ခမောင်းတုံးတခုလည်း မဟာမုနိစက်ခြေတော်ရင်းဝယ်ပါးလာ၏။ ထိုခမောင်းတုံးသည် ရေစုန်ရေဆန်မျော၍ပါလေပြီးလျှင် ပါး၍နေသောအရပ်တွင် ညဥ့်အခါ၌ တူရိယာတီးမှုတ်သကဲ့သို့ မြည်သံကိုကြားရကုန်၏။ တကြုံကြုံငိုသံကိုလည်း ကြားရကုန်၏။ လူသူတို့သွား၍ကြည့်ကြသော် မည်သည်တခုကိုမျှ မမြင်ကြကုန်။ ခမောင်းတုံးကိုသာ မြင်ကြကုန်၏။ ထိုခမောင်းတုံးပါးသောအရပ်တို့၌ လူသူများစွာ သေပျောက်ကုန်၏။ ဦးတော်ဆေးကန်မှစ၍ မြစ်ချောင်းရေတို့သည် သွေးအတိဖြစ်ကုန်၏။ မဟာမုနိသိမ်တော်အနီးတွင် စိုက်ထားသော မဟာဗောဓိပင် အရွက်သည်လိပ်၏။ သစ်ပင်စောင့်နတ်တို့သည် ငိုကြကုန်၏။

ဤတိတ်နိမိတ်တို့ကို မြင်ကြားတော်မူလတ်သော် မြောက်ဦးရွှေနန်းရှင် မဟာသမ္မတရာဇာမင်းလည်း လက်ဝဲမြန်တုံးဖောင်သည် လက်ယာမြန်မောင်ထွေး မှူးမတ်အပေါင်းတို့နှင့် သက္ကရာဇ် ၁၁၄၆ ခု၊ ဝါဆိုလဆန်း တဆဲ့လေးရက်၊ ကြာသပတေးနေ့တွင် မဟာမုနိရုပ်ရှင်တော်ကို ဖူးမြော်အံ့သောငှာ ချီကြွတော်မူ၍ ရောက်တော်မူလေလျှင် ရှေးမင်းအဆက်ဆက်တို့သည် ငွေဒင်္ဂါး၊ ငါးဆယ်တရာတို့ဖြင့် ပူဇော်ကန်တော့မြဲဖြစ်သောကြောင့် မဟာသမ္မတရာဇာမင်းလည်း မဟာမုနိရုပ်ရှင်တော်ကို ဖူးမြော်ကန်တော့ပြီးလျှင် ဒင်္ဂါးငါးဆယ်၊ နန်းတွက်ငါးဆယ်တရာတို့ကို ဝသုန္ဓရေတွင်း၌ ရေစက်သွန်းချ၍ ထိုငွေများကို တွင်းထဲသို့ထည့်မည် ကြံစည်ရာဝယ် ဝသုန္ဓရေတွင်းထဲက သူငယ်လက်ကဲ့သို့ လက်တခု ထွက်လာ၍ မဟာသမ္မတရာဇာမင်းတရားလက်တော်ကို ခတ်လေလျှင် ငွေငါးဆယ်တရာတို့သည် လက်တော်မှ လွတ်၍ မြေကြီးတွင် ကျလေ၏။ မဟာသမ္မတရာဇာမင်းတရားလည်း ထပ်လောင်းလျက် ရေစက်ချ၍လျှုတော်မူပြီးမှ မဟာမုနိသိမ်တော် မြောက်ဘက်၌ သီတင်းသုံး

နေတော်မူသော ဝါတော်ခြောက်ဆယ်ရှိ ရဟန်းတော် တဦးကိုပင့်ခေါ်၍ အကြောင်းခြင်းရာကို မေးတော်မူ၏။ ထိုရဟန်းတော်ကလည်း ပစ္စန္တရစ်ကလာ၍ မင်းပြုကြသည်ဖြစ်သောကြောင့် ရခိုင်ပြည်သည် ပျက်စီးခြင်းသို့ ရောက်ရမည်ဟုဆိုပြီးလျှင် မျက်နှာလွှဲ၍ သွားလေ၏။

မဟာသမ္မတရာဇာမင်းတရားလည်း ရေနန်း ကျက်သရေဖောင်တော်သို့ ဆင်းတော်မူလျက် ငွေဒင်္ဂါး၊ ငါးဆယ်၊ နန်းတွက်ငါးဆယ်တရာကိုယူပြန်၍ မဟာမုနိ ရုပ်ရှင်တော်အား ထပ်လောင်း၍ ရေစက်သွန်းချလှူတော်မူပြီးမှ များစွာသော အမတ်အပေါင်းခြံရံလျက် လှေဖြင့်စုန်လာတော်မူ၍ ရန်းဝခနောင်းကြီးသို့ ရောက်တော်မူလာလျှင် လှေတက်ရပ်ဆိုင်းကျောက်ချ၍နေရာဝယ် ယောက်ဖတော် ဒါးပိုင်ကြီးကျော်ပုံကအကြောင်းကို လျှောက်ထားမေးမြန်းလေသော် မဟာသမ္မတရာဇာမင်းတရားက မဟာမုနိရုပ်ရှင်တော်ကို ကန်တော့ခြင်းမပြုနိုင်ဟု ဝသုန္ဓရေမြေစောင့် နတ်သားဟန့်တားမြစ်ခြင်းပြုသည်ဖြစ်သောကြောင့် နောက်နောင် ပူဇော်ကန်တော့ခြင်းကိုမပြုပြီဟု မိန့်တော်မူ၍ လှေကျောက်နုတ်လျက် စုန်လာတော်မူ၍ ရွှေနန်းတော်သို့ ရောက်တော်မူလာ၏။

အမရပူရရွှေမြို့တော်ကို အစိုးရသော ဘိုးတော် မင်းတရားက ရခိုင်ပြည်သို့ သူလျှိုတကြိမ် စေလွှတ်ပြန်သည်ဖြစ်၍အကြောင်းမျိုးကို သိတော်မူလေလျှင် အရှေ့ပြည်ခုနစ်ခရိုင်တောင်စဉ်၌နေကြသော မြို့စား ရွာစားတို့ကို ဆန်ရိက္ခာတောင်း၍ တောင်ကုတ်မြို့နှင့် လမ်းဆိုင်ဖြစ်သော ဖိုးခေါင်တောင်တွင် ရိုးမသို့ ဝင်ဝစခန်း၌ ဆန်ကျီတည်၍ထားတော်မူလာ၏။

ထိုအကြောင်းကို တောင်မင်းကျော်ထွေးကြားလေသော် အလံဦးကင်းနှင့် အတန်တန်စောင့်၍ နေစေကုန်၏။ အမရပူရရွှေနန်းရှင် ဘိုးတော်မင်းတရားလည်း သားတော် အိမ်ရှေ့မင်းမောင်ပေါ်၊ စကုမြို့စား၊ ကာမမြို့စား သုံးယောက်တို့ကိုခေါ်တော်မူ၍ ဓညဝတီရခိုင်ပြည်၌ မြောက်ဦးမြို့ကိုတိုက်ဖျက်ချေဟု လက်နက်ကိုင် လူပေါင်းကိုးသောင်းတို့နှင့် စေတော်မူလိုက်၏။ အိမ်ရှေ့မင်းလည်း မြန်မာနိုင်ငံ၌ရှိသော ရှမ်းစော်ဘွား မြို့စားရွာစား ဗိုလ်မှူးတို့ကို ဆင်လုံးမြင်းရံနှင့် ကြည်းကြောင်းစေတော်မူလိုက်၏။ အိမ်ရှေ့မင်းကား ရွှေလှေပြာသာဒ်စီးလျက် သက္ကရာဇ် ၁၁၄၆ ခု၊ တော်သလင်းလဆန်း တဆဲ့နှစ်ရက်၊ ကြာသပတေးနေ့တွင် ရေကြောင်းချီလာတော်မူ၏။ ဤသို့ စစ်သည်ဗိုလ်ပါတို့ ချီလာသောအကြောင်းကို ငါတို့ ရခိုင်ဘုရင် မဟာသမ္မတမင်းကြားသိတော်မူလေလျှင် သိုက်တတ်ခေါင်းဖြူတောင် ဆရာတော်အစရှိသော ရဟန်းပညာရှိ၊ လူပညာရှိတို့နှင့် တိုင်ပင်တော်မူလျှင် မဟာသမ္မတရာဇာဟူသောအမည်သည် ကမ္ဘာတည်စကသမုတ်ကြသော မင်းအမည်ဖြစ်သောကြောင့် သမ္မတဟူသော အမည်ကိုမခံအပ်ပါဟု မိန့်ကြားလျှောက်ထားကြလေသော် မဟာသမ္မတရာဇာမင်းတရားလည်း များစွာသော မှူးမတ် အပေါင်းခြံရံလျက် သက္ကရာဇ် ၁၁၄၆ ခု၊ ဝါကျွန်လဆန်းငါးရက်၊ စနေနေ့တွင် နှစ်ကြိမ်မြောက်သော ဓေယျာဘိသိက်ကိုမြောက်သွန်း၍ အင္ဂေါပုညစောရာဇာဟူသောအမည်ကို ခံတော်မူလျက် တံဆိပ်ခပ်နှိပ်ထုတ်ပြန်တော်မူသည်။

အမရပူရမင်း သားတော်အိမ်ရှေ့မင်းတို့ စစ်ချီလာသည့် တော်သလင်းလတွင်လည်း ရမ်းပြည့်ကျွန်း၌ ကလန်ကြန်းတောင်ကြီးသည် ထိန့်ထိန့်ရိုက်လျက် ကြိုး၍မြည်ဟည်း၏။

အမရပူရမင်းသားတော် အိမ်ရှေ့မင်းလည်း ရေကြောင်း စုန်လာတော်မူလျက် ရန်ကုန်သို့ရောက်လေလျှင် တလိုင်း ဗိုလ်ချုပ် အမတ်ဒိန်၊ ဖေးမယ်ဗိုလ်၊ ပုသိမ်ဗိုလ်တို့ကို ဆင်လုံးမြင်းရံနှင့် နဂါးရစ်မော်တင်ကြောင်း စေတော်မူလိုက်၏။ တလိုင်းဗိုလ်ချုပ်အမတ်ဒိန်လည်း ဆင်ခလုတ်မြင်းခလုတ်တို့ကို တိုးထွင်၍ချီလာ၏။ တောင်ကြောင်း ရေကြောင်း ချီလာသည်များကို တောင်မင်းကျော်ထွေး

သိလေလျှင် နောင်တော်ဒါးပိုင်ကြီး စံပေါ်ရွှေကိုအကြီးပြု၍ တန်းလွဲမြို့တောင်တွင် အစောင့်ထားခဲ့ပြီးမှ မယားသား တို့ကိုယူ၍ ရမ်းပြည့်ကျွန်းသင်းပန်းကိုင်းစွယ်ရ အရပ်သို့ ပို့၍ထားလာပြီးမှ မာန်အောင်မြို့စား ငထွန်းအောင်၊ အိမ်ရှေ့မင်း သက်စံရွှေ၊ မြောက်ဦးရွှေနန်းရှင် သမ္မတရာဇာ မင်းတို့အထံသို့ စာခွေရေးသားလျက် တမန်စေလွှတ် လျှောက်ထားလိုက်ပေ၏။

မြန်မာစစ်သည်တို့လည်း ကြည်းကြောင်းချီလာ၍ သက္ကရာဇ် ၁၁၄၆ ခု၊ နတ်တော်လဆန်းလေးရက်၊ တနင်္လာနေ့တွင် တောင်ကုတ်မြို့ဝယ် ရောက်လာကုန်၏။ ထိုမြန်မာစစ်သည်တို့ကို တောင်မင်းကျော်ထွေးက ကင်းစောင့်ထားသော သူရဲတို့သည်လိုက်၍ တိုက်ကြ လေကုန်၏။ နတ်တော်လဆန်း ခုနစ်ရက်၊ ကြာသပတေး နေ့ဝယ် အိမ်ရှေ့ဝန်ငချွန်းနှင့် မင်းတုန်းဝန် ကျော်ထင် တရဖျားတို့ တန်းလွဲမြို့၊ တောင်ကုတ်မြို့သို့ ရောက်လာ ကြပြန်သော် ထိုငချွန်းနှင့်တကွသော မြန်မာစစ်သည်တို့ကို သက္ကရာဇ် ၁၁၄၆ ခု၊ နတ်တော်လဆန်းကိုးရက်၊ စနေနေ့တွင် တောင်မင်းကျော်ထွေး ကင်းစောင့်သူရဲတို့ သည် ဆီးကြို၍တိုက်ကြလေသော် မြန်မာကင်းတပ်မိုလ် နှင့် များစွာသောစစ်သည်သူရဲတို့သည် သေကြေပျက်စီး ကြလေကုန်၏။ နတ်တော်လဆန်းဆယ်ရက်၊ တနင်္ဂနွေ နေ့တွင် တောင်မင်းကျော်ထွေးသည် နောင်တော်ဒါးပိုင်ကြီး စံပေါ်ရွှေ၊ ရမ်းပြည့်စားပေါလုံး၊ လမူးစား ငလှခိုင်၊ ရမ်းပြည့်ငယ်စား ထွန်းအောင်၊ ဤသူတို့နှင့် ရမ်းပြည့်ကျွန်း အရှေ့ဘက် ဆိပ်စအရပ် လေးရွာသူကြီးတို့ကို ပေါင်းစု ပြီးလျှင် သူရဲတသောင်းကျော်ခန့်ရပြီးမှ တန်းလွဲမြို့ တောင်သို့ချီလေ၍ ရွှေတုံးပြင်တွင်နေသော မြန်မာ စစ်သည်တို့ကို ပြောင်းလက်နက်တို့ဖြင့် ပစ်လွှတ်လေလျှင် မြန်မာစစ်သည်တို့သည် များစွာသေပျောက်ကြကုန်၏။ ထိုရွှေတုံးပြင်တွင် စစ်ရေးမသာသောကြောင့် သံစစ်တောင် အရပ်သို့ ဆုတ်သွားပြီးလျှင် ထိုအရပ်ကနေ၍ တိုက်ကြ လေရာ ငါးရက်ရှိပြီးမှ အမရပူရမင်းသား အိမ်ရှေ့မင်း မောင်ပေါ်၊ စကုမြို့စား၊ ကာမမြို့စား၊ ဇင်းမယ်မိုလ် ကာဝိလ၊ တလိုင်းမိုလ် အမတ်ဒိန်၊ မုတ္တမ ထားဝယ်မိုလ်တို့ သည် ကြည်းရေပြည့်မျှ ဖိစီးတိုက်ခိုက်ချီလာပြီး သံတွဲမြို့ မြစ်ဝမှ ကြည်းတွင်ရောက်လာကြောင်းကို တောင်မင်း ကျော်ထွေး ကြားသိလေလျှင် တန်းလွဲတပ်စစ်အရံကို ဖြုတ်ခဲ့၍ ရမ်းပြည့်ကျွန်းစွယ်ရအရပ်သို့လာ၍ မယားသား လူသူအပေါင်းတို့ကိုယူဆောင်လျက် ကုလားပုန်းအရပ်တွင် ထားခဲ့ပြီးမှ များစွာသောသူရဲတို့ကိုစုပေါင်း၍ မြည်မကျည်း တွင် ရောက်လာသောမြန်မာ အောက်သားတလိုင်း စစ်သည်တို့ကို သက္ကရာဇ် ၁၁၄၆ ခု၊ နတ်တော်လပြည့် ကျော် သုံးရက်၊ တနင်္လာနေ့တွင်ချီသွား၍ တောင်မင်း ကျော်ထွေး တိုက်လေသော် စစ်ရေးနိမ့်သောကြောင့် ဆုတ်၍လာခဲ့ရ၏။ မြန်မာမိုလ်မင်း နရသမိုင်းကျော်သည် ချီလာ၍ ရမ်းပြည့်ကျွန်း တုံးကျောက်ဆိပ်တွင် တပ်တည် လာပေ၏။ တောင်ကုတ်တွင်လည်း ဆီးစားမိုလ်မင်းကို တပ်စွဲ၍နေစေ၏။

တောင်မင်းကျော်ထွေးလည်း သူရဲလက်နက်ကိုင် တို့ကို များစွာဆုလာဘ်ပေးပြီးမှ သူရဲသုံးသောင်းကျော်နှင့် သက္ကရာဇ် ၁၁၄၆ ခု၊ နတ်တော်လပြည့်ကျော်ရှစ်ရက်၊ စနေနေ့တွင် ကြည်းကြောင်းချီသွားလေ၍ တုံးကျောက် ဆိပ်တွင်တပ်တည်၍နေလာသော မြန်မာမိုလ်မင်းနရ သမိုင်းကျော် ကင်းစောင့်တပ်သားတို့နှင့် တိုက်ကြလေ သော် မြန်မာကင်းစောင့်တပ်သားတို့သည် ပျက်စီး၍ သေကြေလေကုန်၏။ ထိုအကြောင်းကို မြန်မာမိုလ်မင်း နရသမိုင်းကျော်သည်သိ၍ ဖိစီးတိုက်ခိုက်လာလေလျှင် တောင်မင်းကျော်ထွေးသည် စစ်ရေးမသာသောကြောင့် ဆုတ်ခွာ၍လာပြီးလျှင် ကုလားပုန်းသို့ရောက်လာ၏။ ရောက်လာပြီးလျှင် ဤရခိုင်ပြည်တွင် ငါတယောက်တည်း သာ မင်းပြုသည်မဟုတ်၊ များစွာသောမင်းတို့လည်း ရှိလေသည်ဟုဆိုပြီးလျှင် မယားသားတို့ကိုယူ၍ ပိန္နဲချောင်း

တွင် ကောင်းညွန့်ရန်တိုင်နှင့် ထွန်းပေါ်ဝေတို့ထံသွား၍ ရောက်လေလျှင် တောင်မင်းကျော်ထွေးဝယ် မြောက်နန်းမိဘုရားအလျာထားသော စောမျိုးဖြူကို ဗိုလ်မင်းဒါးပိုင်ကြီး ကြက်ချည်းစား ချွန်နီးယူ၍သွားလေ၏။ တောင်မင်း ကျော်ထွေးလည်း ဤမတရားသောလူတို့နှင့် ပေါင်းဖော်ချေသော် အပြစ်သာသင့်အံ့ဟုဆိုပြီးလျှင် မလ္လာယုခေါ်သော မယူမြစ်ညာဖြစ်သော ကုလားပဋ္ဌင်အရပ်သို့ ရွှေ့ပြောင်းလျက်နေလေ၏။ မြန်မာဗိုလ်မှူးကိုလည်း တုံးကျောက်ဆိပ်မှသည် ရေကြောင်းထားဝယ်ဗိုလ်ကို ချီစေ၏။ ကြည်းကြောင်း နရသမိုင်းကျော်ချီလာ၍ ရမ်းပေါက်ဝမြစ် လက်ယာဘက်ကမ်း စလင်ပေါ်အရပ်တွင် တပ်တည်၍နေလာ၏။

မဇ္ဈိမရာဇ်ရာဇာမင်းတရားသားတော် အိမ်ရှေ့မင်းသက်စံရွှေလည်း ယောက်ဖတော် စစ်ကွပ်ငချေးစွယ်ကို ဗိုလ်ချုပ်စစ်ကွပ်ခန့်၍ မြောက်ဘက်လေးရွာသူတို့ ချီလာ၍ ရမ်းပေါက်ဝမြစ် လက်ဝဲကမ်းဘက်က တပ်တည်၍နေလာပြီးလျှင် မြန်မာတို့၏တပ်ကို ပြောင်းနှင့်ပစ်လေသော် လက်နက်ထိမှန်၍ မြန်မာအောက်သားတို့ များပြားစွာ သေကြလေသော် ကြွင်းကျန်သူတို့ဆုတ်ခွာခဲ့ပြီးလျှင် သပြေကျွန်း၌ တပ်တည်၍နေလာကုန်၏။ ဗိုလ်ချုပ်စစ်ကွပ် ငချေးစွယ်လည်း သပြေကျွန်းတွင်တပ်တည်၍ နေကြလာသော မြန်မာအောက်သားတို့ကို သက္ကရာဇ် ၁၁၄၆ ခု၊ ပြာသိုလဆန်းခုနစ်ရက်၊ သောကြာနေ့ဝယ် တိုက်လေရာ ဗိုလ်ချုပ် စစ်ကွပ်ငချေးစွယ်ကို သေနတ်လက်နက်ထိမှန်၍ သေဆုံးလေ၏။ ဗိုလ်ချုပ် စစ်ကွပ် ငချေးစွယ် သေဆုံးလေလျှင် အိမ်ရှေ့မင်း သက်စံရွှေသည် ပြေးလေ၏။ မြန်မာအောက်သား တပ်မှူးတို့လည်း အိမ်ရှေ့မင်း သက်စံရွှေမင်းပြုနေသော စင်းချောင်းအရပ်ကို ရလေ၏။

မေဃဝတီ မာန်အောင်ကျွန်းသည် ကားကျွန်းငယ်မြို့ဖြစ်သောကြောင့် မြန်မာအောက်သားတို့သည် မတိုက်ဘဲ ချန်ထားခဲ့၏။

တောင်ခွင်ကြိမ်သလီ၊ သံတွဲမြို့၊ ခုနစ်ခရိုင် တောင်စဉ်၊ ရမ်းပြည့်ကျွန်းရပ်ရွာတို့၌ နေထိုင်ကြသူလူအပေါင်းတို့သည် ရခိုင်ပြည်သို့ ပြေးကြလေကုန်၏။ ရခိုင်ပြည့်ရှင် ဘုရင်မဟာသမ္မတအဂ္ဂေါ ပုညစောရာဇာ မင်းတရားလည်း မှူးတော် မတ်တော်တို့နှင့်တိုင်ပင်တော်မူ၍ တောင်မင်း ကျော်ထွေးက စစ်ကူတောင်းသည် ကာလလည်း ဖိုးခေါင်တောင်သားတို့နှင့် ငကျော်ထွေးသည် အခင်းဖြစ်ကြ၍ စစ်ကူတောင်းသည် အမှတ်အထင်နှင့် ငါအကူအရုံမပေးနေမိသည်။ ယခုမူကား ခုနစ်ခရိုင်၊ တောင်စဉ်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်မြို့များကို မြန်မာအောက်သားတို့ကရလေပြီဟု ကြားသိရသည်ဖြစ်၍ ရခိုင်ပြည် ဤမြောက်ဦးမြို့အတွင်း၌ ညွန့်ကျုံး၊ ရေကျုံး ကျုံးခြောက်၊ ကျုံးပင် လယ်၊ တံခါးကြီး၊ တံခါးငယ်၊ တံခါးကောက်၊ တံခါးကွေ့၊ မလွယ်ပေါက်၊ သူရဲရိုး၊ သူရဲကပ်၊ တန်ဆောင်း၊ ပြအိုး၊ ပစွင်၊ ရင်တားတို့ကို ခိုင်ခံ့စွာလုပ်တော်မူ၏။ မြို့ပြ ရင်တားပတ်လည်တွင်လည်း များမြောင်စွာသော ပြောင်းကြီးလက်နက်တို့ တင်ထားတော်မူစေ၏။ အရှေ့ကွမ်းချေးပေါင်းဝတွင် ခံတပ်လုပ်စေတော်မူပြီးလျှင် များမြောင်စွာသောပြောင်းလက်နက်နှင့် သူရဲအပေါင်းတို့ကို အစောင့်ချထားတော်မူပေ၏။

အမရပူရ ဘိုးတော်မင်း၏သားတော် အိမ်ရှေ့မင်း မောင်ပေါ်လည်း ရခိုင်ပြည်သို့ ရေကြောင်းချီလာပြီးလျှင် ငါးဇင်ရိုင်းချောင်းတွင်နေထိုင်၍ စစ်ပန်ခေါ်လာသူ ဒါးပိုင်ကြီး သံတွေနှင့် လေးခက်တောင်စား ထွန်းစံတို့ကို ခေါ်ယူ၍ သက္ကရာဇ် ၁၁၄၆ ခု၊ ပြာသိုလဆုတ်ခြောက်ရက်၊ သောကြာနေ့တွင် လောင်းကြက်မြို့ဟောင်းဝယ် တပ်တည်၍နေလာ၏။ ကြည်းကြောင်းချီကြသော ရှမ်းစော်ဘွားတို့လည်း ပြိုင်းတိုင်တောင်ခြေရင်းတွင် ရောက်လာကုန်၍ ပိုးခြည်ကျွန်း၌ တပ်တည်လာကုန်၏။ နဂါးရစ်မော်တင်စွန်းကြောင်း ချီလာကြသော တလိုင်း

ဗိုလ်မင်းအမတ်ဒိန်၊ ပုသိမ်ဗိုလ်တို့သည်ကား ရတနာပြင်တွင် တပ်တည်လာကုန်၏။ ရခိုင်ပြည်သူ လူအပေါင်းတို့သည်လည်း တိုင်းကားပြည်ရွာ သာယာစည်ပင်အောင် ပြုလုပ်တတ်သော မင်းကောင်းမင်းမွန် ရောက်လာပေသည်ဟု မှတ်ထင်၍ အလွန်ဝမ်းသာရွှင်လန်း၍ ကခုန်ပျော်ပါးလျက် လက်ပမ်းပေါက်ခတ်ပြီးလျှင် အောင်သေအောင်သား စားသောက်ကြကုန်၏။

ရခိုင်ပြည်ကိုအစိုးရသော မဟာသမ္မတရာဇာမင်းတရားလည်း ညီတော်အိမ်ရှေ့မင်း ချစ်လှရွှေ၊ ယောက်ဖတော် ဒါးပိုင်ကြီးကျော်ပုံ၊ လက်ဝဲမြန် တုံးဖောင်သည်၊ လက်ယာမြန်မောင်ထွေး၊ မှူးမတ်အပေါင်း၊ ရဟန်းပညာရှိ၊ လူပညာရှိတို့နှင့် မြန်မာအောက်သားတို့အား တိုက်ဆိုင်မည်အကြောင်းကို တိုင်ပင်တော်မူလေသော် ယောက်ဖတော် ဒါးပိုင်ကြီးကျော်ပုံက အမရပူရမင်းက စေလွှတ်ချီလာတော်မူသော စစ်ရေးသည် အားအန် ကြီးကျယ်လှသည်ဖြစ်သောကြောင့် လက်ဆောင်ပဏ္ဏာနှင့် သမီးကညာဆက်သတော်မူလျက် ကြည်ဖြူသာယာစွာ ပြောဆို၍ မဟာမိတ်ဖြစ်တော်မူကြမှ ပြည်ထဲရေး ငြိမ်းချမ်းပါမည်ဟု လျှောက်ထားလေသော် မဟာသမ္မတ အဂ္ဂေါပုညဇောရာဇာမင်းတရားလည်း ရှေးဘေးလောင်းတော်၊ ဘိုးလောင်းတော်တို့လက်ထက် ဤရခိုင်ပြည်သို့ တတိုင်းတနိုင်ငံက စစ်ပြိုင်လာသောမင်းတို့ကို လက်ဆောင်ပဏ္ဏာနှင့် သမီးကညာ ဆက်သဖူးသည် မရှိလေ။ ငါတို့ရခိုင်ပြည်သို့သာ ထိုထိုသို့ သောပြည်တို့က လက်ဆောင်ပဏ္ဏာနှင့် သမီးကညာဆက်ဖူးကြောင်း သမိုင်းရာဇဝင်တို့၌ ရေးတင်ပါရှိ ထွက်ဆိုလေသည်။ ယခု ငါ့လက်ထက်တွင်မှ လက်ဆောင်ပဏ္ဏာနှင့် သမီးကညာဆက်သရချေလျှင် နောင်လာမင်းတို့သည် ကမ္ဘာကြေသော်လည်း ဥဒါန်းစကားသည် မကြေရှိလိမ့်မည်ဟု မိန့်တော်မူပြီးလျှင် ညီတော်အိမ်ရှေ့မင်း ချစ်လှရွှေကို ဗိုလ်ချုပ်ခန့်၍ လက်ဝဲမြန် တုံးဖောင်သည်၊ လက်ယာမြန် မောင်ထွေး၊ ဒါးပိုင်ကြီးကျော်ပုံ၊ လက်ဝဲဝင်းမှူး ငထွန်းဝေ၊ လက်ယာဝင်းမှူး ညိုရောင်၊ အရှေ့ဝင်းမှူး ငရောက်ပြေ၊ အနောက်ဝင်းမှူး ရောက်မစည် အစရှိသောမှူးတော်မတ် တော်တို့ကို ပြောင်းလက်နက်တင် လှေရှစ်ဆယ်နှင့် ရေကြောင်းချီစေတော်မူ၏။

သမ္မတရာဇာမင်းတရားလည်း ကိုယ်ရံကြီး ထွန်းခိုင်၊ ဆင်ကဲကြီးထွန်းပေါ်၊ ရမ်းပြည့်စားခြေဝန်း၊ တောင်ဘက်စား ဥဂ္ဂါရွှေ၊ သေနာပတိရေဖုန္တာတ်၊ ကုန်းဖုန္တာတ်အပေါင်းခြံရံလျက် မြှောက်စည်၊ တိုက်စည်တို့ကို ထိန့်ရိုက်အောင်တီး၍ ကြည်းကြောင်း အရှေ့ဘက် ကွမ်းဈေးပေါင်းဝက ချီတော်မူလေ၍ ကြည်းအား ရေအား ကြပ်စည်းပြီးလျှင် သက္ကရာဇ် ၁၁၄၆ ခု၊ ပြာသိုလဆုတ် ခြောက်ရက်၊ သောကြာနေ့တွင် လောင်းကြက်မြို့ယောင်းဝယ် တပ်တည်၍နေလာသော မြန်မာအောက်သားတို့ကို တိုက်လေသော် စစ်ရေးအားအင်မတူသောကြောင့် ကြည်းအား ရေအားနှစ်ဦးလုံးပင် တပြိုင်နက်ဆုတ်၍ လာပြီးလျှင် ရွှေမြို့တော်သို့ ရောက်လာ၏။

မဟာသမ္မတရာဇာမင်းတရားလည်း မှူးမတ်သူရဲတို့ကို များစွာဆုလပ်ပေးတော်မူ၍ ရွှေဝင်းတော်အထဲက ဆီးခံ၍တိုက်မည်ကြံတော်မူလေသော် ဒါးပိုင်ကြီးကျော်ပုံသည် တပြည်စစ်ကိုတိုက်သော် နိုင်ရာသလောဟု ဆို၍ သားမယားတို့ကိုယူပြီးလျှင် မိမိနေသောအိမ်ကို မီးရှို့လျက် တိုက်လှေယာဉ်ငါးစီးနှင့် မြို့တော်မှထွက်၍ ပြေးလေ၏။

မဟာသမ္မတရာဇာမင်းတရားလည်း မိမိကြံအပ်သော အကြံတို့သည် မမြောက်သည်ဖြစ်သောကြောင့် ညီတော် အိမ်ရှေ့မင်း ချစ်လှရွှေ၊ အရှေ့ဝင်းမှူး ငရောက်ပြေ၊ အနောက်ဝင်းမှူး ရောက်မစည်အစရှိသော ပါစွမ်းနိုင်သမျှ မှူးမတ်လူသူအပေါင်းတို့နှင့် သန်းခေါင်အချိန်တွင် ရွှေမြို့တော်မှထွက်၍ လှေတော်စီးပြီးလျှင် တိုက်လှေသုံးဆယ်နှင့် ထွက်ပြေးတော်မူလေ၍

အနောက်ဘက်ရိုးကျွန်းသို့ရောက်လေလျှင် ဘဏ္ဍာအုပ် ရဲဘော်သူနှင့် ဝေမ်းပေါက်တို့လည်း သမ္မရာဇာ မင်းတရားကိုဖမ်းဆီး၍ မြန်မာမင်းစစ်သည်တို့သို့ ပေးအပ်မည် ကြံစည်ကြသည်ကိုသိသောကြောင့် မိမိချက်မြှုပ်ဖြစ်သော ရမ်းပြည့်ကျွန်းသို့ ထွက်ပြေးလေသော် သူပုန်ရန်သူတို့ ထူထပ်သည်ဖြစ်၍ မပေါက်မရောက်နိုင်သဖြင့် ကျွန်းသာယာတွင် ခိုဝင်၍နေတော်မူလေ၏။

အမရပူရပြည့်ရှင် ဘိုးတော်မင်း၏သားတော် အိမ်ရှေ့မင်းမောင်ပေါ်လည်း သက္ကရာဇ် ၁၁၄၆ ခု၊ ပြာသိုလဆုတ်ခုနစ်ရက်၊ စနေနေ့တွင် ရခိုင်ပြည်မြောက်ဦးမြို့တော်ကိုရလေ၏။ ကျေးရွာခရိုင်တို့၌ရှိသော မိုးသူဒါးပြတန္တတို့ကို လိုက်လံရှာဖွေသော် ပိန္နဲချောင်းတွင် ကောင်းညွန့်ရန်တိုင်နှင့် ထွန်းပေါ်ဝေတို့ကိုတွေ့၍ အဝင်ခံလေ၏။ မြန်မာအောက်သားတို့သည် ကောင်းညွန့်ရန်တိုင်နှင့် ထွန်းပေါ်ဝေတို့ကို လှေထက်တင်၍ဆောင်ယူကြလေသော် ဦးရစ်တောင်ချောင်းသို့ ရောက်သောကာလ ကောင်းညွန့်ရန်တိုင်နှင့် ထွန်းပေါ်ဝေတို့သည် ဥပါယ်တံမျဉ်းဖြင့် လွတ်အောင်ကြံ၍ပြေးလေကုန်၏။ မြန်မာအောက်သား ဗိုလ်မှူးတို့လည်း နောက်ထပ်လိုက်လေသော် ရသေ့တောင်နယ်ခြားတွင်တွေ့ကြ၍ တိုက်လေသော် မြန်မာအောက်သား ဗိုလ်မှူးနှင့် ကောင်းညွန့်ရန်တိုင်၊ ထွန်းပေါ်ဝေတို့ သုံးဦးလုံးပင်သေဆုံးခြင်းသို့ ရောက်ကြလေကုန်၏။

ရခိုင်ပြည့်ရှင် မဟာသမ္မတရာဇာမင်းတရားသည် ကျွန်းသာယာတွင်ရှိသောအကြောင်းကို ကာမမြို့စားနှင့် တပ်မှူးတို့ကြားသိသောကြောင့် လိုက်ကြလေသော် သက္ကရာဇ် ၁၁၄၆ ခု၊ ပြာသိုလဆုတ် တဆဲ့ငါးရက်၊ တနင်္ဂနွေနေ့တွင် ရခိုင်ပြည့်ရှင် သမ္မတရာဇာမင်တရားသည် အိမ်နိမ့် ၄၀၊ လေးဆယ်။ နန်းစံ ၂၊ နှစ်နှစ်။ နှစ်စု သက်တော် ၄၂၊ လေးဆဲ့နှစ်နှစ်တွင် ကျွန်းသာယာ၌ မြန်မာအောက်သားတို့ ဖမ်းရလေသဖြင့် အမရပူရပြည့်ရှင် ဘိုးတော်မင်းတရား၏သားတော် အိမ်ရှေ့မင်းမောင်းပေါ် အထံသို့ ပို့ဆက်ခံရသဖြင့် သံခြေချင်းခတ်၍ အကျဉ်းထားလေသည်။ နံတော် စနေသားတည်း။ ၂၈။

သက္ကရာဇ် ၁၁၄၅ ခုနှစ်ကပင် ရတနာပူရ အင်းဝမြို့ကိုအစိုးရတော်မူသော စဉ့်ကူးမင်းထံ စစ်ပန်လာရောက် လျှောက်ထားလာသူ အဘယမဟာရာဇာမင်း၏ သားတော် မင်းသားဟရိလည်း ရောဂါကပ်ရောက်လျက် သေဆုံးလေသည်ဖြစ်၍ သီရိသုရာဇာ ကျောက်ပေါက် ဘုရင်မင်း သားတော် မုတ်ဆိတ်တပုတ်ကို နန်းတင်မည် ဟန်ပြု၍ ရခိုင်ပြည်သူတို့ မထိတ်လန့်ရအောင် အရပ်ရပ် မြို့ပြကျေးရွာဇနပုဒ်နိဂုံတို့၌ လက်နက်ကိုင်သူရဲတို့ကို အစောင့်ထားလေ၏။

ရွာသူကြီးတို့ကိုလည်း စာချွန်ပေးအပ်ပြီးမှ လူကြီး လူငယ် မိန်းမယောက်ျားတို့ကိုပေ၊ ထန်းရွက်၊ ဝါးစိတ်ခြမ်းတို့တွင် နေထွက်ဘုရင် ကျွန်တော်မျိုးဟု စာရေးပြီးလျှင် ဦးခေါင်းလည်ပင်းတို့၌ ဆွဲ၍နေသော သူတို့ကိုသာ ငါတို့လူဖြစ်သည်ဟု ဆိုကုန်၏။ မနေသောသူတို့ကို ကျော်ထွေးလူဖြစ်သည်ဟု အမှုပြု၍ ကြေးငွေများစွာ ယူလေကုန်၏။ ဤသို့ ဥပါယ်တံမည်ဖြင့် မြန်မာအောက်သားတို့ ဆိုလတ်လျှင် ရခိုင်ပြည်သူလူ အပေါင်းတို့သည် ချောင်းနားမြစ်နား၌ နေကြကုန်၏။

အမရပူရပြည့်ရှင် ဘိုးတော်မင်း၏သားတော် အိမ်ရှေ့မင်းလည်း မဟာမုနိဘုရား ရုပ်ပွားတော်ကို ပင့်ခေါ်အံ့သောငှာ ဗိုလ်မင်းသီရိကျော်ထင်ကို စေတော်မူလိုက်၏။ စေတော်မူတိုင်းသွားလေ၍ရောက်လေသော် ရွှေငွေဆန်ပန်း ပေါက်ပေါက်တို့ဖြင့် ရှိခိုးပူဇော်ဖူးမြော်ကန်တော့ပြီးမှ ပင့်ခေါ်တော်မူလေ၏။ မဟာမုနိဘုရားရုပ်ပွားတော်လည်း ပုဗ္ဗနိမိတ်ကိုပြ၍ ကိုယ်အလုံးချွေးထွက်ပြီးလျှင် ပေါင်တော်မှ ယိုစီး၍ကျလေ၏။ ဗိုလ်မင်းသီရိကျော်ထင်လည်း လုံးပတ်သုံးထွာရှိသော ရွှေဖလားနှင့်ခံလေလျှင် ဖလားအပြည့် ရလေ၍ အိမ်ရှေ့မင်းထံ လျှောက်လေသော်

အိမ်ရှေ့မင်းလည်း အလွန်ကြောက်လန့်သည်ဖြစ်၍ အော်- - - -အံ့ဘွယ်သရဲဖြစ်ခဲ့၏တကားဟု ဆိုပြီးလျှင် မိုလ်တပ်ချ၍ နေလေ၏။

ကုလားမျိုးသွေးသောက်လည်း မဟာမုနိဘုရားကြီးကို တမုတ်ကြီးဖြင့်ပတ်လျက် စက်နှင့်လှည့်၍ ကြွချီလေသော် ပလ္လင်တော်ထက်က ဆံခြည်တတန်းမျှ မရွေ့ဘဲ နေတော်မူလေ၏။ နေဝင်၍ မိုးချုပ်လေလျှင် မိုလ်မင်းသီရိကျော်ထင်လည်း အရပ်လေးမျက်နှာမှ သေနတ်လေးရာနှင့် အစောင့်ထားလေ၏။ ညဦးအခါဝယ် မဟာမုနိဘုရားရောင်ခြည်တော် ခြောက်ပါးလွှတ်၍ အထက်သို့ အလုံးအလုံးအရောင်အဝါသည် နေမင်း၏ အရောင်ကဲ့သို့ ပြောင်ပြောင်ထိန်လင်းထွန်းပလေ၏။ ကောင်းကင်ပြင်၌လည်း မည်းမည်းမှောင်မှောင် တိမ်တောင်အုပ်ဖုံး၍ မိုးရွာမည့်အဟန်ကဲ့သို့ဖြစ်၏။ အရပ်လေးမျက်နှာ၌လည်း ပဋ္ဌင်တူရိယာ စည်စောင်းညှင်း အသံကဲ့သို့ကြားကုန်၏။ ကုလားမျိုး သွေးသောက်တို့လည်း မိုးသောက်လျှင် စက်နှင့်တဖန်လှည့်ပြန်၍ ရထားရှင်တွင်တင်ပြီးသော် တမုတ်ကြီးဖြင့် ဆွဲငင်လေလျှင် အရှင်ရှုရှုကြွဘိသကဲ့သို့ ကြွတော်မူလေ၏။

သက္ကရာဇ် ၁၁၄၆ ခု၊ တပို့တွဲလဆန်း တဆဲ့သုံးရက်၊ တနင်္ဂနွေနေ့တွင် ဈေးချောင်းဝယ် ဖောင်တော်၌ တင်ထားလေသော် ဖောင်တော်သည် ပြား၍ဘုရားရုပ်တုကိုယ်စားတော်မြတ်သည် ရေတွင်ကိန်းဝပ်တော်မူလျက် အထက်ကောင်းကင်သို့ ထန်းလုံးပမာဏရှိသော ပြိုးပြိုးပြက်ပြက်ထိန်ထိန်လက်မျှ ထွန်းပသောရောင်ခြည်တော်သည် တက်တော်မူလေ၏။ ကုလားမျိုးသွေးသောက်တို့လည်း ရုပ်ရှင်တော်မဟာမုနိကို မမြင်သည်ဖြစ်၍ ရာဇဒဏ်ကိုကြောက်သဖြင့် ရှာဖွေကြလေသော် ရုပ်တုတော်မဟာမုနိနှင့် အဆင်းသဏ္ဍာန်တူမျှသော ရုပ်တုတော်တဆူကိုရ၍ ဖောင်တော်သို့တင်လျက် ပင့်ဆောင်၍သွားပြီးလျှင် အိမ်ရှေ့မင်းမောင်ပေါ်သို့ အပ်တော်မူလေ၏။

(ဤသည်ကား ဆရာငမည်ရာဇဝင်တို့၌ဆိုအပ်သောစကားတည်း။ ဤစကားကိုထောက်၍ မဟာမုနိရုပ်ရှင်တော်ကို ပင့်၍မရ၊ ရုပ်ရှင်တော်အရှေ့ပြည် အမရပူရမြို့သို့မပါဟု ပညာရှိအချို့တို့ ပြောဆိုကြလေသည်ဟု ၎င်း ရာဇဝင်တို့၌ ဆိုသည်။

မဟာမုနိသမိုင်း၊ ရာဇဝင်လင်္ကာတို့၌ကား ပင့်ဆောင်တော်မူရာ ပါလေကြောင်းနှင့် ဆိုကြလေသည်။ မဟာမုနိသမိုင်း၊ ရာဇဝင်လင်္ကာတို့စကား၊ ယခု မန္တလေးမြို့တွင်ရောက်ရှိသော မဟာမုနိရုပ်ရှင်တော်ပုံများကို ထောက်ထား ဆင်ခြင်မူ၊ ပါတော်မူလေသည်ပင်ဟု ယူသင့်သည်။ ဤကား စကားချပ်)

အိမ်ရှေ့မင်းသား မောင်ပေါ်လည်း ရခိုင်မြို့တော်တွင် နန္ဒမကျန်ကို မြို့ဝန်ခန့်တော်မူ၍ စစ်ပန်ခေါ်လာသူလေးခက်တောင်စား ငထွန်းစံအား မြို့သူကြီးခန့်တော်မူ၍ ကိုးမြို့သခင်နှင့် လမိုင်းဝန်တို့ကို သူရဲတထောင်နှင့်မြို့တွင် အစောင့်ထားတော်မူခဲ့၏။

သံတွဲမြို့တွင် ဆီးခါးမိုလ်ကို သူရဲသုံးရာနှင့် အစောင့်ထားတော်မူခဲ့၏။

ရမ်းပြည့်မြို့တွင် နရသမိုင်းကျော်ကို သူရဲငါးရာနှင့် အစောင့်ထားတော်မူခဲ့၏။ မာန်အောင်ကျွန်းကို ရမ်းပြည့်အပိုင်ပြုတော်မူခဲ့၏။

နောက်နောင် ရခိုင်ပြည်သားတို့သည် လှန်ပြန်လတ်သော် ခရီးလမ်းထောက်ရစေဟူသော အမှတ်ဖြင့် မိချောင်းဝဝယ် စစ်တပ်တည်၍ သွေးသောက်ကြီးလူတို့ကို အစောင့်အရှောက်ထားတော်မူခဲ့၏။

အရပ်ရပ် ကျေးလက်မြို့ရွာတို့၌လည်း အသီးအသီး အစောင့်အရှောက်ထားတော်မူခဲ့ပြီးလျှင် မဟာမုနိရုပ်ရှင်တော်ကို လုပ်ကျွေးမွေးမြူပြုသောသူ၊ မင်းမိဘုရားတို့ကို လုပ်ကျွေးမွေးမြူပြုသော သူတို့နှင့်တကွ ပိဋကတ်စာစောင်ရေ ခြောက်ဆဲ့လေးကျမ်း၊ လဝိုက်အမည်ရှိသော

ယိုးဒယားဘုရင် ဖြသာဓိပတိရာဇာအရပ်၊ အတောင် နှစ်ဆယ်လုံးပတ်၊ သံခြောက်တောင်ပတ်၊ နားမဖောက်သော ပြောင်းကြီးနှင့် တဆယ့်ငါးတောင်၊ ဆယ်တောင်အစရှိသော သုံးထောင်သော ပြောင်းလက်နက်၊ မြစ်စကမ်းခြေနေသော လူယောကျ်ားမိန်းမ၊ ရွှေငွေဥစ္စာ၊ ဆင်မြင်းအစရှိသော ဝတ္ထုဝန်ဆန်တို့ကို သိမ်းယူကြဉ်းဆောင်တော်မူပြီးလျှင် ပြန်တော်မူခဲ့၍ ခုနစ်ခရိုင်တောင်စဉ်အရပ် တောင်ကုပ်မြို့သို့ ရောက်လာ၏။

ရှမ်းစော်ဖွား၊ ဗိုလ်မှူး၊ တပ်မှူးတို့လည်း လေးမြို့ကြောင်း ခုနစ်ခရိုင်တောင်စဉ်ကြောင်းဝင်၍ အသီးအသီးပြန်ကြလေကုန်၏။

အမရပူရဘိုးတော်မင်း၏သားတော် အိမ်ရှေ့မင်းမောင်ပေါ်လည်း မဟာမုနိရုပ်ရှင်တော်ကို ပင့်ဆောင်တော်မူ၍ တောင်ကုပ်မြို့သို့ ရောက်လာလျှင် ရထားသုံးဆူလုပ်၍ မဟာမုနိရုပ်ရှင်တော်၌ ချွတ်ဖြုတ်သင့်ရာကို ချွတ်ဖြုတ်၍ ရထားသုံးဆူတွင် တင်တော်မူပြီးလျှင် စက်နှင့်ဆွဲငင်ပင့်တော်မူလေ၏။ ပင့်ဆောင်တော်မူလေရာ ရထားသုံးဆူသည် ညနေဝင်လေလျှင် ဆွဲငင်၍မရဘဲ ရပ်တန့်တော်မူလေ၏။ ရပ်တန့်တော်မူခြင်းသည် ကျိန်းစက်တော်မူလို၍ဖြစ်သည်ဟု ဆိုကြသဖြင့် ထိုအရပ်တွင် ကျိန်းစက်တော်မူစေ၏။ ယင်းသို့ ရပ်တန့်ကျိန်းစက်တော်မူသည်ကိုအကြောင်းပြု၍ ထိုအရပ်ကို ယနေ့တိုင်အောင် ရပ်တော်မူအရပ်ဟူ၍ခေါ်ကြလေ၏။

ယင်းသို့စခန်းစဉ်အတိုင်း ဆွဲငင်ပင့်ဆောင်တော်မူလေ၍ ပန်းတောင်းမြို့သို့ ရောက်တော်မူလေလျှင် ရုပ်ရှင်တော်၌ ချွတ်ဖြုတ်သင့်ရာ ချွတ်ဖြုတ်တင်ယူခဲ့သည်ကို ရှေးအတိုင်းပြုပျင်ဆင်ယင်လျက် လှေဖောင်တော်တွင် တင်တော်မူလျက် ဧရာဝတီမြစ်ကြောင်း အမရပူရမြို့သို့ ဆန်တက်တော်မူ၍ရောက်လေလျှင် လက်ရသိမ်းယူခဲ့သော လူပေါင်း နှစ်သိန်းကျော်၊ ရွှေငွေဝတ္ထုဝန်ဆန်၊ ရခိုင်ပြည့်ရှင် မဟာသမ္မတရာဇာမင်းတရား အလုပ်အကျွေး လူသူအပေါင်းတို့နှင့်တကွ မဟာမုနိရုပ်ရှင်တော်ကို ခမည်းတော်မင်းကြီးထံဆက်သတော်မူလေသော် အမရပူရပြည့်ရှင် ဘိုးတော်မင်းတရားကြီးသည် လက်ခံသိမ်းပိုက်တော်မူလျက် မဟာမုနိရုပ်ရှင်တော်ကို အမရပူရမြို့တော်၏ အရှေ့မြောက် မန္တလေးအရပ်တွင် သိမ်တော်ဆောက်လျက် ကိုးကွယ်တော်မူလေ၏။ လက်ရသိမ်းယူခဲ့သော လူပေါင်း နှစ်သိန်းကျော်ကို အသီးအသီးရွာတည်ထောင်၍ ထားတော်မူလေသည်။

ရခိုင်ပြည့်ရှင် မဟာသမ္မတရာဇာ မင်းတရားကို မူကား ညီတော်ပခန်းစား အိမ်တော်တွင်နေစေတော်မူ၏။ မေးဖွယ်ကိစ္စများရှိလျှင် သံတော်ဆင့်တို့ကိုစေခိုင်း၍ မေးတော်မူ၏။

တရံရောအခါ အမရပူရဘိုးတော်မင်းက ရခိုင်ပြည့်ရှင် မဟာသမ္မတရာဇာမင်းကို မေးတော်မူသည်မှာ ရခိုင်မင်းသည် အဘယ်ကြောင့်စစ်ဆိုင်၍ မတိုက်သနည်းဟု မေးတော်မူ၏။ ရခိုင်ပြည့်ရှင်မင်းက အမရပူရပြည့်ရှင်မင်းသည် စစ်ထိုးမည့်အကြောင်းကို ရာဇသံနှင့် တမန်မရောက်သောကြောင့် မတိုက်နိုင်လေဟု ဆိုတော်မူပေ၏။

ရခိုင်မင်းသည် နန်းကဆင်း၍ အဘယ်ကြောင့် ပြေးလေသနည်းဟု မေးတော်မူ၏။ ရခိုင်ပြည့်ရှင်မင်းက ဘုရားသခင်လက်ထက်တော်၌ ဗိမ္ဗိသာရမင်းသည် ဇမ္ဗူပတိမင်းကိုကြောက်၍ ပြေးရဘူးသကဲ့သို့ ပြေးရပေသည်ဟု ဆိုတော်မူပေ၏။

အမရပူရဘိုးတော်မင်းက ပြေးလေလျှင် အဘယ်ကြောင့် မလွတ်လေသနည်းဟု မေးတော်မူပြန်၏။ ရခိုင်ပြည်ရှင် မဟာသမ္မတမင်းကလည်း ကိုယ်တော်ရံ သက်တော်စောင့်တို့ မရှိလေသောကြောင့် မလွတ်နိုင်ဖြစ်လေသည်ဟု ဆိုတော်မူပေ၏။

အမရပူရဘိုးတော်မင်းက ရခိုင်မင်းမှာ ဝိဋ္ဋကတ်ဗေဒင်တတ်သိလိမ္မာသူတို့ မရှိလေသလောဟု မေးတော်မူ

ပြန်၏။ ရခိုင်ပြည့်ရှင် မဟာသမ္မတမင်းကလည်း အမရပူရမင်းမှာ ပိဋကတ်ဗေဒင် သိမြင်လိမ္မာသူတို့ မရှိလေသောကြောင့် သူတပါးနိုင်ငံကို တိုက်ဖျက်လုယူလေသလောဟု ဆိုတော်မူပေလျှင် အမရပူရဘိုးတော်မင်းသည် နောက်ဆက်၍မမေးပဲ ဆိတ်ဆိတ်နေတော်မူလေ၏။

ထိုအခါ ရခိုင်ပြည့်ရှင် မဟာသမ္မတမင်း၏ တန်ဆောင်းမိဘုရား မြသန္တာသည် အရောင်အဆင်းနှင့် ပြည့်စုံသောကြောင့် အမရပူရဘိုးတော်မင်းက လိုချင်သော နှလုံးတော်ရှိသည်ဖြစ်၍ တန်ဆောင်းမိဘုရားမြသန္တာနှင့် ပူးပေါင်းပြီးလျှင် ရခိုင်ပြည့်ရှင် မဟာသမ္မတရာဇာမင်းကို မလိုဟူ၍ တရားစွဲဆိုခြင်းပြုစေ၍ အတင်းအဓမ္မာပြီးလျှင် တရားစရိတ် ငွေတထောင်ကို အမရပူရဘိုးတော်မင်းက အမတ်လေးယောက်တို့အားပေးတော်မူ၍ တန်ဆောင်းမိဘုရား မြသန္တာကို သိမ်းယူတော်မူလေ၏။

ကုသလနရပတိမင်းအစ မဟာသမ္မတမင်း အဆုံးရှိသော မင်း ၂၈ ဆက်တို့၏ နန်းစံနှစ်ပေါင်း ၁၂၇ နှစ်တည်း။

ဤသည်ကား လောင်းကြက်မြို့စား ကုသလနရပတိမင်းအစ မဟာသမ္မတမင်း အဆုံးရှိသော မင်းနှစ်ဆဲ့ရှစ်ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရာဇဝင်ဟောင်း၊ အင်းစောက်ရာဇဝင်၊ ဆရာငမည် ရာဇဝင်၊ ရာဇဝင်ပေါင်းချုပ်၊ ရာဇဝင်လင်္ကာ၊ မဟာမုနိသမိုင်းတို့နှင့် ညှိနှိုင်းတိုင်းဆရေးသား၍ ပြအပ်သောအခန်းတည်း။

ဓညဝတီအရေးတော်ပုံ၌ကား နရပတိမင်းအနွယ် တဆဲ့နှစ်ဆက်အဆုံး ဝိဇယမင်းနောက် ခြောက်ဆက်မြောက်တွင် မဒ္ဒရာဇ်ရာဇာမင်းလက်ထက် သက္ကရာဇ် ၁၁၀၄ ခုတွင် အရှေ့ပြည်က ငစံဦး၊ ငရွှေလှော်၊ ငပုညိုတို့ သုံးယောက် ယောကျာ်း မိန်းမတထောင်နှင့် ဝင်ရောက်လာ၍ ပြည့်ရှင်မဒ္ဒရာဇ်မင်းထံ လျှောက်သည်ကား --

အရှင်မင်းမြတ်၊ အင်းဝမြို့မင်းသည် အကျင့်ပျက်၍ မှူးကောင်းမတ်ကောင်းတို့ စကားကိုမနာမယူ သွမ်းသွပ်သော အလေ့အလာကို သာကြိုက်လေ၍ တိုင်းပြည်မသာ အလိုလိုသောင်းကြမ်းလျက် ပြည်သူညှိုးငယ်နှင့်ရှိပါသည်။ ချီသိမ်းတော်မူလျှင် လွယ်ကာနှင့် ရပါမည်။ လက်ဆောင် မြင်းကောင်းငါးစီး၊ ပိုးထုပ် ၅၀ များကိုဆက်လေ၍ လျှောက်လေသော် ယင်းသို့အခါ ပညာရှိအမတ်မျိုး ကိုယ်ရံကြီးလျှောက်ထုံးသော်ကား--

အရှင်မင်းမြတ်၊ ငရွှေလှော်၊ ငစံဦး၊ ငပုညိုတို့ လျှောက်သောစကားအတိုင်း အကယ်၍မှန်စေရာ ဥပမာထုံးသော်ကား ပျားတို့သည်အအုံဖွဲ့၍ အပေါင်းအသင်းနှင့် နေကြရာ ဘေးရန်ရှိက မိမိအလျှောက်ရောက်တတ်ရာ ပျံသွားသင့်သောအကြောင်းရှိလျက် လူတို့တွေ့၍ဖွပ်ယူလတ်မူ မိမိတို့သားမြေးစုလျက်ရှိလေသည်ကို အကြောင်းပြု၍ မခွဲမသွားတတ်နိုင်သမျှ ကိုက်ခဲထိုးကုတ်ကြပါသည်။ ထိုကိုစာနာမူ လူတို့မှာသော်ကား ဆိုဖွယ်ရာမရှိ၊ မိမိတို့တိုင်းနိုင်ငံသားချင်း နိုင်နင်းကလူပြုလျက်ရှိစေကာမူ တိုင်းတပါးက တိုက်ခိုက်ဖျက်ဆီးမည်ရောက်လတ်လျှင် ကိုယ်စီအရေးသားမယားမိဘဆွေမျိုး ဥစ္စာအိမ်ထောင် နှင့်ချည်းဖြစ်၍ အသီးအသီး စည်းကြပ်ပေါင်းဖက်ခုခံမည် အမှန်ဖြစ်ပါသည်။ သတ္တဝါတို့ဝေလေ့ မနိုင်သောအခါမှ လွတ်ရာတောတောင်သို့ တိမ်းရှောင်ထွက်ပြေး ပုန်းအောင်းနေပါသည်။ ယင်းသို့ခုခံချေက ကိုယ့်လူအများ သေဆုံး ပျက်စီးမှ သူ့လူကိုရပါမည်။ သူ့လူလည်းအများ သေကြေပျက်စီးခြင်းသို့ ရောက်ရာသည်။ ရှေးသူဟောင်းတို့ စကားအလာ၌လည်း တယောက်ချမ်းသာ၊ ကိုယ်ဖို့ရှာ၍၊ သတ္တဝါပေါင်း၊ ဆုံးကြောင်းပျက်ရ၊ အဓမ္မမှု၊ သူပြုသူ့ဝန်၊ သူ့ကံခေတ္တ၊ ရေပွက်မျှကို၊ နိစ္စထင်မှား၊ တောသားမုဆိုး၊ အားကြိုးမာန်တက်၊ လက်နက်စွဲကိုင်၊ ထိုမြိုင်ထိုတောင်၊ ကုန်အောင်လှည့်ပတ်၊ သားငါးသတ်သို့၊ မတတ်စရာ၊ ပမာထိုတူ၊ အယူမှောက်လှန်၊ ကျေးကျွန် ကိုယ်သား၊ သူတပါးကို၊ မုန်းထားရန်စစ်၊ လောဘမြစ်ကို၊ နတ်ပစ်

လေပြီး၊ မင်းထီးစောထွတ်၊ နွယ်တော်မြတ်တို့။ ။ ဟူ၍ စပ်ဆိုတော်မူလျက် ရှိပါသည်။

ကျမ်းဂန်အလာ၌လည်း- ယောရာဇာ၊ အကြင် မင်းသည်။ အဓမ္မံ၊ မအောင်အပ်သောအမှုကို။ ဇိနာတိ၊ အောင်မြင်တတ်၏။ သောရာဇာ၊ ထိုမင်းသည်။ နရာဇာ၊ မင်းမမည်ရာ။ ဤသို့ကျမ်းဂန်၌ လာရှိပါသည်ဟု ထုံးဟောင်းကျမ်းဂန်အရ လျှောက်ထားလေလျှင် မင်းကြီး ကြိုက်တော်မူ၍ ငရွှေလှော်၊ ငစံဦး၊ ငပုညိုတို့နှင့် ပါလာသော လူတို့ကို ပေချောင်းတွင်ချထားတော်မူ၍ လေးကျော့ အစိုးဖွဲ့တော်မူသည်။ ငပုညိုကိုလည်း လေးခက်တောင်စား အရာပေးတော်မူသည်။

အမတ်ပညာရှိ ကိုယ်ရံကြီးသားအကြီး မြကျော်ဦးကိုလည်း သမီးတော်မြတ်တုန်းကြွယ်နှင့် ပေးမြား တော်မူ၍ သောင်းတီးကျေးစား၊ ကောင်းကျော်ထင် ကျေးစား၊ သူငယ်တော်ကျေးစားအရာ သုံးခုထပ်ပေးတော် မူပြီးမှ အမိန့်တော်ရှိသည်ကား အမတ်တော်ကိုယ်ရံကြီး တို့အမျိုးသည် ပတ္တမြား ကျောက်ကောင်းနှင့်တူသည်။ ထီးနန်းမင်းဆက် အရှည်ဆက်လာ မင်းတိုင်ပင်အမတ် ထွန်းလျက်လာသည်။ မင်းအားလည်း ပြစ်မှားသည် မရှိ။ မင်းမမှားစေရ၊ လျှောက်ထား၍လာခဲ့သည်။ အမျိုးပညာ အရာ အင်္ဂါပြည့်စုံစွာနှင့် ရာဇဝင်သမိုင်းထွက်ရှိသည်။ အရသာဩဇာရှိသော အပင်အသီးတို့ကို မျိုးစေ့မပျက်စေရ။ ကောင်းမွန်စွာစိုက်ပျိုးသကဲ့သို့ အမတ်ကြီး သားအငယ် ရွှေသဲကိုလည်း သားအမှတ် ငါမွေးမြူတော်မူမည်။ နှီထိန်းအချီအယအစုံပေးတော်မူပြီးသော် မိဘုရားကြီးသို့ အပ်တော်မူ၍ နန်းတော်၌ ထားတော်မူလေသည်ဟူ၍ ၎င်း---

ထိုမင်းလွန်တော်မူလေလျှင် အမတ်ရမ်းပြည့်စား ထီးနန်းတက်တော်မူလေ၍ အဘယရာဇာအမည်ကို ခံတော်မူလေသည်။ အဘယမင်းလက်ထက် အမတ် ပညာရှိ သားကောင်းကျော်ထင်စားကို သက္ကရာဇ် ၁၁၀၇ ခုတွင် အနောက်ပြည် သက်မြို့သို့စေလွှတ်တော်မူလေရာ ကောင်းကျော်ထင်စား မြကျော်ဦး နှလုံးရည်ပညာရည် ကြောင့် သက်မြို့နှင့်စစ်တကောင်းမြို့၊ ဂေါ်တော် ပလ္လင်မြို့တို့မှ ပေးမြဲအခွန်ဘဏ္ဍာကို ရတော်မူလေသည်။ မြို့စား၊ ကျေးစား၊ ရွာစားပေးသော်ကား မခံလေ။ ထိုမင်းလက်ထက် သက္ကရာဇ် ၁၁၁၅ ခုတွင် အင်းဝ အမတ် မင်းကြီးနန္ဒကျော်ထင် တယောက်၊ ညီတိုင်တားစား ရွှေဆင်တယောက်၊ လယ်ကိုင်းစားရာသီတယောက်၊ အမတ်သုံးယောက် ကျေးကျွန်နောက်ပါယောကျ်ား၊ မိန်းမနှစ်ရာနှင့် ရောက်လာ၍ အရှေ့အင်းဝမြို့ အကြောင်းအရာကို မေးတော်မူလေသော် အမတ်ကြီး နန္ဒကျော်ထင် လျှောက်သောထုံးသော်ကား အရှင်မင်းမြတ်၊ ဘိဘေားစဉ်လာ ဟံသာဝတီ ပဲခိုးမြို့မင်းဆက်များစွာ မှူးကြီးမတ်ကြီးအရာနှင့် တိုင်းပြည်ကို အုပ်ထိန်းလာခဲ့ သောအမျိုးဖြစ်ပါသည်။ ပဲခိုးမြို့သည် သတ္တဝါတို့၏ ကပ်ဉပဒ်အလျောက် ပျက်သုန်း၍ အင်းဝမြို့၌ ဆင်ဖြူများ ရှင် မင်းတရားသားတော် ညောင်ရမ်းမင်း လက်ထက်တော် တွင်လည်း ခမည်းတော် ဆင်ဖြူများရှင် မင်းတရား မြှောက်မြှင့်သည်နည်း သားမြေးစဉ်ဆက်ကာ အမတ်ကြီး နေရာနှင့်ချည်း တိုင်းမှုပြည်မှုများကို သုစ်သင်စီရင်ရပါ သည်။ စနေမင်းသားတော် တနင်္ဂနွေမင်း လက်ထက် အဘသတိုးမင်းကြီးကျော်ခေါင်မှာ သားယောကျ်ား သုံးယောက်ရှိသည့်အနက် သားအကြီးကို ရမည်းသင်းစား မိဘုရားမင်္ဂလာသီရိတွင် ဖွားမြင်တော်မူသည့် သမီးတော် မင်းမြဦးနှင့်စုံဖက်တော်မူ၍ ကူးခန်းကြီးမြို့ကို ပေးတော် မူသည်။ သားအလတ်မှာ သားတော်အိမ်ရှေ့မင်းထံ သူငယ်တော်ခံလျက် နေရပါသည်။ ညီအငယ်မှာ မိဘနှင့်အတူမကွဲ ငယ်ရွယ်သူဖြစ်၍ နေရသည်နှင့် ထိုမင်း လွန်တော်မူရာသားတော် တနင်္ဂနွေမင်း ဆင်ဖြူရှင်နန်းတက် ၍ တနှစ်ရှိသောအခါ အဘသတိုးမင်းကြီးကျော်ခေါင် သေလွန်လျှင် အစ်ကိုကူးခန်းကြီးစားကို အဘအရာ

ဆောင်ရွက်မည်ရည်နှင့်တကွ ဆက်ခံရပါသည်။

ကျွန်တော်မှာသော်ကား မင်းကြီးနန္ဒကျော်ထင် အမည်နှင့် ထိုမင်း၏မိဘုရား တောင်သာမြို့စားတွင် ဖွားမြင်တော်မူသော သမီးတော်မင်းရွှေကုံနှင့် ပေးမြား၍ အင်းဝမြို့ဝန်ခန့်တော်မူပြီးလျှင် မိတ္ထီလာမြို့ကို စားရပါသည်။ ညီရွှေဆင်မှာ သားတော်အိမ်ရှေ့မင်းထံ သူငယ်တော်ခံ၍ နေရပါသည်။ ထိုမင်းလွန်တော်မူသော် သားတော်ကြာသပတေးမင်း နန်းတက်လေရာ အထက်ကနည်း မြှောက်မြှင့်တော်မူလျက် ညီရွှေဆင်ကို တိုင်တားမြို့စားပေးတော်မူပါသည်။ သက္ကရာဇ် ၁၀၉၅ ခုတွင် ကြာသပတေးမင်း နန်းတက်၍သက္ကရာဇ် ၁၁၀၅ ခုတိုင်အောင် တိုင်းပြည်သာယာပါသေးသည်။ နောက်သော်ကား ယစ်မျိုးသောက်စား သားငါးသတ်ညှစ် ကျင့်ကြံလျက် အထိန်းတော်သား ငဖြူနှင့်ပေါင်းဖက်၍ မင်းကျင့်ပျက်လေရာ အစ်ကိုအမတ်ကြီးပါ လေးယောက်သော အမတ်တို့ကိုစီရင်လေသည်။ ယင်းသို့ ဖြစ်လတ်သော် ပြည်တိုင်းကား ငြိုငြင်သဖြင့် အသီးအသီး အလိုလိုသောင်းကြမ်းဆိုးသွမ်းပြုလေရာ ထိုမင်းအမတ် ပဲခိုးမြို့ကနေ၍ ခြားနားချီတက်တိုက်ဖျက်လေလျှင် သက္ကရာဇ် ၁၁၁၃ ခုတွင် အင်းဝမြို့ပျက်၍ ကြာသပတေးမင်းလည်း ပဲခိုးမြို့သို့ပါသွားလေသည်။ အကြေအညာမြို့ရွာများကိုလည်း တလိုင်းတို့တိုက်ဖျက်၍ သေကြေများပြားသောကြောင့် လွတ်ရာလွတ်ကြောင်း တောင်ငူရာဇာနှင့် မင်းတုန်းမြို့တွင်နေကြရာ တောင်ငူရာဇာသေလွန်လျှင် ပဲခိုးတလိုင်းတို့လာရောက် တိုက်ခိုက်လာပြန်မူ မခံမရပ်နိုင်အောင်ရှိသည်တချက်၊ ဥတုရာသီ မညီမဖြောင့်၍ အစာရှားပါး ဝေမ်ပွတ်သည်ရှိသည် တခု။ ထိုသို့အကြောင်းဆိုက်လတ်သော် ဘုန်းတော်မြတ်ကိုခိုလှုံ၍ သားမယား ကျေးကျွန်တစုနှင့် ဝင်ရောက်လာကြောင်း တင်လျှောက်လေလျှင် အဘယရာဇာမင်းလည်း မင်းကြီးနန္ဒကျော်ထင် အမျိုးနှင့်အရည်ကို ကြိုက်တော်မူသဖြင့် ဆင်ကဲကြီးအမတ် ခန့်တော်မူသည်။ ညီရွှေဆင်ကို ကြွေထဲစား၊ ရာသီကို ကျေးမသွေးစားအရာ ပေးတော်မူ၍ထားတော်မူလေသည်။

သက္ကရာဇ် ၁၁၂၂ ခုတွင် အမတ်ဆင်ကဲကြီးသမီး ရှင်စိုးမင်းကို ကောက်ယူတော်မူ၍ မြောက်မိဘုရား ထားတော်မူသည်။ မြောက်မိဘုရားညီမ မိပန်းရုံကိုလည်း ရှေးပညာရှိ အမတ်ကြီးသား ရွှေသဲနှင့်ပေးမြားတော်မူပြီးလျှင် ရွှေတိုက်ငွေတိုက် လက်နက်တိုက်များကို အပ်တော်မူ၍ စားကျေးရိုးကျွန်းနှင့်စိန်တင်ကို ပေးတော်မူသည်ဟူ၍ ဝှင်း။

အဘယရာဇာမင်းနောက်နှစ်ဆက်မြောက် ပရမရာဇာမင်း နန်းတက်တော်မူ၍ သားတော်တပါး ဦးဘော်ဝေကို ဖွားမြင်တော်မူရာ ပြည့်ရှင်ပရမမင်း အမိန့်တော်ရှိသည်ကား မဟာသမ္မတမင်းက စဉ်လာ သာကီဝင်မျိုးတို့၌ သားယောကျ်ားသော်၎င်း၊ သားမိန်းမသော်၎င်း တောင်ညာထားတွင် ဖွားမြင်လေသော် မင်းဆွေမင်းမျိုး မှူးရိုးမတ်ရိုး မမှန်သော မိန်းမအား နို့ထိန်းနို့တိုက်ထည့်ရိုး ထုံးဟောင်းမရှိ။ ငါ့သားတော် ဦးဘော်ဝေကိုလည်း နို့ထိန်းနို့တိုက်ထားရန် ရှေးထုံးတမ်းနှင့် လျှောက်ရမည် အမိန့်တော်ရှိသောအခါ ရှေးပညာရှိ အမတ်၊ ပညာရှိအမျိုးစဉ်လာဖြစ်သော စိန်တင်စားအမတ် ရွှေသဲလျှောက်သောထုံးသော်ကား-

အရှင်မင်းမြတ်၊ လောကဒီပဝင်ကျမ်း၌ အလာမူကား ရာဇဂြိုဟ်ပြည်ရှင် ဗိမ္ဗိသာရမင်းသည် ငယ်တော်မူစဉ်က လက်ပမ်းသည်တဦး ကျောက်ကုန်း၌ စီးတော်မူခဲ့သော အကြောင်းဖြင့် မင်းဖြစ်တော်မူသောအခါ သဝရဟူသောအမည်နှင့် ကနီစာဟူသောမြို့ကို စားကျေးပေးတော်မူလေ၍ ထိုမင်းတွင် သားတော်အဇာတသတ်ကို ဖွားမြင်လတ်မူ သဝရမယား ဆိန္ဓပန္နအား အဇာတသတ်ကို နို့ထိန်းပေးတော်မူလေသည်။ ဆိန္ဓပန္နလည်း သုတမရှိ။ သဝရလည်း ပညာမရှိ။ ထုံးဟောင်းစာဟောင်း မတတ်။

လက်ပမ်းသည်အမျိုး ဆိန္ဓပန္နလည်း မှူးမတ်သမီးမျိုး အရိုးအစဉ်မဟုတ်၍ နိုထိန်းအင်္ဂါကို မသိလေ။ ခက်ထန်သော အလေ့နှင့် နေထိုင်သူ၏ နို့ကိုစို့မိလေချေ၍ အဓောတသတ်မင်း အရွယ်ရောက်လတ်မူ ခမည်းတော် ဗိမ္ဗိသာရမင်းအား ပြစ်မှားလေသည်။

အသိတဥ္စနပြည့်ရှင် ကံသမင်း၊ နမတော် ဒေဝဂဗ္ဘာ၏သား ဝါသုဒေဝစသော ညီနောင်တကျိပ်တို့ကို အန္ဓကဝေဏှုကဟူသော စစ်မှူးအမတ်၏မယား သာမန္တ နိဂုံးရွာသူ နန္ဒိဂေါပါလာအား နို့ထိန်းအပ်လေရာ ထိုမိန်းမတရားမရှိ လောဘကြီးသော မိန်းမနှင့်ပြားသဖြင့် ထိုမင်းသားညီနောင်တကျိပ်တို့ အရွယ်သို့ရောက်သောအခါ ဦးရီးတော် ကံသမင်းကို ပြစ်မှားလေသည်။

ဥတ္တရမဓုရာပြည့်ရှင် သာရဆိန္ဓမင်းကို သဘော်သူကြီးသံမြင်စွာက ထူးဆန်းသောရထားတခု ဆက်သလေရာ သဒ္ဒါကြီး၍ မကရွှေပီတိုင်းကို စားကျေးပေးတော်မူသည်။ ထိုမင်း၌ မိဘုရားကြီးဝယ်သမီးတော် သုဝဏ္ဏကုမ္မာကို ဖွားမြင်တော်မူလေလျှင် သံမြင်စွာမယား အနဘက္ခိသဘင်သည်မအား နို့ထိန်းပေးလေသော် ထိုမိန်းမ၌ အကျင့်သီလမရှိ၊ သွမ်းသွပ်သော အမူအရာကိုသာလေ့လာ၍ မင်းသမီးသုဝဏ္ဏကုမ္မာ အရွယ်သို့ ရောက်လတ်ရာ စောင်းသမားနှင့် မှားဖူးလေသည်။

လူတို့မှတပါး စကားမတတ်သော ဗာရာဏသီပြည့်ရှင် ဥလ္လာကမင်း၌ သိန္ဓဝဟူသောမြင်းကို ငယ်စဉ်က လူကုန်းတယောက်အားအပ်၍ ထိန်းစေရာ ထိန်းသူအလိုက် မြင်းတော်သိန္ဓဝလည်း ကုန်း၍သွားလေလျှင် လူစန့်ကို တဖန်ပြန်အပ်ထိန်းစေသည်တွင်မှ မြင်းတော် သိန္ဓဝစန့်လေကြောင်း ထုံးဟောင်းထွက်ရှိပါသည်။ အသက်မရှိ အဝိညာဏကဖြစ်သော ဗာရာဏသီပြည့်ရှင် ဒဓိဝါဟနမင်း၏ အမ္ဗုန္တရသရက်ချိုပင်သည် ခါးသော အရသာရှိသောတမာပင်တို့နှင့် အမြစ်ချင်းရော စပ်ယှက်တင်လေရာ ချိုသောအရသာပျောက်၍ ခါးသောအရသာ ရောက်ဖူးပါသည်။ နောက်မှ ထိုတမာပင်တို့ကို တူးနုတ်ပစ်စေ၍ ပျားရည်၊ တင်လဲရည် လောင်းလျက်ပေးပြန်မှ ချိုသောအရသာဖြစ်ဘူးလေကြောင်း ထုံးဟောင်းကျမ်းဂန် ရှိပါသည်။

အရှင်မင်းမြတ်၊ မင်းသား မင်းသမီးစသော သဝိညာဏက အဝိညာဏကတို့၌ အာဒိအစ ထိန်းသူသာ မူလဖြစ်ပါသည်။ သဝိညာဏကတို့မှာမူကား မိဘ ထိန်းသူတို့ မလိမ္မာလက်ရုံးမာနကြမ်းတမ်းခက်ထန် ထောင်လွှားဆိုးသွမ်းချေက ထို့အတူ သားသမီးတို့ ဆိုးသွမ်းလေရာသည်။ တထာကတော၊ လာခြင်းကောင်းသော အတိဇာတသားဖြစ်မှသာ ထိုးထွင်း၍ သိမြင်နိုင်သော သတ္တိရှိသောကြောင့် သတိထားနိုင်ရန်ရှိပါသည်။ အတိဇာတသားလည်း အလွန်ရှားပါးကြောင်း ကျမ်းဂန်၌ ပြဆိုပါသည်။ အဝိညာဏကဖြစ်သော ဥယျာဉ်လယ်ယာတို့မှာလည်း ထိန်းသူမကောင်းက ပျက်စီးတတ်ပါသည်။

အရှင်မင်းမြတ်၊ အသားဖြူသော မိန်းမ၌ နို့ရည်ချိုသော အရသာရှိသည်။ ထိုနို့ကိုစို့သောသူအား လေဝေဒနာ မြဲ၏။ အသားညိုသော မိန်းမနို့ရည်ဖန်သော အရသာရှိသည်။ ထိုနို့ကိုစို့သောသူအား ဦးခေါင်း၌ ဝေဒနာမြဲ၏။ အသားပြာသော မိန်းမနို့ရည်ချဉ်သော အရသာရှိသည်။ ထိုနို့ကိုစို့သောသူအား ဒွါရ၌ဝေဒနာမြဲ၏။ အသားရွှေရောင်ရှိသော မိန်းမနို့ရည် ဆိမ့်သောအရသာ ရှိသည်။ ထိုနို့ကိုစို့သောသူအား မြတ်သောနလုံးမြဲ၏။ အသားမည်းသော မိန်းမနို့ရည် ခါးသောအရသာ ရှိသည်။ ထိုနို့ကိုစို့သောသူအား ခြေလက်ဦးတို့၌ ဝေဒနာမြဲ၏။ အသားနီသောမိန်းမနို့ရည် စပ်သောအရသာရှိသည်။ ထိုနို့ကိုစို့သောသူအား ရင်၌ဝေဒနာမြဲ၏။

ဤသို့ ကျမ်းဂန်ထုံးဟောင်းလာရှိပါကြောင်းနှင့် လျှောက်ထားလေသော် ပြည့်ရှင်မင်းအမိန့်ရှိတော်မူပြန်သည်မှာ စိန်တင်စားတို့အမျိုးသည် ဧဝတီဒုတိယမြို့တည် ကံရာဇာကြီးမင်းကဆင်းသက်၍ မှူးရိုးမတ်စဉ်

သားမြေးပညာရှိခံတွင်လျက် မင်းဆယ်ဆက်အများ နှစ်ပေါင်းအရှည် စိန်တင်စားတို့ အမျိုးမတိမ်၊ လရောင်ပမာ ချမ်းအေးစွာသာ မင်းထံလျှောက်ထားကြောင်း ထုံးဟောင်း စာတမ်း ထွက်ရှိသည်။ စိန်တင်စားမယားအမိလည်း အင်းဝမင်းသမီးတော်၊ အဖမင်းညီနန္ဒကျော်ထင်၊ ဘိုးဘေး လည်း ပဲခိုးမင်း ကျော်ထင်နော်ရထာ သားမြေးဆက်ကာ အင်းဝမင်းလက်ထက် ဆင်ကဲကြီးအမတ်တို့အမျိုး မျိုးရိုး မတ်ရိုးမပျက်။ အင်းဝမြို့သည် ကာလဝိပ္ပတ္တိအလျောက် ဖြစ်ခဲ့၍ မြောက်ဦးမြို့သို့ရောက်လာပြန်လျှင် အမျိုးစောင့် သော တရားမလွတ်၊ မျိုးမတ်အင်္ဂါနှင့်ပြည့်စုံသူဖြစ်၍ ခမည်းတော် အဘယမင်းက ဆင်ကဲကြီးအရာကို ပေးတော်မူသည်။ ဆင်ကဲကြီးသမီးမိပန်းရုံလည်း မျိုးရိုး မတ်ရိုးသမီးမှန်၍ သတ္တိပညာနှင့် အဆင်းအင်္ဂါ လက္ခဏာ ပြည့်စုံသည်။ ငါ့သားတော် ဦးဘော်ဝေကို တတ်သိလိမ္မာ အောင် စိန်တင်စား ထိန်းသိမ်းပြသဆုံးမသွန်သင်စေ၊ စိန်တင်စားမယား မိပန်းရုံ နို့တိုက်စေအပ်တော်မူလေရာ ထိန်းသိမ်းတိုက်ကျွေးရလေသည်ဟူ၍ငင်း။

ပရမရာဇာမင်းကို ယောက်ဖတော်လက်ဝဲမြန် ပုန်စား၍ လွန်လေသော် လက်ဝဲမြန်အမတ် မဟာရာဇာ အမည်ကိုခံတော်မူ၍ သက္ကရာဇ် ၁၁၂၆-ခုတွင် နန်းတက် တော်မူသောအခါ ထိုမင်းငယ်ကျွန် သက်လူမျိုး သောက်ကြယ် ညီအစ်ကိုနှစ်ယောက်ကို သဒ္ဒါတော်မူ၍ အမတ်ကြီးခန့်မည်ရှိလေရာ ရှေးပညာရှိအမျိုး အတွင်းတော်မှူး စိန်တင်စား ရွှေသဲလျှောက်သော ထုံးသော်ကား-- အရှင်မင်းမြတ်၊ ရှေးပညာရှိတို့ဆိုခဲ့သော ရာဇာလက်သုံးထုံး ဟောင်းစာတမ်း အလာထွက်ရှိသည်မှာ---

ရေမြေသနင်း၊ မင်းတို့ကျင့်သုံး၊ ရှေ့ထုံးမသုန်၊ ရာဇဂုဏ်မြတ်၊ နဝရတ်ကိုးခိုင်၊ မဏ္ဍိုင်မပျက်၊ မင်းလက် နက်တည့်၊ ဝေဝက်စိတ်ဖြာ၊ မလိမ္မာပြား၊ သူမိုက်သားကို၊ မှား၍ပြည့်ရှင်၊ သူကောင်းတင်လျက်၊ တိုင်းခွင်ခရိုင်၊ အပိုင်ကံကျွေး၊ မင်းခွင့်ပေး၍၊ မျိုးရေးမတ်ရာ၊ နှင်းအပ် ပါမူ၊ ဘဇာကျိုးရှိ၊ နွမ်းရိသတ္တဝါ၊ မြို့ရွာတုန်လှုပ်၊ အကျိုးယုတ်၍၊ စက်ဆုပ်သဖွယ်၊ ပျက်ရယ်တန္တု၊ ပြည်မှုရှုပ်ထွေး၊ တိုင်းဝေးတပါး၊ စကားမတည်၊ အရှည်မကောင်း၊ ဗူးတောင်းပမာ၊ မိစ္ဆာငှက်ဆိုး၊ လင်ကောင်ပိုးသို့၊ ဆိုးရိုးတချက်၊ ကြွက်နှင့်မြွေတူ၊ သူ့မူမဖျောက်၊ မျောက်နှင့်မြေခွေး၊ ဆိုရေးတသီး၊ ကျီးနှင့် ဝက်တူ၊ အမူယုတ်သွမ်း၊ သူကန်းအကြံ၊ လောဘလျှံသည်၊ မင်းထံနီးစပ် မသုံးအပ်။ ဤသို့ဆိုသော ပညာရှိစကား ရှိပါသည်။

ကျမ်းဂန်တွင်လည်း ဒေဝပုတ္တ၊ နတ်သား။ ဗာလာနံ၊ သူမိုက်တို့ကို။ အသေဝနာစ၊ မမှီဝဲ မဆည်းကပ် မပေါင်းဘော်ရခြင်းသည်ငင်း။ ပဏ္ဍိတာနံ၊ ပညာရှိသော သူတို့ကို။ သေဝနာစ၊ မှီဝဲဆည်းကပ် ပေါင်းဘော်ရခြင်း သည်ငင်း။ ပူဇနေယျာနံ၊ ပူဇော်ထိုက်သောသူတို့ကို။ ပူဇာစ၊ ပူဇော်ရခြင်းသည်ငင်း။ အတ္ထိ၊ ရှိ၏။ ဧတံ၊ ဤသုံးပါးသော တရားသည်လျှင်။ ဥတ္တမံ၊ မြတ်သော။ မင်္ဂလံ၊ မင်္ဂလာ တရားမည်၏ဟူ၍။ တွံ၊ သင်နတ်သား သည်။ ဂဏှာဟိ၊ မှတ်လေလော။ ဤသို့ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော မင်္ဂလာတရားတော် ရှိပါသည်။

အရှင်မင်းမြတ်၊ တတိုင်းတပြည်ကို အစိုးရသော မင်းတို့သည် သူမိုက်ကိုမရှောင် ပေါင်းဘော်ငြားလေအံ့။ ထို သူမိုက်ကြောင့် ထိုတိုင်းပြည် ငြိုငြင်လျက် ထိုမင်း ပျက်စီးရာသည်။ တတိုင်းတပြည်ကို မိတ်ပြုရာ၌လည်း ထိုပြည်၏အကြောင်းကိုစုံစမ်းပြီးမှ ဝံသူတော်ကဲ့သို့ကျင့် သော မင်းကိုဆည်းကပ်မိတ်ဝင်ပြုမှ အကျိုးထွန်းလင်းရာ သည်။ မသူတော်ကျင့်တတ်သောလူများသည် ကမ္ဘာရှည်သမျှ ကောင်းကျိုးမကောင်းကျိုးကိုမသိပါ။ ပညာရှိတယောက်၏ ချီးမွမ်းခြင်းကိုသာ ကြိုက်တော်မူ သင့်ပါသည်။ ပညာရှိကဲ့ရဲ့ချေသော် ရှက်ကြောက်ရပါမည် အကြောင်းနှင့် ပညာရှိအမတ်လျှောက်လေရာ အမတ်တော်

သို့ စားကျေးထပ်၍ မြို့သစ်ကိုပေးတော်မူလေသည်။ အမတ်ပညာရှိမယား မိပန်းရုံကိုလည်း ရှေးမင်းများနည်း အသုံးအဆောင်ကိုပေးတော်မူ၍ နန်းတွင်း၌ မိဘုရား မောင်းမတို့နားလည်အောင် ရှေးအသုံးအဆောင် အသွားအလာ၊ အနေအထိုင် မင်းခမ်းမင်းနားစသော အမှုများကို ပြသထိန်းသိမ်းဆုံးမရမည်ဟု အပ်နှင်းတော် မူလေသည်။ ထိုကျွန်နှစ်ယောက်အား လျှောက်ထားသော စကားကိုမူ မနာယူဘဲ ငယ်ကျွန် သောက်ကြယ်အစ်ကိုမှာ လက်ယာမြန်အမတ်၊ ငသောက်ကြယ်ကို ဒါးပိုင်ကြီး ခန့်တော်မူလေသည်။

တရံရောအခါ ပြည့်ရှင်မင်း မဟာရာဇာက အုန်းကျွန်းနေ လယ်တော်လုပ် လမိုင်းသားမင်းတရား ကျွန်တို့ကို သူ့ရဲအမတ်ပြု၍ ဒါးလုံကာဒိုင်းလွှား လက်နက်အပ်တော်မူမည်ရှိရာ အမတ်ပညာရှိ မြို့သစ်စား ရွှေသဲလျှောက်ထုံးသော်ကား---အရှင်မင်းမြတ်၊ မင်းတရားကျွန် လမိုင်းအစုသားတို့ကို လက်နက်အပ်တော် မူချေသော် မျောက်ကို ချူဆွဲသည်နှင့်တူပါမည်။ မျောက်ကို သနား၍ ချူဆွဲလေရာ အငြိမ်မနေ ခုန်ပေါက်ပြေးလွှား လျက်နှင့်သာ ရှိလေရာသည်။ ထို့အတူ သူမိုက်အလေ့ ကိုယ်ဖို့ကိုသာ လုံးပမ်းရှာ၍ သတ္တဝါတို့ကို သနားခြင်းမရှိ၊ သားငါးပစ်ခတ်ထိုးသတ် သောက်စားမျောက်မှား ကျင့်ကြံ လျက်နေထိုင်လေ့ရှိသော လမိုင်းသားတို့၌ လက်နက် ရောက်လတ်သော် သတ္တဝါတို့ချမ်းသာအတိမှာရှိပါအံ့ နည်း။ ရက်ရောကြမ်းတမ်း မြို့ရွာနိဂုံးတို့ကို တိုက်ခိုက် လုယက်ဖျက်ဆီးနှိပ်စက် နိုင်ထက်ကလူပြုသဖြင့် လောဘ ဒေါသ မောဟတရားလွန်ရာသည်။ ထို့ကြောင့် ရှေးပညာရှိတို့စကား၌---သူမိုက်တို့မှာ၊ အင်္ဂါလေးမည်၊ စည်စည်ကားကား၊ ရမွက်များသည်ဟု ဆိုပါသည်။ အင်္ဂါလေးမည်ဟူသည်မှာ အိပ်ခြင်း၊ စားခြင်း၊ မေထုန် မှီဝဲခြင်း၊ ဥစ္စာရအောင် ရှာမှီးခြင်း။ ဤလေးပါးသည် သူမိုက်တို့ အင်္ဂါလေးပါးဟူ၍ ရှေးသူမြတ်တို့ အဆိုရှိပါ သည်။ မင်းတရားကျွန် လမိုင်းသားတို့သို့ လက်နက်အပ်၍ မသင့်ပါ။ နောင်သောအခါ လူကောင်းလူဆိုး ရောနှော လျက် စီရင်ရပါလိမ့်မည် လျှောက်လေသော်လည်း ပြည့်ရှင်မင်း မနာမယူ၊ မင်းတရားကျွန် လမိုင်းသားတို့ကို လက်နက်အပ်လေသည်။ တနှစ်ခန့်ရှိလတ်သော် ရန်းဝမြစ်ကို အသွားအလာမှ မပြုဝံ့ကြ။ မင်းတရား ကျွန်လမိုင်းသားတို့ ဒါးမြတိုက်ခိုက်လုယက်၍ရှိလေရာ ပြည့်ရှင်မဟာရာဇာမင်း အမျက်တော်ဝင်၍ လူပေါင်း ၅၀၀ ကျော်ကို ကုန်စင်အောင်သတ်ပြီးမှ လက်နက်ကို သိမ်းတော်မူရလေသည်။

တရံသောအခါ စစ်တွေကျွန်ကုလားတို့ကို ဒါးပိုင်ကြီးသောက်ကြယ်ကခေါ်၍ ဆုလပ်ပေးကြောင်း ပညာရှိအမတ် မြို့သစ်စား ရွှေသဲသိလေ၍အကြောင်းကို မင်းထံလျှောက်လေသော် ယုံတော်မမူရှိသောအခါ အမတ်ပညာရှိ လျှောက်ထုံးသော်ကား---အရှင် မင်းမြတ်၊ ရှေးဘားမဲသိုက်၊ ဘားဖူသိုက်အထွက်မှုလည်း ထောင်ရာဝီသ၊ ဆတိုင်ကလျှင်၊ ပေတပင်ကို၊ ရေလျှင် သွန်းကြ၊ မှိုကိုးလဟူ၍ဆိုလေသည်ကို ယတြာပြန်။ နန်းစံတော်မူလျှင် ဘားဖူတောင်တွင် နံတော်ကို နဝကိန်းခတ်၊ ပါပခတ်၊ ရုပ်စုတ် လပ်ပြု၍ ယတြာ ထားတော်မူရမည်။ ထိုကိန်းခတ်အလို နန်းစံကိုးနှစ်၊ ကိုးလထွက်ပါသည်။ အရှင်မင်းနောက်ကို သောက်ကြာ သား မင်းဖြစ်ရန်သိုက်ရှိပြန်သည်မှာ--- ကြွက်ကိုချောင်း သည်၊ ဖူးတောင်း မောင်သောက်ကြာဆိုလေသောကြောင့် ဒါးပိုင်ကြီးလည်း သောက်ကြာသား ဖြစ်ပါသည်။

အရှင်မင်းမြတ်၊ ရှေးပညာရှိတို့ထားခဲ့သော မြောက်ဦးမြို့ခတ်သိုက်အလိုတွင်လည်း---ရလှူ ရလှူ၊ ကိုးရလှူ၊ ရလှူကိုးမည်၊ မြောက်ဦးပြည်၊ သာစည် တသောသော၊ ရလှူလည်းကုန်၊ ပျက်ကိန်းကြုံ၊ လူပုံ ညာကြေမျောဟူ၍ ထွက်ရှိသော သိုက်တရပ်။

မြို့တည်တရင်း၌ ကြောင်၊ ကြွက်၊ မြွေ၊ ဖား၊ ကျား၊ ချေ၊ မြေ၊ အိုး၊ တောက်တဲ့ ဤကိုးရပ်သော ဂြိုဟ်သက် ၁၃၃ ခုတွင် စန်းလပ်အသက် ၃၄ ကိုရော၊ နှစ်ခုမြှောက်လျက် မြို့သက် ၃၃၄ နှစ်တွင်သာရှိပါသည်။ သို့ရာတွင် ကိုယ်ကျင့်တရားသာ မှုလမှန်သည်။ အရှင်မင်းမြတ်၊ သူမိုက်တို့သည် ပိဋကတ်ဗေဒင်ကိုသင်၍ တတ်စေကာမူ အလင်္ကာဒူပသာ ပညာရှိသူတော်ကောင်း စသော အမြင့်အနိမ့် အယုတ်အမြတ် အတိတ်အနာဂတ်ကို ဆုံးဖြတ်သိနိုင်သည် မဟုတ်ပါ။ အတတ်ပညာကြောင့် ချင်းတို့နှစ်လေရာသည်။ ပညာသည် နေရောင်လရောင်နှင့် ၎င်း၊ ကေသရာဇာခြင်္သေ့ဆီနှင့်၎င်း တူပါသည်။ နေလ အရောင်သည် ဖန်မှန်၌သာ အခန့်သင့်သော် မီးရှေ့ရောက် ပါသည်။ ခြင်္သေ့ဆီသည်လည်း ဇမ္ဗူရာဇ်ရွှေခွက်၌သာ ထင်ပါသည်။ ပညာရှိတယောက် စကားကို ပညာရှိ တယောက်သာလျှင် သိနိုင်ပါသည်။ ရှေးသူဟောင်းအမှာ တွင် ဟုတ်မှန်သောစကားကိုဆိုလျက် ခံသူမကြိုက်က အပြစ်ရောက်ရာသည်။ မဟုတ်မမှန်သော စကားကို ဆိုလေမူလည်း ခံသူကြိုက်က အကျိုးဖြစ်ရာသည်ဟု ထုံးသက်သေနှင့် ပညာရှိတို့တမ်း၊ မင်း၌အပြစ်ကို မြင်လျှင် လျှောက်တင်မြဲ ထုံးဟောင်းနှင့်အညီ လျှောက်လေသော် ထိုမင်းကသိုလ်ကံအလျောက် သူမတော်ကိုယုံသော သတ္တိစွဲသဖြင့် မည်သို့မဆိုနေတော်မူ၍ ကောင်းကျော်ထင် ဟူသော မင်းတရား ကျွန်လမိုင်း တရွာကိုသာစားစေရန် အမတ်ပညာရှိ မြို့သစ်စား ရွှေသဲသို့ ပေးတော်မူလေသည်။ (ဤအရာတွင် မြို့တရင်း၊ မြို့သက်ကောက်ရာ၌ ပျင်ဆင် လျက် ၃၃၄ နှစ်ဟုရေးလိုက်သည်)

ထိုမင်းမဟာရာဇာသည် ပညာရှိစကားကို မနာမယူ ကျူးလွန်လျက် ငယ်ကျွန်သောက်ကြွယ်ကို သဒ္ဒါရေးကြီး၍ ဒါးပိုင်ကြီးအမတ်ခန့်လေရာ သက္ကရာဇ် ၁၁၃၅ ခု ရောက်လတ်သောအခါ ဒါးပိုင်ကြီး ငသောက်ကြွယ်ပုန်စား၍ လွန်တော်မူလေသည်ဟူ၍၎င်း။

ငသောက်ကြွယ်လည်း စန္ဒသုမနဟူသော အမည်ကိုခံလျက် နန်းတက်လေသည်။ ထိုစန္ဒသုမန မင်းသော်ကား အလွန်ဆိုးသွမ်းသော မင်းကြမ်းမင်းယုတ် အကျင့်မရှိ အမျိုးမစောင့်၊ ပညာရှိကိုမသုံး၊ ရှေးပညာရှိ မှူးကောင်း မတ်ကောင်းတို့ကို နှိပ်စက်ညှဉ်းပန်း သတ်ဖြတ်ပြုလေသော် အသီးအသီးလွတ်ရာလွတ်ကြောင်း ထွက်ရှောင်ပြေးပုန်းလေ၍ ကံသာမြို့သို့ချည်း ပြောင်းနေ ကြလေသည်။ ယင်းသောအခါ စန္ဒသုမနမင်းက ပြည်သူတို့တွင် ကျွန်ရှိသည်ကို သင်းထုတ်သည်ဆို၍ အကုန်အစဥ်လွတ်ကြရသည်။ ရှေးမင်းတို့ဖွဲ့ခဲ့သော သူရဲအစို့၊ ကိုယ်ရံတော်အစို့တို့ကိုလည်း အစို့ဖျက်၍ အသည်သားဖြစ်စေသည်။ မြောက်ဦးမြို့တည်ရင်း မြို့ချာတိုင်ယတြာကိုလည်း နုတ်၍ပစ်လေသည်။ ယင်းသို့ တရားအလွတ်ပြုလေရာ အမတ်ပိုးရွှေ ပုန်စားလေသော် သက္ကရာဇ် ၁၁၃၈ ခုတွင် သုမနမင်းကိုဖမ်း၍ရလေလျှင် ပိုးရွှေသည် ဝိမလအမည်ခံ၍ မင်းပြုပြန်လေသည်။ နန်းတက်လေသော် အလွန်ဆိုးသွမ်းသော သုမနမင်းကို ပြည်သူတို့ကိုအပ်လေရာ ပြည်သူတို့သတ်၍ ရေတွင် ပစ်လေသော် သုမနမင်းအလောင်းသည် ဖြားရေတက်သက် သုံးရက်မျော၍နေလေသည်ဟူ၍၎င်း။

ဝိမလမင်းသော်ကား ရှေးမှူးဟောင်းမတ်ဟောင်း များကိုစိစစ်၍ ပညာရှိအလျောက် မြှင့်မြှောက်တော်မူလျက် အထက်ပညာရှိ အမတ်မျိုး မြို့သစ်စားရွှေသဲကို သုမန မင်းစီရင်လေ၍ မယားမိပန်းရုံသို့ စားကျေးရိုးကျွန်းနှင့် စိန့်တင်ကိုပေးတော်မူပြီးမှ ရှေးမင်းတို့နည်း နန်းသူမိဘုရား မောင်းမများကို ရှေးထုံးမှန်အောင် ပြသရမည်အပ်တော်မူ လေသည်။ သားကျော်စံကိုလည်း ပညာရှိအမျိုး မှူးရိုးမတ် မွန်သားမြေးဖြစ်သည်။ ပညာကိုသင်စေရမည် အမိန့်ရှိ၍ ဆရာတော်စန္ဒာရာမသို့ အပ်တော်မူလေသည်ဟူ၍၎င်း။

ထိုမင်းနန်းတက်၍ နှစ်ဆဲ့ရှစ်ရက်ရှိသောအခါ နန်းတော်မှာ ဖွတ်တက်လာသည်။ ကျားမြို့တွင်းဝင်လာပြီး

လျှင် မြူးခုန်လျက် ပြင်းစွာဟုန်းမြည်ပြီးမှ သွားလေသည်။ ဧနွေကာလ မိုးကြီးစွာရွာ၍ နန်းထောင့်စွန်းကို မိုးကြိုးပစ်သည်။ ယင်းသို့အကြောင်းနိမိတ်တို့ကို ပြည့်ရှင်မင်းက မြို့သစ်စားမယား၊ မိပန်းရုံကို အမိန့်တော်ရှိသည်ကား မြို့သစ်စားလည်း ပညာရှိအမတ်မျိုး၊ ရှေးသာကိဝင်မင်းဆက်အရှည် မင်းတိုင်ပင်အမတ်ခံလျက် ဆက်ကာလာခဲ့သူ၊ သားမြေးကိုစဉ်လျက် သုမနသည် စာရိတ္တမရှိ။ ပြည်တန်သောပတ္တမြားကို စပါးတခွက်နှင့် ရောင်းစားသော သူနှင့်တူသည်။ ဆိုးကောင်းမသိတတ်လေ။ မြို့သစ်စားကဲ့သို့ အသိအမြင်တူသောသူ မှူးမတ်မရှိပြီ။ ယခုနိမိတ်အကြောင်းမှာ ရဟန်းပုဏ္ဏားစသော မှူးမတ်တို့ လျှောက်ကြသော်လည်း ငါအယုံမရှိ။ မြို့သစ်စားမယားလည်း ပညာရှိနှင့်ပေါင်းဖက်ခဲ့သူဖြစ်သည်။ မြို့သစ်စားမသေမီ တိုင်းပြည်အကြောင်းအရာများကို မည်သို့ပြောဆိုဖူးသည်။ မှတ်သားမိသမျှကို လျှောက်ရမည် အမိန့်တော်ရှိလေသော် ပညာရှိနှင့် ပေါင်းဖက်မိသည့်ကျေးဇူးဖြင့် မင်းတိုင်ပင်ခံရကြောင်း ထုံးဟောင်းထွက်ရှိသည်။

လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ အမတ်မြို့သစ်စားပြောဆိုဖူးသော စကားဓာတ်ကိန်းခန်းအလို မှတ်သားပါသည်မှာ မြောက်ဦးမြို့ကို သက္ကရာဇ် ၇၉၂ ခုတွင် မင်းစောမွန် နံတော် ကြာသပတေးသားတည်တော်မူသောအခါ တောင်ညိုတောင်နှင့် ကုပ်ကားတောင်ကိုညို၍ တူးမြို့သည်ကာလ မျောက်နှင့်ဥဒေါင်းမစပ်ရှက်ကြလျက် ဒေါင်းမဥသည်ကို မျောက်စောင့်၍ နေသည် တွေ့မြင်ရသောကြောင့် ဤမြို့ကို မျောက်ဥမြို့ခေါ်ကြောင်း စာဟောင်းအရမျောက်မှာ ယာယီ၊ ဒေါင်းမှာ မူလ၊ ကြာသပတေးသား အစပြုလေသည်။ စနေသားမင်းပါလက်ထက်မှ မြို့တန်ခိုးပေါ်သည်။ မြို့ချာတိုင်စိုက်သောတွင်းက ကြွက်ဖြူ တဆဲ့ကိုးကောင်ထွက်လေရာ ဆဲ့နှစ်ကောင်ကြွက်ကို ကျီးချီယူသည့်အလို မင်းဆဲ့နှစ်ဆက် ကုလားပိုင်လေရာသည်။ ဤမြို့တွင်လည်း သာကိဝင်နွယ် တဆဲ့ခြောက်ဆက်သာ မင်းဖြစ်လေရာသည်။ မြို့တည်တရင်း၌ ကြောင်၊ ကြွက်၊ မြွေ၊ ဖား၊ ကျား၊ ချေ၊ မြေ၊ အိုး၊ တောက်တဲ့၊ ဤနိမိတ် ကိုးရပ်ကို ဂြိုဟ်သက်ထား၍ မြို့တည်စန်းလဂ်နှော၍ နှစ်ခုစွန်းကို ဓာတ်ကိန်းပြုလျက် မြှောက်သော် ၃၃၄ မြို့သက်ထွက်ပါသည်။ မြို့တည်ကောဇာ ၇၉၂ ခုတွင် လောင်းသော် သက္ကရာဇ် ၁၁၂၆ ခုတွင်သာ ဤမြို့၌ မင်းဆက်ရှိပါသည်။ ၁၁၂၆ ခုတွင် မြို့ပြောင်းကိန်းရောက်သော်လည်း မင်းနှင့် အမတ်တို့ကိုယ်ကျင့်သာ မူလဖြစ်ကြောင်း မဟာရာဇာမင်းကြီးကို လျှောက်သောထုံး။ ပိဋကတ်၊ ဗေဒင်၊ လောကုတ္တရာ၊ လောကီများကို ပြသခဲ့ပါသည်။ ဖွတ်တက်၊ မိုးကြိုး၊ ပျားစွဲ၊ ငှက်နား၊ တောသားမြို့ဝင်စသော အကြောင်းပေါ်ရာကျမ်းထွက်မှုကား--

မှတ်လောရှင်လူ၊ ခပ်သိမ်းသူတို့၊ စွဲယူသင့်ကြောင်း၊ နိမိတ်ပေါင်းကို၊ သူဟောင်းစကား၊ တောသားသတ္တဝါ၊ မြို့ရွာသို့ရောက်၊ လန့်ကြောက်၍သာ၊ ပြေးခဲ့လာမှု၊ ပဏ္ဍာမရှိ၊ မိမိအလျောက်၊ ဝင်ရောက်မြူးခုန်၊ ပြတုံ့သောထွေ၊ နေလာပေက၊ ရွာနေအကြီး၊ အပြီးစိုးနှောင်း၊ ခန္ဓာပြောင်းလိမ့်၊ အကြောင်းအမှာ၊ သတ္တဝါပင်၊ ပြင်းစွာအသံ၊ မြည်ပြန်တုံ့လတ်၊ မချွတ်မြို့ရွာ၊ ပျက်တတ်စွာတည့်၊ မြေပါဖွတ်မျောက်၊ အိမ်သို့ရောက်သော်၊ နောက်ကိုမနေ၊ စွန့်ပစ်ပေလော၊ လင်းမြွေငန်းကျား၊ တက်လာမှားအံ့၊ အလားသင့်ပင်၊ အိမ်ရှင်နှမ်းရိ၊ ရှိသူမှန်စေ၊ မြားရေကဲ့သို့၊ တက်ဖို့စီးပွား၊ ချမ်းသာများလိမ့်၊ ကြီးမားဂုဏ်ရှင်၊ ဖြစ်ခဲ့လျှင်လည်း၊ ကုန်စင်နိမ့်ကျ၊ ပျက်ရမချွတ်၊ အမှတ်ရှေးလာ၊ စာကျိုးဆက်ရက်၊ သုံးရပ်ငှက်မှ၊ နားသမျှမှာ၊ ယတြာပေ၊ ပြုလေခေါင်းဆေး၊ အရေးသင့်လှ၊ ထိုမှတခြား၊ တည်းပျားအိမ်တွင်၊ ဝင်၍ခေတ္တ၊ နိမိတ်ပြသော်၊ ကြေမွထွားညက်၊ အသက်ကိုမျှ၊ အရကြီးလေ၊ အနေသင့်စွ၊ ကာလအရှည်၊ အိမ်နှင့်တည်၍၊ ပုံသည်အခါ၊

အရသာထွေ၊ သူ့အရေကို၊ ယူလေဆောင်ငြား၊ ထိုပျားသွားရာ၊ ယတြာဖြင့်၊ နံ့သာမွှေးပေါင်း၊ ဖယောင်းဆီမီး၊ သစ်သီးပန်းမျိုး၊ ရေပြည့်အိုးတွင်၊ မည့်ုးသပြေ၊ မြေဇာ စံကား၊ စိုက်ထားစေလျှင်း၊ သဲကိုခင်းလျက်၊ နှေချင်းတွင်ပင်၊ လင်နှင့်မယား၊ နစ်ပါးစုံစွာ၊ ခေါင်းဆေးရာ၏။ ရသာစုံပေ၊ ထိုပျားရေကို၊ အနေမပျက်၊ ထားလျက်ပုံသော်၊ ကောင်းကြီးကျော်၍၊ လိုတော်ရှိကုံ၊ ပြီးပြည့်စုံရှင်၊ လူ့ဘုံထင်ရှား၊ အကျိုးများလိမ့်၊ မှတ်သားစွဲသုံး၊ ရှေးထုံးကဝိ၊ ပညာရှိတို့၊ အသိလိမ္မာ၊ အက္ခရာစည်း၊ ကမ္ဘည်းအထွက်၊ မိုးကြိုးစက်လည်း၊ လူ့ထက်တွင်သာ၊ ကျပြန်လာမူ၊ ထိုသူကိုယ်၌၊ မခိုက်မထိ၊ ပကတိလျှင်၊ ရှိသည်ဖြစ်သော်၊ တန်ခိုးကျော်၍၊ ထင်ပေါ်စရိုး၊ ဘုန်းတန်းတိုး၏။ ပုထိုးကျောင်းသိမ်၊ အချိန်သင့်ချင်၊ သစ်ပင်တောတောင်၊ တောက်လောင်ပစ်ချိုး၊ နတ်ဆိုးမိစ္ဆာ၊ နိုင်ဝင်ရာသည်၊ အိမ်မှာကျလတ်၊ ဥပဒ်အဖြေ၊ မနေစွန့်ပစ်၊ အိမ်သစ်ဆောက်မှ၊ ချမ်းသာရသည်၊ လောကမှတ်သုံး ရှေ့ကျင့်ထုံး။ ။ ဤသို့လာရှိပါသည်ဟု ပညာရှိမယား လောကီထုံးဟောင်းနှင့် လျှောက်လေသော် ဝိမလမင်းလည်း အလွန်ကြိုက်တော်မူ၍ သိရှိမလ္လာဟူသော အမည်ကို ပေးတော်မူလေသည်ဟူ၍ငင်း---

ထိုတွင် မြို့တရင်းကောက်ရာ၌ ကျားကိုချန်၍ မျောက်၊ ဒေါင်း၊ ပုဇွန်တို့နှင့် ရှစ်ရပ်ဆိုလေသည်။ ရာဇဝင်ဟောင်း မြို့တည်ခန်း 'တဲ' ချပ်၌ငင်း၊ 'န' ချပ်၌ငင်း ငါတို့ရေးပြခဲ့တိုင်းသာ ပါပေသည်။ မြို့သက်ကိုလည်း ၃၃၃ ဖြစ်ပြီးနောက် မြို့တည်ကောဇာ ၇၉၂ ရော၍ ၁၁၂၅ ခုနှစ် ဖြစ်ကြောင်းနှင့်ဆိုလေသည်။ နောက်၌ ထီးစည်မရှိ ဝါလလီဟု ပိဋကတ်သချိုအရ ၃၃၄-ခုတွင် ထီးစည်မရှိ ဖြစ်လတ္တံ့ဆိုသည်ကိုထောက်၍ ၃၃၄ ခုတွင် မြို့တည်ကောဇာ ၇၉၂ ရော၊ ၁၁၂၆ နှစ်ဖြစ်ကြောင်းနှင့် ရေးပြလိုက်ပေသည်။ (ဤကား အမှာစကားချပ်)။

ထိုမင်းကာလမဖြင့်မီ တောင်စဉ်သားတို့ချီလာကြောင်းကို သိတော်မူလတ်၍ စနည်းနှာစေရာ။

(ပထမစနည်း) စံကားတောင်တံခါးဝတွင် မိန်းမတယောက်က အိမ်တွင်မွေးထားသည့် ကြွက်။ ညောင်ခေါင်းက ကောင်းသည်နှင့်။ ကြောင်ဆိုးလာလျှင် သေမည်စိုးလှသည်၊ ကျောင်းသို့ ပို့ထားရမည်။

(ဒုတိယစနည်း) ထိုနောက်စနည်းနှာသော်ကား ပက်ကျိုနှစ်ကောင်။ အိမ်မိုးခေါင်သို့တက်လာရာ ဥဗျိုင်းအများနား၍ အိမ်မိုးပျက်သည်။

(တတိယစနည်း) ထိုနောက်စနည်းမှာမူကား ဈေးချောင်းနားတွင် လူတယောက်ဆိုနေသည်မှာ ကြွက်စားသည်၊ ကြောင်သုန်ကြောင့်။ အိမ်နံ့သည်၊ မြဲလာလျှင် ပေးလိုက်မည်။

ယင်းသို့ စနည်းတရင်းသုံးရပ်အလိုကို ဒါးပိုင်ကြီး လျှောက်ထုံးသော်ကား အရှင်မင်းမြတ်၊ ပထမစနည်းမှာ- အိမ်ဟူသည်ကား ဤမြောက်ဦးမြို့တော်၊ ကြွက်ဟူသည်ကား အရှင်မင်းကြီးနံ့တော်၊ ကြောင်ဆိုးလာလျှင် သေမည် စိုးလှသည်ဟူသည် ယခုချီလာသော တောင်စဉ်သားသည် ကြောင်ဆိုးနှင့်တူပါသည်။ အရှင်မင်းမြတ်၊ စစ်ပြိုင်၍ နိုင်မည့်အကြောင်းမဟုတ်ပါ။ ကျောင်းသို့သွား၍ ရဟန်းပြု တော်မူရမည်ဆိုလိုသည်။

ဒုတိယစနည်းမှာ- ပက်ကျိုနှစ်ကောင် အိမ်မိုးခေါင်သို့ တက်သည်အလိုမှာ တောင်စဉ်၊ ကမ်းရုံ၊ ဖလဲမျိုးတို့သည် ပက်ကျိုကိုစားသည်ဖြစ်၍ ဤမြို့တော်မှာ တောင်စဉ်၊ ကမ်းရုံ၊ ဖလဲမျိုးတို့ မင်းနှစ်ဆက်ဖြစ်ပါမည်ဟုဆိုလိုသည်။ ဗျိုင်းနား၍ အိမ်မိုးပျက်သည်ဟူသည်မှာ ဗျိုင်းနံ့သည် မြန်မာကိုလည်းရပါသည်။ ပြူကိုလည်းရသည်။ ရှေ့ဇာတ်ကိန်းထားခဲ့သော မြောက်ဦးနတ်သမီးသိုက်အဆိုမူလည်း ကုလားကဖိ၊ ပြူကအိ၊ မချိမြန်မာ၊ ဘေးလွတ်ရာကိုခို၊ သဟာသပေါ်၊ ရာကျော်စတု၊ ဆယသ္မျ တွင်၊ မြောက်ဦးမြို့ကြီး၊ သမထီး၊ ဒိုင်းကျိဘုရားပေါ်၊ လေ့မရှာစည်ကား၊ တံတားခင်းလိမ့်မည်---။ ထီးစည်

မရှိ၊ ဝါလလိ၊ ကောဋိအဋ္ဌ၊ သဟဿ၊ ဆသို့ရောက်ခါ၊ တရုတ်ကမိုး၊ ပြူကငြိုး၊ ပဲခိုးကထောင်၊ ရှမ်းကမြှောင်၊ တန်ဆောင်ကုလား၊ မီးပွားစစ်ကြီးဖြစ်လိမ့်မည်---။ ယင်းသောအခါ၊ မရမာတို့၊ ချမ်းသာစေကြောင်း၊ မရိမ်ချောင်းသို့ရှိ---။ ဆိုသောသိုက်လည်းရှိပါသည်---။ ဝါလလိဟူသည် ၃၃၄၊ ကောဋိအဋ္ဌဆဟူသည် ၁၁၈၆ ခု၊ သဟဿမှာတထောင်ကစ၍ ယူစေလိုသည်။ (ဤကားအမှာ)။

တတိယစနည်းမှာ- ကြွက်စားသည်၊ ကြောင်သုန်ကြောင့် အိမ်နံ့သည်၊ မြုံလာလျှင် ပေးလိုက်မည်ဆိုသည့် အလိုသော်ကား အရှင်မင်းမြတ်ကို ဖျက်ဆီးမည့်လာသော သူသည် တနင်္လာသား ကြောင်ဖြစ်ပါသည်။ အရှင်မင်းလည်း ဖျက်ရပါမည်။ စစ်ပြိုင်၍ မရနိုင်ပါ။ ထိုသူကိုလည်း မြုံလာလျှင်ပေးလိုက်မည် ဆိုသည့်စကားအရ မြုံနံ့သည် ပြူကိုရသည်။ ပြူတို့သည် ထိုမင်းကို ဖျက်ဆီးခေါ်ယူအံ့သော အကြောင်းဟူ၍ ဆိုလိုသည်။

တကြောင်းတုံလည်း အရှင်မင်းမြတ်၊ မင်းတို့အထွတ်ရောက်သောအခါ၌ ထိုမင်းသည် နန်းသက်မည်မျှနေရအံ့သောအကြောင်းကို နိမိတ်တရင်းထင်မြင်မြဲ။ ရှေးပညာရှိတို့ဆိုခဲ့သည့် ထုံးဟောင်းနှင့်အညီ အရှင်မင်းမြတ် နန်းတက်တော်မူသောအခါ၌ ဘုရားကျွန်တော် နှလုံးသွင်းကြည့်သော် ဘုရားကျွန်တော် ယပ်ကိုချ၍ထားရာအောက်၌ ကြွက်တကောင်ဝင်လာသည်။ ထိုနောက် ကြိုးကြာငှက် မြည်သံကြားပါသည်။ ထိုနောက် နန်းတက်မီးပေါက်ပစ်ရာ နှစ်ချက်သာ အသံထွက်၍ ထိုပြင်မီးပေါက်မှာချူပါသည်။ ယင်းသို့ နိမိတ်အလို ယပ်အောက်သို့ကြွက်ဝင်သည်မှာ ကြွက်သော်ကား နံတော်၊ ယပ်မှာ ၄-ခု ရပါသည်။ နန်းသက် လေးရက်၊ ထိုကလွန်သော် ရက်ပေါင်းလေးဆယ်၊ ထိုကလွန်သော် လေးနှစ်၊ ဤသုံးချက်က မလွန်ပြီ။ ယပ်သည် ရဟာန်းနံ့။ အရှင်မင်းမြတ်လည်း ရဟာန်းပြုတော်မူရအံ့ယူပါသည်။ ထို့နောက် ကြိုးကြာငှက်အသံကြားပြန်သည်မှာ နောက်ကို တနင်္လာသားမင်းဖြစ်အံ့ယူပါသည်။ မီးပေါက်နှစ်ချက်သာ အသံထွက်သည် အလိုသော်ကား ဤမြို့တော်အတွင်း မင်းနှစ်ဆက်သာ ရှိတော့သည်။ အရှင်မင်းမြတ်၊ ရှေးပညာရှိ ရွှေသဲဆိုခဲ့သောစကား၊ တတ်၊ ကိန်းခန်းကို မယားသီရိမလ္လာ တင်လျှောက်သောအကြောင်းလည်း စာဟောင်းထွက်မှန်ပါသည်။ ဤသို့ ဒါးပိုင်ကြီးတင်လျှောက်လေသော် ဝိမလမင်း အမိန့်တော်ရှိသည်ကား သတ္တဝါတို့ ကပ်ဥပဒ်အလျောက် ဆိုက်ရောက်သောအကြောင်းကြောင့် တောင်စဉ်သားပလဲလည်း မင်းဖြစ်အံ့သော နိမိတ်တရင်းပြလာသည်။ ရှေးအကျိုးပေးရာ ကုသိုလ်ကံမြောက်၍ တယောက်ပေါ်မူ ရှိရင်းလူက လုံ့လဝီရိယထုတ်သော်လည်း ကံပေးသော အကျိုးကုန်ခြင်းကြောင့် ပျောက်ရသည်သာ ဓမ္မတာဖြစ်ချေသည်။ ပြည်သားပြည်သူ ပင်ပန်းသေကြေအောင် ငါစစ်မထိုးပြီ အမိန့်တော်ရှိပြီးမှနန်းတက်၍ ရက်ပေါင်းလေးဆယ်တွင် ရဟာန်းပြုလေသည်ဟူ၍ငင်း။

တောင်စဉ်သား ပုဆိန်သည် အောင်စုန်လည်း ချီလာခဲ့၍ သာလွယ်စွာဖြင့် ထီးနန်းတက်လျှင် ဓမ္မရာဇာ အမည်ကို ခံတော်မူလေသည်ဟူ၍ငင်း။

ထိုမင်းသေလွန်ပြီးနောက် အောင်စုန်အမျိုး နန်းတက်လေရာ မဟာသမ္မတ အမည်ခံတော်မူသည်ဟူ၍ငင်း။

ထိုမင်းလက်ထက် ပြည်သူအပေါင်းတို့သည် မီးကဲ့သို့ပူကြလေ၍ သောင်းကြမ်း တိုက်ခိုက်လုယက်ဖျက်ဆီး မင်းမူကြသည်ကား---

၁။ ကြေည်းတောင်မှာ ဒါးမနိုင်တမင်း။
၂။ ရိုးကျွန်းတွင် ကုလားရွှေစာ တမင်း။
၃။ ပိန္နဲချောင်းတွင် ကောင်းညွန့်ရန်တိုင် တမင်း။
၄။ ကြပ်စင်ကျွန်းတွင် သေဲတွေ တမင်း။

၅။ တန်းလွဲတွင် ကျော်ထွေး တမင်း။

၆။ မာန်အောင်ကျွန်းတွင် သတိုးဖြူ တမင်း။

ယင်းသို့ ဝိပ္ပလ္လာသဖြစ်လျက် သောင်းကြမ်း၍ နေကြရာ သာသနာ့ဒါယကာ လောင်းလျာမှန်သော ဘိုးတော်မင်းသားတော် အိမ်ရှေ့မင်း လာရောက်တိုက်ခိုက်၍ မဟာမုနိကိုယ်စားတော်ဘုရားကြီးနှင့် မဟာသမ္မတမင်းပါ အမရပူရရွှေမြို့တော်သို့ ပင့်ယူကြွရောက်တော်မူလေသည်ဟူ၍၎င်း လိုရာလိုရာမျှကို ရေးပြစီရင်တော်မူလေသည်။ ဤသည်ကား ဓညဝတီအရေးတော်ပုံ၌ လာသော ဝိဇယမင်းတို့အကြောင်းတည်း။ ထိုတွင် ဓမ္မရာဇ်ရာဇာ ငယ်မည်အောင်စုန်ကို တောင်စဉ်သားဟု ဆိုသော်လည်း ရမ်းပြည့်ကျွန်း မင်းရပ်သံချောင်းသားဟူ၍ ယူလေ။ ပျင်သင့်ရာပျင်ဆင်၍ ရေးလိုက်သည်။

ဤဓညဝတီ အရေးတော်ပုံ၌၎င်း၊ ဓညဝတီအရေးတော်ပုံကိုမှီ၍ စီရင်အပ်သော အချို့ ရာဇဝင်သစ်၌၎င်း ငါးဆက်မြောက် ဝရဓမ္မာ မင်းနှင့် ဆဲ့တဆက်မြောက် နရာဓိပတိမင်းနှစ်ဦးတို့မပါဘဲ ကုသလနရပတိမင်းဆက်ကို နှစ်ဆဲ့ခြောက်ဆက်မျှသာ ရေးသားပြဆိုကြလေသည်။ နှစ်ဆဲ့ရှစ်ဆက်စေအောင် မပြမဆိုလေ။ ယင်းသို့ မပြမဆိုခြင်းသည် ဝိဇယမင်း စစ်အောင်ခြင်း၌ မတ်မျိုးဖွင့်လှစ်။ တဆဲ့နှစ်တွင်၊ တက်သစ်နေလ၊ ဝိဇယလျှင်ဟူသော ခြင်းလင်္ကာကိုထောက်၍ ဝိဇယမင်းကို တဆဲ့နှစ်ဆက်မြောက်ပြု၍ နှစ်ဆဲ့ခြောက်ဆက်ဆိုကြဟန်တူသည်။ ယင်းသို့ ဆိုလေသောအရာသည် ခြင်းဆရာအာဘော် မဟုတ်လေ။ ခြင်းဆရာ၏အာဘော်မှာ မာရုမ္ဗိယမင်းသည် ဝူဖြူဘုန်းကြီး လူထွက်၊ ကာလဂန္ဓတ်သည် ရတနာစံဦးဘုန်းကြီး လူထွက်ဖြစ်၍အမတ်မျိုးမဟုတ်။ မျိုးခြားမင်းဖြစ်သောကြောင့် ၎င်းနှစ်ပါးကိုမရေတွက်မူ၍ ကုသလနရပတိမင်းမှစ၍ ဝိဇယမင်းတိုင်အောင် တဆဲ့နှစ်ဆက်သောမင်းတို့သည် အမတ်မျိုးချည်းဖြစ်သောကြောင့် မတ်မျိုးဖွင့်လှစ် တဆဲ့နှစ်တွင်ဟု ရေးသားလေသော အရာသာဖြစ်သည်။ မင်းဆက်အရေအတွက်ကား ဝိဇယမင်းတိုင် တဆဲ့လေးဆက်၊ မဟာသမ္မတမင်းတိုင်အောင် နှစ်ဆဲ့ရှစ်ဆက်ယူစေလိုသည်။ အင်းစောက်ရာဇဝင်၊ ဆရာမည်ရာဇဝင်တို့၌ နှစ်ဆဲ့ရှစ်ဆက်ဟူ၍သာ ဆိုကြလေသည်။ (ဤသည်ကား အမှာစကားချုပ်)။

ဤတွင် ရွှေကား ရမ်းပြည့်မြို့တောင်ကျောင်းဆရာတော် ဦးစန္ဒမာလာသည် သေချာပြုပျင်စီရင်အပ်သော ရခိုင်ရာဇဝင်သစ်ကျမ်း၌ လောင်းကြက်စားကုသလနရပတိမင်းအစ မဟာသမ္မတမင်းအဆုံးရှိသော မင်းနှစ်ဆဲ့ရှစ်ဆက်တို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားခြင်းရာများတို့ကို ထောက်ထားစနာ ကျမ်းဂန်လာဖြင့် သေချာပြုပျင်ရေးစီရင်အပ်သော ဆဋ္ဌမတွဲသည် ပြီးစီးခြင်းသို့ရောက်ပြီ။

**ပု၊ ဒီ၊ အာ–နှင့် ပြည့်စုံရပါလို၏။**

**ရခိုင်ရာဇဝင်သစ်ကျမ်း ဆဋ္ဌမတွဲ**

**ဤတွင်ရွှေ ပြီးပြီ။**



# ရခိုင်ရာဇဝင်သစ်ကျမ်း

## သတ္တမတွဲ

နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဤသို့လျှင် ဆဋ္ဌမတွဲဖြင့် လောင်းကြက်မြို့စား ကုသလနရပတိမင်းအစ၊ မဟာသမ္မတမင်းအဆုံးရှိသော နှစ်ဆဲ့ရှစ်ဆက်သော မင်းတို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့ကို ရေးသား ပြဆိုပြီး၍ ယခုအခါ၌ သတ္တမတွဲဖြင့် မြန်မာမင်း၊ အင်္ဂလိပ် မင်းတို့ သိမ်းပိုက်စိုးအုပ် မင်းလုပ်နေထိုင်ကြသည့် အကြောင်း၊ ဝါသုဒေဝမင်း၊ မဟာသမ္မတမင်း အဆုံးရှိသော မင်းတို့၏အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရား၊ ခြင်းရာများနှင့် တည်ထားပြုစုတော်မူခဲ့သော မြို့၏ အမည်သညာတို့ကို နေရာတကျ ရေးပြစီရင်လိုက်ပေအံ့။

**(၁၆၅) ရခိုင်ပြည်ကို မြန်မာမင်း၊ အင်္ဂလိပ်မင်းတို့ သိမ်းပိုက်စိုးအုပ် မင်းလုပ်နေထိုင်ကြသည့် အကြောင်းနှင့် ဝါသုဒေဝမင်းအစ မဟာသမ္မတမင်း အဆုံးရှိသော မင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားစသည်တို့ကို တဖန် အင်းဇယားတို့ဖြင့် ပြဆိုခြင်းအကြောင်း**

ရခိုင်ပြည့်ရှင် မဟာသမ္မတမင်းကို ဖမ်းယူ ပင့်ဆောင်သွားပြီးနောက် ဒါးပိုင်ကြီး ယောက်ဖတော် ကျော်ပုံသည် ရခိုင်ပြည်သူအပေါင်းတို့နှင့် မြန်မာတို့ကို တိုက်မည်ဟု သက္ကရာဇ် ၁၁၄၆-ခု၊ တပေါင်းလတွင် ချီလာသော် မြန်မာမြို့ဝန် နန္ဒပကျန်က ဆီးခံ၍တိုက်လေလျှင် ရခိုင်တို့ စစ်ပျက်စီး၍ပြေးကြလေ၏။

ကျိန်းအရပ်၌ အစောင့်အနေထားသော မြန်မာတို့ကို အိမ်ရှေ့မင်းစစ်ကဲရဲဘော်သည် တိုက်လေသော် မြန်မာတို့သည် မြောက်ဦးမြို့သို့ ပြေးဝင်ကြလေ၏။ မြို့ဝန်နန္ဒပကျန်က တပ်မှူးတပ်သားကိုထွက်၍ တိုက်စေလေသော် အိမ်ရှေ့မင်းစစ်ကဲရဲဘော်သည်နှင့် လူအများကိုဖမ်း၍ ရလေလျှင် သတ်လျက်ပစ်လေ၏။

မြို့ဝန်နန္ဒပကျန်နှင့် မြို့သူကြီးလေးခက်တောင်စား ငထွန်းစံတို့က ရခိုင်ပြည်နိုင်ငံအလုံး၌ရှိသောလူတို့ကို ပြောင်းလက်နက်ချရန်ဟုခေါ်ပြီးလျှင် ပေါင်းတုပ်ပြင်၌ တထောင်၊ သရက်အုပ်၌ တထောင်၊ ကြက်ရိုးတောင်၌ တထောင်၊ စံကားတောင်၌ နှစ်ထောင်၊ မြို့တော်ပရိဒ္ဓေဒ၌ သုံးသောင်းခုနှစ်ထောင်၊ ပုခက်တွင်း သားသူငယ်များကို ဒါးကစားသည် တသောင်း၊ ဘုရားပေါ်အရပ်၊ ဒိုင်းကျီအရပ်၊ မောင်းဆွဲအရပ်၊ ငါရကောက်အရပ်၊

ခေါင်းပြိုတောင်အရပ်၊ ပရိန်အရပ်၊ ပေါင်းတုပ်အရပ်၊ ရတနာပြင်အရပ်၊ လက်မဘက် အရပ်၊ တောတန်းအရပ်၊ ကိုးဆဲ့ကိုးတောင်အရပ်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင် အရပ်ရပ်တို့၌ သတ်၍သေလေသည်ကား တသိန်း ရှစ်သောင်း လေးထောင် သေလေ၏။

သက္ကရာဇ် ၁၁၄၆ ခု၊ တန်းခူးလဆန်းလေးရက်၊ ကြာသပတေးနေ့တွင်ကား ချင်းရှိင်းတို့သည် မဟာမုနိ သိမ်တော်ကို မီးတိုက်ဖျက်ဆီးလာကုန်၏။ ဒါးပိုင်ကြီး ကျော်ပုံလည်း ရှောက်ခြံဉယျောင်ဝန်းတွင် နေလေသော် မနေနိုင်သောကြောင့် ထွက်၍ပြေးရာ၌ လေးခက် တောင်စား ထွေန်းစံနှင့်မြန်မာတပ်မှူးတို့ ဖမ်းဆီး၍ ယူလေပြီးသော် မြောက်ဦးမြို့သို့ရောက်လေလျှင် ညောင်ပင်ဈေးတွင် အိမ်ဆောက်၍ထားလေ၏။

တောင်မင်းကျော်ထွေး၊ မုဇ္ဇုဂ္ဂုာတ်ကြီး ဘရွှေ၊ ဒါးပြန်စီးတို့သည် အနောက်ဘက်အရပ်က စစ်ရေးပြု၍ နေလာကြသည်ကို ကြားလေသော် မြို့ဝန်နန္ဒပကျော်လည်း တပ်မှူး သွေးသောက်တို့နှင့် ဒါးပိုင်ကြီးကျော်ပုံကို စေခိုင်း လိုက်ရာ ဒါးပိုင်ကြီးကျော်ပုံသည် ကျောက်ဆစ်ဝယ် ထိုးကျင်သော အနာဖြစ်ရှိလေ၍ မလိုက်နိုင်ပဲကျန်ရစ်၏။ ဒါးပိုင်ကြီးကျော်ပုံမယား ကောင်းကျော်ထင်မလည်း မြို့ဝန်နန္ဒပကျော်အိမ်သို့တက် သက်လူးလာအသွားအလာ ပြု၍ ဤလူတို့ကိုထားချေသော် ပြည်ရွာငြိမ်းချမ်းမည် မဟုတ်ပါဟု စကားရိပ်ပြလေလျှင် မြို့ဝန်နန္ဒပကျော် အကြောင်းကိုသိ၍ ဒါးပိုင်ကြီး ကျော်ပုံမယား ကောင်းကျော်ထင်မကို မြို့ဝန်နန္ဒပကျော် သိမ်းယူလေသည်။

တောင်မင်းကျော်ထွေးကား အနောက် ကုလားပြည်သို့ပြေးလေ၍ အင်္ဂလိပ်မင်း စစ်တကောင်း မြို့ဝန်ထံ စစ်ပန်လေ၏။ စစ်တကောင်းမြို့ဝန်လည်း ဗိုလ်ချုပ်တပ်မှူးတို့ကိုခန့်ထား၍ သူရဲတထောင်ကို တောင်မင်းကျော်ထွေးသို့ပေးလိုက်၏။ တောင်မင်း ကျော်ထွေးလည်း သူရဲတထောင်တို့အား စားနပ်ရိက္ခာ ပေးရန် ဥစ္စာရွှေငွေမရှိသောကြောင့် နောင်တော် ဒါးပိုင်ကြီး စံပေါ်ရွှေကို ငွေဒင်္ဂါးတသိန်းချေးစေမည်ဟု စစ်တကောင်း မြို့တွင်ထားခဲ့ပြီးမှ သက္ကရာဇ် ၁၁၄၇ ခု၊ တန်ဆောင်မုန်း လတွင် ရခိုင်ပြည်သို့ချီလာ၍ ဝတ်သို့ရောက်လာလျှင် လက်ဝဲမြန်တုံးဖောင်သည်၊ မုဇ္ဇုဂ္ဂုာတ်ကြီး ဘရွှေ၊ ဒါးပြန်စီး လူပေါင်းတို့ စုရုံး၍တိုင်ပင်ကြ၏။ ရမ်းပြည့်သား မင်းပြု သည်ကို မရှုလိုမနှစ် သက်သောကြောင့် မြန်မာတို့ကို ခေါ်လျက် မင်းပြုစေသည်။ ယခုမြန်မာတို့ကို ပြန်လှန်၍ တိုက်ခိုင်မည်ကြံပြန်သည်လည်း ရမ်းပြည့်သားပင် ဖြစ်ပြန် ခဲ့သည်။ နောက်လာလတ္တံ့သော အကြောင်းကို ထောက်ရှု သော် အကျိုးမရှိတကားဟုဆိုကြကုန်၏။ ဆိုကြပြီးလျှင် အင်္ဂလိပ်ဗိုလ်ချုပ်နှင့် တောင်မင်းကျော်ထွေးတို့ အကြားတွင် ဒါးပြန်စီးသမက်သာမ၊ ကောင်းစံရွှေကို စကားပြန်စေ၏။ သာမကောင်းစံရွှေလည်း အင်္ဂလိပ်ဗိုလ်ချုပ်ကို တောင်မင်း ကျော်ထွေးက ပြန်လှန်တိုက်ပြီးလျှင် ပြောင်းလက်နက်တို့ကို သိမ်းယူမည်ကြံပါသည်။ ယုံတော်မမူလျှင် စစ်ဆောင်တံခွန် ကို ဆောက်တော်မူပါ။ တောင်မင်းကျော်ထွေး ပြောင်းနှင့် ပစ်မည် မချွတ်ပါဟုဆိုလေ၏။ သာမကောင်းစံရွှေ စကားကိုကြားသော် အင်္ဂလိပ်ဗိုလ်ချုပ်လည်း စစ်တံခွန် ဆောက်စေ၏။ သာမကောင်း စံရွှေလည်း တောင်မင်း ကျော်ထွေးအထံသို့သွားလေ၍ အင်္ဂလိပ်ဗိုလ်ချုပ် စစ်တံခွန် ဆောက်သည်ကို အထက်သိကြား၊ အောက်ကနဂါးတို့ အား ပူဇော်ပါသည်ဟု ရည်မှတ်ပြုပြီးလျှင် ပြောင်းပစ် ရမည်ဟုဆိုပေ၏။ တောင်မင်းကျော်ထွေးလည်း သာမကောင်းစံရွှေဆိုသောစကားကို အကယ်မှတ်ထင်၍ အင်္ဂလိပ်ဗိုလ်ချုပ်က ဆောက်စိုက်စေအပ်သော စစ်တံခွန်ကို ပြောင်းနှင့်ပစ်လေသော် အင်္ဂလိပ်ဗိုလ်ချုပ်လည်း သားမကောင်းစံရွှေ ပြောသောစကားသည် မှန်ချေပြီဟု အလွန်မာန်ပါ၍ စစ်တကောင်းမြို့သို့ ပြန်သွားလေ၏။

တောင်မင်းကျော်ထွေးလည်း မြို့သစ်ချောင်း ညာဖျားသို့ပြေးလေ၏။ လက်ဝဲမြန်တုံးဖောင်သည်၊ မုဇ္ဇုဂ္ဂုာတ်ကြီး ဘရွှေ၊ ဒါးပြန်စီးတို့လည်း အနောက် ကုလားပြည် စစ်တကောင်းသို့ ပြေးကြလေကုန်၍

ရောက်ကြလေလျှင် အင်္ဂလိပ်မင်း စစ်တကောင်းမြို့ဝန်က ကျေးရွာပေး၍ထားလေ၏။

ရမ်းပြည့်ကျွန်း ကျောက်ဆိပ်အရပ်တွင် သူရဲငါးရာနှင့် တပ်စောင့်ထားခဲ့သူ နရသမိုင်းကျော်လည်း သက္ကရာဇ် ၁၁၄၇ ခု၊ နတ်တော်လတွင် တန်းမြို့အရပ်၌ တပ်တည်လာပြီးလျှင် မြို့အလုံးကိုသိမ်းရုံး၍ ရမ်းပြည့်မြို့ဝန် ပြုလုပ်ပြီးလျှင် ဗိုလ်မင်းလာဦးကို ရမ်းပြည့်ကြီးစားအရာခန့်ထားလေ၏။ မေဃဝတီ၊ မာန်အောင်မြို့စား ငထွန်းအောင်ကို ရမ်းပြည့်မြို့ဝန် နရသမိုင်းကျော်က ခေါ်လျက် သစ္စာရေတိုက်၍ ငကုလားကို မာန်အောင်စားအရာ ခန့်ထားပြီးလျှင် မာန်အောင်သို့ ပြန်သွား၍ရောက်လေသော် အထောင်မကသော သေနတ်ကိုလွဲတတ်သော ငမြရောင်နှင့်ပေါင်းဖက်၍ သောင်းကြမ်းပြန်လေ၏။

သက္ကရာဇ် ၁၁၄၇ ခု၊ တပေါင်းလတွင် ရမ်းပြည့်ဝန် နရသမိုင်းကျော် ချီသွား၍တိုက်လေသော် မာန်အောင်စား ငကုလားကိုဖမ်း၍ရလေလျှင် သတ်၍ပစ်လေ၏။

သေနတ်လွဲတတ်သော ငမြရောင်ကား တောင်ခွင် ကြိမ်သလီသို့ပြေးလေ၏။ ငချွန်းကို မာန်အောင်စားအရာခန့်ထား၍ လူများကို သစ္စာရေတိုက်၍ နေစဉ်ဝယ် ဓမ္မရာဇ်ရာဇာသားတော် အိမ်ရှေ့မင်း သက်စံရွှေ၊ သမ္ဘတရာဇာမင်း ညီတော်အိမ်ရှေ့မင်း ချစ်လှရွှေတို့ လူသုံးထောင်တို့နှင့် ဝန်းရံ၍ ရမ်းပြည့်မြို့ တပ်သားမြန်မာတို့ကို တိုက်လေ၏။ ရမ်းပြည့်မြို့ဝန် နရသမိုင်းကျော်သည် မာန်အောင်ကရောက်လာ၍ တိုက်လေသော် အိမ်ရှေ့မင်း သက်စံရွှေ၊ ချစ်လှရွှေတို့ ပြေးကြလေကုန်၏။

တောင်ကုပ်တွင် တပ်စောင့်ထားသော ဆီးခါးဗိုလ်လည်း သံတွဲမြို့စံကားတောင်တွင် သက္ကရာဇ် ၁၁၄၇ ခု၊ တပေါင်းလတွင် တပ်တည်လာ၏။ လမ္ဘုစားဟရီနှင့် တပ်မှူးရဲစံတို့တိုက်လေသော် စံကားတောင်တပ် ပျက်စီးလေ၏။ တပ်စောင့်ထားသော မြန်မာနာခံဖြူနှင့် သူရဲတို့ သေလေကုန်၏။ ဆီးခါးဗိုလ်မင်းလည်း ရမ်းပြည့်ဝန် နရသမိုင်းကျော်ကို စစ်ကူခေါ်၍ တောင်ကုပ်ဝန် သူရဲတို့နှင့် တိုက်ကြလေသော် တပ်မှူးရဲစံသေလေ၏။ ဟရီကား အမရပူရဘိုးတော် မင်းအထံသို့ပြေးလေ၏။ ရောက်လျှင် အကြောင်းခြင်းရာကို လျှောက်ထား၍ ကြားတော်မူလေသော် အမရပူရ ဘိုးတော်မင်းက သက်တော်စောင့်သူရဲနှင့် တိုက်လေလျှင် လမ္ဘုစားဟရီနိုင် လေသောကြောင့် ယိုးဒယားပြည်ကို စစ်တိုက်သွားရာ အကြီးအမှူးပြု၍စေ၍ ဗိုလ်ချုပ်ခန့်တော်မူလေ၏။ တောင်ကုပ်ဝန် ဆီးခါးဗိုလ်လည်း သံတွဲမြို့တွင် ရှေးအထက်က ဝါသုဒေဝ မင်းညီနောင်တကျိပ်တို့သည် တည်ထောင်ထားခဲ့သော ဒွါရာဝတီမြို့ဟောင်းရာ တောင်တွင် တပ်တည်၍နေ၏။ သံတွဲဝန် ဆီးခါးဗိုလ်လည်း ကုလားတန်စား သောက်ကြာ အစရှိသော လူကြီးတို့ကို များစွာသတ်ပစ်ကုန်၏။

မေဃဝတီမာန်အောင်မြို့တွင်လည်း မြို့ဝန်တဦး ထားသင့်ပါသည်ဟု ရမ်းပြည့်ဝန် နရသမိုင်းကျော်က အမရပူရဘိုးတော်မင်းအထံသို့ လျှောက်လေရာ ဘိုးတော်မင်းသည် နရသမိုင်းကျော်၏ စစ်ကဲဖြစ်သော သမိုင်းရဲဖျားကို မာန်အောင်မြို့ဝန်အရာကို ခန့်ထားတော်မူလိုက်သည်။ ထိုသမိုင်းရဲဖျားကား မာန်အောင်ကျွန်းတွင် ဆေးသမား ဗေဒင်တတ်တို့ကို များစွာသတ်၍ ပစ်လေ၏။

မာန်အောင်စား ငထွန်းအောင်ကို နရသမိုင်းကျော်က ဖမ်းဆီး၍ ပေါင်းဖက်သော လူတို့နှင့်တကွ သတ်၍ပစ်လေ၏။ သမ္ဘတရာဇာညီ အိမ်ရှေ့မင်း ချစ်လှရွှေကို ပြည်သူတို့ဖမ်း၍ နရသမိုင်းကျော်အား အပ်ပို့လာလျှင် သတ်၍ပစ်လေ၏။

အနောက်ဖက်မြို့သစ်ချောင်းက တောင်မင်းကျော်ထွေး စစ်ရေးပြလျက်နေသည်ဟု ရခိုင်မြို့ဝန် နန္ဒပကျန်ကြားလေသော် တပ်မှူးတို့ကိုစေလွှတ်၍ လိုက်သွားကြလေသော် မြို့သက်တို့ လမ်းစဉ်ပြလျက် လမ်းကျဉ်းကနေ၍ တိုက်ကြလေလျှင် သက္ကရာဇ် ၁၁၄၈-ခု၊ ကဆုန်လတွင် တောင်မင်းကျော်ထွေးကို လက်နက်

ထိမှန်၍ သေလေ၏။ သားမယားတို့ကိုဖမ်းယူပြီးလျှင် မိန်းမများကိုလက်ခြေတို့၌ ကြိုးနှင့်ချည်နှောင်၍ မြစ်တွင် ပစ်ချလေ၏။ အနောက်ပြည်မှလာရောက်ကြသူ လူအပေါင်းကိုလည်း တောင်မင်းကျော်ထွေး သူရဲဟု များစွာသတ်၍ပစ်လေ၏။

သက္ကရာဇ် ၁၁၄၈-ခု၊ ဝါဆို၊ ဝါခေါင်၊ တော်သလင်းလတိုင်အောင် ကျားရဲ၏။ ထမင်းငတ်၏။ စပါးအတောင်းတရာကို ဒင်္ဂါးသုံးဆယ်ပေးရ၏။ လူသူများစွာ သေပျောက်ကုန်၏။ ရခိုင်ပြည်၊ သံတွဲ၊ ရမ်းပြည်၊ မာန်အောင်၌ရှိကုန်သော မှူးမတ်အပေါင်းတို့ကို အသီးအသီးသတ်၍ ပစ်ကုန်၏။ ပြောင်း၊ သေနတ်၊ ဒါးရှည်၊ လှံရှည်၊ ဒိုင်းလွှား၊ ကာတောင်၊ ခဲ၊ ယမ်း၊ မီးကျောက်တို့ကိုလည်း မြန်မာတို့သည် သိမ်းရုံး၍ယူလေကုန်၏။ အရက်သေစာတို့ကိုလည်း မသောက်စေရ၊ ဟန့်တားခြင်းပြုလေ၏။

ရခိုင်မြို့ဝန် နန္ဒပကျော်က ဓညဝတီရခိုင်ပြည် မြောက်ဦးမြို့တွင်နေသောသူတို့သည် ရွှေငွေတို့ကို ဒင်္ဂါးရိုက်ခပ်၍သာ သုံးပါသည်။ ကျပ်ချိန်ချင့်တွက်၍ မသုံးဆောင်ပါဟု အမရပူရဘိုးတော်မင်းထံ လျှောက်စာတင်လေသော် ဘိုးတော်မင်းက သက္ကရာဇ် ၁၁၄၆-ခု၊ အမရပူရဆင်ဖြူများရှင်နိုင်ငံဟု တံဆိပ်ခပ်လျက် ဒင်္ဂါးရိုက်လေ။ ထိုဒင်္ဂါးကိုလည်း ပုံတော်ဒင်္ဂါးဟုခေါ်လေ။ အာဏာပေးတော်မူလိုက်လျှင် ထိုအတိုင်းဒင်္ဂါးရိုက်၍ ပုံတော်ဒင်္ဂါးဟုခေါ်ဝေါ်၍ ရခိုင်လေးမြို့၌ အသီးအသီး သုံးဆောင်ကြကုန်၏။

ငသံတွေလည်း သမက်သက်နံ့ဝေကို အမရပူရဘိုးတော်မင်း၏ သားတော်အိမ်ရှေ့မင်း မောင်ပေါ်အထံ ဝယ် အဆောင်မြဲအရာနှင့် ထည့်အပ်လိုက်၍ အမရပူရမြို့ တော်သို့ရောက်လေလျှင် လေးခက်တောင်စား ငထွန်းစံကို ရခိုင်မြို့သူကြီးအရာကနှုတ်၍ ရမ်းပြည့်မြို့သူကြီးအရာကို ခန့်လေ၏။ ငသံတွေကို ရခိုင်မြို့သူကြီးအရာကို ခန့်၏။ သမက်သက်နံ့ဝေကိုကား လေးမြို့သူကြီးအရာကိုခန့်ထား ပြီးလျှင် အမရပူရဘိုးတော်မင်း၏ သားတော်အိမ်ရှေ့မင်း မောင်ပေါ်အထံ၌ပင် အဆောင်မြဲအရာနှင့် နေလေ၏။

ရခိုင်မြို့ဝန် နန္ဒပကျော်နှင့် မြို့သူကြီး ငသံတွေ တို့သည် အရပ်ရပ်ကျေးရွာများတို့တွင် အအုပ်အချုပ် စီရင်စေရန် မြန်မာတယောက်တယောက်စီ ခန့်ထားကြ လေကုန်၏။

စည်းတင်ချောင်း၌ ငမျိုးပေါ်သည် ညဥ့်အိပ်သော ကာလ၌ ဒါးစကြာ၊ လှံစကြာရုံသည်ဟု မြင်မက်သောကြောင့် မင်းဖြစ်မည်အမှတ်ရှိလျက် ပေါက်မင်း အမည်ကိုခံ၍ သောင်းကြမ်းလေ၏။

ရခိုင်မြို့ဝန် နန္ဒပကျော်က တပ်မှူးသွေးသောက်တို့ ကို စေ၍တိုက်စေသော် သက္ကရာဇ် ၁၁၄၈ ခု၊ တပို့တွဲလ တွင် ပေါက်မင်းမျိုးပေါ်သည် အနောက်ကုလားပြည်သို့ ပြေးလေ၏။ စည်းတင်ချောင်းဝယ် ကျန်ရစ်သောလူတို့ကို များစွာသတ်၍ ပစ်လေ၏။

အနောက်ခုနစ်ခရိုင် တောင်စဉ်စနည်းရွာသူတို့ သည် ငါတို့မြန်မာသစ္စာရေ အဝင်မခံဟု ရမ်းပြည့်စား ပေါလုံး၊ လမ္ဘူစား လောခိုင်တို့နှင့် ပေါင်းဖက်၍နေလေရာ နေထိုင်ရာသလောဟု သံတွဲမြို့ဝန်က ရာဇသင်္ကြန်နှင့် စစ်ကဲကြီး လေ့တို့ကိုစေလိုက်၏။ ရာဇသင်္ကြန်၊ စစ်ကဲကြီးလေ့တို့ သွားရောက်ကြလေ၍ စနည်းသို့ ရောက်ကြလေလျှင် သက္ကရာဇ် ၁၁၄၉ ခု၊ ကဆုန်လတွင် စနည်းရွာလူတို့ကိုသိမ်းရုံးယူ၍ မြေလှံပြီးလျှင် သတ်၍ ပစ်လေ၏။ မိန်းမတို့ကိုယူဆောင်လေကုန်သည်ဖြစ်၍ စနည်းရွာလည်း လူမရှိဖြစ်လေ၏။

ဓမ္မရာဇ်ရာဇာမင်းသား အိမ်ရှေ့မင်း သက်စံရွှေ လည်း ပုန်းကွယ်၍နေလေရာ ရမ်းပြည့်ဝန် နရသမိုင်းကျော် သူရဲတို့ဝန်းရံ၍ သေနတ်နှင့်ပစ်လေသော် အိမ်ရှေ့မင်း သက်စံရွှေကို သေနတ်ထိပါးလေ၏။ ထိုသေနတ်ထိပါး သောအနာဖြင့်ပင် သက္ကရာဇ် ၁၁၄၉-ခု၊ နယုန်လတွင် သေလေ၏။

ရခိုင်ပြည်ဝယ် သဗ္ဗညုမြတ်စွာဘုရား သာသနာ

တော်ကို ထမ်းရွက်ကျင့်ဆောင်၍နေကြသော ရဟန်းသံဃာတို့သည် ကေစာရဂိုဏ်း၊ ဗဟုစာရဂိုဏ်းဟူ၍ နှစ်ဂိုဏ်းရှိကုန်၏။ ထိုနှစ်ဂိုဏ်းတွင် ဂန္ဓာဓူရ၊ ဝိပဿနာဓူရတို့ကို ပွားများစေလျက် ဥမင်လိုဏ်ခေါင်း၊ တောကျောင်းတို့၌ သီတင်းသုံးနေကုန်သော ရဟန်းတို့ကို ဇေကစာရဂိုဏ်းဟု ခေါ်ဝေါ်ကုန်၏။ ထိုကေစာရဂိုဏ်းသံဃာတို့သည် တိမ်မြုပ်လေကုန်၏။ လူတို့၏ပစ္စည်းကို ချေးငှား၍ သုံးစား၏။ လူတို့အား ငွေဒင်္ဂါးချေး၍ အတိုးအပွားကို သုံးစား၏။ ကုန်သွယ်သွားလာခြင်းအမှုကို ပြု၏။ မင်းထံ ညီလာခံဝင်၏။ မျှား၊ မြှုးပိုက်၊ ကွန်တို့ကို ကျောင်းတွင် အအပ်အနှံခံ၏။ ပွဲလမ်းသဘင်ကြည့်ရှု၏။ ဤသို့များစွာ အကျင့်ရှိသောကြောင့် ဗဟုစာရဂိုဏ်းဟူ၍ ခေါ်ဝေါ်ကုန်၏။ ထိုဗဟုစာရဂိုဏ်းသံဃာတို့သည် များစွာပြန့်ပွားလေကုန်၏။ ထိုဗဟုစာရဂိုဏ်းသံဃာတို့ကို အဝတ်ဖြူလဲစေ၍ ရဟန်းအသစ်ဖြစ်စိမ့်သောငှာ အမရပူရဘိုးတော်မင်းက ရခိုင်ပြည်သို့ ဘုတ်တောင်ဆရာတော်၊ ငှက်ပျောတောဆရာတော်၊ ရွှေဂူဆရာတော်၊ သံတွဲမြို့ကဝိသာရဂိုဏ်းအုပ်ဆရာတော်၊ ရမ်းပြည့်နှင့် မာန်အောင်သို့ မလွန်ဆရာတော်၊ ဤဆရာတော်တို့ကို ကြွစေတော်မူ၍ ရောက်တော်မူကြလျှင် ရခိုင်ပြည်တွင် ဗဟုစာရ ရဟန်းတို့ကိုလူထွက်စေ၍ သိမ်အသစ်သမုတ်ပြီးလျှင် သက္ကရာဇ် ၁၁၄၉ ခု၊ တပေါင်းလတွင် ကမ္မဝါစာဥတ်၍ ရဟန်းအသစ်ပြုစေ၏။ ရဟန်းငယ်တို့ကို ပထမ ရဟန်းပြုစေ၍ ရဟန်းကြီးဖြစ်စေ၏။ ရဟန်းကြီးတို့ကို နောက်မှ ရဟန်းပြုစေ၍အငယ်ဖြစ်စေ၏။ သူ့ကျေး၊ သူ့ကျွန်၊ ဒွန်းစဏ္ဍား၊ ဟယား၊ ချင်း၊ တောင်သူတို့ကိုလည်း ရဟန်းရှင်သာမဏေပြုစေပြီးလျှင် လူများတို့ကိုရှိခိုးစေ၏။ ရာဇဝံသမင်းမျိုး မင်းဆွေ မင်းနွယ်ဖြစ်သော သူတို့ကိုနှိမ့်ချ၍ ဗဟုကမ္မအမှုကို ပြုစေကုန်၏။ ထိုထိုသို့သော ရွာနိဂုံးတို့တွင်လည်း မြေကြီးကိုသိမ်ပမာဏပြု၍ သိမ်သမုတ်လေ၏။ ထိုအခါမှစ၍ ရခိုင်ပြည်ရဟန်းတို့၏ သိက္ခာအကျင့်သည် တိမ်မြုပ်လေ၏။ မြန်မာရဟန်းတို့၏ သိက္ခာအကျင့်သည် ပြန့်ပွားလေ၏။ ဤသည်ကား ဆရာမည် ရာဇဝင်၌လာသော ဗဟုစာရရဟန်းတို့၏အကြောင်း၊ မြန်မာရဟန်းတို့ သာသနာပြုတော်မူလေသည့် အကြောင်းတည်း။

(အချို့ရာဇဝင်သစ်၌ကား ရပ်ရွာမြို့တွင်းတို့၌ ထီးဆောင်း၊ ဘိနပ်၊ စီး၊ လှည်းယဉ်၊ လှေယဉ်စီး၍ သွားကုန်၏။ ညနေအခါ ပျားသကာ တင်လဲတို့နှင့် လဘက်ရည်သောက်ကြကုန်၏။ ဤသို့ ဝိနည်းအကျင့် ပျက်စီး၍ မိမိသဘောအလျောက် ဖောက်လွဲဖောက်ပြန်သော အကျင့်များနှင့် အလိုရှိရာကျင့်သော အကျင့်ရှိသော ရဟန်းများစွာရှိသောကြောင့် ဗဟုစာရဂိုဏ်းဟု ခေါ်ဝေါ်သမုတ်ကြောင်း၊ မြန်မာဆရာတော် ငါးဦးတွင်လည်း ဘုတ်တောင်ဆရာတော်ကို မုံတော၊ ရွှေဂူဆရာတော်ကို ရွှေကျင်ဆရာတော်ဟုဆိုလေသည်။ ရွှေကျင်ဆရာတော်ကား ဘိုးတော်မင်း နောက်လေးဆက်မြောက် မင်းတုန်းမင်းလက်ထက်တွင်သာဖြစ်လာသောကြောင့် ဆင်ခြင်လေ။

အမရပူရပြည့်ရှင် ဘိုးတော်မင်းက စေလွှတ်တော်မူ၍ သာသနာပြုတော်မူလေရာအငယ်ကို အကြီး၊ အကြီးကို အငယ်ပြုစေသောအဖြစ်ကို ပညာရှိတို့ နှစ်လိုဝမ်းမြောက်ဖွယ်မဟုတ်ကြောင်းကို မုံရွေးဆရာတော် ရေးသား စီရင်တော်မူအပ်သော ရာဇောဝါဒကျမ်း ၃၉၈-နံပါတ်တွင် ထုံးပုံအဝေ၊ ဓာတိနှင့်ပဝတ္တ၊ ဌာနနှင့်ဌာနီ၊ ယာယီနှင့်နဂိုရ်၊ အတိုအရှည်၊ ဌာဝရ မည်၊မမည်၊ တည်သင့်သည်၊ ပျက်သင့်သည်ကို နားလည်မှ လျော်ရာသည်ဟူသော လင်္ကာအဖြေ၌ ခ၊ ဆ၊ ပဉ္စာ-ကိန်းဖြိုပြီးနောက် မြန်မာသက္ကရာဇ် ၈၂၀ ပြည့် တွင် ဟံသာဝတီ၊ ပဲခိုးပြည်၌ မင်းမူသော ဓမ္မစေတီမင်းသည် သီဟိုဠ်မှ သိက္ခာပုဒ်အသစ်ကိုယူစေပြီးလျှင် ကလျာဏီသိမ်ကို သမုတ်စေ၍ သိက္ခာတင်လိုသော ရဟန်းတို့ရောက်လာလျှင် အဟောင်းတွင်ထပ်၍ တင်ပေးသင့်လျက် အလုံးစုံသော ရဟန်းတို့ကိုပင် သိက္ခာဟောင်းကိုချစေ၍ အသစ်တင်ပြန်စေသည့်အရာသည် သိက္ခာဟောင်းရှင် ရဟန်းတို့

အလုံးစုံဒုသီလချည်းမဟုတ်။ မိမိသမုတ်စေအပ်သော ပဝတ္တိကလျာဏီသိမ်မဖြစ်မီ နဒီသိမ်၊ ဂါမသိမ်စသော အဗဒ္ဓသိမ်ဟောင်းကိုပစ်၍ နောက်ဖြစ်ပဝတ္တိကလျာဏီ သိမ်၌သာ သိက္ခာပုဒ်အသစ်ယူစေသဖြင့် အငယ်ကို အကြီး၊ အကြီးကို အငယ်ပြုစေခြင်းများသည် လွန်ကျူး လွန်းသည်။ မိမိသည်ပင် သေခါနီးကာလ၌ ငါပြုမိလေ ခြင်းဟု ကုက္ကုစ္စလေးပါးနှင့် သေရလေကြောင်းနှင့် ဆိုသည်ကိုထောက်လျှင် ဝမ်းမြောက်ဖွယ်ရာမရှိ၊ ပညာရှိတို့ ကဲ့ရဲ့အပ်သောအကြောင်းသာ ဖြစ်သည်ဟုယူသင့်သည်။ သက္ကရာဇ်တို့နှင့်တကွ သိရအောင် ရေးပြလိုက်သည်။ ဤသည်ကား စကားချပ်။)

ရခိုင်ပြည်သည် စစ်၏ခေါင်းမည်သော စစ်သူကြီး၊ စစ်၏မျက်စိမည်သော ဟူးရားတတ်၊ စစ်၏ နားမည်သော သူလျှိုလိမ္မာ၊ စစ်၏အားမည်သော ဗိုလ်ပါ ရဲမက်၊ စစ်၏ခံတွင်းမည်သော တမန်လိမ္မာ၊ စစ်၏ အစွယ်မည်သော အမတ်သူရဲကောင်း၊ စစ်၏ခြေမည်သော ခြေသည်သူရဲ၊ စစ်၏အင်္ဂါမည်သော ဆင်ကောင်း မြင်းကောင်း လက်နက်ကောင်းရှိသည်ဟု ဆိုအပ်သော အင်ရှစ်ပါးနှင့်ပြည့်စုံသောကြောင့် နောက်နောင်ပြန်လှန် တိုက်ဆိုင်လတ္တံ့သည်ကိုစိုးရိမ်၍ အမရပူရပြည့်ရှင် ဘိုးတော်မင်းက ငါတို့ရခိုင်ပြည့်ရှင် အဘယရာဇာ သားတော် ပတင်းစားစံရွှေပေါ်၊ သုမနု ရာဇာမင်းသား တော် ကျော်စံ၊ ဒါးပိုင်ကြီး၊ ဓမ္မရာဇ်ရာဇာ သားတော် ရေနောက်စား သုဒ္ဓေါဦး။ ဤမှတပါး မင်းသား၊ မင်းသမီး၊ ဝိနည်းဓိုရ်၊ ရှစ်သောင်းဘုန်းတော်ကြီး၊ ဇေတ ရာမ၊ သကျမဥ္ဇူ၊ ရတနာစံဦး၊ ဇိနမာရ်အောင်၊ လောကမာရ်အောင်၊ ပိန္နဲတောင်ဘုန်းတော်ကြီး၊ ပုရောဟိတ်ရှစ်တိုင်း၊ ပုဏ္ဏားစကြဝတေး၊ ဗေဒင်တတ်၊ ဆေးသမား၊ ကိုယ်တော်ရံ၊ သူငယ်တော်ယောကျ်ား မိန်းမခုနစ်ထောင့် ခုနစ်ရာ၊ မိန်းမစိုး ကုလားအစရှိသော လူရှင်ရဟန်းတို့ကို ရခိုင်မြို့ဝန်နန္ဒပကျန်အား ဆောင်းသော ကြောင့် သက္ကရာဇ် ၁၁၄၉-ခု၊ တပေါင်းလတွင် အမရပူရ မြို့တော်သို့ ပို့ဆက်ရလေသည်။

ရေ၌ရှိသော ပန်း၊ ကြည်း၌ရှိသောပန်းတို့ကို လည်း ဆက်သွင်းရလေသည်။ ကြည်းပန်းတွင် သဇင်ပန်း သည် နှစ်စဉ်ဆက်သွင်းအပ်သော မင်း၏ဘဏ္ဍာတော် ဖြစ်၏။ ကြည်းရေ၌ရှိသော ငါးဟင်းတို့ကိုလည်း ဆက်သွင်းပေးပို့ရ၏။ ကျောက်ကြိုးသည်နှစ်စဉ် ဆက်သွင်းအပ်သော မင်း၏ဘဏ္ဍာတော်ဖြစ်၏။ ပိဋကတ်ကျမ်း၊ ဗေဒင်ဗာဟိရကျမ်း ငါးဆုံခြောက်စောင် တို့ကိုလည်း ပေးဆက်ရလေ၏။

မြောက်ဦးမြို့တော်တွင် ကျောင်းကြီးသုံးဆယ်၊ ကျောင်းငယ်သုံးထောင့်ခုနစ်ရာ။ ရခိုင်ပြည်နိုင်ငံအလုံး၌ သိမ်ကျောင်းစေတီပုထိုးတို့ကို ဖျက်ဆီး၍ပစ်လေကုန်၏။ ရွှေနန်းတော်၊ နာရီစင်၊ ယွန်းစည်၊ မြို့ဝင်တံခါး၊ တိုင်၊ ကျုံး၊ မြောင်း၊ သူရဲပြေး၊ လက်နက်၊ ရဲမက်ဗိုလ်ပါ၊ ပညာရှိတံခါးစောင့်၊ မြင့်သောမြို့ရိုး၊ တံတိုင်းဟု ဆိုအပ်သော မြို့၏အင်္ဂါခုနစ်ပါး၊ တိုင်းပြည်အရေးကို ဆွေးနွေးတိုင်ပင်ရာသော အမတ်ကြီးသည် ပြည်ဦးကင်း။ အကျင့်သီလနှင့် ပြည့်စုံသော ရဟန်းတော်သည် ပြည်တံခွန်။ တိုရှည်နီးဝေးကို မြော်တွေးသိမြင်သော ဗေဒင်ဟူးရားဆေးသမားသည် ပြည်မျက်စိ။ တပြည်တမြို့ သို့ ဝင်လျှိုးစုံစမ်းတတ်သော သူလျှိုသည် ပြည်နား။ တဖက်ရန်ကို နှိမ်နင်းခြင်းငှာ စွမ်းနိုင်သော မင်းဆွေစိုးမျိုး သည် ပြည်စွယ်။ သမီးကညာရတနာသည် ပြည် မျက်နှာ။ သေဌေးသူကြွယ်သည် ပြည်ဝမ်း။ သူရဲဗိုလ်ပါ သည် ပြည်ခြေ။ လက်နက်ကိရိယာသည် ပြည်လက်ဟု ဆိုအပ်သော နဝရတ်ကိုးပါးတို့သည် သက္ကရာဇ် ၁၁၅၀ ပြည့်တွင်ပျက်စီး တိမ်မြုပ်လေကုန်၏။ မြန်မာမင်းတို့သည် အောင်စေတီနှင့် ကျောင်းသိမ်အသစ် တည်ဆောက်လေ ကုန်၏။ မြို့ဝန်နန္ဒပကျန်သည် လေးနှစ်ရခိုင် ပြည်တွင် အုပ်ချုပ်နေထိုင်၍ သေလွန်လေ၏။ နန္ဒပကျန် သေလွန် လျှင် အနောက်ဖက်တိုက်ဝန်သည် သက္ကရာဇ် ၁၁၅၀- ပြည့်၊ နတ်တော်လဆန်းကိုးရက်နေ့တွင် ရခိုင်မြို့ကို

ဝန်ပြုလာ၏။ ရခိုင်မြို့၊ သံတွဲမြို့၊ ရမ်းပြည့်မြို့၊ မာန်အောင်မြို့ ဤလေးမြို့တို့ကို သူငယ်တော် တရော့တကျိုပ်တောင်းသောကြောင့် ၎င်းသက္ကရာဇ် နတ်တော်လတွင် အမရပူရ ဘိုးတော်မင်းထံသို့ သူငယ်တော် ပို့ဆက်ရလေ၏။

မြန်မာမင်းပိုင်သော ငါးဆဲ့ခုနစ်ခရိုင်တွင် ဖင်းမယ်သည် သောင်းကြမ်းပုန်ကန်ပြုသောကြောင့် အမရပူရ ဘိုးတော်မင်းက ဗိုလ်မှူးတပ်မှူးတို့ကိုစေလွှတ်၍ တိုက်စေသော်လည်း မနိုင်သည်ဖြစ်၍ ရခိုင်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင် လေးမြို့ကို လက်နက်ကိုင် လူခြောက်ထောင် တောင်း၍ရလေလျှင် ပိန္နဲချောင်းဗိုလ် ဒါးပိုင်ကြီး စာငယ်စွတ်ကို ဗိုလ်ချုပ်ခန့်၍ သက္ကရာဇ် ၁၁၅၁-ခု၊ နယုန်လတွင် အမရပူရမြို့တော်သို့ စေလွှတ်၍ ဖင်းမယ်ကိုတိုက်ရလေ၏။ ရခိုင်သားတို့သည် ၄က်ဖျား ရောဂါမိ၍များစွာ သေလေကုန်၏။ ၎င်းအနောက်ဘက် တိုက်ဝန်ကား နှစ်နှစ်တွင် မြို့ဝန်ရာထူးမှ လျှောကျ သွားလေ၏။ ၂။

အနောက်ဘက် တိုက်ဝန်ရာထူးမှ လျှောကျ သွားလေလျှင် ပုသိမ်သခင်သည် မင်းသီဟအမည်ကိုခံ၍ သက္ကရာဇ် ၁၁၅၂ ခု၊ တပေါင်းလတွင် ရခိုင်မြို့ကို ဝန်ပြုလာပြန်၏။ ထိုမြို့ဝန်ကား မင်းမျိုးမင်းဆွေမှ ဖြစ်သောကြောင့် အမျိုးလေးပါးတို့အား သနားခြင်းရှိ၏။ ရွှေငွေဥစ္စာကိုတောင်းခံ၍ မယူ၊ ဒါန၊ သီလနှင့်လည်း ပြည့်စုံ၏။ ရခိုင်မြို့၌ဝန်ပြု၍ တနှစ်ခန့်ရှိလျှင် သေလွန် လေ၏။ ၃။

ထိုဝန်မင်းသေလွန်လျှင် တိုင်တားဝန်သည် အာကာကျော်တင်ဟူသော အမည်ကိုခံ၍ သက္ကရာဇ် ၁၁၅၃-ခု၊ တန်းခူးလတွင် ရခိုင်မြို့ကို ဝန်ပြုလာပြန်၏။ ၎င်းအာကာကျော်တင်မြို့ဝန်ကား နှစ်နှစ်အတွင်းတွင် ရာထူးမှ လျှောကျလေ၏။ ၄။

အာကာကျော်ထင် ဝန်ရာထူးမှလျှောကျသွားလေ လျှင် မောင်ကျော်လှသည် မင်းလှရာဇာအမည်ကိုခံ၍ သက္ကရာဇ် ၁၁၅၅ ခု၊ တပို့တွဲလဆန်း ကိုးရက်၊ စနေနေ့တွင် ရခိုင်မြို့ဝန်ပြုလာပြန်၏။ ထိုမင်းလှရာဇာ လက်ထက်၌ မြို့သူကြီး သံတွေသမက် လေးမြို့သူကြီး သက်နံ့ဝေသည် စစ်တကောင်းသို့ ထွက်ပြေးတိမ်းရှောင်၍ နေသော ငပေါလုံး၊ ငခွက်ပေါက်၊ ကျွဲတကောင်နိုင် သုံးယောက်တို့ကိုတောင်းအံ့ဟု အနောက်စစ်တကောင်းသို့ ချီလေ၏။ နေမျိုးကုန္တရာ၊ သက်နံ့ဝေ၊ ပေါ်တလီ၊ မြန်မာ တပ်မှူးဗိုလ်မှူးတို့နှင့် စစ်တကောင်းမြို့ဝန် အင်္ဂလိပ်ဗိုလ်မှူး တပ်မှူးတို့ တပ်ရေးပြ၍နေကြပြီးသော် စစ်တကောင်း မြို့ဝန် အင်္ဂလိပ်အစိုးရမင်းထံ မြန်မာအစိုးရမင်းတို့ ပေးလိုက်သောလက်ဆောင် ပဏ္ဏာကိုယူ၍ အစေ့အစပ် ပြောဆိုပြီးလျှင် စစ်တကောင်း မြို့ဝန်က ငပေါလုံး၊ ငခွက်ပေါက်၊ ကျွဲတကောင်နိုင်တို့သည် အဓိဝမ်းက ဖွားမြင်သည်မှစ၍ တဆဲ့ငါးနှစ်အရွယ်သို့ရောက်လျှင် ဒါးမြ၊ တန္တ၊ သူပုန်သူကန်ပြုလုပ်၍သာ နေကြသူများ ဖြစ်ကြောင်းနှင့် စက္ကူတွင်စာရေး၍ ဘင်္ဂလားပြည်မှစ၍ ဣန္ဒြိယအလယ်ပိုင်းတရိုးကို အစိုးရသော ဘင်္ဂလားမြို့၊ အင်္ဂလိပ် ဣန္ဒြိယကုမ္ပဏီမင်းကြီးထံသို့ လျှောက်စာတင် လေ၏။

ဘင်္ဂလားမြို့ အိန္ဒိယကုမ္ပဏီမင်းကြီးလည်း စာကိုကြည့်ရှုပြီးသော် လျှောက်တင်ချက်အတိုင်းမှန်လျှင် လုံခြုံအောင်ထားလေ။ မမှန်လျှင် ရခိုင်သို့ပြန်ပို့စေဟု စစ်တကောင်းမြို့ဝန်ထံသို့ အာဏာဆင့်လိုက်၏။ မြန်မာအစိုးရမင်းတို့လည်း ရခိုင်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်လေးမြို့တွင် လင်မယားအိမ်ထောင်စုသူကို တအိမ်လျှင် ငွေဒင်္ဂါးငါးကျပ်စီတောင်းခံ၍ ရသည့် ငွေတသိန်းနှစ်ထောင်ကို စစ်တကောင်းမြို့ဝန်ထံပေးလေ လျှင် စစ်တကောင်းမြို့ဝန်လည်း သိမ်းယူ၍ ငပေါလုံး၊ ငခွက်ပေါက်၊ ကျွဲတကောင်နိုင်တို့ကိုခေါ်၍ ရခိုင်ပြည်တွင် နေသော မြန်မာတို့ကိုတိုက်လှန်ဖျက်ဆီးပြီးလျှင် ကိုယ်တို့ သုံးယောက်တွင် တယောက်ယောက်ကို မင်းတင်မည်ဟု လှည့်ပတ်ပြောဆိုပြီးမှ ဆင်ကျောက်ကုန်း၌တင်၌

မြန်မာအစိုးရမင်းတို့ မြင်အောင်ပြလေ၏။ ငပေါလုံး၊ ခွေးကပေါက်၊ ကျွဲတကောင်နိုင်တို့လည်း မေ့မေ့လျော့လျော့ နေလေကုန်လျှင် စစ်တကောင်းမြို့ဝန်အင်္ဂလိပ်လည်း သက္ကရာဇ် ၁၁၅၆ ခု၊ ပြာသိုလပြည့်ကျော်နှစ်ရက်၊ တနင်္ဂနွေနေ့၌ ပင်းဝါရာဇာ ဖက်အရပ်တွင် ငပေါလုံး၊ ခွေးကပေါက်၊ ကျွဲတကောင်နိုင်တို့ကို မြန်မာအစိုးရလက်သို့ ပေးအပ်လိုက်လေလျှင် စုရုံးလျက် သံခြေချင်းခတ်ပြီးလျှင် အကျဉ်းထားလေ၏။

လေးမြို့သူကြီး သက်နံ့ဝေက ငပေါလုံး၊ ခွေးကပေါက်၊ ကျွဲတကောင်နိုင်တို့ကို ကျွန်ုပ်ယူဆောင်၍ သွားလျှင် လမ်းကဆီးဆို့၍ သူရဲလက်နက်ကိုင်တို့ လုယူပြန်သော် မခက်ပါလောဟု စစ်တကောင်းမြို့ဝန် အင်္ဂလိပ်ကို ပြောဆိုလေ၏။ စစ်တကောင်းမြို့ဝန် အင်္ဂလိပ်လည်း သူရဲလက်နက်ကိုင်တို့ကိုစည်းကြပ်၍ ကုလားဆင်ချောင်းဖျား တိုင်အောင်ပို့လိုက်၏။ ငစိန်ရောင်၊ ငမြရောင်၊ ငပက်လက်၊ ကိုးခွက်စား ထွန်းဦး၊ မျက်မှောင်ဖြူ၊ တိုင်းချစ်ပရုံ၊ နတ်တောင်စား၊ ရွှေကျော်၊ ဆယ်စင်းစီး၊ ဤလူပေါင်း ကိုးယောက်တို့ကား ပြေးပုန်း တိမ်းရှောင်သဖြင့် လွတ်လေကုန်၏။ မြန်မာအစိုးရမင်း တို့လည်း ငပေါလုံး၊ ခွေးကပေါက်၊ ကျွဲတကောင်နိုင်တို့ကို ရခိုင်ပြည်သို့ ယူဆောင်၍ရောက်လေလျှင် လေးမြို့သူကြီး သက်နံ့ဝေကို များစွာချီးမွမ်း၍ ဝမ်းမြောက်ဝမ်းသာ အောင်ပွဲခံကုန်၏။

သက္ကရာဇ် ၁၁၅၇ ခု၊ ကဆုန်လတန်း ခြောက်ရက်၊ ကြာသပတေးနေ့တွင် ငပေါလုံး၊ ခွေး ပေါက်၊ ကျွဲတကောင်နိုင်တို့ကို အမရပူရမြို့တော်သို့ ကြိုးဆောင်လေသော် စလင်းဆင်ဖြူကျွန်းသို့ ရောက်လေ လျှင် ခွေးကပေါက်နှင့် ကျွဲတကောင်နိုင်တို့သည် သံခြေချင်း ကိုချိုး၍ ထွက်ပြေးလေကုန်သော် ယောကျ်ား၊ မိန်းမ လူအပေါင်းတို့ ဝန်းရံဖမ်းဆီးလေလျှင် ငပေါလုံးနှင့် ခွေးကပေါက်တို့ကို ရပြန်လေ၏။ ကျွဲတကောင်နိုင် လွတ်ထွက်သွားလေ၏။ ငပေါလုံးနှင့် ခွေးကပေါက်တို့ကို အမရပူရမြို့တော်သို့ ယူဆောင်လေ၍ အစစ်ခံရုံးတော်တွင် အပ်ပေးလေ၏။ ဝန်ထောက်ကျော်ခိုင်က မောင်မင်း ငပေါလုံးသည် မုတ္တမမြို့သို့ စပါးပို့သွားရာတွင် ဒါးလက်ဝ၌ ငါ့ကိုတိုက်ပြီးလျှင် အနောက်ကုလားပြည်သို့ ထွက်ပြေးလေသည်။ ယခုစကြာ သခင်ရေမြေရှင် ဘုန်းတော်ကြောင့်မလွတ်နိုင်၍ ရောက်လာရသည်။ ညွှတ်ကွင်းတွင် ငှက်သောငှက်ကဲ့သို့ဖြစ်ခဲ့ပြီ။ ကိုယ်ခန္ဓာ အသက်ရှိသေး၏လောဟုမေး၏။

ရမ်းပြည့်စား ငပေါလုံးကလည်း ဝန်ထောက် ကျော်ခိုင်၊ မောင်မင်းကို ငါတိုက်လေလျှင် ဒါးလက် ချောင်းသို့ ဝင်ပြေးလေသောကြောင့် အသက်ချမ်းသာလေ သည်။ အဓမ္မမတရားသောအကျင့်အကြံဖြင့် စစ်တကောင်း မြို့ဝန် အင်္ဂလိပ်သည် ဥစ္စာရွှေငွေ တံစိုးလက်ဆောင်စားပြီး လျှင် ဖမ်းဆီးပေး၍ရလေသည်။ မောင်မင်း အစွမ်းသတ္တိ ကြောင့် ရသည်မဟုတ်၊ ကိုယ်ခန္ဓာအသက် ပျက်ရသည် ကား သုံးဆဲ့တဘုံတွင်းမှာ လွတ်သူမရှိဟုဆို၏။

ဝန်မင်းကြီးဝန်ထောက်တို့လည်း ငပေါလုံး၊ ခွေးကပေါက်တို့ ရွှေဖဝါးအောက်သို့ရောက်လာကြောင်းကို အမရပူရ ရွှေနန်းရှင်ဘိုးတော်မင်းအား လျှောက်ထားလေ လျှင် အသက်ကိုအဆုံးစီရင်စေဟု အမိန့်ပေးတော်မူ လိုက်၏။

ထောင်မှူးသူသတ်တို့လည်း ငပေါလုံး၊ ခွေးကပေါက်တို့ကို သုသာန်သို့ယူဆောင်ပြီး သက္ကရာဇ် ၁၁၅၇-ခု၊ နယုန်လတွင် လက်ဝါးကပ်ရိုက်လျက် သတ်ပြီးသော် အစောင့်ထား၍နေစေကုန်၏။ ရခိုင် လေးမြို့သူကြီး သက်နံ့ဝေတို့ကိုလည်း ကြည့်၍နေစေရ၏။ ငပေါလုံးသည် အမရပူရ ဘိုးတော်မင်းကိုများစွာဆဲရေး မြည်တမ်းလေ၏။ လက်ဝါးရိုက်သော နာရီမှစ၍ နှစ်ဆဲ့လေးနာရီအတွင်းမှာ ခွေးကပေါက်သေလေ၏။ ငပေါလုံးကား နာရီခြောက်ဆယ်ပြည့်မှ သေလေ၏။

ကာသပ်အမည်ရှိသော ဘင်္ဂလားမြို့ အင်္ဂလိပ် အိန္ဒိယကုမ္ပဏီမင်းကြီးသည် ငပေါလုံး၊ ခွေးကပေါက်တို့ကို

စစ်တကောင်းမြို့ဝန်က မြန်မာအစိုးရမင်းတို့လက်သို့ ပေးအပ်လိုက်ကြောင်းကို သူတပါးလျှောက်ကြား၍ သိလေလျှင် အလွန်ရှက်လှသည်ဖြစ်၍ စစ်တကောင်းမြို့ဝန်ကို အပြစ်ဒဏ်ပေး၍ စစ်တကောင်းမြို့မှ နုတ်ယူပြီးလျှင် မိုလ်မှူးခန့်၍ နီပါမြို့သို့ စစ်တိုက်ထည့်လိုက်၏။ ငပေါလုံး၊ ငခွက်ပေါက်၊ ကျဲတကောင်နိုင်တို့ကို မြန်မာအစိုးရမင်းလက်သို့ ပေးလိုက်သောကာလ ဝန်းရံ၍ လိုက်ကြသော သူရဲတို့ကိုကား ဘင်္ဂလားမြို့ အနောက်ဘက်အရပ်၌ မြေကိုတူးထွင်း၍ လမ်းတလျှောက် ကိုပို့ရန် စေခိုင်းလိုက်ပေ၏။ (ဤအရာတွင် အချို့ ရာဇဝင်သစ်တို့၌ ကာသပ်အမည်ရှိသော အင်္ဂလိပ်မင်းသည် ဘင်္ဂလားမြို့သို့ပြန်သွား၍ ဘိလပ်မြို့သို့ လျှောက်စာတင်ကြောင်း၊ ဘိလပ်အစိုးရမင်းတို့ အလွန်ရှက်၍ စစ်တကောင်းစားကို ဒဏ်ပေး၍ စစ်တကောင်းမှ နုတ်လျက် နီပါမြို့သို့ စစ်တိုက်ထည့်လိုက်ကြောင်းနှင့် ဆိုလေသည်။ ယင်းသို့ဆိုခြင်းသည် အင်္ဂလိပ်ဘုရင်မင်းတို့သည် ဘိလပ်တွင်သာရှိသည်ကိုသဘောထား၍ ရေးသားပြဆိုဟန်တူလေသည်။ ယင်းသို့တူလေသော်လည်း ထိုခေတ်ကာလ ဘင်္ဂလားစသော ဣန္ဒိယအလယ်တရိုးကို အစိုးရသော အင်္ဂလိပ်လူမျိုး ဣန္ဒိယကုမ္ပဏီမင်းတို့သာ စိုးပိုင်အုပ်ချုပ်၍ မင်းပြုနေသော ခေတ်ကာလဖြစ်ပေသောကြောင့် ဘိလပ်သို့ စာတင်ရန်လိုမည်မထင်။ ဘင်္ဂလားကုမ္ပဏီမင်းကြီးပင် အလိုရှိရာ စီရင်ဆုံးဖြတ်ပြုပြင်နိုင်သည် ဟူ၍သာ မှတ်ရမည်။ ထိုအကြောင်းကို အမြွက်မျှ ရေးပြလိုက်ပေအံ့။

အင်္ဂလိပ်စသော ဥရောပတိုက်သား ဣန္ဒိယတိုင်းပြည်သို့ဝင်လာသည့် အကြောင်းအစကား ဝါစနိုဒါမဟု အမည်ရှိသော ပေါတုဂီပြည်သား သင်္ဘောသူကြီးတယောက်သည် အာဖရိကတိုက် တောင်စွန်းဖြစ်သော ဥပ်ဟုပ်အငူကို အနောက်ဘက်ကလှည့်လာ၍ ခရစ်ယံသက္ကရာဇ် ၁၄၉၈-ခုနှစ်၊ မေလ အရက်နှစ်ဆယ် နေ့၊ မြန်မာသက္ကရာဇ် ၈၆၀ပြည့်၊ နံယုန်လတွင် ဣန္ဒိယတိုင်း အနောက်တောင်ကမ်း၌တည်ရှိသော ကုလိကတ်မြို့သို့ ဆိုက်ရောက်လာသည်နှင့် ပင်လယ်လမ်းအားဖြင့် ရှေးဦးစွာရောက်လာသော ဥရောပတိုက်သားပေတည်း။ ထိုသို့ ပင်လယ်ကမ်းကို တွေ့ဖောက်ပြီးမှ ဥရောပတိုက်နှင့်ဆိုင်သော ပေါတုဂီပြည်သား၊ ဓပိန်ပြည်သား၊ ဖရန်သစ်ပြည်သား၊ ဟောလိန်ပြည်သား၊ ဂနပြည်သား၊ အင်္ဂလိပ်ပြည်သားဟူ၍ အမျိုးမျိုးသော ကုန်သည်တို့သည် အချင်းချင်းအားကျ၍ ဣန္ဒိယတိုင်းပြည်တို့၌ ရောင်းဝယ်ဖောက်ကားခြင်းအမှုကိစ္စတို့တွင် တဦးကိုတဦးနိုင်အောင် အထူးသဖြင့်ကြိုးစားကြလေ၏။

ထိုသို့ကြိုးစားကြသည်နှင့်အညီ အင်္ဂလိပ်ကုန်သည်အချို့တို့သည် အိန္ဒိယတိုင်းတွင် ကုန်သွယ်ဖောက်ကားခြင်းပြုအံ့သောငှာ အပေါင်းအသင်းဖွဲ့၍ ခရစ်ယံသက္ကရာဇ် ၁၆၀၀ ပြည့်၊ မြန်မာသက္ကရာဇ် ၉၆၂-ခုနှစ်၌ အင်္ဂလိပ်ရှင်ဘုရင်မ ဧလိဇပက် အမိန့်လက်မှတ်တံဆိပ်တော်နှင့်တကွ အရှေ့ဣန္ဒိယကုမ္ပဏီဟူသော ဘွဲ့နာမအားဖြင့် တည်ထောင်စ အခွင့်တော်ကို ရကြလေ၏။ ၎င်းအရှေ့ဣန္ဒိယကုမ္ပဏီ တည်စကာလ၌ အထူးသဖြင့် တန်ခိုးငယ်သော်လည်း တနှစ် နောက်တနှစ် တဖြေးဖြေး အားတိုးတက်လေ၏။ ခရစ်ယံ သက္ကရာဇ် ၁၆၁၂ ခု၊ မြန်မာသက္ကရာဇ် ၉၇၄ ခုနှစ်တွင် ဒေလီမြို့မံဂိုရ်ဘုရင်ထံ လျှောက်ထားသဖြင့် အခွင့်တော်ကို ရသည်နှင့် ဘုံပိုင်မြို့မြောက်ဘက်အရပ် တမ္ပတိမြစ်ဝကမ်းမှာ ဆူရတ်ဟူသော သင်္ဘောဆိပ်မြို့တွင် အင်္ဂလိပ်ဈေးကို တည်ထောင်ရာ အခွင့်တော်ကိုရသောအားဖြင့် အရှေ့ဣန္ဒိယကုမ္ပဏီတို့သည် ဣန္ဒိယတိုင်း၌ ပဌမအတည်ကျကြလေ၏။

၎င်းနောက် ခရစ်ယံသက္ကရာဇ် ၁၆၄၅ ခု၊ မြန်မာသက္ကရာဇ် ၁၀၀၇ ခုနှစ်တွင် ဣန္ဒိယတိုင်းကြီး အရှေ့ဘက်ကမ်း မဒရတ်မြို့နားတွင် ဈေးနှင့်တကွ စံဇောဟူသော ရဲတိုက်ကို တည်ရသောအခွင့်ရကြလေသည်။

၎င်းနောက် ခရစ်ယံသက္ကရာဇ် ၁၆၇၆ ခု၊

မြန်မာသက္ကရာဇ် ၁၀၃၈ ခုနှစ်တွင် ဟူဂလီမြစ်ကမ်းပေါ်၌ ကာလကတ္တား ဘင်္ဂလားမြို့အစဖြစ်သော အင်္ဂလိပ်ဈေးများကို တည်ရသောအခွင့်ကို ပြည်သားအစိုးရတို့ထံ ရကြပြန်လေသည်။

ထိုသို့ အရှေ့ဣန္ဒိယကုမ္ပဏီအဝင်အပါဖြစ်သော အင်္ဂလိပ်လူမျိုးတို့သည် ဣန္ဒိယတိုင်းကြီးအတွင်း၌ အခြေကျသည် ကာလအခါ၌မူကား ဣန္ဒိယအစိုးရ မံဂိုရ်မင်းတို့၏ နိုင်ငံဘုန်းတန်းခိုးအာနုဘော် အထင်အရှားဆုံးဖြစ်သည့် အခိုက်ကာလပေတည်း။

ၛင်းနောက် များမကြာ ခရစ်ယံသက္ကရာဇ် ၁၇၀၇ ခု၊ မြန်မာသက္ကရာဇ် ၁၀၆၉-ခုနှစ်တွင် မံဂိုရ်ရှင်ဘုရင် ဩရံဇဗီသည် ဒီလီမြို့တွင် အနိစ္စရောက်လေသည်နှင့် နန်းကိုလုယူကြသောသူအများအားဖြင့် ကြာမြင့်စွာ ရန်းရင်းခတ်ပြုကြသောကြောင့် နိုင်ငံတန်းခိုး ဆုတ်ယုတ်လေ၏။ ထိုအပြင်လည်း ခရစ်ယံသက္ကရာဇ် ၁၇၃၉ ခု၊ မြန်မာသက္ကရာဇ် ၁၁၀၁ ခုနှစ်တွင် ပေရှုဘုရင် နာဒရှာမင်းသည် စစ်ချီလာ၍ မံဂိုရ်မြို့တော် ဖြစ်သော ဒီလီမြို့ကိုတိုက်ဖျက်ဆီးသည်နှင့် ကုဋေ ၂၀ တန်သော လက်ရဥစ္စာတို့ကို သိမ်းယူသွားသဖြင့် မံဂိုရ်မင်း အာဏာတန်းခိုးသည် သာ၍တိမ်မြုပ်ပြန်သည်နှင့် ၎င်းနိုင်ငံသည် ကွဲပြားခြင်းသို့ရောက်လေ၏။

၎င်းနောက် ကွဲပြားသောနိုင်ငံငယ်များတို့သည် အချင်းချင်းတိုက်ခိုက်ကြသောကြောင့်၎င်း၊ ဖရန့်သစ်ပြည်သားတို့သည်လည်း ဝင်လာ၍ မိမိတို့ အကျိုးစီးပွားကိုရှာကြသဖြင့် အင်္ဂလိပ်ကုမ္ပဏီတို့ကို ရန်ဖက်ပြုမူသောကြောင့်၎င်း၊ အင်္ဂလိပ်ပြည်သား ကုမ္ပဏီတို့သည် မခုခံဘဲမနေသာသည်ဖြစ်၍ ပြည်သား မင်းအချို့တို့နှင့် ပူးပေါင်း၍ စစ်တိုက်ရကြလေ၏။ ခရစ်ယံသက္ကရာဇ် ၁၇၅၇ ခု၊ မြန်မာသက္ကရာဇ် ၁၁၁၉ ခုနှစ်တွင် ကာလကတ္တာ ဘင်္ဂလားမြို့ မြောက်ဘက် မိုင်ပေါင်း ၁၀၀ ခန့်ကွာသော ပလာစီအရပ်စစ်ပွဲကြီးတွင် အင်္ဂလိပ်လူမျိုးတို့က အရေးသာ၍ ဆယ်နှစ်ပတ်လုံး အရပ်၌တိုက်ပြီးမှ ခရစ်ယံသက္ကရာဇ် ၁၇၆၅ ခု၊ မြန်မာသက္ကရာဇ် ၁၁၂၇ ခုနှစ်တွင် စစ်အမှုငြိမ်းသောအခါ အင်္ဂလိပ်ကုမ္ပဏီတို့သည် ဘင်္ဂလားမှစ၍ ဣန္ဒိယ အလယ်ပိုင်းနယ်တို့တွင် အစိုးရသဖြင့် အရှေ့ဣန္ဒိယ ကုမ္ပဏီတို့သည် မင်းအာဏာတန်ခိုးရကြလေကုန်သည်။

၎င်းနောက် ခရစ်ယံသက္ကရာဇ် ၁၇၉၉ ခု၊ မြန်မာသက္ကရာဇ် ၁၁၆၁ ခုနှစ်တွင် မဒရတ်နယ် စီရင်ပတ္တမ် စစ်ပွဲအားဖြင့် ပြည်၏တောင်ပိုင်းမိုင်စိုရ်နိုင်ငံကို၎င်း၊ ခရစ်ယံသက္ကရာဇ် ၁၈၀၃ ခု၊ မြန်မာသက္ကရာဇ် ၁၁၆၅ ခုနှစ်တွင် အနောက်မြောက်ပိုင်းနယ် အဆေလီစစ်ပွဲအားဖြင့် ဒေလီ၊ ဣန္ဒပတ္တနဂိုရ်၊ အာဂရ၊ သက်ဿနဂိုရ်ပြည်များနှင့်တကွ မံဂိုရ်နိုင်ငံကို၎င်း အောင်မြင်ကြသဖြင့် အရှေ့ဣန္ဒိယ ကုမ္ပဏီပိုင်သော နိုင်ငံသည် ခိုင်ခံ့စွာတည်လေ၏။

၎င်းနောက်နိုင်ငံသည် တနှစ်ထက်တနှစ် ကြီးကျယ်တိုးတက်သဖြင့် အရှေ့ဣန္ဒိယကုမ္ပဏီမင်းတို့သည် ခရစ်ယံသက္ကရာဇ် ၁၈၃၃ ခု၊ မြန်မာသက္ကရာဇ် ၁၁၉၅ ခုနှစ်ကစ၍ ကုန်သွယ်ခြင်းအမှုကိုမဆောင်ပဲ တိုင်းပြည်များကို အုပ်စိုးခြင်းအမှုအရေးတို့ကိုသာ ဆောင်ရွက်ကြလေကုန်၏။ ခရစ်ယံသက္ကရာဇ် ၁၈၅၇ ခု၊ မြန်မာသက္ကရာဇ် ၁၂၁၉ ခုနှစ်တွင် ဘင်္ဂါလီအမျိုး ကုလားနက် စစ်ဘာရီတို့သည် မင်းအာဏာကိုဆန့်၍ ပုန်ကန်ကြပေသည်။ ယင်းသို့ ပုန်ကန်ကြသောသူတို့ကို အင်္ဂလိပ်ကုမ္ပဏီမင်းတို့သည် အကုန်အစင် နှိပ်နင်း ကွပ်ညှပ်သဖြင့် နိုင်ငံငြိမ်သက်ပြီးလျှင် အထက်က ပြထားခဲ့သည့်အလျောက် ခရစ်ယံသက္ကရာဇ် ၁၈၅၈-ခု၊ မြန်မာသက္ကရာဇ် ၁၂၂၀ ခုနှစ်တွင် အရှေ့ဣန္ဒိယ ကုမ္ပဏီမင်းတို့သည် ဣန္ဒိယတိုင်းပြည်ကို အုပ်စိုးခြင်း အမှုအရေးအလုံးစုံတို့ကို အင်္ဂလိပ်ရှင်ဘုရင်မလက်တော်သို့ ပြန်အပ်ကြလေသည်ဟူ၍ ပထဝီဝင်ကျမ်း ဣန္ဒိယနိုင်ငံ အကြောင်း ၂၀၉ နံပါတ်တို့၌ဆိုသည်။

ယင်းသို့ဆိုသည်ကိုထောက်လျှင် ငပေါလုံးတို့ကို စစ်တကောင်းမြို့ဝန်က မြန်မာအစိုးရလက်သို့ အပ်ပေး

လိုက်သောအခါ မြန်မာသက္ကရာဇ်သည် ၁၁၅၆-ခုဖြစ်သောကြောင့် ခရစ်ယံသက္ကရာဇ်သည် ၁၇၉၄-ခုနှင့် ဆိုင်သည်ဖြစ်၍ အင်္ဂလိပ်ကုမ္ပဏီမင်းတို့ ဘင်္ဂလားစသော ဣန္ဒိယပြည် အလယ်ပိုင်းကို အုပ်စိုးရသည့်နှစ်ပေါင်း ၂၉ နှစ်သာ ရှိသေးသည်။ နောက် ၆၄-နှစ် စိုးအုပ်ပြီးမှ ဘိလပ်ရှင်ဘုရင်မထံ အပ်လေသည်။ နှစ်ရပ်ပေါင်း ၉၃-နှစ်တိုင်အောင် ကုမ္ပဏီမင်းတို့ စိုးအုပ်နေခိုက်နှင့်ကြုံသောကြောင့်၎င်း၊ ရာဇဝင်ပေါင်းချုပ်တွင် မြန်မာပြည်ကို အိန္ဒိယကုမ္ပဏီမင်းတို့ တိုက်ခိုက်ဝင်ရောက်သဖြင့် ရန္တပိုမြို့တွင် မြန်မာသက္ကရာဇ် ၁၁၈၇-ခု၊ ခရစ်ယံသက္ကရာဇ် ၁၈၂၆-ခုနှစ် သဘောတူစာချုပ် ပြုလုပ်ကြရာဝယ် ဣန္ဒိယတိုင်းကိုအစိုးရသော အင်္ဂလိပ်ကုမ္ပဏီဘုရင်က ခန့်ထားသော ဗိုလ်ချုပ်ကြီး အာစီဘောကမ္ဗက အရေးပိုင်မင်း ရောအစ်စံတို့နှင့် မြန်မာဘုရင်ကခန့်ထားသော လယ်ကိုင်းမြို့စား ဝန်ကြီးမဟာမင်းလှကျော်တင်၊ အတွင်းဝန်မင်း မဟာမင်းလှသီဟသူတို့ စာချုပ်ချုပ်ဆိုကြကြောင်းနှင့် ဆိုသောကြောင့်၎င်း၊ ဣန္ဒိယကုမ္ပဏီ ဘင်္ဂလားမင်းကြီးရှက်၍ စစ်တကောင်းမြို့ဝန်ကို အပြစ်ဒဏ်ပေး၍ ရာထူးမှနုတ်လေသည်ဟူ၍သာ ယူသင့်မည်ထင်ပေသည်။ ဤသည်ကား အမြွက်မျှရေးပြလိုက်သည့် အကြောင်းတည်း)။

မြို့ဝန်မောင်ကျော်လှ မင်းလှရာဇာလည်း နှစ်နှစ်ခန့်ရှိလျှင် ရာထူးမှလျှောကျ၍ သွားလေ၏။ ၅။

မောင်ကျော်လှ ရာထူးမှလျှောကျလေလျှင် စိန်ဘူးသည် မင်းကြီးကျော်ထင် အမည်ကိုခံ၍ သက္ကရာဇ် ၁၁၅၇ ခု၊ နတ်တော်လတွင် ရခိုင်မြို့ဝန်ပြုလာပြန်၏။ ထိုမင်းကြီး ကျော်ထင်လက်ထက် သက္ကရာဇ် ၁၁၅၉-ခု၊ တပို့တွဲလတွင် ရခိုင်ပြည်ကို စစ်ပြု၍သိမ်းယူသောအခါ ပိဋကတ်ကျမ်းစာတို့ကို များစွာသိမ်းယူလေသည်ဖြစ်၍ ထိုပိဋကတ်ကျမ်းစာတို့ကို အမရပူရဘိုးတော်မင်းက ရခိုင်ပြည်သို့ပြန်ပို့တော်မူစေပြီးလျှင် ရခိုင်မြို့တွင် ပိဋကတ်တိုက်တည်၍ ထားစေတော်မူ၏။ ထိုပိဋကတ်တိုက်မှ အသစ်ရေးကူး၍ သင်ကြားစေ၏။ ၎င်းရခိုင်မြို့ဝန်မင်းကြီးကျော်ထင်ကို အမရပူရရွှေနန်းရှင် ဘိုးတော်မင်းက ခေါ်တော်မူလေလျှင် မြောက်စစ်ကဲနားခံကို ရခိုင်မြို့စောင့်ထား၍ အမရပူရမြို့သို့ သွားလေ၏။ ရောက်လေသော် မင်းကွန်းစေတီတော်တည်ရန် လူနှစ်ထောင်ပေးရမည်ဟု ဘိုးတော်မင်းကတောင်းလေလျှင် ရခိုင်မြို့ဝန်မင်းကြီးကျော်ထင်နှင့် ရခိုင်မြို့သူကြီး သံတွေသမက်လက်ရုံးဗိုလ်တို့သည် ရခိုင်ပြည်သို့လာလတ်ကုန်၍ ရခိုင်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်တို့တွင် အုတ်လုပ်ရန် လူနှစ်ထောင်တို့ကိုတောင်း၍ နေကြစဉ်တွင် လက်ယာမြန်ရွာအုပ်ငတုံးစံ၊ ကောရွှေ၊ ဒင်္ဂါးတောင်စား တုံးစံရွှေတို့သည် သက္ကရာဇ် ၁၁၆၀-ပြည့်၊ တန်ဆောင်မုန်းလဆန်းနှစ်ရက်၊ အင်္ဂါနေ့တွင် တိုက်စည်တီး၍ သောင်းကြမ်းပုန်ကန်ကြလေကုန်၏။ မြန်မာမင်းမြို့စောင့်တို့လည်း ငတုံးစံ၊ ကောရွှေ၊ တုံးစံရွှေတို့ကို တိုက်အံ့သောငှာ များစွာသော ရဲမက်လက်နက်ကိုင်တို့နှင့် ရခိုင်မြို့သူကြီးသံတွေသား စည်းတင်စားချင်းပြန်ကိုစေလိုက်၏။ ချင်းပြန်လည်း ချီသွားလေသော် မယူကမ်းအောင်တပ်သို့ရောက်လေလျှင် ရခိုင်သားတို့ လှည့်ပတ်သောစကားကိုယုံကြည်၍ ဗိုလ်မင်းသီရိကျော်ထင်နှင့် အခွန်စာရေး ဖေယျကျော်တို့ကို ဖမ်းဆီးပြီးလျှင် အကျဉ်းထား၍နောက်၌ သတ်ပစ်ပြီးလျှင် အောင်တပ်ကနေ၍ ပုန်ကန်သောင်းကြမ်းလျက် လက်ရုံးဗိုလ်တို့နှင့် မယူကမ်းတွင် အောင်တပ်တည်၍ နေလေ၏။ ငတုံးစံ၊ ကောရွှေ၊ တုံးစံရွှေတို့ကား ငါရကောက်တွင် တပ်တည်၍နေလေ၏။

ရမ်းပြည့်ဝန် လယ်ကိုင်းစားလည်း ရမ်းပြည့်မြို့သူကြီး မောင်စံမြကို ရခိုင်မြို့သူကြီး ချင်းပြန်အဘ သံတွေက အတွင်းစာပေးသည်ဟုအမှုပြုလုပ်၍ သံခြေချင်းနှင့် အကျဉ်းထားပြီးမှ ရမ်းပြည့်ဝန်၊ လယ်ကိုင်းစား၊ မာန်အောင်ဝန်၊ လယ်ယာရွှေတောင်တို့ ပေါင်း၍ချီလာပြီးလျှင် လမ်းခရီးတွင် ရမ်းပြည့်မြို့သူကြီး မောင်စံမြကို သတ်၍ပစ်ပြီးမှ ချီ၍သွားကြလေကုန်၏။

(ဤအရာတွင် အချို့ရာဇဝင်သစ်၌ ရမ်းပြည့်မြို့သူကြီးအမည်ကို လေးခက်တောင်စား မောင်စံမြဟူ၍ ဆိုလေသည်။ လေးခက်တောင်စားနာမည် ထွေန်းစံသာ ဖြစ်သည်။ မောင်စံမြ မဟုတ်။ မောင်စံမြဖြစ်လျှင် လေးခက် တောင်စား မဟုတ်။ လေးခက်တောင်စားသည် သက္ကရာဇ် ၁၁၄၉-ခုနှစ် ရမ်းပြည့်မြို့သူကြီးအဖြစ်နှင့် ရောက်၍ သက္ကရာဇ် ၁၁၅၂-ခုနှစ်တွင် ရာထူးမှ လျော့သွားလေသည်။ ထိုနှစ်ပင် မောင်စံမြကို ရမ်းပြည့်မြို့သူကြီးခန့်လိုက်သဖြင့် သက္ကရာဇ် ၁၁၆၀-ပြည့်တိုင်အောင်ရှိနေကြောင်းနှင့် ရာဇဝင်ပေါင်းချုပ်၌ ဆိုသည်။ ဤကား အမှာစကားချုပ်)။

ငါရကောက်တွင် တပ်တည်၍နေသော လက်ယာမြန် ရွာအုပ် ငတုံးစံ၊ ကောရွှေ၊ ဒဂ်ါးတောင်စား တုံးစံရွှေတို့နှင့်တွေ့၍ သက္ကရာဇ် ၁၁၆၀-ပြည့် နတ်တော်လတွင် တိုက်ကြလေသော် လက်ယာမြန်ရွာအုပ် ငတုံးစံ၊ ဒဂ်ါးတောင်စား တုံးစံရွှေတို့သည် ပျက်စီး၍ပြေးလေကုန်၏။ သံတွဲဝန် ကျော်ထင်သီဟသည် များစွာသော ရဲမက်ဗိုလ်ပါနှင့်ချီလာ၍ ရခိုင်ပြည်သို့ရောက်လာလျှင် ရခိုင်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင်၊ လေးမြို့ဝန်တို့ ချီသွားလေ၍ မယူကမ်းကျွဲရိုင်းခုံတွင် တပ်တည်၍နေသော ချင်းပြန်၊ လက်ရုံးဗိုလ်၊ ပလက်စား ငစံတို့ကို သက္ကရာဇ် ၁၁၆၀-ပြည့် ပြာသိုလတွင် တိုက်ကြလေသော် ချင်းပြန် တပ်စီးတပ်နင်းတို့သည်ပျက်စီးသဖြင့် ထွက်ပြေးတိမ်းရှောင်သွားကြလေကုန်၏။ ချင်းပြန်လည်း အနောက် စစ်တကောင်း ကုလားပြည်သို့ပြေးဝင်၍ နေလေ၏။ မြန်မာလေးမြို့ဝန်တို့လည်း နောက်ထပ်လိုက်လေ၍ ပင်းဝါမြို့ ဂေါ်တော်ပလ္လင်တွင် တပ်တည်၍ နေလာကုန်၏။ ထိုအကြောင်းကို စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းကြားလေသော် ဗိုလ်မှူး၊ တပ်မှူး၊ သူရဲ သူခက် များစွာတို့ကိုစေလိုက်၍ ချီလာကြပြီးလျှင် ဂေါ်တောပလ္လင်တွင်ပင် တပ်ပြိုင်၍ နေလာကုန်၏။

အမရပူရ ရွှေနန်းရှင်ဘိုးတော်မင်းက ထိုအကြောင်းကို ကြားသိတော်မူလေသော် ပင်းတလဲဗိုလ်ကို တောင်ကြောင်းခရီး၊ အရှေ့ဝင်းမှူးငတာကို ရေကြောင်းခရီး စေတော်မူလိုက်၏။ ရေအားကြည်းအား ချီလာပြီးလျှင် ဂေါ်တော်ပလ္လင်တွင် ရောက်လာပြန်၏။ ချင်းပြန်၊ လက်ရုံးဗိုလ်၊ ပလက်စားငစံ၊ ကောရွှေ၊ တုံးစံရွှေတို့ကို သူပုန်သူကန် ဖြစ်သည်။ ပေးရမည်ဟု စစ်တကောင်း အင်္ဂလိပ်ဗိုလ်မှူးထံ တောင်းလေ၏။ အင်္ဂလိပ်ဗိုလ်မှူးတို့လည်း မပေးလိုသောကြောင့် ရန်စစ်ကြီးစွာ ဖြစ်ကြကုန်၏။

သက္ကရာဇ် ၁၁၆၀-ပြည့် တပို့တွဲလပြည့်နေ့တွင် မြန်မာနှင့်အင်္ဂလိပ်တို့ တိုက်ကြလေသော် အင်္ဂလိပ်ဗိုလ်မှူးနှစ်ယောက် လက်နက်ထိ၍သေလေ၏။ ကုလားသူရဲတရာကျော်ခန့် လက်နက်မှန်၍သေလေကုန်၏။ မြန်မာတပ်မှူးတို့သည် မြေခံတုတ်ထဲက ပုန်းအောင်း၍နေသောကြောင့် အသေအပျောက်မရှိကြကုန်။ ထိုနောက် မြန်မာ အင်္ဂလိပ်စစ်သည်နှစ်ဦးလုံးပင် တပြိုင်နက်ဆုတ်၍ သွားကြလေ၏။ ရခိုင်ပြည်တွင် ချင်းပြန်သူရဲလက်နက်ကိုင်ဟု အပြစ်ပြုပြီးလျှင် လူတို့ကိုများစွာဖမ်း၍ သတ်ကြကုန်၏။ ဤသည်ကား သက္ကရာဇ် ၁၁၆၀-ကစ၍ ချင်းပြန်ထကြွ သောင်းကြမ်းသော ပထမအကြိမ်တည်း။

ချင်းပြန်၊ လက်ရုံးဗိုလ်၊ ပလက်စား ငစံ၊ တုံးစံရွှေ၊ ကောရွှေ၊ အရှေ့ဝင်းမှူး လက်ဝဲမြန်ဖောင်သာ စသောသူတို့သည် အရှေ့မြန်မာအစိုးရမင်းက ရာဇတမန်ဖြင့် ဘင်္ဂလားမြို့သို့သွားစေ၍ အကြိမ်ကြိမ် ငါတို့ကိုတောင်းကုန်၏။ ဣန္ဒိယတိုင်းကိုအစိုးရသော အင်္ဂလိပ်လည်း ပြည်ထဲအရေးအရာငြိမ်းအံ့သောငှာ စက္ကူတွင်စာရေး၍ အကောက်ဝန် ရေကောက်ကို ရာဇတမန်ပြု၍ ရခိုင်ပြည်သို့စေတော်မူ၍သွားလေသော် ရခိုင်ဝန်မင်းကြီးကျော်ထင်၊ သံတွဲဝန် ကျော်ထင်သီဟ၊ ရမ်းပြည့်ဝန် လယ်ကိုင်းစား၊ မာန်အောင်ဝန် လက်ယာရွှေတော်တို့နှင့်တွေ့ကြုံ၍ မျက်နှာစုံညီ ဗားဗူတောင်ဆိပ်တွင် အင်္ဂလိပ်သံတမန် ရေကောက်နှင့် ရခိုင်ဝန်တို့ သက္ကရာဇ် ၁၁၆၁-ခု၊ နတ်တော်လတွင်

ပြည်ထဲအရေးအရာကိုပြောဆိုကြလျှင် ပြည်ထဲအရေးသည် ငြိမ်းချမ်းသာယာ၍ ရွှေလမ်းငွေလမ်း ပေါက်ရောက်လေပြီဟု ချင်းပြန်၊ လက်ရုံးမိုလ်တို့ကြားလေလျှင် အင်္ဂလိပ်မင်းတို့လက်က လွတ်ရာလွတ်ကြောင်းကို အကြံရှိသဖြင့် သတိပြုလျက် အချင်းချင်းတိုင်ပင်နှီးနှော၍ နေကြကုန်၏။ ထိုသို့ အင်္ဂလိပ်အစိုးရမင်း၊ မြန်မာအစိုးရမင်းတို့ သင့်တင့်ညီညွတ်သည်မှစ၍ ၁၁၆၂-ခု၊ ကဆုန်လကစ၍ ခေါ်မြဲကဆုန်ကို ပုံတော်ဝင်ဟုဆို၍ နှစ်လည်အောင် လူစာရင်းမှတ်သားကြရ၏။

သက္ကရာဇ် ၁၁၆၂-ခု၊ နယုန်လတွင် ရခိုင်၊ သံတွဲ၊ ရမ်းပြည်၊ မာန်အောင် လေးမြို့၌ နေထိုင်သော လူတို့ကို တအိမ်လျှင်သုံးအိမ်ပြု၍ ရွာသူကြီးအမည် ထည့်ပြီးလျှင် မြေတိုင်းစာရေးဟု အမရပူရဘိုးတော်မင်းထံ လှည့်ဖြား၍ သွင်းလေ၏။

၎င်းနှစ် နတ်တော်လတွင် ရခိုင်လေးမြို့၌ အသုံးစေစားရန်ဆို၍ သူငယ်တော် သုံးရာဆက်သွင်းရ၏။ ၎င်းနှစ် တပေါင်းလတွင် ဝေသာလီကို လက်ကိုင်လိုသည်ဟု ရခိုင်လေးမြို့၌လူတောင်းပြန်သောကြောင့် လူတထောင်ပေးဆက်ရ၏။ ၎င်းနောက် သက္ကရာဇ် ၁၁၆၄-ခု၊ ကဆုန်လကစ၍ သူငယ်ပုစက်တွင်းသားမျှ မလွတ်ရအောင် လူတယောက်လျှင် ငွေဒင်္ဂါးတသပြာစီ ဒဿမကြေးထမ်းဆို၍ ရခိုင်လေးမြို့ကပေးဆက်ရ၏။ ၎င်းနောက် သက္ကရာဇ် ၁၁၆၅-ခု၊ တန်ဆောင်မုန်းလတွင် ဆင်ဖြူတော်ကို အကန်တော့ဆို၍ ရခိုင်လေးမြို့သူကြီး လူကြီးတို့ကိုခေါ်၍ အမရပူရမြို့တော်သို့သွားရလေ၏။

သက္ကရာဇ် ၁၁၆၇-ခု၊ တန်ဆောင်မုန်းလတွင် ဒဿမကြေး မမှီဟူ၍ လူဦးရေတိုင်း ငွေဒင်္ဂါး တသပြာစီ ပေးရ၏။

သက္ကရာဇ် ၁၁၆၈-ခု၊ နယုန်လတွင် အမရပူရမြို့တော်တွင်နေသော တပ်မှူး ဗိုလ်မှူးတို့ကို ယိုးဒယားပြည်သို့ စစ်ချီရမည်ဖြစ်သောကြောင့် ရခိုင်လေးမြို့တွင်နေသော လူများစွာတို့ကို လက်နက်ကိုင်ပေးရလေ၏။

သက္ကရာဇ် ၁၁၇၂-ခုနှစ် ရောက်လတ်သောအခါ ကဆုန်လတွင် ရုပ်ရှင်တော်မဟာမုနိဘုရား၏အနီး ဦးတော်ဆေးကန်အစရှိသော ချောင်းမြောင်းမြစ်ရေတို့သည် နီနီတွေးတွေးသွေးကဲ့သို့ ဖြစ်ကုန်၏။ ပိုးပုရွက်ခြတို့သည် ရေတွင်ကျ၍ များစွာသေကုန်၏။ သစ်ပင်စောင့်နတ်တို့သည် များစွာငိုကုန်၏။ ရမ်းပြည်ကျွန်းတွင်လည်း အလွန်မြင့်မော်သော ကလန်ကြမ်းတောင်သည် ထိန့်ထိန့်ရိုက်၍ ကြည်းဟည်း၏။ ရမ်းပြည်ကျွန်း ရမ်းပေါက်ရွာ၌ တည်ထားသော လက်ယာဘုရားရုပ်ပွားတော်လည်း အနောက်ဘက်သို့ မျက်နှာပြု၍နေတော်မူလေ၏။ ဤသို့ များစွာသော တိတ်နိမိတ်တို့သည် ထင်ကုန်၏။

ချင်းပြန်၊ လက်ရုံးမိုလ်စသော လူတစုတို့လည်း အချင်းချင်းနှီးနှောတိုင်ပင်ကြရာ စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းတို့သည် သူတို့အားဖမ်း၍ သံခြေချင်းခတ်ပြီးလျှင် အကျဉ်းထားမည့်အကြောင်းကို ရိပ်မိကြလေသဖြင့် ချင်းပြန်စသော လူတစုတို့သည် စစ်တကောင်းနယ်ပယ်မှ ရှောင်ရှားထွက်လာပြီးလျှင် များစွာသောသူရဲအပေါင်းတို့နှင့် ချီလာခဲ့၍ ငတ်မြစ်လက်ယာဘက်၌ အစောင့်ထားသော မြန်မာတပ်မှူး မုံတောစားကို တိုက်ဖျက်ပြီးလျှင် ရခိုင်ပြည်သို့ ဝင်လျက် မယူကမ်းအောင်တပ်ကနေ၍ သက္ကရာဇ် ၁၁၇၃-ခု၊ ကဆုန်လတွင် မြောက်ဦးမြို့ကို တိုက်ဖျက်လာ၏။ မြို့တွင်းရှိလူတို့သည် မြို့ပြင်သို့ထွက်၍ ရှောင်ရှားနေကြကုန်၏။ ချင်းပြန်၊ လက်ရုံးမိုလ်တို့လည်း အကြိမ်ကြိမ် မြန်မာတို့နှင့်တိုက်ခိုက်၍နေစဉ် သံတွဲ၊ ရမ်းပြည်၊ မာန်အောင်တွင်ရှိသော မြန်မာဟူသမျှတို့သည် လာ၍တိုက်ကြလေလျှင် ချင်းပြန်တပ်မှူး ဗိုလ်မှူး လက်နက်ကိုင်သားတို့သည် ပျက်စီးသည်ချည်း ဖြစ်သောကြောင့် တပ်ကိုနောက်ဆုတ်ပြီးလျှင် ဆည်တိုင် ကန်ဆိပ်တွင် တပ်တည်၍နေလာကုန်၏။

ချင်းပြန်၊ လက်ရုံးမိုလ်တို့ ပုန်ကန်သောင်းကြမ်းသော အကြောင်းကိုကြားလေ၍ မာန်အောင်ဝန် ရန်တိုင်၊ ရမ်းပြည်သူကြီးတို့ များစွာသော သူရဲတို့နှင့် တပ်ချီ၍လာ

သည်ကို ချင်းပြန်၊ လက်ရုံးဗိုလ်တို့၏ တပ်မှူးဗိုလ်မှူးတို့ သိလေလျှင် သက္ကရာဇ် ၁၁၇၃ ခု၊ ကဆုန်လတွင် မိုးသီးနတ်တောင်မြစ်ပြင်ဝယ် လက်နက်ဆိုင်ပြိုင်၍ တိုက်ကြလေသော် မာန်အောင်ဝန် ရန်တိုင်အစရှိသော သူ့ရဲလက်နက်ကိုင်ဟူသမျှတို့သည် တယောက်မျှ မကြွင်းကျန် သေလေကုန်၏။ မြန်မာဗိုလ်မှူး တပ်မှူးတို့သည် အတိုက်မခံဝံ့၊ ကြောက်ရွံ့သောကြောင့် လှေကိုပစ်၍ ကြည်းကုန်းသို့တက်ပြီးလျှင် ပြေးကြလေကုန်၏။ သံတွဲဝန် ရွှေပန်း၊ ရမ်းပြည့်ဝန် လက်ယာစည်သူ နော်ရထာတို့သည်လည်း အလွန်ကြောက်ရွံ့ထိတ်လန့်၍ လှေတက်စီးပြီးလျှင် ပြေးလေကုန်၏။

ချင်းပြန်၊ လက်ရုံးဗိုလ်တို့လည်း မြန်မာလူမျိုးတို့ကို များစွာသတ်ပစ်ကုန်၏။ လက်နက်ကိရိယာများစွာ ရလိုက်၏။ ရခိုင်ဗိုလ်ချုပ် မျက်တောင်ရှည်ကိုလည်း နန္ဒိသေနဗန္ဓုလ စစ်သူကြီးအမည်ကိုပေးလေ၏။ ချင်းပြန်၏ တပ်မှူးဗိုလ်မှူးတို့သည် ရမ်းပြည့်၊ မာန်အောင်၊ သံတွဲစသော အရပ်ရပ်မြို့ရွာတို့၌ တပ်နှင့်ချည်းစည်းအုပ်၍ထားလေ၏။ ရခိုင်ပြည်တွင် လက်ယာမြန်အရပ်က ပလက်စားငစံ၊ တပ်မှူးမောင်ရွှေတို့ကို တပ်နှင့်စောင့်နေစေ၏။ ငါရကောက်အရပ်က နောင်တော် လေးမြို့စား ကျော်အောင်ကို တပ်စောင့်ပြု၍နေစေ၏။ ရွှေနတ်ပင်လမ်းကြောင်းက အောင်ကျော်ရွှေကို စောင့်စေ၏။ လောင်းကြက် မြို့ဟောင်းက ဗိုလ်စော်ကဲ၊ တပ်မှူးသောက်ကြာတို့ကို စောင့်နေစေ၏။ ရန်းဝမြစ်က ဗိုလ်နန်းရွှေနှင့် တပ်မှူး သာရကန္တတို့ကိုတိုက်အုံသောဂှာ ဗိုလ်တိုးအောင်ကျော်ကို အစောင့်ထားလေ၏။ ခုနစ်ခရိုင် တောင်စဉ်တွင် မြန်မာတို့လာလမ်းဖြစ်သော မအီအရပ်က တောင်စားဗိုလ်မှူး မောင်ညို၊ တပ်မှူး ညိုရောင်မြူတို့ကို အစောင့်ထားလေ၏။

ယင်းသို့ အသီးအသီးထား၍ စောင့်စေပြီးမှ ချင်းပြန်သည် ကစ္ဆပနဒီမြစ်၏ အနောက်ဘက်ဖြစ်သော ရိုးငူအရပ်၌ ဓညဝတီမြို့အမည်မှည့်လျက် သစ်တပ်မြို့တည်၍နေလေ၏။ ကြွင်းသောဗိုလ်ရဲတပ်ရဲတို့ကိုမူကား ခုနစ်ခရိုင်တောင်စဉ်တို့၌ အသီးအသီးတပ်နှင့်စောင့်နေစေ၏။ ထိုကဲ့သို့ ရခိုင်ပြည်မှာ ချင်းပြန်၊ လက်ရုံးဗိုလ်တို့ တပ်စီးတပ်နင်းပြု၍ ရခိုင်လေးမြို့၌ ဝန်းရံ၍နေကြောင်းကို အမရပူရ ဘိုးတော်မင်း ကြားသိတော်မူလေလျှင် မင်းလှစည်သူကိုခေါ်တော်မူ၍ ရခိုင်လေးမြို့၌ ဝန်းရံ၍နေသော ချင်းပြန်၊ လက်ရုံးဗိုလ်တို့ကို တိုက်ဖျက်ချေဟု စေတော်မူလိုက်၏။ မင်းလှစည်သူလည်း ချီလာပြီးလျှင် သရေခေတ္တရာပြည်တွင် တပ်တည်၍နေပြီးမှ ရေကြောင်း ကုန်းကြောင်း စေခိုင်းရမည့်အရေးလည်း လေမိုးများ၍ လမ်းခရီး မသာသောကြောင့် သူ့ရဲလက်နက်ကိုင်တို့ကို အသီးအသီးခန့်ပြီးလျှင် ဆိုင်းငံ့၍နေလေ၏။

ထိုနှစ်အတွင်းမှာ ဗိုလ်မျက်တောင်ရှည်၊ လမ္ဗူစားရွှေလှတို့သည် ရမ်းပြည့်မြို့ မြန်မာတပ်မှူးတို့နှင့် တိုက်ကြလေသော် ဗိုလ်မျက်တောင်ရှည်၊ လမ္ဗူစားရွှေလှတို့ စစ်ရေးမသာသောကြောင့် ရမ်းပြည့်မြို့မှဆုတ်ခွာ၍ လက်ဖန်အညာတွင် တပ်တည်၍နေလာ၏။ လက်ဖန်အညာတပ်ကိုလည်း ထားဝယ်ဗိုလ်ငစံသည် သူ့ရဲလက်နက်ကိုင်တို့နှင့် တိုက်ပြန်လေလျှင် လက်ဖန်အညာတပ် ပျက်လေ၏။ ဗိုလ်မျက်တောင်ရှည်နှင့် လမ္ဗူစားရွှေလှတို့လည်း သက္ကရာဇ် ၁၁၇၃-ခု၊ ဝါခေါင်လဆန်း ၂-ရက်၊ စနေနေ့တွင် စနည်းချောင်းဝ၌ လှေတပ်တည်၍နေလေ၏။

သံတွဲမြို့ကိုဝန်းရံနေသော မြို့သစ်စား မောင်ငယ်၊ ဗိုလ်ဘချစ်ရှည်တို့လည်း စစ်ရေးမသာသောကြောင့် ထိုသက္ကရာဇ်ဝါခေါင်လတွင် လမ္ဗူချောင်းဝ၌ တပ်တည်၍နေလေ၏။ မာန်အောင်မြို့ကို ဝန်းရံ၍နေသော လက်ရုံးဗိုလ်၊ တိမ်ကြားဗိုလ်တို့လည်း စစ်ရေးမသာသောကြောင့် မာန်အောင်မြို့ အုန်းချောင်းဝတွင် တပ်တည်၍နေလာ၏။

ယင်းသို့ ရမ်းပြည့်၊ သံတွဲ၊ မာန်အောင်မြို့တို့၌ ချင်းပြန်တပ်ပျက်စီးသည်ချည်းဖြစ်ကြောင်းကို ကြားလေလျှင် မြို့ဝန်မင်းလှစည်သူသည် အသစ်ခန့်သော မာန်အောင်မြို့ဝန်ကို အရှေ့ခုနစ်ခရိုင်ကို တိုက်လေဟု စေလိုက်၏။ မာန်အောင်ဝန်လည်း သူ့ရဲတထောင်နှင့်

ချီလာပြီးလျှင် သက္ကရာဇ် ၁၁၇၃-ခု၊ ဝါခေါင်လပြည့်နေ့၌ မအီချောင်းဝတွင် တပ်တည်၍နေလာ၏။ ယင်းသို့ တပ်တည်၍နေလာသော မာန်အောင်ဝန်သစ်ကို လမ္ဘူစား ရွှေလှ သွားရောက်တိုက်ဖျက်လေသော် မာန်အောင်ဝန်သစ် တပ်သည် အကြွင်းမဲ့ပျက်စီးလေ၏။ ဆင်ဖြူကျွန်း မိုလ်လည်း လှတထောင်နှင့်ရောက်လာ၍ ၎င်းသက္ကရာဇ် တော်သလင်းလတွင် ဒါးလက်ချောင်းဝ၌ တပ်တည်၍ နေလာပြန်၏။ ယင်းသို့လာရောက်တပ်တည်၍ နေလာသော ဆင်ဖြူကျွန်းမိုလ်ကိုလည်း တိမ်ကြားမိုလ် သွားရောက်တိုက်ခိုက်သောကြောင့် စစ်သည်သူရဲတို့ သေကြေပျက်စီး၍ သွားလေ၏။

ယင်းသို့ ချင်းပြန်၏ တပ်စီးတပ်မှူးတို့သည် ဆီးဆို့ တိုက်ခိုက်ဖျက်ဆီးလေသောကြောင့် မြန်မာတပ်မှူး၊ မိုလ်မှူးတို့သည် ရခိုင်ပြည်သို့ အကူးအသန်း လမ်းစ လမ်းဝမရ မပေါက်လေသောကြောင့် ရခိုင်ပြည်တွင် နေသော မိုလ်မှူးတပ်မှူးတို့သည် မြုံးတွင် လှောင်ထား သောငါး၊ ခြံတွင်လှောင်ထားသော ကြက်ကဲ့သို့ ဖြစ်နေ လေကုန်၏။ ၎င်းနှစ်တွင် ရခိုင်မြို့ဝန် မင်းကြီးကျော်ထင် လည်း မြို့သူကြီး ဇေရန်ကင်းကို မိုလ်ချုပ်ခန့်ပြီးလျှင် သူရဲလက်နက်ကိုင်တို့ကိုစည်းကြပ်၍ ကြည်းအား ရေအား ချီလာပြီးလျှင် တန်ဆောင်မုန်းလဆန်း တဆဲ့တရက်၊ စနေနေ့တွင် လောင်းကြက်မြို့ မိုလ်စော်ကဲ၊ တပ်မှူး သောက်ကြာတို့ကိုတိုက်လေစေလျှင် မိုလ်စော်ကဲ တပ်ပျက်စီး၍ ပြေးလေ၏။ တပ်မှူး သောက်ကြာကား သေနတ်လက်နက်မှန်၍ သေလေ၏။

၎င်းတန်ဆောင်မုန်းလဆုတ် ငါးရက်၊ တနင်္လာနေ့တွင် လက်ယာမြန်အရပ်၌ ပလက်စား ငစံ၊ တပ်မှူး မောင်ရွှေတို့ကို တိုက်စေပြန်လျှင် မိုလ်ပလက်စား ငစံ၊ တပ်မှူး မောင်ရွှေတို့သည် မခံမရပ်နိုင်၍ လှေတက် လက်နက်ကိရိယာတို့ကိုပစ်၍ ကြည်းကြောင်း ပြေးသွား ကြလေ၏။ ငါရကောက်တပ်စောင့် အောင်ကျော်၊ ရွှေနတ်ပင်တပ်စောင့် အောင်ကျော်ရွှေတို့လည်း ဆုတ်သွား ရလေပြီးလျှင် ချင်းပြန်နေသော ဖေယျာဝတီမြို့သို့ ပြေးဝင် နေလေ၏။

ထိုအခါ ချင်းပြန်လည်း ဖေယျာဝတီမြို့၌ ရှိနေသော တပ်မှူးတို့နှင့်တိုင်ပင် နီးနှောကြသည်မှာ ဤအရှေ့မြန်မာစစ်ကို ငြိမ်းအေးသောအခါ လမ္ဘူစား ရွှေလှ၊ မိုလ်မျက် တောင်ရှည်၊ မိုလ်တလိုင်းရှည်၊ ဒဂါးတောင်စား ငတုံးစံရွှေ၊ မိုလ်စော်ကဲ အစရှိသော မိုလ်မှူး တပ်မှူးတို့ကို ရွေးချယ်၍ သုံးရွာခုနစ်ကျိပ်သော လူတို့ကိုသတ်၍ပစ်မည် ဟု တိုင်ပင်ကြံစည်ကြကုန်၏။ ထိုသို့ချင်းပြန်နှင့်တကွ မိုလ်မှူးတပ်မှူးတို့ တိုင်ပင်ကြသောအကြံအစည်ကို သိလေကုန်သော် အမြို့မြို့အရွာရွာ၌ရှိသော မိုလ်မှူးတပ်မှူး သူရဲအပေါင်းတို့သည် အရှေ့မြန်မာစစ်ကိုတိုက်ခိုက်လို သော အာသာဆန္ဒယုတ် လျော့ကြကုန်၏။ ထိုနေ့မှစ၍ ချင်းပြန်၏စစ်သည် တပ်မှူးတို့သည် မတည်မရပ် မငြိမ် မသက်ဖြစ်ကြလေကုန်၏။

အမရပူဘိုးတော်မင်းလည်း တိုင်တားဝန် အာကာကျော်ထင်ကို ရေကြောင်းခရီး၊ မြင်းဝန်ငမှိုင်း၊ မိုလ်မှူးတပ်မှူးတို့ကို ကြည်းကြောင်းခရီးချီစေတော် မူလိုက်၏။ မြင်းဝန်ငမှိုင်းလည်း မိုလ်မှူးတပ်မှူး သူရဲအပေါင်းတို့နှင့်ချီလာပြီးလျှင် မအီချောင်းတွင် တပ်စခန်းတည်လာရပ်လာ၏။ မအီချောင်းတွင်ရှိသော မြို့ထောင်စား မိုလ်မှူးမောင်ညို၊ တပ်မှူး ညိုရောင်ဖြူ တို့သည် သူရဲလက်နက်ကိုင်တို့နှင့် ဆီးခံ၍တိုက်လေလျှင် မိုလ်မှူးမောင်ညို၊ တပ်မှူးညိုရောင်ဖြူတို့သည် စစ်အင်အား နည်းသဖြင့် ဆုတ်ခွာရှောင်ရှားသွားရလေ၏။ မြင်းဝန် ငမှိုင်းလည်း မအီအရပ်မှသည် ရမ်းပြည့်ကျွန်းသို့ ကူးသန်း ပြီးလျှင် မြို့ဝန်လက်ယာ စည်သူနော်ရထာနှင့် ပေါင်းဖက်၍နေလေ၏။

တိုင်တားဝန်အာကာကျော်ထင်လည်း နဂါးရစ် မော်တင်လမ်း ရေကြောင်းချီလာ၍ မကျည်းကျွန်းအနီးသို့ ရောက်လာသော် စကုကျွန်းတပ်စောင့် မိုလ်တိုးအောင် ကျော်သည် ဆီးခံ၍တိုက်သောကြောင့် တိုင်တားဝန်

အာကာ ကျော်ထင်သည် မခံမရပ်နိုင်သဖြင့် ဆုတ်ခွာသွားပြီးလျှင် သံတွဲမြို့သို့ဝင်၍ ပူးပေါင်းလျက်နေလေ၏။

သံတွဲမြို့ကိုရံ၍နေသော မြို့သစ်စား မောင်ဝစသော တပ်မှူးဗိုလ်မှူး ဗိုလ်ကျားကြီးတို့ ပေါင်းဖက်၍ ချီလာပြီးလျှင် စကုမြစ်သို့ရောက်လာ၏။ ချင်းပြန်သူရဲ ဗိုလ်တိုးအောင်ကျော်နှင့် မြန်မာဗိုလ်ကျားကြီးတို့ ရေကြောင်းတိုက်ကြလေရာ စကုတပ်ပျက်စီးလျက် တိမ်းရှောင်ထွက် ပြေးကြလေကုန်၏။ ၎င်းစကုတပ်ပျက်စီး၍ တိမ်းရှောင်ထွက်ပြေးလာ သူအပေါင်းတို့သည် ရမ်းပြည့်ကျွန်း စနည်းတပ်သို့ ဝင်ရောက်ပေါင်းဖက်နေထိုင်ကြကုန်၏။

တိုင်တားဝန်အာကာကျော်ထင်၊ မြင်းဝန်ငမိုင်းတို့သည် ရေအား၊ ကြည်းအား စည်းကြပ်၍ချီလေသော် သံစစ်မြစ်သို့ရောက်လာလျှင် စနည်းတွင် တပ်တည်၍နေသော ဗိုလ်မျက်တောင်ရှည်စသော ချင်းပြန်ဗိုလ်မှူးတပ်မှူးတို့နှင့်တကွ တွေ့ကြုံ၍ဆိုင်ပြိုင်လျက် တိုက်ခိုက်ကြလေရာ ချင်းပြန်တို့ ကြံစည်ပြောဆိုအပ်သောစကားကို ကြားသိရသည့်နေ့ကစ၍ အားလျော့လျက်ရှိကြသော စစ်သည်သူရဲ ဗိုလ်မှူးတပ်မှူးတို့သည် အနည်းငယ်မျှ တိုက်ဆိုင်ပြီးလျှင် တိမ်းရှောင်ထွက်သွားကြလေပြီး၍ ချင်းပြန်နေရာ ဓေယျာဝတီမြို့သို့ချည်း သွားရောက်နေထိုင်ကြလေကုန်၏။

တိုင်တားဝန် အာကာကျော်ထင်လည်း ရမ်းပြည့်၊ မာန်အောင်၊ သံတွဲသုံးမြို့ကို အစောင့်ထားခဲ့ပြီးလျှင် ရမ်းပြည့်ဝန်၊ မာန်အောင်ဝန်၊ သံတွဲဝန်တို့နှင့် စည်းကြပ်၍ ရခိုင်မြို့သို့ချီလေသော် ကျောက်ချွားအရပ်တွင် ချင်းပြန်သူရဲဗိုလ်မှူးတပ်မှူးတို့နှင့် တိုက်ဆိုင်မိကြသော်လည်း ချင်းပြန်စကားကိုကြားသိလေသောကြောင့် ချင်းပြန်သူရဲတို့သည် တိုက်ခိုက်လိုသော အာသာဆန္ဒမရှိကြသဖြင့် ထိုမှ ဤမှတိမ်းရှောင်သွားကြလေကုန်၏။

ချင်းပြန်လည်း မြန်မာစစ်သည်တို့နှင့် တိုက်ခိုက်ဖို့ရာ လမ္ဗူစား၊ မြို့ထောင်စားတို့ကို ထပ်လောင်း၍ စေလေသော် တပ်မှူးဗိုလ်မှူးတို့သည် ချင်းပြန်၏ အကြံအစည်ကို သိရင်းစွဲရှိကြသည်နှင့် ထိုမှဤမှ တိမ်းရှောင်၍နေကြလေကုန်၏။ ချင်းပြန်လည်း ဗိုလ်မှူးတပ်မှူး လက်နက်ကိုင်တို့ ထိုထိုအရပ်သို့ ရှောင်သွားကြသည်ကိုသိလေလျှင် မတည်မရပ်နိုင်ဖြစ်၍ နောင်တပူပန်ယူပြန်မရ ငါအကြံမှားသည်ဟု အားကျပြီးလျှင် ရခိုင်လေးမြို့နေ လူဦးရေပေါင်း ကိုးသောင်းကျော်ခန့်ရှိသောသူတို့ကိုသိမ်းခေါ်ပြီးလျှင် သက္ကရာဇ် ၁၁၇၃-ခု၊ ပြာသိုလပြည့်၊ ဗုဒ္ဓဟူးနေ့ ဓေယျာဝတီမြို့ကလည်း ကုလားပြည်သို့ ဝင်ပြေးတိမ်းရှောင်လေ၏။

တိုင်တားဝန် အာကာကျော်ထင်သည် ဗိုလ်မှူးတပ်မှူးတို့ကို ပေါင်းဖက်စည်းကြပ်၍ အနောက်ကုလားပြည်သို့ချီလေရာ မုံတောတပ်တွင် စခန်းချရပ်၍နေလေ၏။ ထိုသို့ တိုင်တားဝန်တို့ နေလာကြောင်းကို စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်း ဗိုလ်မှူး တပ်မှူးတို့သိလေလျှင် အင်္ဂလိပ်အစိုးရမင်းတို့၏ ဗိုလ်မှူးတပ်မှူးတို့လည်း သူရဲများစွာတို့နှင့် ငတ်မြစ်လက်ယာဘက် ကမ်းအရပ်ကနေ၍ တပ်တည်လာကုန်၏။

တိုင်တားဝန် အာကာကျော်ထင်လည်း ချင်းပြန်နှင့် လက်ရုံးဗိုလ်တို့သည် ငါတို့၏လက်နက်နိုင်ငံဖြစ်သော ရခိုင်ပြည်ကို သူပုန်ဒါးမြပြုလုပ်ပြီးလျှင် ကိုးသောင်းကျော်၊ တသိန်းခန့်ရှိသော လူအပေါင်းတို့ကိုသိမ်းယူ၍ ကိုယ်တို့အနောက်ပြည်သို့ ဝင်ပြေးလေသည်။ အင်္ဂလိပ်ဗိုလ်မှူးတပ်မှူးတို့က မထားသင့်၊ ပေးအပ်ရမည်ဟု တမန်စေလွှတ်၍ တောင်းလေ၏။

အင်္ဂလိပ်ဗိုလ်မှူး တပ်မှူးတို့ကလည်း ချင်းပြန်နှင့် လက်ရုံးဗိုလ်တို့သည် ရခိုင်ပြည်ကို သူပုန်ဒါးမြပြု၍ ငါတို့ပြည်သို့ ဝင်လာသည်ပင်မှန်စေကာမူ ငါတို့သာ ပိုင်သည် မြန်မာတို့လက်သို့မအပ်သင့်ချေဟု ဆိုလိုက်ပေ၏။

တိုင်တားဝန် အာကာကျော်ထင်လည်း ချင်းပြန်နောက်ပါသွားသောလူတို့ကို လှည့်ပတ်ဖြားယောင်း၍

ခါပြီးလျှင် ရောက်လာကုန်သော လူအပေါင်းတို့အား ချီးမြှောက်သကဲ့သို့ပြောဆို၍ ညဥ့်အခါသတ်ပစ်လေကုန်၏။ မိန်းမအိုတို့ကို စွန့်ပစ်၍ မိန်းမပျိုတို့ကို ယူဆောင်သွားပြီးလျှင် မကြာမြင့်မီ အမရပူရမြို့တော်သို့ ပြန်သွားလေ၏။ ရခိုင်မြို့ဝန် မင်းကြီးကျော်ထင်လည်း တပ်မှူးငလွန်းပြေကို ကြေည်းတောင်အရပ်၌ တပ်စောင့်ထားခဲ့၍ ပြန်သွားလေ၏။

ရခိုင်၊ သံတွဲ၊ ရမ်းပြည့်၊ မာန်အောင် လေးမြို့အတွင်း ကျန်သောလူတို့ကိုလည်း ဒါးမြသူပုန်ပြု၍ များစွာသတ်ပစ်ကုန်၏။ အမရပူရမြို့တော်သို့ သွားလာသောကုန်သည်များကို ချင်းပြန်ထကြွစဉ်အခါ ဖမ်းဆီးချုပ်လှောင်ထားရှိလေသည်ဖြစ်၍ ဓမ္မရာဇ်ရာဇာမင်းသားတော် သုဒ္ဓေါ်ဦးက အမရပူရဘိုးတော်မင်းထံလျှောက်ထား၍ အရပ်ရပ်တွင်ရှိသော ရခိုင်သားတို့ကို အကျဉ်းထောင်မှ နုတ်ပြီးလျှင်လွှတ်စေ၏။ အချို့သောသူတို့သည် ဖိုးခေါင်တောင်ကိုကျော်၍လာခဲ့ရာ ဖိုးခေါင်တောင်ရိုးတွင်နေသော မြန်မာအမှုထမ်း မင်းလုလင်တို့သည် ဖမ်းဆီးလျက် ခါးပိုက်ဥစ္စာတို့ကိုယူပြီးလျှင် သတ်၍ပစ်ကုန်၏။ သံတွဲမြို့သို့သွားရောက်သော ရခိုင်သားတို့ကိုလည်း သံတွဲမြို့စောင့် မြန်မာတပ်မှူးတို့သည် ဖမ်းဆီး၍ သတ်ပစ်ကုန်၏။

ချင်းပြန်၊ လက်ရုံးဗိုလ်တို့သည် နှစ်ကြိမ်မြောက် ထကြွသောင်းကျန်းလျက် ရခိုင်လေးမြို့တွင် တပ်စောင့်တပ်နေထား၍ တိုက်ခိုက်စေသည်မှာ ကိုးလတိုင်ကြာပြီးမှ ပြေးရှာရပြန်လေသည်။ ဤသည်ကား သက္ကရာဇ် ၁၁၇၃-ခုတွင် ချင်းပြန်ထကြွသောင်းကြမ်းသော ဒုတိယ အကြိမ်တည်း။

ချင်းပြန်သည် သုံးကြိမ်မြောက် ထကြွသောင်းကြမ်းပြန်သည်မှာ စည်းတင်စား ချင်းပြန်သည် စစ်တကောင်းမြို့မှ ရှောင်ရှားထွက်ခဲ့ပြီးလျှင် ယောက်ဖတော် လက်ရုံးဗိုလ်နှင့် စွမ်းရည်သတ္တိရှိသော ဗိုလ်မှူး၊ တပ်မှူးတို့ကို ရုံးစုပေါင်းစည်းပြီးလျှင် သူ့ရဲလက်နက်ကိုင်တို့ကိုစေခိုင်း၍ သက္ကရာဇ် ၁၁၇၄-ခု၊ ကဆုန်လတွင် မြန်မာအစိုးရတို့ ထားအပ်သော ကြေည်းတောင်တပ်ကို တိုက်လေလျှင် တပ်မှူးငလွန်းပြေသည် သေကြေပျက်စီးလေ၏။

ထိုအကြောင်းကို ရခိုင်ဝန် မင်းကြီးကျော်ထင် သိလေသော် ဗိုလ်မှူးတပ်မှူး သူရဲလက်နက်ကိုင်တို့ကို စေလွှတ်၍တိုက်စေသော် ချင်းပြန်တပ်သားတို့သည် မခံမရပ်နိုင်သည်ဖြစ်၍ ကုလားပြည်သို့ဝင်လျက် ပုန်းအောင်း၍ နေပြန်လေ၏။ အင်္ဂလိပ်အစိုးရမင်းတို့သည် လမ္ဗုစားရွှေလူနှင့် ချင်းပြန်မယားကို လှည့်ဖြား၍ ခေါ်ယူပြီးလျှင် ဒေလီပဆာပြည်သို့ကြဉ်းဆောင်၍ အစောင့်အရှောက်နှင့်ထားလေ၏။ ချင်းပြန် ယောက်ဖလက်ရုံးဗိုလ်ကိုကား ရခိုင်သားတို့ ဖမ်းဆီးပြီးသော် စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းထံဆက်သလေလျှင် စစ်တကောင်းမြို့၌ အကျဉ်းထားလေရာ များမကြာခင် သေလွန်လေ၏။ ချင်းပြန်လည်း ကုလားပြည်မှထွက်ခဲ့ပြီးလျှင် ဗိုလ်မှူး၊ တပ်မှူးတို့ကိုပေါင်းစု၍ ငတ်မြစ်လက်ယာ ဘက်ဖြစ်သော မင်္ဂလာကြီးအရပ်တွင် တပ်တည်ပြန်လာ၏။

နောင်တော်လေးမြို့စားအောင်ကျော်၊ ဒင်္ဂါးတောင်စားတုံးစံရွှေ၊ ဗိုလ်စောကဲတို့ကို ပေါင်းစည်းရုံးစုပြီးလျှင် ယောက်ဖတော် အသက်နံ့ကိုဗိုလ်ချုပ်ခန့်၍ ရခိုင်မြို့ဝန် မင်းကြီးကျော်ထင်ကို တိုက်ချေဟုစေလိုက်ပြန်၏။ ရေအားကြည်းအားနှင့်ချီလာသော် ရခိုင်မြို့ဝန်မင်းကြီးကျော်ထင် သိလေသောကြောင့် ရခိုင်လေးမြို့သူရဲတို့နှင့် ရမ်းပြည့်ဝန် လက်ယာစည်သူကို ဗိုလ်ချုပ်ခန့်၍ချီစေပြီးလျှင် ချင်းပြန်စစ်တပ်တို့နှင့် မိုးစည်းမြစ်တွင်တွေ့ဆုံလေ၍ သက္ကရာဇ် ၁၁၇၄-ခု၊ ပြာသိုလတွင် တိုက်ခိုက်ကြလေသော် ချင်းပြန်စစ်တပ်တို့သည် ပျက်စီးလျက် လှေကိုပစ်၍ မိုးစည်းကျွန်းသို့ တက်ပြီးလျှင် တိမ်းရှောင်၍သွားကြလေကုန်၏။ မြန်မာဗိုလ်မှူး၊ တပ်မှူးတို့သည် မိုးစည်းကျွန်းတွင်နေသော လူများကို ချင်းပြန်အပေါင်းအဖက်ဖြစ်သည်ဟု မြေလှန်လျက် သတ်ပစ်ကုန်၏။ ထိုသို့ပျက်စီးကြောင်းကို

နောက်ထပ်ချီလာသော ဗိုလ်အောင်ကျော်၊ မိစား အသက်နံ့ ဗိုလ်ချုပ်တို့ကြားသိလေလျှင် အသီးအသီး ပြန်သွားကြလေကုန်၏။ ထိုအကြောင်းကို ချင်းပြန့်သိလေလျှင် မဂ်လာကြီးအရပ်ကပြောင်းသွား၍ ရှောက်ချောင်းမြစ်ဖျား၌ သက္ကရာဇ် ၁၁၇၄-ခု၊ တပို့တွဲလတွင် သရက်ချိုမြို့ကိုတည်၍နေလေ၏။ ရခိုင်ပြည်၌ ရခိုင်မြို့ဝန် စိန်ဘူး၊ မင်းကြီးကျော်ထင်သည်ကား တဆဲ့ရှစ်နှစ်တွင် သေလွန်လေ၏။ ၆။ (အချို့ရာဇဝင်သစ်၌ တဆဲ့နှစ်နှစ်ဟုဆို၏။ အရေးမှားဟန်ရှိသည်)

မင်းကြီးကျော်ထင် သေလွန်ပြီးနောက် မဟာနော်ရထာသည် သက္ကရာဇ် ၁၁၇၅-ခု၊ နတ်တော်လတွင် ရခိုင်မြို့ဝန်ပြုလာ၏။ ချင်းပြန့်လည်း သမက်တော်တိမ်ကြားဗိုလ်မှူး၊ တပ်မှူးတို့ကို အသီးအသီးခန့်၍ သူရဲတောင်သူတို့နှင့် ရခိုင်မြို့ဝန် မဟာနော်ရထာကို တိုက်ချေဟုစေလိုက်ပြန်၏။ ချင်းပြန့်ဗိုလ်မှူး တပ်မှူးတို့ ချီသွားလေ၍ ကစ္ဆပနဒီမြစ်ညာ ကူးဝတွင် ရောက်လေသော် ထိုအကြောင်းကို ရခိုင်မြို့ဝန် မဟာနော်ရထာ သိလေသောကြောင့် မြို့သူကြီး ရန်ကင်းကို ဗိုလ်ချုပ်ခန့်၍ များစွာသောလက်နက်ကိုင် သူရဲတို့နှင့်စေလွှတ်၍ ချီသွားကြလေရာ၊ ကစ္ဆပနဒီမြစ်ညာကူးဝတွင် ချင်းပြန့်စစ်သည်တို့နှင့်တွေ့ကြုံ၍ သက္ကရာဇ် ၁၁၇၅ ခု၊ ပြာသိုလတွင် တပ်ချင်းဆိုင်ပြိုင်၍ တိုက်ခိုက်ကြလေသော် ချင်းပြန့်စစ်သည်သူရဲတို့သည် များစွာပျက်စီးလေကုန်၏။ ကြွင်းကျန်သော စစ်သည်သူရဲတို့သည် နောက်သို့မဆုတ်နိုင်၊ မြန်မာတပ်ဝိုင်းရံရှိသဖြင့် မြေခံတုတ်ထဲ၌ ရှိနေသည်ကို မြန်မာတပ်မှူး ဗိုလ်မှူးတို့မသိကြ၍ သေနတ်လက်နက် အထောင်အသောင်း ပစ်လွှတ်သော်လည်း တစုံတယောက်မျှ ထွက်ဝင်သွားသည်ကို မမြင်သဖြင့် သွား၍ကြည့်လတ်သော် ထမင်းငတ်၍ လဲနေသော သူတို့ကိုတွေ့လေလျှင် ထမင်းရေစာပေးပြီးမှ အသက်ရှင်ခြင်းကို ရကုန်၏။ မြန်မာတပ်မှူးတို့လည်း ထိုနေ့ပင် ချင်းပြန့်ရှိရာလိုက်သွား၍ ညဥ့်စစ်သည်တို့ တိုက်ခိုက်လေသော် ချင်းပြန့်သည် သရက်ချိုမြို့မှ ရွှေ့ပြောင်း၍ ပင်းဝါကုလားနိုင်ငံသို့ ဝင်အောင်းလျက်နေလေ၏။

ထိုသို့ ချင်းပြန့်ပင်းဝါသို့ ဝင်ရောက်လာကြောင်းကို စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းသိလေလျှင် ဗိုလ်ကပ်တင်ဘာပုသပ်ကို စေလွှတ်၍ ချင်းပြန့်ကို ဖမ်းဆီးစေသော် ချင်းပြန့်သည် အရိုင်းထဲသို့ ရှောင်လွှဲ၍ သွားလေ၏။ ရခိုင်ဝန် မင်းကြီးနော်ရထာသည် သက္ကရာဇ် ၁၁၇၅-ခု၊ တပေါင်းလကစ၍ အနောက်ပြည်က ပြန်လာသော ရခိုင်သားတို့ကိုငင်း၊ ရခိုင်ပြည်တွင် နေကုန်သော လူသန်လူမြန်တို့ကိုငင်း၊ ချင်းပြန့် လူဟု စာရင်းတင်လျက် ဒါးနှင့်ခွဲပြီးလျှင် ကျီး၊ လင်းတ၊ ခွေး၊ ဝက် အစာပေးကုန်၏။

သက္ကရာဇ် ၁၁၇၄-ခုနှစ်ကစ၍ ၅-နှစ်တိုင်အောင် ဆန်စပါးရှား၏။ ထမင်းငတ်မွတ်၏။ လူများစွာ သေကြေပျက်စီးကုန်၏။ ထိုနောက် သက္ကရာဇ် ၁၁၇၇-ခုနှစ်၊ တပို့တွဲလတွင် အရိုင်းထဲ၌နေသော စည်းတင်စား ချင်းပြန့်သည် ဓမ္မတာသဘော ရွှေလျောသေဆုံးခြင်းသို့ ရောက်လေသည်။ ဤသည်ကား ချင်းပြန့် သုံးကြိမ်မြောက် ထကြွသောင်းကြမ်း တိုက်ခိုက်သောအကြောင်းတည်း။

ထိုနောက် သက္ကရာဇ် ၁၁၈၀-ပြည့်၊ တပေါင်းလတွင် ရမ်းပြည့်မြို့ဝန် နေမျိုးသူရသည် ရခိုင်သားတို့ ငါတို့ မြန်မာလူမျိုးတို့ကို အကြိမ်ကြိမ် ပုန်ကန်ပြီးလျှင် ပင်းဝါ၊ စစ်တကောင်း၊ ဒါဂါ၊ မောက်သူစာမြို့တို့ကိုခိုဝင်၍ လူဦးရေ ကိုးသောင်းကျော်၊ တသိန်းခန့်လူတို့ကို အင်္ဂလိပ်မင်းတို့က လက်ခံပြီးလျှင် အားအင်ပေး၍ထားလေသည်။ ပင်းဝါ၊ စစ်တကောင်း၊ ဒါဂါ၊ မောက်သူစာမြို့တို့သည် ရခိုင်မင်းနိုင်ငံဖြစ်သည်။ အင်္ဂလိပ်မင်းတို့ လက်နက်နိုင်ငံမဟုတ်သောကြောင့် ရခိုင်ပြည်သား ကိုးသောင်းကျော်၊ တသိန်းရှိသော လူတို့ကိုထုတ်ပေးပြီးလျှင် အခွန်ဘဏ္ဍာကိုလည်း ပေးဆပ်

ရမည်။ ဤသို့မှာကြားသည့် အတိုင်းမပေးနေလျှင် ဘုန်းတော်ကြီးလှသော အရှင်မင်းထံ ရွှေနားတော်ကြား လျှောက်တင်၍ ဗိုလ်မှူး တပ်မှူးသူရဲလက်နက်တို့နှင့် စည်းကြပ်လျက် ကြည်းရေဗိုလ်မှူးချီလာပြီးလျှင် အင်္ဂလိပ် အမျိုးသားတို့ကို ကုန်စင်အောင်သတ်ဖြတ်မည်ဟု ဣန္ဒြိယ ဘင်္ဂလားမင်းကြီးထံသို့ စာပေးလေ၏။

ဣန္ဒြိယဘင်္ဂလားမင်းကြီးလည်း ရမ်းပြည့်မြို့ဝန် နေမျိုးသူရစာကိုကြည့်ရှုသော် စစ်မက်ကြီးစွာဖြစ်အံ့သော အရေးကိုသာမြင်၍ ဤစစ်မက်ကြီးစွာ တိုက်ခိုက်ရလျှင် သတ္တဝါအပေါင်းထောင်သောင်းမက ပျက်စီးကြမည်အမှန် ဖြစ်သည်ဟု သတ္တဝါအပေါင်းတို့၌ သနားမေတ္တာ ကရုဏာစိတ်ဖြင့် ရန်ကုန်မြို့ဝန် သတိုးမင်းလှထံသို့ တမန်စေလွှတ်၍ တိုင်းရေးပြည်ရေးကို ဆွေးနွေးတိုင်ပင် ပြောဆိုကြရာ အမှုခပ်သိမ်းပြေငြိမ်းချမ်းသာလေ၏။ ရခိုင်မြို့ဝန်မင်းကြီး နော်ရထာကား ခြောက်နှစ်အတွင်း ရာထူးမှလျှောကျ၍ သွားလေ၏။ ၇။

မင်းကြီးနော်ရထာ အရာမှလျှောကျလေလျှင် မြစ်စည်ဝန်ကြာရီးသည် မင်းကြီး ကျော်ထင်အမည်ကိုခံ၍ သက္ကရာဇ် ၁၁၈၁-ခု၊ ကဆုန်လတွင် ရခိုင်မြို့ဝန် ပြုလာ၏။ မြို့ဝန်မင်းကြီးကျော်ထင်သည် လူကိုသတ်ပစ်ခြင်းကား နည်း၏။ ရွှေငွေဥစ္စာ အကောက်အယူများ၏။ စကားပြောသည်မှာ မမှန်တခါ မှန်တခါပြောတတ်၏။ ထိုမြစ်စည် ဝန်ကြာရီး မြို့ဝန်ပြုလာသော နှစ်သက္ကရာဇ် ၁၁၈၁-ခု၊ နယုန်လဆန်း ၁၃ ရက်နေ့၊ ညနေ ၄ချက်တီး ကျော်၊ ၅ နာရီ ၃ ပါဒ်အချိန်တွင် အမရပူရပထမနန်းတည် ဘိုးတော်မင်းကြီးသည် နတ်ပြည်စံတော်မူလေသည်။

ဘိုးတော်မင်းကြီး နတ်ပြည်စံတော်မူလေလျှင် အိမ်ရှေ့မင်းမောင်ပေါ်၏သားတော်အကြီး စစ်ကိုင်းမြို့စား မြေးတော်အိမ်ရှေ့မင်းသည် သက္ကရာဇ် ၁၁၈၁-ခု၊ နယုန် လဆန်း ၁၅ ရက်နေ့တွင် ဘိုးတော်အရိုက်အရာဖြစ်သော ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးအုပ်တော်မူသည်။ ထိုကြောင့် နန်းသိမ်းဩဘာရတု၌ ရွှေဝသညာ၊ မိမိလာနှင့် မဟာအမရ၊ စသည်အုပ်တွေ၊ ဘိုးတော်မွေကို၊ လနေနှစ်ပါး၊ နွားနှင့်မြင်းမိုရ်၊ သက္ကရာဇ်ထို၌၊ မြေးပို့ ဘုန်းလူ၊ စိုးတော်မူမှဟူ၍ အမတ်ကြီးဦးပေါ်ဦး စပ်ဆို ရေးသားလေသည်။ လ-သည် ၁၊ နေ-လည်း ၁၊ နွား-သည် ၈၊ မြင်းမိုရ်သည် ၁။ လေးရပ်ကို ပေါင်းသော် =၁၁၈၁-ခုသက္ကရာဇ် ဖြစ်သည်ဟုဆိုလိုသည်။ သင်္ကေတသချာပယူနည်း။ (ဤအရာတွင် အချို့ရာဇဝင်သစ် တို့၌ ဘိုးတော်မင်းကြီးသည် ၁၁၈၂ ခုမှ နတ်ရွာစံကြောင်း နှင့် ဆိုလေသည်။ မြန်မာရာဇဝင် ဦးပေါ်ဦးလျှောက်ထုံး တို့နှင့် မညီလေ။ ဤကား အမှာစကားချပ်)။

မြေးတော် စစ်ကိုင်းမင်းလက်ထက်၌လည်း ယိုးဒယားပြည်အတွက် တပ်ဆီးတားရသည်။ မုတ္တမ တပ်စောင့် လက်နက်ကိုင်တို့သုံးစားရန် စပါးသုံးသိန်းကျော် လိုသည်။ ရခိုင်လေးမြို့က ပေးဆက်ရမည်ဟု ဝန်ထောက် ငမောင်ရစ်ကို စေလွှတ်လိုက်တော်မူ၏။ ရောက်လာလျှင် ရခိုင်ဝန်ကြာရီး၊ ရမ်းပြည့်ဝန် နေမျိုးသူရ၊ သံတွဲဝန် မောင်ရဲ၊ မာန်အောင်ဝန် ရွှေကံတို့အား စပါးသုံးသိန်းကျော်ကို တောင်းပြီးလျှင် သက္ကရာဇ် ၁၁၈၂-ခုနှစ်၊ တော်သလင်းလ တွင် ဝန်ထောက်မောင်ရစ်သည် စည်းကြပ်၍ လှေအစင်း သုံးရာတို့ဖြင့် မုတ္တမဆိပ်ရောက်ပို့ရလေ၏။

မြေးတော် စစ်ကိုင်းမြို့စား သိရိပဝရသုဓမ္မ ရာဇိန္ဒာဓိပတိအမည်ရှိသောမင်းသည် နန်းတက်တော်မူပြီး နောက် ဘိသိက်ခံတော်မူရန် ဘူမိနက်သန်မြေကြီးသည် ရခိုင်ပြည် မြောက်ဦးမြို့ ရွှေနန်းတော်ဦးမြေဖြစ်ပေသော ကြောင့် ပေးရမည်ဟုတောင်းလေလျှင် သက္ကရာဇ် ၁၁၈၂ ခုနှစ် မြောက်ဦးမြို့နန်းတော်ကိုတူး၍ မြေချိန်တဆုံ ခြောက်ပိဿာကို မင်းအားဆက်လိုက်ရ၏။ အမရပူရ ရွှေနန်းရှင် ဘိုးတော်အရိုးကိုလည်း မဇ္ဈိမဒေသအရပ်သို့ သွား၍ သင့်တင့်ရာအရပ်၌မြှုပ်နှံလေဟု အမိန့်အာဏာ တော်ရှိသည့်အတိုင်း အရိုးတော်မြှုပ်နှံရန် မြိတ်မြို့ဝန် မောင်ရဲကို သက္ကရာဇ်၁၁၈၂-ခု၊ တပေါင်းလတွင် စေလွှတ်လိုက်သဖြင့် စစ်တကောင်းမြို့ဝန်ထံသို့ ရောက်လေ

၍ အကြောင်းမျိုးကိုကြားလေလျှင် စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းလည်း ဣန္ဒြိယပြည်ကိုအစိုးရသော အရှင်မင်းမြတ်၏ ရွှေဘုန်းတော်ကြောင့်မနေပိုင်၍ အရိုးကိုသာလာလျက် ခညွှတ်ဆက်သလာသည်မည်သောကြောင့် ငါတို့နေသောအရပ်နယ်ပယ်မှစ၍ အလိုရှိရာတွင် မြှုပ်လေတော့ဟုခွင့်ပြုလေ၏။ မြိတ်မြို့ဝန် မောင်ရဲလည်း အရိုးကိုယူ၍ မဟာဗောဓိပင်အရင်း၌မြှုပ်နှံခဲ့ပြီးမှ ပြန်လာခဲ့၍ အမရပူရမင်းအား အကြောင်းမျိုးကို ကြားလျှောက်လေ၏။ မြစ်စည်ဝန် ကြာရိုးမင်းကြီး ကျော်ထင်ကား သုံးနှစ်ရှိလျှင် အရာမှလျှောကျလေ၏။ (အချို့ရာဇဝင်သစ်၌ နှစ်နှစ်ခန့်ရှိလျှင်ဟုဆို၏။ အရေးမှား ဟန်ရှိသည်။)

မြစ်စည်ဝန် ကြာရိုးမင်းကြီးကျော်ထင်ရာထူးမှ လျှောကျလေလျှင် သက္ကရာဇ် ၁၁၈၄-ခုနှစ်၊ တရုတ်မြို့ဝန် မောင်စံပျော်ကို ရခိုင်မြို့ဝန်ခန့်တော်မူ၍ လာရောက်နေထိုင်ရာ မကြာမီ အင်္ဂလိပ်ကုန်သင်္ဘောတစင်းသည် ဝေါ်မြစ်ဝ ရှင်မဖြူကျွန်းတွင် ရေထင်းအလို့ငှာ ဆိုက်ကပ်လာကြောင်းကို ရခိုင်မြို့ဝန် မောင်စံပျော်ကြားလေလျှင် မြန်မာဘုရင်ပိုင်သော ကျွန်းသာဖြစ်သည်။ မဆိုက်မကပ်စေလင့်ဟု လူအများစေလွှတ်၍ အတင်းအဓမ္မနှင်ထုတ်စေ၏။ မြန်မာအောင်လံကိုလည်း ထိုကျွန်းပေါ်၌ စိုက်ထူစေ၏။ များမကြာမီ အင်္ဂလိပ်တို့သည် စစ်သင်္ဘောနှင့် လာပြီးလျှင် ထိုကျွန်း၌ မြန်မာအလံကိုနုတ်၍ နေလာ၏။ ရခိုင်မြို့ဝန် မောင်စံပျော်လည်း ထိုအကြောင်းကိုကြားလေလျှင် စစ်မက်ဗိုလ်ခြေနှင့်ချီလာ၍ အင်္ဂလိပ်ကုမ္ပဏီမင်းတို့ကို ရန်စပြုလာ၏။ အင်္ဂလိပ်ကုမ္ပဏီမင်းတို့လည်း နောက်သို့ဆုတ်သွားသဖြင့် နေလေ၏။ အရှေ့မြန်မာအစိုးရတို့လည်း ဝေါ်မြစ်လက်ယာဖက် ရေရိုးကို မြေခြားပြု၍ အရှေ့ဘက်ကမ်း၌ သစ်တပ်တည်၍ တပ်စောင့်နှင့်ထားကုန်၏။ ထိုတပ်ကို ယခုအခါ မုံတောတပ်ဟူ၍ ခေါ်လေ၏။

အင်္ဂလိပ်ကုမ္ပဏီမင်းတို့လည်း ဝေါ်မြစ်လက်ဝဲဖက်မှ တပ်တည်လျက်ဒူရကာကို အစောင့်ထားကုန်၏။ ယင်းသို့ ဝေါ်မြစ်လက်ဝဲလက်ယာ တပ်စောင့်ထား၍နေကြကုန်စဉ် တဖန်တုံလည်း အင်္ဂလိပ်ကုမ္ပဏီနယ်က လူတို့သည် ရှင်မဖြူကျွန်းသို့ ကူးသန်းသွားလာပြုလုပ်ကြသည်ကို မြန်မာတို့သည် ငါတို့အပိုင် မြေခြားနယ်အရပ်သို့ သွားလာရောက်ပေါက်ရာသလောဟု သေနတ်လက်နက်ဖြင့် ပစ်လွှတ်လေသော် လူတယောက်သေဆုံးလေ၏။ ထိုအကြောင်းမျိုးစုံကို စောင့်ရှောက်၍နေသော ဒူရကာက စစ်တကောင်းမြို့ဝန် ဂါတာသပ်အထံသို့ လျှောက်စာတင်လေသော် စစ်တကောင်းမြို့ဝန် ဂါတာသပ်လည်း ဗိုလ်သီသပ်ကို သူရဲတထောင်နှင့်စေလိုက်၍ ချီလာပြီးလျှင် ဝေါ်မြစ်သို့ရောက်လာလျက် စစ်အားပြု၍ သက္ကရာဇ် ၁၁၈၄-ခု၊ တပေါင်းလတွင် ရှင်မဖြူကျွန်း၌ သစ်တပ်တည်၍ သူရဲအစောင့်ထားခဲ့ပြီးမှ ဗိုလ်သီသပ်ပြန်၍ သွားလေ၏။ မြန်မာတို့လည်း ဆုတ်ခွာ၍နေလေ၏။

ဒါးပိုင်ကြီးကျော်ပုံသား အမ်းစားသည် အရှေ့ဘက် မြန်မာလူမျိုးတို့ကို စစ်တိုက်ဆိုင်ရန် သင့်ပါမည့်အကြောင်းနှင့် စစ်တကောင်းမြို့ဝန် ဂါတာသပ်အထံ စစ်ပန်လေ၏။ ထိုသို့စစ်ပန်သောအကြောင်းကို ရခိုင်မြို့ဝန် မောင်စံပျော်ကြားသိလေလျှင် အမရပူရ ဒုတိယရွှေနန်းရှင် မြေးတော်စစ်ကိုင်းမင်းထံ အင်္ဂလိပ်ကုမ္ပဏီမင်းတို့အားပြု၍နေကြောင်း၊ အမ်းစား စစ်ပန်လေကြောင်းကို လျှောက်တင်လေသော် အမရပူရ ဒုတိယရွှေနန်းရှင် မြေးတော် စစ်ကိုင်းမင်းက အင်္ဂလိပ်ကုမ္ပဏီမင်းတို့ အားအင်ပြု၍နေသည်မှန်လျှင် တိုက်ဆိုင်လေဟု အာဏာပေးတော်မူလိုက်၏။

သက္ကရာဇ် ၁၁၈၅-ခု၊ တော်သလင်းလတွင် အင်္ဂလိပ်ကုမ္ပဏီတို့ အစောင့်ထားသော ရှင်မဖြူကျွန်းကို မြန်မာတို့တိုက်လေသော် အင်္ဂလိပ်ကုမ္ပဏီတပ်စောင့်သူရဲတို့သည် ပျက်စီး၍ပြေးသွားကြလေ၏။ ရှင်မဖြူတပ် ပျက်စီးကြောင်းကို စစ်တကောင်းမြို့ဝန် ဂါတာသပ်သို့ လျှောက်စာတင်လေ၏။ စစ်တကောင်းမြို့ဝန် ဂါတာသပ်

လည်း ပြိုင်ကူသပ်၊ သီသပ်၊ ဇင်သပ်ဗိုလ်မှူးသုံးယောက်တို့ကို များစွာသော သူရဲတို့နှင့် ပင်းဝါမြို့သို့ စေလွှတ်လိုက်၍ ရောက်ကြလေလျှင် ပြိုင်ကူသပ်သည် ရခိုင်သားတို့ကို သူရဲလက်နက်ကိုင် ရွေးချယ်၍ ဆုလပ်ပေးပြီးလျှင် သူရဲရုံးစု၏။ ဗိုလ်သီသပ်မှူကား စစ်ပန်ခေါ်သူအမ်းစားနှင့်ပြည်စိုးကြီး ကျွန်းအုပ်အောင်ကျော်စံကို ရှင်မဖြူကျွန်းတွင် သစ်တပ်တည်ရန် လူတထောင်ကျော်ပေးရမည်ဟု တောင်းလေ၏။ တောင်းသောကြောင့် သက္ကရာဇ် ၁၁၈၅-ခု၊ သီတင်းကျွတ်လဆုတ် နှစ်ရက်နေ့တွင် ပင်းဝါမြို့မှ ရခိုင်သားလူတထောင်ကျော်ကို ခန့်ထား၍ ဗိုလ်ဇင်သပ်သို့ပေးအပ်ရလေ၏။ ဗိုလ်ဇင်သပ်မှူကား လူတထောင်ကျော်ကိုယူပြီးလျှင် ရှင်မဖြူကျွန်း တော်မြစ်ဖျား၊ လပေါ်တပ်၊ ဝင်းချောင်းဖျား၊ ဂေါစောင်ညာတင်ထိုတပ်စုကို တည်လုပ်ရ၏။ ရခိုင်သူရဲခြောက်ရာ၊ ကုလားသူရဲခြောက်ရာတို့ကို ရှင်မဖြူတပ်၊ လပေါ်တပ်၊ ဂေါစောင်ညာ တင်တပ်တို့၌ အသီးအသီးအစောင့်ထားခဲ့ပြီးမှ ဗိုလ်ပြိုင်ကူသပ်၊ သီသပ်၊ ဇင်သပ်တို့သည် စစ်တကောင်းမြို့သို့ ပြန်သွားလေကုန်၏။

အရှေ့မြန်မာနှင့်အင်္ဂလိပ်တို့သည် တပ်ချင်းပြိုင်လျက် စစ်ရေးဆိုင်၍နေကြစဉ်တွင် မြန်မာတပ်ကတပ်စောင့်တယောက်သည် အင်္ဂလိပ်ကပ်တင်တယောက်နှင့် မိတ်ဆွေခင်ပွန်းဖွဲ့သည်ဟုဆိုပြီးလျှင် အကျွန်ုပ်တို့တပ်သို့ အလည်အပတ်လာပါဟုခေါ်လေ၏။ အင်္ဂလိပ်ကပ်တင်လည်း အဟုတ်အမှန်ထင်၍ မြန်မာတပ်သို့အလည်အပတ်ရောက်သွားလေသော် မြန်မာတပ်မှူးတို့သည် ချုပ်ထားလေ၏။ ယင်းသို့ ချုပ်ထားသောအကြောင်းကို စစ်တကောင်းမြို့ဝန်သစ် ရာပသိန်သပ်ကြားလေသော် များစွာသော သူရဲလက်နက်ကိုင်တို့နှင့်ချီလာ၍ ပင်းဝါမြို့သို့ရောက်လာလျှင် ရခိုင်ပြည်၏ထုံးနည်းနိဿယကိုသိသော လူကြီးလူကောင်းတို့အားခေါ်၍ ရခိုင်ပြည်၏ အဌုပ္ပတ္တိကို မေးမြန်းစူးစမ်းလျက်ကြည်းကြောင်း ရေကြောင်း လမ်းပေါက်လမ်းဝတို့ကိုသိပြီးမှ ရခိုင်မင်းစဉ်မင်းဆက်ကို နားလည်အောင် ရခိုင်ရာဇဝင်ကျမ်းများကို ရေးကူးမှတ်သားလျက်နေဆဲတွင်မုံတောတပ်အုပ် ဗိုလ်မင်းရဲကျော်သူက စစ်တကောင်းမြို့ဝန် ရာပသိန်သပ်ထံ စာရေးပေးပို့လိုက်သည်မှာ-

မဇ္ဈိမဒေသအရပ်၌ အင်္ဂလိပ်ကုလားလူမျိုးတို့သည် မင်းမဖြစ်စဘူး၊ မြန်မာတိုင်းနိုင်ငံတွင်လည်းရခိုင်အမျိုးသားသည် မင်းမဖြစ်စဘူး။ ထို့ကြောင့်ရခိုင်တိုင်းသားတို့ ပြောဟောသောစကားကိုနားထောင်၍စစ်မတိုက်ကောင်းပါဟု စာဖြင့်စေလွှတ်၍အကြောင်းကိုလျှောက်ထားလာ၏။ စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းရာပသိန်သပ်လည်း စစ်တိုက်လျှင် သတ္တဝါတို့ ပျက်စီးကြလိမ့်မည့်အရေးကို ထောက်ထားညှာတာ၍ တော်မြစ်သို့ကိုယ်တိုင်ချီသွား၍ ရောက်လေသော် မုံတောတပ်အုပ်ဗိုလ်မင်းရဲကျော်သူနှင့် စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းရာပသိန်သပ်တို့ တိုင်းမှုပြည်ရေးကို ဆွေးနွေးပြောဆိုလျှင်အချင်းချင်းညီညွတ်သင့်တင့်ကြ၍ မိမိတို့ တည်လုပ်ထားပြီးသောတပ်တို့ကို မီးနှင့်တိုက်ရှို၍ ပြန်ကြပေအံ့ဟုနှုတ်ကတိထား၍ လက်ဝါးရိုက်ကြပြီးသော် စစ်တကောင်းမြို့ဝန် အင်္ဂလိပ်မင်းရာပသိန်သပ်သည် ရှင်မဖြူတပ်ကိုမီးရှို့၍ စစ်တကောင်းမြို့သို့ ပြန်သွားလေ၏။ မုံတောတပ်အုပ် မြန်မာဗိုလ် မင်းရဲလှကျော်သူကား အလိမ္မာဖက်ပြီးလျှင် ကောက်ရိုးပုံကို မီးတိုက်လေ၏။ တပြိုင်နက်မီးတိုက်ကြပြီးမှ သက္ကရာဇ် ၁၁၈၅-ခု၊ ပြာသိုလတွင်အရှေ့မြန်မာ အနောက်အင်္ဂလိပ်မင်း နှစ်ဦးသားတို့သည်ပြန်သွားကြလေကုန်၏။

ယင်းသို့ ပြန်သွားကြပြီးနောက် များမကြာခင်မြန်မာမင်း၏ရခိုင်မြို့ဝန် မောင်စံပျော်ကွ အမရပူရ ဒုတိယရွှေနန်းရှင် စစ်ကိုင်းမင်းထံ လျှောက်စာတင်ပြန်သည်မှာအင်္ဂလိပ်မင်းတို့သည် ရှေးရှေးကာလနှင့်မတူ ဗိုလ်မှူးတပ်မှူး သူရဲလက်နက်ကိုင်အများတို့နှင့် စစ်တကောင်း၊ပင်းဝါတို့၌ လုံလောက်စွာပြုလျက် စောင့်ရှောက်၍နေလာသည်ဖြစ်သောကြောင့် အရေးကြီးတစုံတရာ

ပေါ်ပေါက်ပါလျှင် လွှန်စွာခက်ခဲရန်ရှိပါကြောင်းနှင့် လျှောက်စာတင်လေသော်--

အမရပူရ ဒုတိယရွှေနန်းရှင် စစ်ကိုင်းမင်းက လည်း အလုံဝန်မောင်ရစ်ကို ဗိုလ်ဗန္ဓုလဟူသော အမည် ဖြင့် စစ်သူကြီးခန့်တော်မူ၍ အတွင်းဝန် မောင်စနှင့်တကွ တပ်မှူးသူရဲလက်နက်ကိုင် တသောင်းခြောက်ထောင်တို့ ကိုပေးလျက် စေလွှတ်တော်မူလိုက်၏။ ဗိုလ်ဗန္ဓုလ မောင်ရစ်နှင့် အတွင်းဝန်မောင်စတို့လည်း ရခိုင်ပြည်သို့ ချီလာပြီးလျှင် အောင်တပ်တွင် တပ်စခန်းချတော်မူ၍ ရခိုင်လေးမြို့ဝန်တို့ကို သူရဲလက်နက်ကိုင် တောင်း၍ စစ်သည်သူရဲတို့ရောက်လာလျှင် အတွင်းဝန် မောင်စ၊ အတွင်းဝန် မောင်ခိုင်တို့ကို ဗိုလ်မှူး တပ်မှူး သူရဲလက်နက်ကိုင်များစွာတို့နှင့် ပင်းဝါမြို့၌ စစ်ရေး ပြိုင်လေဟုစေလိုက်၏။ အတွင်းဝန်မောင်စ၊ အတွင်းဝန် မောင်ခိုင်တို့သည် သက္ကရာဇ် ၁၁၈၆-ခု၊ ကဆုန်လပြည့် ကျော်သုံးရက်၊ စနေနေ့တွင် ပင်းဝါမြို့၌ တပ်စောင့် အင်္ဂလိပ်ဗိုလ်မှူး တပ်မှူးတို့ကိုတိုက်လေသော် တပ်စောင့် အင်္ဂလိပ်ဗိုလ်မှူးတပ်မှူးတို့သည် လက်နက်ထိမှန်၍ သေလေကုန်၏။ ကြွင်းကျန်သော သူရဲအပေါင်းတို့နှင့် ပင်းဝါမြို့တွင်နေထိုင်သော ရခိုင်သား ကုလား လူများစွာ တို့သည် စစ်တကောင်းမြို့သို့ ထွက်ပြေးကြလေကုန်၏။

ရခိုင်လေးမြို့ဝန် မြန်မာဗိုလ်မှူး တပ်မှူး တပ်သားဟူသမျှတို့သည် ပင်းဝါချောင်း လက်ယာဘက် အရပ်တွင် တပ်တည်၍နေလာကုန်၏။ ပင်းဝါမြို့တွင် ကြွင်းကျန်ရစ်သော သူတို့ကိုသိမ်း၍ယူလေကုန်၏။ နွား ကျွဲ ဆိတ် ဝက် ဝမ်းဘဲ ကြက် စသည်တို့ကို သတ်ဖြတ်၍ များစွာစားသောက်ကြကုန်၏။

စစ်တကောင်းမြို့ဝန် ရာပသိန်သပ် အင်္ဂလိပ်မင်း သည် မြန်မာမင်းတို့ပြုကျင့်သော အလုံးစုံသော အကြောင်းမျိုးတို့ကိုစာရေး၍ ဘင်္ဂလားမြို့ ဂုဏ္ဏြိယဘုရင်ခံ မင်းကြီးထံ လျှောက်တင်လေသော် ဘင်္ဂလားအိန္ဒိယ ဘုရင်ခံမင်းကြီးလည်း အရှေ့မြန်မာတို့ ပြုကျင့်သောအရာ ကို လွန်စွာအမျက်ထွက်တော်မူ၍ ဆင် မြင်း ရထား ခြေသည်သူရဲလေးပါးသော စစ်အင်္ဂါ လက်နက်ကိရိယာ တို့ကို လုံလောက်စွာစီရင်ပြီးလျှင် ကြည်းလေးသိန်း၊ ရေလေးသိန်း၊ ရှစ်သိန်းသော ရဲမက်တော်တို့ကို စည်းကြပ်၍ သင်္ဘောကြီး သင်္ဘောငယ်၊ လှေသမ္ဗန်များစွာ တို့နှင့် ပဲခိုးပြည်ကိုတိုက်လေဟု မျက်မှန်ဗိုလ်ချုပ်ကြီးကို စေတော်မူလိုက်၏။ စစ်တကောင်းမြို့ဝန် ရာပသိန်သပ် ကိုကား ရခိုင်ပြည်ကိုတိုက်လေဟု အမိန့်အာဏာ ပေးတော်မူလိုက်၏။ မျက်မှန် ဗိုလ်ချုပ်ကြီးလည်း ရန်ကုန်မြို့ကိုစ၍ တိုက်ခိုက်လေသော် သိင်္ဂုတ္တရကုန်းတော် ကို ရှေးဦးစွာရတော်မူ၏။ ထိုရန်ကုန်မြို့မှစ၍ မြန်မာ တပ်မှူး ဗိုလ်မှူး သူရဲလက်နက်ကိုင်ဟူသမျှတို့သည် တိုက်လေသမျှ တပ်မတပ်ကြီး အသီးသီးတို့သည် ပျက်စီးခြင်းသို့ရောက်လေရာ ရန်ကုန်၊ ပဲခိုး၊ ညောင်တုန်း၊ ပုသိန်၊ မြောင်းမြ၊ ဟင်္သာတ၊ မြန်အောင်၊ ရွှေတောင်၊ ပြည်၊ သရက်၊ မလွန်၊ စကု၊ စလင်း၊ မင်းပူး၊ ဆင်ဖြူကျွန်း၊ ရေနံချောင်း၊ ပုဂံ၊ ညောင်ဦး၊ ပခုက္ကူစသော ရောဝတီမြစ်စဉ်တလျှောက် အမရပူရမြို့တော်အောက် ရန္တပိုရောက်အောင် ဂုဏ္ဏြိယကုမ္ပဏီအစိုးရ အင်္ဂလိပ်မင်း တို့သည် တိုက်ဖျက်သိမ်းယူလေကုန်၏။

စစ်တကောင်းမြို့ဝန် ရာပသိန်သပ်လည်း စစ်တကောင်းမြို့တွင် သူရဲလက်နက်ကိုင် စုပေါင်း စည်းကြပ်၍ ရခိုင်ပြည်သို့ ချီလာသည့်အကြောင်းကို ပင်းဝါမြို့အနီးတွင် တပ်တည်၍နေလာသော အတွင်းဝန် မောင်စ၊ အတွင်းဝန် မောင်ခိုင်၊ စစ်ဗိုလ်ချုပ် ဗန္ဓုလစသော ဗိုလ်မှူး တပ်မှူး သူရဲလက်နက်ကိုင်ဟူသမျှတို့သည် သဘောအလျောက် ကြောက်လန့်တုန်လှုပ်ခြင်းရှိကြကုန် သည်ဖြစ်၍ ပင်းဝါအရပ်မှဆုတ်ခွာပြီးလျှင် သက္ကရာဇ် ၁၁၈၆-ခု၊ တော်သလင်းလတွင် ရခိုင်ပြည်သို့ ပြန်လည် ဝင်ရောက်နေထိုင်ကြလေကုန်၏။

စစ်တကောင်းမြို့ဝန် အင်္ဂလိပ်ဗိုလ်မင်း ရာပသိန်သပ်လည်း စစ်ပန်ခေါ်လာသူ ဒါးပိုင်ကြီး ကျော်ပံ

သား အမ်းစားနှင့် ရခိုင်ပြည်သား လူအချို့တို့ကို ခရီးလမ်းညွှန် ခေါင်းဆောင်ယူသွား၍ ကြည်းနှစ်သောင်း၊ ရေနှစ်သောင်း၊ လေးသောင်းသော လက်နက်ကိုင်သူရဲတို့နှင့် သက္ကရာဇ် ၁၁၈၆-ခု၊ ပြာသိုလဆန်းတွင် ရခိုင်ပြည်သို့ ချီလာကုန်၍ ကစ္ဆပနဒီကုလားတန်မြစ်ကို ကူးသန်းပြီးလျှင် ဆင်ခြံအရပ်တွင် တပ်တည်၍နေလာကုန်၏။

ယင်းသောအခါ ချောင်းဖီလာအရပ်တွင် တပ်တည်၍နေကုန်သော မြန်မာဗိုလ်မှူး တပ်မှူး သူရဲ လက်နက်ကိုင်တို့သည် ငါတို့မြန်မာသတ္တိဂုဏ်ရည်ကို မသိသောကြောင့် အင်္ဂလိပ်ကုမ္ပဏီမင်းတို့သည် စစ်မက်ကြီးစွာ ကပ်လာကုန်သည်။ တိုက်ကြရမှသာ ဂုဏ်ရည်သတ္တိရဲစွမ်းရှိသည်ကို သိကြရမည်ဟူ၍ဆိုကြပြီးလျှင် ဟော၊ ဟောဟု လက်ညှိုးညွှန်ပြကြကုန်၏။ ရာပသိန်သပ် အင်္ဂလိပ်ဗိုလ်မင်းသည် ဗိုလ်မှူး တပ်မှူး တို့ကိုစေခိုင်းပြီးလျှင် အချိန်းအချက် အမှတ်သညာပေး၍ ပြောင်းလက်နက်ကို ပစ်လွှတ်လေသော် ချောင်းဖီလာတပ်၌ ခံနေသော မြန်မာတပ်မှူး ဗိုလ်မှူးတို့သည် လက်နက်ထိမှန်သဖြင့် များစွာသေကြေကြလေကုန်၏။ ကြွင်းကျန်သောသူတို့သည် ထွက်ပြေးပြီးလျှင် မြောက်ဦးမြို့သို့ဝင်၍ နေကြလေကုန်၏။ ရခိုင်ဝန်မင်းကြီး မောင်စံပျော်လည်း မြို့၏ပရိဗ္ဗေဒကို လုံခြုံအောင်ပြုလုပ်လျက် သူရဲသူခက်တို့ကို လက်နက်ကိရိယာတို့ဖြင့် ဆီးဆို့စောင့်ရှောက်လျက် နေစေကုန်၏။

စစ်တကောင်းမြို့ဝန် ရာပသိန်သပ် အင်္ဂလိပ်ဗိုလ်မင်းသည် ဆင်ခြံတပ်မှ ကျွဲခြံတောင်အရပ်သို့ ချီသွားလေ၏။ ထိုအရပ်မှသည် ခရီးလမ်းစဉ်အတိုင်း ချီသွားလေလျှင် ငါရကောက်အရပ်တွင် မြန်မာတပ်မှူး ဗိုလ်မှူးတို့နှင့် တွေ့ဆုံကြလေကုန်သဖြင့် တိုက်ကြလေသော် မြန်မာတပ်မှူး ဗိုလ်မှူးသူရဲလက်နက်ကိုင်တို့သည် တပ်လုံးကျွတ်သေကြေပျက်စီးကြလေကုန်၏။ စစ်တကောင်းမြို့ဝန် ရာပသိန်သပ် အင်္ဂလိပ်ဗိုလ်မင်းလည်း ကြည်းအား ရေအားနှင့် စည်းကြပ်၍ ချီသွားလေသော် ပေါင်းတုပ်ပြင်အရပ်၌ တပ်တည်၍နေပြီးသော် လက်နက်ကိရိယာကို စုံလင်စွာ ပြင်ဆင်၍နေပြီးမှ မြောက်ဦးမြို့တော်တွင် စောင့်ရှောက်၍ နေရှိသော မြန်မာတပ်မှူး ဗိုလ်မှူးသူရဲလက်နက်ကိုင်တို့နှင့် ပြိုင်ဆိုင်၍ အကြီးအကျယ်တိုက်ကြရာတွင် ဗိုလ်မင်း ရာပသိန်သပ်သည် ပြင်းထန်လှစွာသော မိုး အမြောက် ပြောင်းတို့ကိုရွယ်ချိန်လျက် ပစ်လွှတ်စေသော် မြန်မာမင်း၏ တပ်မှူးဗိုလ်မှူး သူရဲတော်များသည် ထွားထွားကြေညက်၊ မြို့လုံးပျက်၍၊ အသက်မသေ၊ ကြွင်းကျန်လေသော သူတို့သည်၊ အသက်ဘေးမှ၊ လွတ်ရာလွတ်ကြောင်း၊ ဆုယူတောင်း၍ ဦးခေါင်းမူရာအရပ်သို့ ခိုကပ်ထွက်ပြေးကြလေကုန်၏။

အမရပူရ ဒုတိယရွှေနန်းရှင် စစ်ကိုင်းမင်း၏ အတွင်း ဝန်မောင်စ၊ အတွင်းဝန် မောင်နိုင်၊ မြို့သူကြီး မောင်လွန်းပြေ၊ ရခိုင်မြို့ဝန်မင်းကြီး မောင်စံပျော်တို့သည် ကုသိုလ်တော်မှေးမှိန်၍ ပျက်စီးချိန်ရောက်သဖြင့် သက္ကရာဇ် ၁၁၈၆-ခု၊ တန်ခူးလဆန်း၁၄ရက်၊ သောကြာနေ့တွင် ရခိုင်ပြည် မြောက်ဦးမြို့တော်ကို ဣန္ဒိယဘုရင် အင်္ဂလိပ်မင်း ဗိုလ်ကြီး ရာပသိန်သပ် ပစ်ခတ်စေအပ်သော မိုးအမြောက် ပြောင်းလက်နက်တို့ နှိပ်စက်ဖိစီးလာသောကြောင့် ဥစ္စာခမ်းနား၊ သားမယားတို့ကို၊ ထောက်ထားငဲ့ကွက်၊ မစုံမက်ဘဲ၊ အသက်လွတ်ရာ ပြေးကြရှာလေကုန်၏။

ယင်းသို့ အရှေ့မြန်မာမင်းတို့ ပြေးဆင်း ထွက်သွားကြသောကြောင့် လူများမရှိ ဖြစ်လေရကား စစ်တကောင်း မြို့ဝန်ရာပသိန်သပ် ဗိုလ်မှူးသည် မြောက်ဦး မြို့တော်ကို သက္ကရာဇ် ၁၁၈၆-ခု၊ တန်ခူးလဆန်း ၁၄ရက်၊ သောကြာနေ့၊ တပဟိုရ်အချိန်လောက်တွင် သိမ်းပိုက် ရတော်မူလေသည်။

ထိုအချိန်မှစ၍ မြောက်ဦးမြို့တော်သည် ဣန္ဒိယ တိုင်းရှင် ကုမ္ပဏီအစိုးရအင်္ဂလိပ် မင်း၏အာဏာစက်ချရာ မြို့ရွာခရိုင်နိုင်ငံအဝင် ဖြစ်လေ၏။

## (၁၆၆) ရခိုင်ပြည်ကို အင်္ဂလိပ်မင်းတို့ သိမ်းခြင်း အကြောင်း

စစ်တကောင်းမြို့ဝန် ရာပသိန်သပ် ဗိုလ်မင်းလည်း မြောက်ဦးမြို့တော်၌ တပ်စောင့်တပ်နေ အသေအချာထားခဲ့ပြီးမှ ရမ်းပြည့်၊ မာန်အောင်၊ သံတွဲမြို့တို့သို့ ချီထွက်လာ၍ သက္ကရာဇ် ၁၁၈၇-ခု၊ ကဆုန်လဆန်း ၃-ရက်၊ အင်္ဂါနေ့တွင် ရမ်းပြည့်မြို့ တန်းချောင်းဝသို့ရောက်လာ၏။ ရောက်ပြီးလျှင် တန်းချောင်းဖျားသို့ ဆန်တက်လေရာ ချောင်း၏လက်ဝဲကမ်း တိမ်ပြင်ရွာအနီးမှ ကြည်းကုန်းတပ်၌ စောင့်နေသော မြန်မာတပ်မှူးသူရဲစစ်သည်တို့နှင့် တွေ့ကြုံ၍ တိုက်ခိုက်ကြလေသော် အင်္ဂလိပ်စစ်သည်တို့ဘက်မှ ကပ်တင်တယောက်နှင့် သူရဲအချို့တို့သည် လက်နက်ထိမှန်၍ သေလေကုန်၏။ မြန်မာတပ်မှူးသူရဲတို့လည်း တချို့သေကြေလေကုန်၏။ ကြွင်းကျန်သော တပ်မှူးသူရဲတို့သည် ရမ်းပြည့်မြို့သို့ ဝင်လာကုန်၏။ ရမ်းပြည့်မြို့ဝန်မင်း မောင်စံယာလည်း ကဆုန်လဆန်း သုံးရက်၊ အင်္ဂါနေ့ ဗိုလ်ပါရဲမက်တို့ ပျက်စီး ထွက်ပြေးဝင်လာကြောင်းကိုသိလေလျှင် ညဥ့်တွင် သားမယားနှင့်တကွ လှေစီး၍စုန်သွားလေရာ ဖြားရေအခန့်မသင့်သည်ဖြစ်၍ မင်းတရားပုန်း၌ ပုန်းကွယ်၍နေပြီးမှ ဖြားကျနှင့်လိုက်သွားရာ တန်းချောင်းမရိမ်တွင် အင်္ဂလိပ်စစ်သည်ရှိမှန်းကိုသိ၍ ဒေါရထားသို့ရောက်လေလျှင် လက်ယာဘက် ဒေါရထားမြွန်ကကျော်၍ တောင်စဥ်ကမ်းသို့ ပြေးလေသည်။

အင်္ဂလိပ်ဗိုလ်မှူး ရာပသိန်သပ်လည်း ရမ်းပြည့်မြို့သို့ဆန်တက်ရန် လမ်းစခန်းမကျွမ်း၊ ရမ်းပြည့်မြို့၌ မြို့ဝန်အစောင့်ရှိကြောင်း၊ မရှိကြောင်းကို မသိလေသည်နှင့် စူးစမ်းထောက်လှမ်းမေးမြန်းနေကြောင်းကို သတင်းရလေသော် ရခိုင်သား ကာတီအမည်ရှိသောသူသည် လှေဖြင့်သွား၍ ကြောင်းလျှားကို လျှောက်ထားရှေ့တင်၍ ယူငင်ဆောင်ကြဉ်းခဲ့ရာ သက္ကရာဇ် ၁၁၈၇-ခု၊ ကဆုန်လဆန်း ၆ ရက်၊ သောကြာနေ့၊ မွန်းမတည့်မီအချိန်တွင် ရာပသိန်သပ်ဗိုလ်မှူး ရမ်းပြည့်မြို့ကိုသိမ်းယူလေ၏။

ဗိုလ်မှူးရာပသိန်သပ်လည်း ရမ်းပြည့်မြို့၌ အစောင့်အကြပ်ထားခဲ့ပြီးလျှင် တပ်မှူးသူရဲလက်နက်ကိုင်တို့နှင့်တကွ မာန်အောင်မြို့သို့ချီသွားလေ၏။ ရောက်လေလျှင် အုန်းချောင်းမှဝင်၍ မာန်အောင်မြို့စောင့် မြန်မာတပ်ကိုတိုက်လေသော် မြန်မာတပ်စောင့်သူရဲအပေါင်းတို့သည် လက်နက်ထိမှန်၍ သေကြေပျက်စီး၍ ကြွင်းကျန်သူတို့သည် လွတ်ရာလွတ်ကြောင်း ပုန်းအောင်းရှောင်တိမ်းကြလေကုန်၏။ ထိုအခါ ရာပသိန်သပ်ဗိုလ်မှူးသည် သက္ကရာဇ် ၁၁၈၇ ခု၊ ကဆုန်လဆုတ် ၅-ရက်၊ သောကြာနေ့၊ နေထွက်ကိုးနာရီအချိန်တွင် မေဃဝတီမာန်အောင်မြို့ကို သိမ်းယူလေ၏။

မာန်အောင်မြို့ကို သိမ်းယူပြီးလျှင် မြို့တွင် အစောင့်အနေထားခဲ့၍ ဗိုလ်မှူးရာပသိန်သပ်သည် သံတွဲမြို့သို့ ချီသွားလေ၏။ သံတွဲမြို့သို့ရောက်လေလျှင် မြို့တွင်စောင့်ရှိသော မြန်မာတပ်မှူးစစ်သည်တို့နှင့်တွေ့၍ တိုက်ကြလေသော် မြန်မာတပ်မှူးစစ်သည်တို့သည် စစ်အားမတန်သောကြောင့် မခံမရပ်နိုင်လေရကား ပြေးသွား တိမ်းရှောင်ကြလေကုန်၏။ ယင်းသို့ မြန်မာတပ်မှူးစစ်သည်တို့ ထွက်ပြေးတိမ်းရှောင်လေသည်ဖြစ်၍ သက္ကရာဇ် ၁၁၈၇-ခု၊ နယုန်လဆန်း ၄ ရက်၊ သောကြာနေ့ နံနက် ၁၀ နာရီ အချိန်တွင် ရာပသိန်သပ်သည် ဒွါရာဝတီသံတွဲမြို့ကို သိမ်းယူပြန်လေသည်။

ဤသို့လျှင်ဓညဝတီ၊ ရမ္မာဝတီ၊ မေဃဝတီ၊ ဒွါရာဝတီဟုဆိုအပ်သော မဟာဝိဟိကတိုင်း ရခိုင်ပြည်ကြီးကို သက္ကရာဇ် ၁၁၄၆-ခုနှစ်ကစ၍ နှစ်ပေါင်းလေးဆယ်၊ သက္ကရာဇ် ၁၁၈၈ ခုထိ မြန်မာတို့ စိုးပိုင်သိမ်းအုပ်နေထိုင်သည့်အတွင်း ဣန္ဒိယပြည်ကိုအစိုးသော ကုမ္ပဏီမင်း အင်္ဂလိပ်လူမျိုး အစိုးရအမှုတော်ထမ်း စစ်တကောင်းမြို့ဝန် ဗိုလ်မှူးရာပသိန်သပ်သည် မြန်မာအစိုးရလက်မှ သက္ကရာဇ် ၁၁၈၇-ခုတို့၌ တိုက်ခိုက်သိမ်းယူလေသည်။

**(၁၆၇) သက္ကရာဇ် ၁၁၄၆–ခုနှစ်က စ၍ မြန်မာမင်းတို့ စိုးပိုင်သည့်အတွင်း ရမ်းပြည့်မြို့၌ မြို့ဝန်ပြုသူတို့၏ အမည်စာရင်း**

၁၁၄၆–ခုနှစ်၊ နရသမိုင်းကျော်သည် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁။

၁၁၄၇–ခုနှစ်၊ ရဲတိုက်ဝန် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၂။

၁၁၄၉–ခုနှစ်၊ လက်ယာရွှေတောင် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၃။

၁၁၅၂–ခုနှစ်၊ မဘဲစား ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၄။

၁၁၅၅–ခုနှစ်၊ တိုင်တားဝန် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၅။

၁၁၅၇–ခုနှစ်၊ လယ်ကိုင်းစား ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၆။

၁၁၅၉–ခုနှစ်၊ သမန်းရဲဖျား ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၇။

၁၁၆၀–ပြည့်နှစ်၊ လယ်ကိုင်းစား ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၈။

၁၁၆၃–ခုနှစ်၊ ရဲမက်တံခွန် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၉။

၁၁၆၄–ခုနှစ်၊ ကျော်ထင်ရာဇာ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၀။

၁၁၆၇–ခုနှစ်၊ သာဝတ္ထိစား ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၁။

၁၁၇၀–ခုနှစ်၊ ရွှေတောင်သီဟသူ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၂။

၁၁၇၂–ခုနှစ်၊ လက်ယာစည်သူ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၃။

၁၁၇၆–ခုနှစ်၊ နေမျိုးသူရ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၄။

၁၁၈၀–ခုနှစ်၊ မဟာနော်ရထာ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၅။

၁၁၈၁–ခုနှစ်၊ မောင်ရွှေအိုး ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၆။

ရင်းနှစ် နံယုန်လဆန်း ၁၃ရက်နေ့တွင် အမရပူရမြို့၌ ဘိုးတော်ရှင်ဘုရင် နတ်ရွာစံလေသည်။ မြေးတော် စစ်ကိုင်းမင်းလက်ထက် ၁၁၈၂–ခုနှစ်၊ ရွှေဒါးမှူး ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၇။

၁၁၈၃–ခုနှစ်၊ ရဲမက်ကျော်ထင်ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၈။

၁၁၈၄–ခုနှစ်၊ ဒါ၀တ်ကယ်ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၁၉။

၁၁၈၅–ခုနှစ်၊ မောင်သာကြွယ် ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၂၀။

၁၁၈၆–ခုနှစ်၊ မောင်စံယာ ရမ်းပြည့်မြို့၌ မြို့ဝန်ပြုလာသည်။ ၂၁။

ပေါင်းနှစ်ဆဲ့တယောက်သော မြို့ဝန်တို့သည် မြန်မာမင်းပိုင် နှစ်ပေါင်းလေးဆယ်အတွင်း အသီးသီး မြို့ဝန်ပြုကြသည့်အကြောင်း၊ ဤသည်ကား မြန်မာမင်းတို့ အုပ်စိုးနေထိုင်ကြသည့် အကြောင်းတည်း။

မြန်မာပြည်ကို တိုက်ခိုက်သိမ်းယူလေသော မျက်မှန် မိုလ်ကြီးသည်လည်း ပဲခူး၊ ရန်ကုန်စသော ရာဇဝတီ လက်ဝဲ၊ လက်ယာမြို့ရွာများတို့ကို တိုက်ခိုက်သိမ်းယူလျက် ဆန်တက်လေရာ အင်းဝမြို့နှင့် မိုင်ပေါင်း ခြောက်ဆယ်သာကွာရှိသော ရန္တပိုမြို့ထိ သိမ်းပိုက်ရရှိလေလျှင် အမရပူရ ဒုတိယရွှေနန်းရှင်ဘုရင် စစ်ကိုင်းမင်းလည်း ခုခံခြင်းငှာမတတ်နိုင်သည်ဖြစ်၍ စစ်ပြေငြိမ်းရန် စကားပြောကြားတော်မူ၍ မြန်မာသက္ကရာဇ် ၁၁၈၇–ခု၊ တပေါင်းလပြည့်နေ့၊ ခရစ်ယံသက္ကရာဇ် ၁၈၂၆–ခု၊ ဖေဖော်ဝါရီလ ၂၄ ရက်နေ့တွင် ဣင်္ဂလိယတိုင်းကို အစိုးရသော အင်္ဂလိပ်ကုမ္ပဏီဘုရင်က စေခန့်အပ်သော အရှေ့ပိုင်းဗိုလ်ချုပ်မင်းကြီး အာစိဘောကမ္ဗဲက၊

အရေးပိုင်မင်း ရောအစ်စံ၊ ရောဝတီမြစ်အတွင်းရှိ အင်္ဂလိပ်တိုက်သင်္ဘောများကိုအုပ်စိုးသော မင်းလတ်တို့နှင့် မြန်မာဘုရင်ကခန့်ထားအပ်သော လယ်ကိုင်းမြို့စား ဝန်ကြီး မဟာမင်းလှကျော်ထင်၊ ရွှေခွန်ဝန်၊ အတွင်းဝန် မဟာမင်းလှသီဟသူတို့ ရန္တပိုမြို့၌ပြောဆို၍ အချင်းချင်းစစ်ပြေငြိမ်းကြပြီးလျှင် မဟာမိတ်စာချုပ်ပြုလုပ်ကြသည်မှာ--

ပထမ။ ။ အင်္ဂလိပ်ကုမ္ပဏီမင်းနှင့် မြန်မာဘုရင်တို့ စစ်ပြေငြိမ်း၍ မိတ်သဟာယဖြစ်စေ။

ဒုတိယ။ ။ မြန်မာမင်းက အာသံပြည်၊ အဏ္ဏပတ်ပြည်၊ ဝေသာလီပြည်တို့ကို အစိုးအပိုင် နောက်တဖန်မစီရင်ရ။ မဏိပူရပြည်မှာလည်း ဂမ္ဘီရရှိန်က မိမိပြည်ကို ပြန်၍ မင်းပြုလိုလျှင် မြန်မာရှင်ဘုရင်က အဆီးအတား အနှောင့်အရှက်မပြုရ နေစေရမည်။

တတိယ။ ။ နောက်တဖန် ပြည်ကြီးနှစ်ပါး အခြားအနားကို ငြင်းခုန်ရန်အကြောင်းမရှိရအောင် အင်္ဂလိပ်မင်းက တိုက်၍ အောင်မြင်ပြီးသော ရခိုင်ပြည်၊ ရမ်းပြည်၊ မာန်အောင်၊ သံတွဲဟူသော ရခိုင်ပြည်ကြီး ကို အစဉ်ယူ၍ မြန်မာရှင်ဘုရင်က အစိုးမပိုင်ရ။ ရိုးမဖိုးခေါင် တောင်တန်း မော်တင်စွန်း၊ ဟိုင်းကြီးအထိကို အပိုင်းအခြားဖြစ်စေရမည်။ နောင်အပိုင်းအခြား ကို အငြင်းအခုံရှိလျှင် အင်္ဂလိပ်မင်း၊ မြန်မာမင်းခန့်ထားသော သူတို့က အထက် နိမိတ်အတိုင်း မှန်ကန်စွာစီရင်စေ။ ခန့်ထားသောသူတို့အားလည်း အရာရှိ မှူးကောင်း မတ်ကောင်းဖြစ်စေရမည်။

စတုတ္ထ။ ။ မြန်မာရှင်ဘုရင်က အင်္ဂလိပ်မင်းကို ရေး၊ ထားဝယ်၊ မြိတ်၊ တနင်္သာရီမြို့ရွာ နယ်နိမိတ် တောင်ကမ်းကျွန်းနှင့်တကွ အပိုင်ပေးရမည်။ သံလွင်မြစ်က အပိုင်းအခြားဖြစ်ရမည်။ နောင်အပိုင်းအခြားကို ငြင်းခုံ ခိုက်ရန်ရှိခဲ့လျှင် အထက်ဆိုခဲ့ပြီးသည့်အတိုင်း စီရင်စေ။

ပဉ္စမ။ ။ မြန်မာဘုရင်က ပြည်ကြီးနှစ်ပါး အစဉ် မိတ်သဟာယဖွဲ့စေချင်သော စေတနာ အလို ထင်ရှားစေရအောင်၎င်း၊ အင်္ဂလိပ်မင်းက စစ်တိုက်ရာ တွင် ကုန်ကျပြီးသောစရိတ်အနက်တွင် အနည်းငယ် ပြေရအောင်၎င်း ရူပီဒင်္ဂါးပြားရေ တကုဋေကိုပေးရမည်။

ဆဋ္ဌမ။ ။ ယခု စစ်တိုက်ကြသည့်အတွင်း အင်္ဂလိပ်ဘက်သို့ အလိုအလျောက်ဝင်၍ဖြစ်စေ၊ အနိုင်အထက်ဝင်ရသည်ဖြစ်စေ ဝင်စား၍နေသော မြန်မာမင်း၏ ကျွန်တော် မြန်မာဘက်သို့ အလို အလျောက်ဖြစ်စေ၊ အနိုင်အထက်ဝင်ရ သည်ဖြစ်စေ ဝင်စား၍နေသော အင်္ဂလိပ် ကျွန်တော်တို့ကို အဘယ်သူများ တဖက်က တဖက်ကို ဝင်စားသည့် အတွက် ရာဇဝတ်မင်းဒဏ် အနှောင့် အယှက်မရှိစေရ။

သတ္တမ။ ။ ပြည်နှစ်ပါး ယခုဖွဲ့သော မိတ်သဟာယ ဖြစ်စေရအောင် အင်္ဂလိပ်မင်းခန့်ထား သော အရာရှိတယောက်၊ အခြွေအရံ လူ ၅၀၊ လက်နက်အစုံနှင့် မြန်မာမင်း မြို့တော်တွင် နေစေရမည်။ မြန်မာမင်း ခန့်ထားသော အရာရှိတယောက်၊ အခြွေအရံ လူ ၅၀၊ လက်နက်အစုံနှင့် ကုမ္ပဏီဘုရင်မြို့တော်မှာ နေစေရမည်။ ကုလားပြည်မှာနေသော မြန်မာ၊ မြန်မာ

ပြည်မှာနေသော ကုလားတို့က မိမိတို့ နေရန်ဖို့ အတော်အသင့် တိုက်အိမ်ကို ဝယ်လိုလျှင်ဝယ်နေစေ၊ အသစ်လုပ်လိုလျှင် တည်လုပ်စေ။ ၎င်းနိုင်ငံနှစ်ပါး အကျိုးစီးပွားဖြစ်စေခြင်းငှာ ရွှေလမ်း ငွေလမ်းဖွင့်၍ အချင်းချင်းဖောက်ကား ရောင်းဝယ်ခြင်း အမှုအရေးများနှင့် စပ်ဆိုင်သော စာချုပ်ကိုထား၍ လုပ်စေရမည်။

အဋ္ဌမ။ ။ စစ်မရှိ မတိုက်မီ ကြွေးဟောင်း မြီဟောင်းရှိသမျှ မင်းအရာရှိဆိုင်သည် ဖြစ်စေ၊ ဆင်းရဲသားဆိုင်သည်ဖြစ်စေ သစ္စာကတိရှိသည့်အတိုင်း ကုန်စင်အောင် ဆပ်ပေးစေရမည်။ ကြွေးတင်သည့်နောက် စစ်ဖြစ်သည်ဆို၍ မကပ်မနိုစေရ။ စစ်တိုက်သည့်အမှုကြောင့် ကုလားဖြစ်စေ၊ မြန်မာဖြစ်စေ အဘယ်သူမျှ သူ့ဥစ္စာကို အသိမ်း မယူမရှိစေရ။ အင်္ဂလိပ်ဘုရင် ကျွန်ဖြစ်သူတို့ မြန်မာနိုင်ငံတွင်သေ၍ အမွေမရှိလျှင် ကျန်ရစ်သော ဥစ္စာပစ္စည်း ဟူသမျှကို မြန်မာမင်းနိုင်ငံတွင်နေသော အင်္ဂလိပ်မင်း အရာရှိလက်သို့ ကုလားဖြူတို့ ထုံးစံအတိုင်းအပ်ရမည်။ ထိုနည်းအတူ အင်္ဂလိပ်နိုင်ငံတွင် မြန်မာရှင်ဘုရင် ကျွန်ဖြစ်သူတို့သေ၍ အမွေခံမရှိလျှင် ကျန်ရစ်သော ဥစ္စာပစ္စည်းရှိသမျှကို အင်္ဂလိပ်နိုင်ငံတွင် နေသော မြန်မာမင်းအရာရှိလက်သို့ အပ်ရမည်။

နဝမ။ ။ အင်္ဂလိပ်သင်္ဘောများတို့က မြန်မာ သင်္ဘောဆိပ်သို့ရောက်လျှင် တက်မချွတ်၊ အမြောက်မချဘဲ အင်္ဂလိပ်မင်း မြို့သို့ဆိုက်ရောက်သော မြန်မာ သင်္ဘောနေသကဲ့သို့ အနှောင့်အရှက်မရှိ နေစေရမည်။

ဒသမ။ ။ အင်္ဂလိပ်မင်းနှင့် မိတ်သဟာယစာချုပ်ကို မြန်မာရှင်ဘုရင်ဖွဲ့သော် ယိုးဒယား ရှင်ဘုရင်က အင်္ဂလိပ်ဘက်သို့ စစ်ကူ ဝင်စားသည်မှာ ယခုလုပ်ကြသော မိတ်သဟာယစာချုပ်အဝင်ဖြစ်သည်ကို မှတ်ရမည်။

ဧကာဒသမ။ ။ ယခုလုပ်သော မိတ်သဟာယ စာချုပ်ကို မြန်မာဘုရင်ခန့်ထားအပ်သော အရေးပိုင် သံတမန်တို့က လက်မှတ်တံဆိပ်ခပ်နှိပ် ရမည်။ ချုပ်လှောင်၍ထားသော အင်္ဂလိပ်၊ အမေရိကံအစရှိသော ကုလားဖြူ ကုလားနက်ရှိသမျှတို့ကို အင်္ဂလိပ်အရေးပိုင် သံတမန်တို့လက်သို့ အပ်ရမည်။

ဒွါဒသမ။ ။ ဣန္ဒြိယတိုင်းကိုအစိုးရသော ကုမ္ပဏီ ဘုရင်ကဝန်ခံ၍ လက်မှတ်တံဆိပ် ခပ်နှိပ်သောစာချုပ်ကို ၎င်းလအတွင်း မြန်မာဘုရင်လက်သို့ ပြန်အပ်ရမည်။ ချုပ်လှောင်၍ထားသော မြန်မာလူရှိသမျှတို့ကို ဘင်္ဂလားပြည်မှ အလျင်အမြန် ခေါ်၍ မြန်မာမင်းလက်သို့ အပ်ရမည်။

တေရသမ။ ။ အင်္ဂလိပ် အရေးပိုင်သံတမန်တို့က စစ်ငြိမ်း စေချင်သော စေတနာအလို ထင်ရှား စေရအောင် ၎င်း၊ အထက်ပဌမ အချက်၌ပါလေသည့်အတိုင်း မြန်မာ ရှင်ဘုရင်က ရွှေဒင်္ဂါးပြားရေ တကုဋေ ကို ပေးရမည်ဆိုသော် အလွယ်တကူ ရအောင် ၎င်းရွှေဒင်္ဂါးတကုဋေမှာ

မြန်မာအချိန်ငွေကောင်း (၇၅၀၀၀၀၀) ခုနစ်သန်းငါးသိန်းတွင် လေးပုံတပုံ တည်းဟူသော ငွေ(၁၈၅၀၀၀)တသန်း ရှစ်သိန်းငါးသောင်းကိုပေးပြီးမှ အင်္ဂလိပ် တပ်က ရန်ကုန်မြို့တိုင်အောင် ဆုတ်သွား လိမ့်မည်။ ယနေ့မှစ၍ အရက်တရာ အတွင်း (၁၈၅၀၀၀၀)တသန်း ရှစ်သိန်း ငါးသောင်းကိုထပ်၍ပေးလျှင် အင်္ဂလိပ် တပ်က မြန်မာနိုင်ငံထဲက အလျင်အမြန် ထွက်သွားလိမ့်မည်။ ကျန်သောငွေ နှစ်ပုံမှာ ယနေ့မှစ၍ တနှစ်အတွင်း တပုံကိုင်း၊ နှစ်နှစ်အတွင်း တပုံကိုင်း၊ မြန်မာနိုင်ငံတွင်နေရသော အင်္ဂလိပ်မင်း အရာရှိထံသို့ ပေးရမည်။

ဟူ၍ တဆဲ့သုံးချက် သတ်မှတ်ပိုင်းခြား၍ မဟာမိတ်စာချုပ်ပြုလုပ်၍ ငြိမ်းချမ်းကြလေရာ မြန်မာပြည် တောင်ပိုင်းရဲ၊ ဒါးဝယ်၊ မြိတ်၊ တနင်္သာရီနယ်တို့ပါ မြန်မာမင်းက ပေးအပ်ရလေသည်ဖြစ်၍ ငါတို့ရခိုင်ပြည် နယ်ကြီးနှင့်တကွ တနင်းသာရီနယ် လေးမြို့တို့သည် မြန်မာ သက္ကရာဇ် ၁၁၈၇-ခု၊ တပေါင်းလပြည့်နေ့မှစ၍ ဣင်္ဂလိယ ကုမ္ပဏီမင်းတို့၏ ခွန်သွင်းခံယူရာ အာဏာစက် တွင်းသို့ သက်ဆင်းဝင်ရောက်ရလေကုန်သည်။

အင်္ဂလိပ်ကုမ္ပဏီမင်းတို့ စက်ရင်းလက်အောက် ဝင်ရောက်အုပ်ချုပ်ပြုလုပ်စီမံ၍ မြို့ဝန်ရာထူးဖြင့် ချီးကျူး မြှောက်စားလျက် ခန့်ထားအုပ်ချုပ်တော်မူကြသည့် အကြောင်းမှာ ရာပသိန်သပ်အား ခရီးညွှန်ဆောင်လာသူ ကာတီကို ၁၁၉၀ ပြည့်တွင် နှစ်ဆယ်စား စကားပြန်ခန့်လေ သည်။ ၁၁၉၂-ခုနှစ်တွင် ရှစ်ဆယ်စား မြို့သူကြီးခန့်လေ သည်။ ၁၂၀၁-ခုနှစ်တွင် မြို့အုပ်ခန့်လေသည်။ ၁၂၀၅- ခုနှစ်တွင် တရာစား မြို့မတရားသူကြီး ခန့်လေသည်။ ထိုအခါ ကောဇာသက္ကရာဇ် ၁၁၈၇-ခု၊ တန်ဆောင်မုန်းလ ဆန်း ၅ ရက်နေ့တွင် ကပ်တင်ဘီလိပ်သပ်သည် ရမ္မာဝတီ ရမ်းပြည့်မြို့၌ မြို့ဝန် အရေးပိုင်အရာနှင့် အုပ်ချုပ်နေထိုင် လာပေသည်။ ၁။

သက္ကရာဇ် ၁၁၈၉-ခုတွင် ကပ်တင်လိုသပ်သည် မြို့ဝန် အရေးပိုင် အိပ်တိမ်ပြုလာသည်။ ၂။

သက္ကရာဇ် ၁၁၉၀-ပြည့်၊ တပို့တွဲလဆန်း ၁၂ရက်နေ့တွင် ကပ်တင်ဒေကေရှိန်သပ်သည် မြို့ဝန် အရေးပိုင်ပြုလာသည်။ ၃။

သက္ကရာဇ် ၁၁၉၂-ခု၊ ကဆုန်လဆန်း ၁၂- ရက်နေ့တွင် ကပ်တင်ဗိုလ်ဂိုသပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။၄။

သက္ကရာဇ် ၁၁၉၃-ခု၊ ကဆုန်လဆန်း၁၂- ရက်နေ့တွင် ကပ်တင်ဘောတနာသပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။ ၆။

သက္ကရာဇ် ၁၁၉၄-ခု၊ နံယုန်လဆန်း ၃ရက်နေ့ တွင် ကပ်တင်ဘောတနာသပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။ ၇။

သက္ကရာဇ် ၁၂၉၄-ခု၊ ဝါခေါင်လဆုတ် ၄-ရက် နေ့တွင် ကပ်တင်မာကွဲတူသပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။ ၈။

သက္ကရာဇ် ၁၁၉၄-ခု၊ ဝါကျွတ်လဆန်း ၂ရက်နေ့တွင် ကပ်တင်ဝါလီယံသပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။ ၉။

သက္ကရာဇ် ၁၂၀၅-ခု၊ တန်ခူးလဆန်း ၁၀ ရက် နေ့တွင် ကပ်တင်အာပေါ်သပ်သည် မြို့ဝန်ရေးအပိုင် ပြုလာသည်။ ၁၀။

သက္ကရာဇ် ၁၂၀၅ ခု၊ တန်ခူးလဆုတ် နှစ်ရက်နေ့တွင် ကပ်တင်အန္တရှုသပ်သည် မြို့ဝန်အရေး ပိုင် အိပ်တိမ်ပြုလာသည်။ ၁၁။

သက္ကရာဇ် ၁၂၀၆-ခု၊ တန်းခူးလဆုတ် ၁၀ ရက်နေ့တွင် ကပ်တင်မာတိန်သပ်သည် မြို့ဝန်အရေးပိုင် ပြုလာသည်။ ၁၂။

သက္ကရာဇ် ၁၂၀၇-ခု၊ ဝါဆိုလဆန်း ၂-ရက်နေ့တွင် ကပ်တင်အန္တရူသပ်သည် မြို့ဝန်အရေးပိုင် အိပ်တိမ်ပြုလာသည်။ ၁၃။

သက္ကရာဇ် ၁၂၀၇-ခု၊ တပေါင်းလဆန်း ၃ရက်နေ့တွင် ကပ်တင်ဟပ်ကီသီသပ်သည် ရမ်းပြည့်မြို့၌ မြို့ဝန်အရေးပိုင်ပြုလာသည်။ ၁၄။ ပေါင်း တဆဲ့လေးယောက် မြို့ဝန်ပြုလာသည်။

ယင်းသို့ မြို့ဝန်အရေးပိုင် တဆဲ့လေးယောက် နှစ်ပေါင်းနှစ်ဆယ်ခန့်မျှ ရမ်းပြည့်မှနေ၍ စီမံအုပ်ချုပ်ပြီးလျှင် သက္ကရာဇ် ၁၂၀၇-ခုနှစ်လောက်တွင် ရမ်းပြည့်မြို့ဝန်အရေးပိုင်နှင့် အကျဉ်းထောင်ကို ကျောက်ဖြူမြို့သို့ ရွှေပြောင်းခန့်ထား စိုးအုပ်နေထိုင်စေသည်။

ရမ်းပြည့်မြို့တွင်ကား တရားမသူကြီး၊ မြို့အုပ်၊ ဒေဝီစံစသည်ဖြင့်ခန့်ထားစီမံလျက် စိုးအုပ်နေထိုင်စေလေသည်။

ဣန္ဒိယကုမ္ပဏီ အင်္ဂလိပ်မင်းတို့သည်လည်း ခရစ်ယံသက္ကရာဇ် ၁၈၃၃-ခု၊ မြန်မာသက္ကရာဇ် ၁၁၉၅-ခုကစ၍ ကုန်သွယ်ခြင်းအမှုကို မဆောင်ရွက်ဘဲ တိုင်းပြည်များကို အုပ်စိုးခြင်းအမှုအရေးကိုသာ ဆောင်ရွက်ကြလေကုန်၏။

ခရစ်ယံသက္ကရာဇ် ၁၈၅၈-ခု၊ မြန်မာ သက္ကရာဇ် ၁၂၂၀-ပြည့်နှစ်မှသာလျှင် အရှေ့ဣန္ဒိယကုမ္ပဏီမင်းတို့သည် ဣန္ဒိယတိုင်းပြည်နှင့်တကွ ရခိုင်ပြည်၊ မြန်မာတောင်ပိုင်း တနင်းသာရီနယ်တို့ပါ အုပ်စိုးခြင်းအမှုအရေးအလုံးစုံတို့ကို ဘိလပ်ကျွန်း လန်ဒန်မြို့တော်၌ စံပျော်အုပ်ချုပ်တော်မူသော ဝိတိုရိယဘုရင်မလက်တော်သို့ အပ်နှင်းဆက်သတော်မူအပ်လေသည်ဖြစ်၍ ငါတို့ရခိုင်ပြည်သည် ဘိလပ်ပြည့်ရှင် ဝိတိုရိယဘုရင်မ၏ လက်အောက်နိုင်ငံအဖြစ်သို့ ကျရောက်လေသည်။

ဘိလပ်ကျွန်း လန်ဒန်မြို့တော်၌ စံပျော်အုပ်ချုပ်နေလေ့ရှိသော ဝိတိုရိယဘုရင်မသည် ငါတို့ရခိုင်ပြည်ကို စိုးအုပ်ပြီးနောက် နှစ်ပေါင်း ၄၃ နှစ်၊ ခရစ်ယံသက္ကရာဇ် ၁၉၀၁ခု၊ မြန်မာသက္ကရာဇ် ၁၂၆၂-ခုနှစ်တွင် လွန်တော်မူလေသည်။

ဝိတိုရိယလွန်လေလျှင် သားတော်ဝေလာမင်းသားသည် ခရစ်ယံသက္ကရာဇ် ၁၉၀၁-ခု၊ မြန်မာသက္ကရာဇ် ၁၂၆၂-ခုနှစ်၊ ထီးနန်းစိုးအုပ်တော်မူ၍ နှစ်ပေါင်းကိုးနှစ်၊ ခရစ်ယံသက္ကရာဇ် ၁၉၁၀-ပြည့်၊ မြန်မာသက္ကရာဇ် ၁၂၇၂-ခုနှစ်တွင် လွန်တော်မူလေသည်။

ဝေလာမင်း လွန်တော်မူလေလျှင် သားတော်ဂျော့ဘုရင်သည် မြန်မာသက္ကရာဇ် ၁၂၇၂-ခုနှစ်တွင် ထီးနန်းစိုးအုပ်တော်မူလျက် ခရစ်ယံသက္ကရာဇ် ၁၉၃၀-ပြည့်၊ မြန်မာသက္ကရာဇ် ၁၂၉၂-ခု၊ ဝါဆိုလဆန်းတရက်တိုင်အောင် အုပ်စိုးသိမ်းပိုက်တော်မူသည်မှာ နှစ်ပေါင်းနှစ်ဆယ်ရှိလေပြီ။ ထိုဂျော့ဘုရင်မင်းကြီးထံမှ ဣန္ဒိယပြည်သား၊ ရခိုင်မြန်မာပြည်သားတို့သည် မိမိတို့ တိုင်းပြည်ကို မိမိတို့စီမံပြုလုပ်စိုးအုပ်သော ဟုံးမရူးအင်ဒီပင်တင်များကို ရပါလိုကြောင်းနှင့် လျှောက်တောင်းခွင့်ပန်လျက် ရှိကြလေသည်။ ကံကောင်းဆော်ကြွ၊ နတ်ကောင်းများမသဖြင့်၊ တောင်းတရည်မှတ်တိုင်း၊ မဆိုင်းမတွ၊ လျှင်အမြန်ရလေအောင်၊ အင်ပါရာနိုင်ငံရှင်၊ ဘုန်းတော်ကြီး ဂျော့ဘုရင်အား၊ ချစ်ခင်စိတ်ထား၊ မေတ္တာတော်ပွားရမည် ပြည်သားပြည်သူအပေါင်းတို့။ ဤသည်ကား ငါတို့ရခိုင်ပြည်၌ မြန်မာ၊ အင်္ဂလိပ်မင်းတို့ သက်ဆင်းစီမံစိုးစံ အုပ်ချုပ်ကြသည့်အကြောင်းတည်း။ ရာဇဝင်ပေါင်းချုပ်၊ ပထဝီဝင်ကျမ်း၊ ရမ်းပြည့်မြို့၊ တရားမသူကြီး ကာတီကရေးစီ၍ထားခဲ့သော မှတ်တမ်းများအလာနှင့် စာနာရေးပြုလိုက်ပေသည်။

(အချို့ရာဇဝင်သစ်၌ကား မြန်မာနှင့်အင်္ဂလိပ်တို့အခင်းများစကပင် ဘိလပ်သို့စာတင်ကြောင်း၊ ဆုံးခါနီးတွင် ဘိလပ်မြို့အရှင် စတုတ္ထဝေလာဘုရင်သည် သက္ကရာဇ် ၁၁၈၆-ခု၊ တန်ခူးလဆန်း ၁၄-ရက်နေ့ ရခိုင်ပြည်ကြီးကို ဘုန်းမီးတေဇာ အာဏာလွှမ်းမိုးသဖြင့် အုပ်စိုးတော်မူလေကြောင်းနှင့် ဆိုလေသည်။ နှစ်သက်ရာယူလေ။ ဤသည်ကား အမှာစကားချုပ်။ ။)

ယခုအခါ၌ ဒွါရာဝတီသံတွဲမြို့တည် ဝါသုဒေဝမင်းမှစ၍ မဟာသမ္မတမင်းအဆုံးရှိသော မင်းဆက်တဆဲ့ ကိုးဆက်။ မင်းဦးရေပေါင်း ၂၅၇-ယောက်သောမင်းတို့၏ အမည်၊ အိမ်နိမ့်၊ နန်းစံ၊ သက်တော်၊ သက္ကရာဇ်၊ နှစ်ပေါင်း၊ မိဘုရားတို့၏ စံစားသောအခြင်းအရာ။ မြန်မာမင်း၊ အင်္ဂလိပ်မင်းတို့ နိုပ်နင်းပိုင်သစိုးအုပ်ကြသော နှစ်လအကြာ ကြောင်းခြင်းရာတို့ကို သေချာခြားနား အင်းဇယားတို့ဖြင့် ရေးသားပြဆိုလိုက်ပေအံ့။

## (၁၆၈) ဒွါရာဝတီ သံတွဲမြို့မှစ၍ ဝေသာလီမြို့ရောက် စိုးစံကြသော မင်း-၂၃-ဆက်သော မင်းတို့၏ အင်းဇယားပုံ

| ဦးရေ | အမည် | အိမ်နိမ့် | နန်းစံ | သက်တော် | သက္ကရာဇ် | နှစ်ပေါင်း | မိဘုရား |
|---|---|---|---|---|---|---|---|
| ၁ | ဝါသုဒေဝမင်း | မ | မ | မ | မ | မ | မ |
| ၁ | ဗြာဟ္မဏရာဇာမင်း | မ | မ | မ | မ | မ | အဠနဒေဝိ |
| ၅ | ဗြဟ္မသုန္ဒရမင်း | မ | မ | မ | မ | မ | သုနန္ဒရိ |
| ၁ | သရဘာန်မင်း | မ | မ | မ | မ | မ | သီဒါဘိ |
| ၁၅ | ဗြဟ္မသိဒ္ဓိမင်း | မ | မ | မ | မ | မ | မ |

ဤဝါသုဒေဝမင်းအစ ဗြဟ္မသိဒ္ဓိမင်းအဆုံးရှိသော ၂၃-ဆက်မင်းတို့ စိုးစံတော်မူကြသော ကာလသည် လူတို့၏ အနှစ်နှစ်သောင်းတမ်းကာလ၌ ဖြစ်ကြလေသောကြောင့် ကာလအခွန့်ရှည်လျားလေသည်ဖြစ်၍ အိမ်နိမ့်၊ နန်းစံ၊ သက်တော်စသည်တို့ စုံလင်အောင် မပါလေ။ ပါသင့်သမျှ မိဘုရားအချို့သာ ပါလေသည်။

ဤသည်ကား ဝါသုဒေဝမင်းအစ ဗြဟ္မသိဒ္ဓိမင်း အဆုံးရှိသော
မင်း ၂၃-ဆက်တို့၏ အင်းဇယားပုံတည်း။

---

မာရယုမင်းအနွယ် (၅၄)ဆက်၊ မျိုးခြားအမတ်တို့ ၃ဆက်၊ ပေါင်း ၅၇-ဆက် သော မင်းတို့၏ အင်းဇယားပုံ

| ဦးရေ | အမည် | အိမ်နိမ့် | နန်းစံ | သက်တော် | သက္ကရာဇ် | နှစ်ပေါင်း | မိဘုရား |
|---|---|---|---|---|---|---|---|
| ၁ | မာရယုမင်း | ၁၈ | ၆၂ | ၈၀ | ၆၀၅၇ | ၆၂ | ရုစိတမာလာ |
| ၂ | ၎င်းသား မာရဇေတု | ၃၆ | ၃၂ | ၆၈ | ၆၀၈၉ | ၉၄ | သုမိဇေ |
| ၃ | ၎င်းသား မာရဒုံ | ၂၀ | ၅၃ | ၇၃ | ၆၁၄၂ | ၁၄၇ | ဂေါယာဇေ |
| ၄ | ၎င်းသား မာရရွယ် | ၃၀ | ၄၈ | ၇၈ | ၆၁၉၀ | ၁၉၅ | ကုလမ္ဘိ |
| ၅ | ၎င်းသား မာရတင် | ၂၅ | ၅၅ | ၈၀ | ၆၂၄၅ | ၂၅၀ | သီလာဘိ |
| ၆ | ၎င်းသား မာရမိန် | ၃၁ | ၃၃ | ၆၄ | ၆၂၇၈ | ၂၈၃ | တုတ္တာဘိ |
| ၇ | ၎င်းသား မာရကင် | ၃၄ | ၂၂ | ၅၆ | ၆၃၀၀ | ၃၀၅ | သဝမ္ဘိ |
| ၁ | မျိုးခြား ဆေတ်အို | ၆၆ | ၂၁ | ၈၇ | ၆၃၂၁ | ၃၂၆ | သဝမ္ဘိ |
| ၈ | မာရကင်သား ဒေါလစန္ဒရား | ၂၀ | ၄၀ | ၆၀ | ၆၃၆၁ | ၃၆၆ | ဝေဠုတာဝီ |
| ၉ | ၎င်းသား သောလစန္ဒရား | ၂၃ | ၃၃ | ၅၆ | ၆၃၉၄ | ၃၉၉ | ခန္တိဝီ |
| ၁၀ | ၎င်းသား သူရိယစန္ဒရား | ၄၀ | ၃၇ | ၇၇ | ၆၄၃၁ | ၄၃၆ | ဓမ္မဒေဝီ |
| ၁၁ | ၎င်းသား ကာလစန္ဒရား | ၂၀ | ၄၀ | ၆၀ | ၆၄၇၁ | ၄၇၆ | သူရိယာဝီ |
| ၁၂ | ၎င်းသား တဠန္ဒရား | ၂၀ | ၃၁ | ၅၁ | ၆၅၀၂ | ၅၀၇ | ဓမ္မဒိန္နာ |
| ၁၃ | ၎င်းသား မဓုစန္ဒရား | ၂၇ | ၂၁ | ၄၈ | ၆၅၂၃ | ၅၂၈ | သန္တာဝီ |

| ဦးရေ | အမည် | အိမ်နိမ့် | နန်းစံ | သက်တော် | သက္ကရာဇ် | နှစ်ပေါင်း | မိဘုရား |
|---|---|---|---|---|---|---|---|
| ၁၄ | ၎င်းသား ဓေယျစန္ဒရား | ၂၃ | ၄၀ | ၆၃ | ၆၅၆၃ | ၅၆၈ | သုဘာရှုပီ |
| ၁၅ | ၎င်းသား မောက္ခစန္ဒရား | ၃၂ | ၂၆ | ၅၈ | ၆၅၈၉ | ၅၉၄ | သုလာပီ |
| ၁၆ | ၎င်းသား ဂုဏာစန္ဒရား | ၃၆ | ၁၂ | ၄၈ | ၆၆၀၁ | ၆၀၆ | သုရာဘီ |
| ၃ | မျိုးခြားအမတ် (၃)ဦး | ၃-ရက် | ၃-လ | ၈-လ | ၆၆၀၂ | ၆၀၇ | မရှိ |
| ၁၇ | ဂုဏာစန္ဒရား သား ကံရာဇာကြီး | ၂၇ | ၄၁ | ၆၈ | ၆၆၄၃ | ၆၄၈ | စောမာလာ |
| ၁၈ | ၎င်းသား ကံရာဇာငယ် | ၂၀ | ၃၆ | ၅၆ | ၆၆၇၉ | ၆၈၄ | စောပန်းကုံး |
| ၁၉ | ၎င်းသား ဣန္ဒသူရိယ | ၂၂ | ၃၅ | ၅၇ | ၆၇၁၄ | ၇၁၉ | စောနန္ဒီ |
| ၂၀ | ၎င်းသား အသူရိန္ဒသူရိယ | ၃၂ | ၃၀ | ၆၂ | ၆၇၄၄ | ၇၄၉ | စောကြွယ် |
| ၂၁ | ၎င်းသား သာရမိတ္တ | ၂၄ | ၂၈ | ၅၂ | ၆၇၇၂ | ၇၇၇ | စောပန်းနု |
| ၂၂ | ၎င်းသား သူရိယ | ၂၉ | ၃၁ | ၆၀ | ၆၈၀၃ | ၈၀၈ | စောပန်းဝေ |
| ၂၃ | ၎င်းသား မင်းထီး | ၂၁ | ၂၂ | ၄၃ | ၆၈၂၅ | ၈၃၀ | မင်းသီဒါ |
| ၂၄ | ၎င်းသား မင်းပါ | ၂၅ | ၂၂ | ၄၇ | ၆၈၄၇ | ၈၅၂ | ရှင်ဝန်းဖြူ |
| ၂၅ | ၎င်းသား စည်ပေါင်သူ | ၂၆ | ၂၈ | ၅၄ | ၆၈၇၅ | ၈၈၀ | ဆီမဆန်း |
| ၂၆ | ၎င်းသား တံတိုင်းသင် | ၁၉ | ၃၁ | ၅၀ | ၆၉၀၆ | ၉၁၁ | ငွေဒါးအိမ် |
| ၂၇ | ၎င်းသား ကျော်ခေါင်စည် | ၂၂ | ၅၃ | ၇၅ | ၆၉၅၉ | ၉၆၄ | ရှင်လှကျော် |

